ပန်းရွှေပြည်စာအုပ်တိုက်

ဤကျမ်းတွင် ဂေါတမဗုဒ္ဓအပေါ်
လူမျိုးခြား ကမ္ဘာ့စာပေပညာရှင်အသီးသီးတို့၏
ထင်မြင်ယူဆရေးပြချက်များကို
ဖော်ပြထားကြောင်း တွေ့ရှိရပါသည်။
အခြားဘာသာဝင်တို့
ကိုးကွယ်ရာအသီးသီးအကြောင်းကိုလည်း
ဖော်ပြထားကြောင်း တွေ့ရှိရပါသည်။
သို့ဖြစ်၍ ဤကျမ်းစာသည်
ဘာသာရေးကို စုံလင်စွာလေ့လာလိုသူများအတွက်
များစွာအထောက်အကူပြုမည့် ကျမ်းစာဖြစ်ကြောင်း
ဖော်ပြလိုက်ရပေသည်။ ။
ဦးရွှေအောင်(မဟာဝိဇ္ဇာ)



# ကမ္ဘာပတ်၍ ဘုရားရှာခြင်း

ဦးစိန်ထွန်း
(မာမက-သုတေသီ)



တတိယအကြိမ်



# ကမ္ဘာပတ်၍ ဘုရားရှာခြင်း

ဦးစိန်ထွန်း
(မာမက–သုတေသီ)

## ဒို့တာဝန်အရေးသုံးပါး

ပြည်ထောင်စု မပြိုကွဲရေး ဒို့အရေး၊
တိုင်းရင်းသားစည်းလုံးညီညွတ်မှု မပြိုကွဲရေး ဒို့အရေး၊
အချုပ်အခြာအာဏာ တည်တံ့ခိုင်မြဲရေး ဒို့အရေး၊

## ပြည်သူ့သဘောထား

ပြည်ပအားကိုးပုဆိန်ရိုး အဆိုးမြင်ဝါဒီများအား ဆန့်ကျင်ကြ။
နိုင်ငံတော်တည်ငြိမ်အေးချမ်းရေးနှင့် နိုင်ငံတော်တိုးတက်ရေးကို နှောင့်ယှက်ဖျက်ဆီးသူများအား ဆန့်ကျင်ကြ။
နိုင်ငံတော်၏ပြည်တွင်းရေးကို ဝင်ရောက်စွက်ဖက်နှောင့်ယှက်သော ပြည်ပနိုင်ငံများအား ဆန့်ကျင်ကြ။
ပြည်တွင်းပြည်ပ အဖျက်သမားများအား ဘုံရန်သူအဖြစ် သတ်မှတ်ချေမှုန်းကြ။

## နိုင်ငံရေး ဦးတည်ချက် (၄) ရပ်

- နိုင်ငံတော်တည်ငြိမ်ရေး၊ ရပ်ရွာအေးချမ်းသာယာရေးနှင့် တရားဥပဒေ စိုးမိုးရေး
- အမျိုးသား ပြန်လည် စည်းလုံးညီညွတ်ရေး
- ခိုင်မာသည့် ဖွဲ့စည်းပုံ အခြေခံဥပဒေသစ် ဖြစ်ပေါ်လာရေး
- ဖြစ်ပေါ်လာသည့် ဖွဲ့စည်းပုံ အခြေခံဥပဒေသစ်နှင့်အညီ ခေတ်မီဖွံ့ဖြိုးတိုးတက်သော နိုင်ငံတော်သစ်တစ်ရပ် တည်ဆောက်ရေး

## စီးပွားရေး ဦးတည်ချက် (၄) ရပ်

- စိုက်ပျိုးရေးကို အခြေခံ၍ အခြားစီးပွားရေး ကဏ္ဍများကိုလည်း ဘက်စုံဖွံ့ဖြိုးတိုးတက်အောင် တည်ဆောက်ရေး
- ဈေးကွက်စီးပွားရေးစနစ် ပီပြင်စွာ ဖြစ်ပေါ်လာရေး
- ပြည်တွင်းပြည်ပမှ အတတ်ပညာနှင့် အရင်းအနှီးများ ဖိတ်ခေါ်၍ စီးပွားရေး ဖွံ့ဖြိုးတိုးတက်အောင် တည်ဆောက်ရေး
- နိုင်ငံတော် စီးပွားရေးတစ်ရပ်လုံးကို ဖန်တီးနိုင်မှုစွမ်းအားသည် နိုင်ငံတော်နှင့်တိုင်းရင်းသားပြည်သူတို့၏ လက်ဝယ်တွင်ရှိရေး

## လူမှုရေး ဦးတည်ချက် (၄) ရပ်

- တစ်မျိုးသားလုံး၏ စိတ်ဓာတ်နှင့် အကျင့်စာရိတ္တမြင့်မားရေး
- အမျိုးဂုဏ်၊ ဇာတိဂုဏ်မြင့်မားရေးနှင့် ယဉ်ကျေးမှု အမွေအနှစ်များ၊ အမျိုးသားရေး လက္ခဏာများ မပျောက်ပျက်အောင် ထိန်းသိမ်းစောင့်ရှောက်ရေး
- မျိုးချစ်စိတ်ဓာတ် ရှင်သန်ထက်မြက်ရေး
- တစ်မျိုးသားလုံး ကျန်းမာကြံ့ခိုင်ရေးနှင့် ပညာရည် မြင့်မားရေး

၂၀၀

စိန်ထွန်း ၊ ဦး (မာမက - သုတေသီ)
ကမ္ဘာပတ်၍ဘုရားရှာခြင်း / ဦးစိန်ထွန်း (မာမက - သုတေသီ) ။
- ရန်ကုန် ၊
ပန်းရွှေပြည်စာပေ ၊ တတိယအကြိမ် ၊ ၂၀၀၉။
၃၀၀ - စ ၊ ၁၈×၂၅ စင်တီ။
(၁) ကမ္ဘာပတ်၍ဘုရားရှာခြင်း

**တန်ဖိုး**
၅၀၀၀ ကျပ်

**အုပ်ရေ**
၅၀၀ အုပ်

**အကြိမ်**
တတိယအကြိမ်
၂၀၀၉ ခုနှစ် ဇွန်လ

**မျက်နှာဖုံး**
ရဲရဲ

**ထုတ်ဝေသူ**
ဦးသိမ်းမင်း(၀၄၂၉၀)
ပန်းရွှေပြည်စာအုပ်တိုက်
အမှတ် ၃၃၄၊ ၈ လမ်း၊ ၁၁ ရပ်ကွက်၊
တောင်ဥက္ကလာပမြို့နယ်၊ ရန်ကုန်မြို့ ။

**ပုံနှိပ်သူ**
ဦးဝင်းကျော်ထွန်း(၀၇၉၅၈)
မုံရွေးပုံနှိပ်တိုက်
အမှတ် ၈၁/ခ၊ သံလွင်လမ်း၊
ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့ ။

**စာမူခွင့်ပြုချက်အမှတ်**
၃၂၀၅၁၆၀၆၀၈

**အဖုံးခွင့်ပြုချက်အမှတ်**
၃၂၀၂၆၁၀၀၅၀၉

# မာတိကာ

**အခန်း ။ ၂ ။**

**ကျောက်ခေတ်လူသားများနှင့် ယုံကြည်မှုများ**



**အခန်း ။ ၃ ။**

**ရှေးဦးလူ့အဖွဲ့အစည်းများနှင့် ဘုရားများ**



**အခန်း ။ ၄ ။**

**ပြောင်းလဲလာသော ဟိန္ဒူဘာသာနှင့် ၎င်းတို့၏ဘုရားများ**

## အခန်း ။ ၅ ။

## ပါရစီ (ဇိုရိုအက်စတား) ဘာသာနှင့် အဟူးရာမတ်ဇဒါဘုရား

## အခန်း ။ ၆ ။

## ဂျူးဘာသာရေးနှင့် ယာဒေး (ယေဟိုဝါ) ဘုရား



## အခန်း ။ ၇ ။

## ကမ္ဘာ့တွေးခေါ်ရှင်ကြီးများနှင့် ၎င်းတို့၏ အတွေးအခေါ်များ

## အခန်း ။ ၈ ။

### ဓာတ်နှိပ်အဘိဓမ္မာ ... 

## အခန်း ။ ၉ ။

## ဗုဒ္ဓဘာသာနှင့် ဗုဒ္ဓဘုရား

## အခန်း ။ ၁၀ ။

## ခရစ်ယာန်ဘာသာနှင့် ထေဝရာဘုရား

**အခန်း ။ ၁၁ ။**

**အစ္စလာမ်ဘာသာနှင့်အလ္လာဟ်ဘုရား**



**ဘဟာအီသာသနာ**

**အခန်း ။ ၁၂ ။**

**နိဂုံး**



မာတိကာပြီးပြီ။

**နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ။**

# နိဒါန်း

'ဗဟုံ ဝေ သရဏံ ယန္တိ၊ ပဗ္ဗတာနိ ဝနာနိ စ။

အာရာမရုက္ခစေတျာနိ၊ မနုဿာ ဘယတဇ္ဇိတာ။ ။' ဟူသော ဓမ္မပဒ ဗုဒ္ဓဝဂ် အဂ္ဂိဒတ္တပြာဟ္မဏဝတ္ထု ပါဠိတော်အဆိုအမိန့်အရ သမိုင်းဦးလူများသည် သဘာဝဘေးအန္တရာယ်အမျိုးမျိုးကို ကြောက်ရွံ့ကြသဖြင့် တော၊ တောင်၊ ဥယျာဉ်၊ ခြံ၊ အာရာမ်၊ သစ်ပင် စသည်တို့ကို ကိုးကွယ်ခဲ့ကြရာမှ နောက်ပိုင်းတွင် တောင်စောင့်နတ်၊ တောစောင့်နတ်၊ အာရာမ်စောင့်နတ်၊ သစ်ပင်စောင့်နတ် စသည်ဖြင့် နတ်ကွန်းများပြု၍ ကိုးကွယ်ခဲ့ကြပြန်သည်ဟု သိရှိနိုင်သည်။ ယင်းကိုမြစ်ဖျားခံ၍ လူ့အဖွဲ့အစည်းများ၌ ယနေ့တိုင် ကိုးကွယ်မှုအမျိုးမျိုး ပေါ်ပေါက်ခဲ့ရသည်ဟုဆိုလျှင် မှားမည် မဟုတ်ပေ။

မည်သို့ပင်ဖြစ်စေ၊ ကိုးကွယ်သူများသည် ကိုးကွယ်ခံသူကို မိမိတို့ထက် မြင့်မြတ် ထက်မြက်သည်ဟု ယူဆကြသောကြောင့်သာ ကိုးကွယ်ကြခြင်းဖြစ်သည်မှာ ယုံမှားစရာ မရှိပေ။ သို့ရာတွင် ကိုးကွယ်သူများ၏ ရည်ရွယ်မျှော်ကိုးချက် များပြားသည်နှင့်အမျှ ကိုးကွယ်ခံများကလည်း များပြားလျက်ရှိသည်။ ဥပမာ အထက်ဂါထာပါ ကိုးကွယ်ခံများနှင့် ယခုခေတ် အချို့ကိုးကွယ်ခံများသည် ရေကြီးခြင်း၊ မီးတောင်ပေါက်ကွဲခြင်း၊ မြေငလျင်လှုပ်ခြင်း၊ လေမုန်တိုင်းတိုက်ခတ်ခြင်း စသော သဘာဝဘေးအန္တရာယ်များကို ကြောက်ရွံ့ကြသောကြောင့် ဘေးများ ပ,ပျောက်စေရန် ကိုးကွယ်သူများက ကိုးကွယ်ကြသော ကိုးကွယ်ခံများ ဖြစ်ကြသည်။ အချို့ကိုးကွယ်ခံများကား လူများက လာဘ်လာဘ ရွှင်မှု စသည်တို့ကို မျှော်ကိုး၍ကိုးကွယ်သော ကိုးကွယ်သူလူ့အဖွဲ့အစည်းများအား လိုက်နာရန်ကျင့်ဝတ်အမျိုးမျိုးကို ဟောကြားခဲ့သောကြောင့် 'ဘုရား' ဟု အသိအမှတ်ပြု ခံထားရသော ကိုးကွယ်ခံများပင် ဖြစ်သည်။

သို့ဖြစ်၍ ကိုးကွယ်ခံများအနက် ဘုရားသည် 'အမြင့်မြတ်ဆုံးသော ကိုးကွယ်ခံ' ဖြစ်သည်။ 'ဘုရား' ဟူသော ကိုးကွယ်ခံသည် အမြင့်မြတ်ဆုံးဖြစ်သောကြောင့် 'ဘုရား' ဟူသောဝေါဟာရသည်လည်း အမြင့်မြတ်ဆုံး ဖြစ်လာရတော့သည်။ လူမျိုးအသီးသီးတွင် အမြင့်မြတ်ဆုံးဖြစ်သော 'ဘုရား' ဟူသောဝေါဟာရနှင့် ညီမျှသော ဝေါဟာရတစ်ရပ် ရှိကြသည်ချည်း ဖြစ်သည်။ တစ်ဖန် လူမျိုးတိုင်းသည် မိမိတို့လူမျိုးအလျောက် အမြင့်မြတ်ဆုံး ဖြစ်သောဝေါဟာရကို ဦးထိပ်ထားကြသည့်အပြင် အားအကိုးဆုံး တမ်းတပြောဆိုကြသကဲ့သို့ မိမိတို့၏ အမြင့်မြတ်ဆုံး ဝေါဟာရသခင် ဘုရားရှင်ကိုလည်း မိမိတို့၏ ဘာသာစလေ့အလျောက် အရိုအသေပြုကြလျက်ပင်ရှိကြသည်။

ထိုနည်းအလားတူပင် ကျွန်တော်သည်လည်း ငယ်စဉ်တောင်ကျေး ကလေးဘဝ စကားပြောတတ်စအရွယ်တွင် မိဘ ၂ ပါး၏ သင်ပြပေးချက်အရ 'ဘုရား' ဟူသောဝေါဟာရကို ပြောတတ်လာသကဲ့သို့ ဘုရားရှိခိုးဦးချ ခြင်းကိုလည်း ဗုဒ္ဓဘာသာထုံးတမ်းစဉ်လာအရ ပြုလုပ်တတ်လာသည်။ အနည်းငယ်ကြီးပြင်းလာသောအခါ 'ဩကာသ' စသော ဘုရားရှိခိုးဆိုရိုးကိုပင် နှုတ်တက်အာဂုံ ရရှိနေပြီး ဖြစ်သည်။ ဘုရား၊တန်ဆောင်း၊ကျောင်း၊ကန်တို့၌ရှိသော ဗုဒ္ဓရုပ်ပွားတော်အား ရှိခိုးရသောအခါ ရှိခိုးရခြင်း၏အဓိပ္ပာယ်အတိအကျကို ကျွန်တော် မသိရှိသော်လည်း၊ ဗုဒ္ဓရုပ်ပွားတော်များသည် ငြိမ်းအေးချမ်းမြသောအသွင်သဏ္ဌာန်ကိုဆောင်လျက် ရုပ်ပွားတော်ပတ်ဝန်းကျင်၌ ဒုစရိုက်မှုမျိုးမလုပ်မိလောက်အောင် လေးစားဖွယ်၊ ကြည်ညိုဖွယ် သပ္ပာယ်သောအသွင်ကို ဆောင်လျက်ရှိနေသည်ဟု ကျွန်တော် သတိပြုမိသည်။

မည်သို့ပင်ဖြစ်စေ၊ ကျွန်တော် ကြီးပြင်းလာသောအခါ ဗုဒ္ဓရှင်တော်မြတ်ဘုရားအား အဘယ်ကြောင့် ကျွန်တော် ရှိခိုးသင့်၊ ရှိခိုးထိုက်သည်ကို သိရှိလာရသည့်နည်းတူ၊ 'ဘုရား' ဟူသည်မှာလည်း ဗုဒ္ဓရှင်တော်မြတ်တစ်ပါးတည်းသာ မဟုတ်၊ ဗုဒ္ဓမှတစ်ပါး အခြားဘုရားများလည်း ရှိသေးကြောင်း သိရှိလာရပြန်သည်။ ထို့ကြောင့် ကျွန်တော်သည် ဝိဝါဒကွဲပြားနေသော ဘုရားများကိုရှာဖွေရန် ဆန္ဒပြင်းပြခဲ့မိသည်။ သို့ရာတွင် အခြေအနေအရ တစ်ကြိမ်တစ်ခါမျှ ဆန္ဒ မအောင်မြင်ခဲ့ပါ။ ယခုမှ ကျွန်တော်ပြင်းပြခဲ့သောဆန္ဒ ပြည့်ဝစေရန် အခြေအနေပေးသောကြောင့် ယင်းဘုရားများကိုရှာခဲ့ရသော်လည်း ကိုယ်အား၊ စိတ်အားဖြင့်ရှာနိုင်သည်မဟုတ်ဘဲ၊ မကျွန်းမာနေသည့်ကြားက ရှာခဲ့ရခြင်းသာဖြစ်ကြောင်း စာရှုသူများအား ရှေးဦးစွာပန်ကြားလိုပါသည်။

တစ်ဖန် ကျွန်တော်သည် ကမ္ဘာကိုပတ်ပြီး ဒေသအဖုံဖုံ၊ လူမျိုးအစုံစုံအတွင်းသို့ဝင်ရောက်၍ ဘုရားရှာရာတွင် ခရီးရှည်အဖြစ် စီးခဲ့သောယာဉ်များမှာ၊ တစ်နည်းအားဖြင့် အဓိကကိုးကားခဲ့သော စာအုပ်များမှာ ကျမ်းကိုးစာရင်းတွင်ဖော်ပြထားသော စာအုပ်အနည်းအကျဉ်းဖြစ်ပြီး၊ ခရီးတိုအဖြစ်စီးခဲ့ရသောယာဉ်ပေါင်းမှာ တစ်နည်းအားဖြင့် ဆက်စပ်ရာအချက်အလက် အနည်းအကျဉ်းအဖြစ်ကိုးကားခဲ့ရသော စာအုပ်ပေါင်းမှာ အများအပြားဖြစ်ကြောင်း သိစေအပ်ပါသည်။

အထူးမှာ ဤစာအုပ်တွင်ပါဝင်သော အခန်းများသည် စုစည်းမှုအကြောင်းအရာ နည်းမှု၊များမှုကို အခြေပြု ရေးသားထားရသဖြင့် အချို့အခန်းများရှည်လျားပြီး၊ အချို့အခန်းများမှာ တိုတောင်းနေသည်ကို တွေ့ရှိရမည်ဖြစ်သည်။ တစ်ဖန် ကမ္ဘာ့သမိုင်းတွင်တွေ့ရှိရသော လူ့အဖွဲ့အစည်းတိုင်း၏ လူ့သမိုင်းအစအဆုံးကို ရေးသားဖော်ပြခြင်းမဟုတ်ဘဲ၊ ကိုးကွယ်ယုံကြည်မှုပေါ်လွင်ထင်ရှားသော လူ့အဖွဲ့အစည်းများနှင့် နောက်ပိုင်းတွင် ခေတ်ပေါ်ဘာသာရေးနှင့် အဓိကဆက်စပ်နေသော လူ့အဖွဲ့အစည်းများ၏ သမိုင်းဖြစ်ရပ်များကိုသာ ရေးသားဖော်ပြထားခြင်းဖြစ်ပေသည်။ ရေးသားရာ၌လည်း သမိုင်းဖြစ်ရပ်များတစ်ခုလုံးကို အပြည့်အစုံဖော်ပြခြင်း မဟုတ်ဘဲ၊ ကိုးကွယ်မှုဆိုင်ရာနှင့် ဆက်စပ်သိသာရုံမျှကိုသာ ရေးသားဖော်ပြခြင်းဖြစ်သည့်အပြင်၊ ဝေါဟာရအသုံးအနှုန်း ရွေးချယ်မှုကိုလည်း အတတ်နိုင်ဆုံး ရွေးချယ်သုံးနှုန်းထားပါသည်။ မြန်မာနိုင်ငံ ဘာသာရေးလောကတွင် သက်ဆိုင်ရာ ဘာသာရေးဆိုင်ရာအသုံးအနှုန်းတစ်ရပ်ကို ယင်းဝေါဟာရ၏အနက်အဓိပ္ပာယ် မည်မျှလေးနက်သည်ကို မသိဘဲ အလွယ်တကူပင် အတုယူသုံးနှုန်းနေကြသည်ကို တွေ့ရှိနေရသည်။ ဥပမာအားဖြင့် ဘာသာကြီးတစ်ခုမှ ထုတ်ဝေထားသော စာအုပ် ၂ အုပ်တွင် ၎င်းတို့၏အသင်းတော်မှ ဘုန်းကြီးများကို ဗုဒ္ဓဘာသာဝေါဟာရဖြစ်သော 'ရဟန်းသံဃာတော်' ဟူ၍လည်းကောင်း၊ 'ရဟန္တာ' ဟူ၍လည်းကောင်း သုံးနှုန်းဖော်ပြထားသည်ကို တွေ့ရသည်။ အမှန်မှာ ဗုဒ္ဓဘာသာတွင် ရဟန်း၊ သို့မဟုတ် 'ပဉ္စင်း' ဟုခေါ်သောပုဂ္ဂိုလ်များမှာ အကျဉ်းအားဖြင့် ၂၂၇ သွယ်၊ အကျယ်အားဖြင့် ကုဋေ ၉ ထောင်ကျော်ရှိသော သိက္ခာပုဒ်များကိုစောင့်ထိန်းရသော ပုဂ္ဂိုလ်မျိုးဖြစ်သည်။ ရဟန်း

မဟုတ်သော ကိုရင်သာမဏေများသည်ပင် ဆယ်ပါးသီလနှင့်သိက္ခာပုဒ် ၇၅ ပါးအပြင် အခြားကျင့်ဝတ်များကိုပါ စောင့်ထိန်းရသေးသည်။ ရဟန္တာမှာမူ ကိလေသာအပူဓာတ် ၁၀ ပါးကို အကြွင်းမဲ့ပယ်ပြီးသော ပုဂ္ဂိုလ်မြတ်မျိုးကိုမှသာ ရဟန္တာခေါ်ကြောင်း အခန်း ၁၂ ပုဂ္ဂိုလ် ၁၂ မျိုးခေါင်းစဉ်အောက်၌ ကြည့်ရှုနိုင်ပါသည်။ အထက်၌ ဖော်ပြထားသော သိက္ခာပုဒ်များကို ထိန်းသိမ်းသော ပုထုဇဉ်ရဟန်းများ မပါဝင်ဘဲ ပရမတ္ထသံဃာများကိုသာ သံဃာတော်ခေါ်ကြောင်း အခန်း ၁၂ 'သံဃာ့ဂုဏ်တော်'ခေါင်းစဉ်အောက်၌ ကြည့်ရှုနိုင်ပါသည်။

ဤသို့ ဘာသာတစ်ရပ်က အလေးအနက်ထား၍ ဖော်ပြထားသော ဝေါဟာရတစ်ရပ်ကို အလွယ်တကူ အတုယူပြီး သုံးနှုန်းရန် မသင့်ဟု ယူဆပါသည်။ ထို့ကြောင့် ဤစာအုပ်၌ ယင်းကဲ့သို့ ဘာသာရေး တစ်ရပ်နှင့် တစ်ရပ် ကျင့်သုံးမှု အနက်အဓိပ္ပာယ်မတူသော ဝေါဟာရများကို အတတ်နိုင်ဆုံး ရှောင်ရှားထားပြီး သင့်ရာအသုံးနှုန်းများကိုသာ ရွေးချယ်သုံးနှုန်းထားပါသည်။

ဥပမာ - ဥပုသ် ဟု သုံးမည့်အစား ဝတ်ပြုခြင်း၊ ရဟန်းဟု သုံးမည့်အစား ဘုန်းကြီးဟု သုံးခြင်းမျိုးများကို ရွေးချယ်သုံးနှုန်းထားပါသည်၊ အချုပ်အားဖြင့် ယနေ့ ကမ္ဘာတွင် ကိုးကွယ်မှုဘာသာရေး များစွာရှိသည် မှန်သော်လည်း ဤစာအုပ်တွင် အဓိကကျ၍ အများနှင့်သက်ဆိုင်နေသော ဘာသာကြီးများ၊ ယင်းနှင့်ဆက်စပ်နေသော ဘာသာရေးများကိုသာ လေ့လာတင်ပြထားခြင်းဖြစ်ပြီး ယင်းတင်ပြမှုများသည်လည်း အကြွင်းမဲ့ ပြီးပြည့်စုံသော တင်ပြချက် မဟုတ်သေးကြောင်း တင်ပြလိုပါသည်။

သို့ဖြစ်ပါ၍ ဟာကွက်ကိုဖြည့်စွက်ရန်နှင့် လိုအပ်ချက်များကို ပြင်ဆင်ရန်အတွက် ပညာရှင်သုတေသီများထံမှ အကြံဉာဏ်ကောင်းများကို လက်ကမ်းကြိုဆိုလျက်ရှိကြောင်းနှင့် ဤစာအုပ်ဖြစ်မြောက်ရေးအတွက် အသိဉာဏ်ပေးသော သင်ဆရာ, မြင်ဆရာ, ကြားဆရာများကို လည်းကောင်း၊ ဤစာအုပ်အတွက် အဘက်ဘက်မှ အကူအညီပေးကြသော ပုဂ္ဂိုလ်များကို လည်းကောင်း ဤစာအုပ်ဖြင့် အလေးအမြတ်ပြုအပ်ပါကြောင်း တင်ပြလိုက်ရပါသည်။

**ဦးစိန်ထွန်း**
**(မာမက-သုတေသီ)**
၂၀ - ၁၂ - ၈၆

## စာရေးသူ အမှာစာ

ဤစာအုပ်ကို ၁၉၈၆-ခုနှစ်က ရေးခဲ့ပြီး နိုင်ငံတော်သံဃမဟာနာယက မွန်ပြည်နယ် မော်လမြိုင်မြို့ ပန်းပဲတန်းရပ် ရွှေပရိယတ္တိစာသင်တိုက် ပဓာနနာယက ဆရာတော် ဘဒ္ဒန္တကုမာရာဘိဝံသ (အဂ္ဂမဟာပဏ္ဍိတ၊ ဘုံကျဉ်းဝိပဿနာကျမ်းပြု)ကိုယ်တိုင် အစအဆုံး ကြည့်ရှုသုတ်သင် ပြင်ဆင်တည်းဖြတ်ပေးတော်မူပါသည်။ ၁၉၈၇-ခုနှစ်၌ တစ်ကြိမ်၊ ၁၉၉၀ ပြည့်နှစ်၌ တစ်ကြိမ် ရိုက်နှိပ်ထုတ်ဝေရန် စိုင်းပြင်းခဲ့သော်လည်း အကြောင်းကြောင်း ကြောင့် ထုတ်ဝေဖြန့်ချိနိုင်ခြင်းမရှိဘဲ ယခုမှ ရိုက်နှိပ်ထုတ်ဝေ ဖြန့်ချိလိုက်ရခြင်းဖြစ်ပါသည်။

**ဦးစိန်ထွန်း**
**(မာမက သုတေသီ/ဆရာမင်းကြည်မွန်)**

## ဒုတိယအကြိမ် အမှာစာ

ဤစာအုပ် ပထမအကြိမ်ရိုက်တွင် အမှာစာ ၄ ရပ်နှင့်ကျမ်းကိုးစာရင်းတစ်မျက်နှာ ကျန်ရစ်ခဲ့သည်ကို ယခု ဒုတိယအကြိမ်တွင် ပြန်လည်ဖြည့်စွက် ထည့်သွင်းလိုက်ပါသည်။ စာစေစိစစ်ရေးခွင့်ပြုချက် ၂ ကြိမ်တိုင်တိုင် ရရှိခဲ့ပြီးဖြစ်သော်လည်း ကွန်ပျူတာစီသောအခါ ကျမ်းလေးမှုကိုရှေးရှု၍ ဖြုတ်ထားခဲ့သော <u>တိုင်ပေဘာသာရေးဂိုဏ်း</u>ကို အကျဉ်းချုပ်၍ ပြန်လည်ထည့်သွင်းလိုက်ပါသည်။ ယခု အသစ်လေ့လာခဲ့သော ဘဟာအီဘာသာရေးကိုလည်း အမြွက်မျှ ထည့်သွင်းဖော်ပြလိုက်ပါသည်။ စာရှုသူများ ဘာသာရေးစွယ်စုံဗဟုသုတ ပြည့်ဝကြပါစေ။

**အထူးမှာ** - ဤစာအုပ်ကို ၁၉၈၆ ခုနှစ်တွင်ရေးပြီးနောက် ၁၉၈၇ ခုနှစ်၌ စာပေစိစစ်ရေးတင်၍ ခွင့်ပြုချက်ရရှိခဲ့ပြီး ဖြစ်သော်လည်း အကြောင်းကြောင်းကြောင့် စာအုပ်အဖြစ် ရိုက်နှိပ်ထုတ်ဝေနိုင်ခြင်းမရှိဘဲ ၁၂ နှစ်တိုင်တိုင် ကြာညောင်းခဲ့ပါသည်။ ၁၂ နှစ်ကာလ လွန်မြောက်ကုန်ဆုံးခဲ့ပြီး တည်းဖြတ်ပေးသော ဆရာတော် မရှိတော့သည့်အပြင်၊ အမှာစာများ ပါမလာသောကြောင့် အမှာစာချီးမြှင့်သောဆရာများအား စာအုပ်ဖြင့် ကျေးဇူး မတုံ့ပြန်နိုင်ဘဲ ရှိခဲ့ပါသည်။ အမှာစာများ ပြန်လည်ထည့်ချင်၍ ဒုတိယအကြိမ်ရိုက်နှိပ်ပြီးနောက် ပေးနိုင်မည်ဟု အားခဲမျှော်မှန်းခဲ့သော်လည်း အကြောင်းကြောင်းကြောင့် ဒုတိယအကြိမ်မရိုက်နှိပ်ဘဲ ယခုမှ ရိုက်နှိပ်နိုင်ခြင်း ဖြစ်ပါသည်။ သို့ရာတွင် အမှာစာရေးပေးသောဆရာများ တစ်ဦးမျှမရှိတော့သဖြင့် ဝမ်းနည်းရပြန်သည်။

**ဦးစိန်ထွန်း**
**(မာမက သုတေသီ/ ဆရာမင်းကြည်မွန်)**

## နှစ်ဘက်လှ ဦးကျော်လွင် (မဟာဝိဇ္ဇာ)၏
## ထောက်ခံချက်အမှာစာ

သို့

ဦးစိန်ထွန်း (သုတေသီ)

ဦးစိန်ထွန်းပြုစုသော 'ကမ္ဘာပတ်၍ ဘုရားရှာခြင်း' စာမူကို မေတ္တာရပ်ခံချက်အရ ကြည့်ရှုသုံးသပ်ခဲ့ပြီး ဖြစ်ပါသည်။

ဤစာမူ၏ မာတိကာစာရင်းကို ကြည့်ရှုကာမျှဖြင့်ပင် ဘာသာတရားဆိုင်ရာဗဟုသုတနှင့် ပြည့်လျှမ်းနေသော စာမူကောင်းတစ်မူဖြစ်ကြောင်းကို တွေ့ရှိရပါသည်။

လူ့ဘဝတွင် ဘာသာတရားကိုးကွယ်မှုသည် အခြေခံကျသော အရေးကြီးကိစ္စတစ်ရပ် ဖြစ်သည့်အားလျော်စွာ မှန်ကန်သောကိုးကွယ်မှု ရရှိရေးသည် အဘယ်မျှအရေးကြီးကြောင်း ပညာရှင်များ သိရှိကြပြီးဖြစ်ပါသည်။ ကိုးကွယ်မှုမှားလျှင် ခရီးမှားသောသူနှင့်မခြား လိုရာသို့ ရောက်မည်မဟုတ်ပါ။ ခရီးမှားသောသူမှာကား လိုရာမရောက်ရုံသာ ရှိသည်။ ကိုးကွယ်မှုမှားပါက အပါယ် ၄ ပါး ဘေးဒုက္ခကိုပါ အတောမသတ် ခံစားရလိမ့်မည် ဖြစ်ပါသည်။

သို့ဖြစ်၍ 'ကုန်ရှုံးလျှင် တစ်ခေါက်၊ လင်ရှုံးလျှင် တစ်သက်လုံးမှောက်၊ ကိုးကွယ်မှုရှုံးလျှင် တစ်သံသရာလုံး ဒုက္ခရောက်' ဟူ၍ပင် ဆိုရမည်ဖြစ်ပါသည်။

'ကမ္ဘာပတ်၍ ဘုရားရှာခြင်း' ဤစာမူသည်ကား ကိုးကွယ်မှုအသားမကျသေးသော (ဝါ) ကိုးကွယ်ရာ အမှန်ကို ရှာဖွေနေသောသူများအတွက် တထိုင်တည်းနှင့် ခရီးပေါက်မည့် အကူအညီကောင်းကို ရနိုင်လိမ့်မည် ဖြစ်ပါသည်။

သို့ဖြစ်၍ ဤစာမူကို စာအုပ်ဖြစ်အောင်ရိုက်နှိပ်၍ အများအကျိုးရှိအောင် ဖြန့်ချိနိုင်ပါစေဟု ဆန္ဒပြုလိုက်ပါ သည်။

နှစ်ဘက်လှ ဦးကျော်လွင်

## နိုင်ငံတော် ဗဟိုသံဃာ့ဝန်ဆောင် မြန်မာစာအဖွဲ့ဩဝါဒါစရိယ ဆရာတော် ဘဒ္ဒန္တတိလောက (ရဝေထွန်း)၏

### အမှာစာ

'ရောဟိတဿ' မည်သော ဈာန်အဘိညာဉ်ရ ရသေ့တစ်ပါးသည် စကြဝဠာကိုပတ်၍ နိဗ္ဗာန်တရားကို ရှာ ခဲ့ဖူးသည်။ စကြဝဠာအနန္တ ရောက်နိုင်သမျှ တန်ခိုးဖြင့်သွား၍ နိဗ္ဗာန်တရားကိုရှာခဲ့သော်လည်း အသက်သာသေ သည်၊ ရှာဖွေ၍ မတွေ့ခဲ့ရဟု သိရ၏။

လွန်ခဲ့သောနှစ် ၂၅၀၀ ကျော်က ဘုရားစစ်ဘုရားမှန်ကိုရှာခဲ့ကြသူများ ရှိ၏။ ဂန္ဓာရမင်း ပုက္ကုသာတိသည် သူ့မြို့မှ မိုင်ပေါင်းများစွာဝေးသောရာဇဂြိုဟ်သို့ ခြေလျင်သွား၍ ဘုရားကို ရှာခဲ့၏၊ တွေ့ကား တွေ့၏။ သို့သော် ဘုရားမှန်း မသိခဲ့။ တရားနာပြီးမှ ဘုရားမှန်း သိသည် ဟုဆို၏။ ဗာဟိယတိုင်းသာ ဒါရုစိရိယသည်လည်း သာဝတ္ထိသို့ အရောက်သွား၍ ဘုရားရှာ၏၊ တွေ့ပါ၏။ တရားအနည်းငယ်နာ၍ တရားထူးရကာ ကွယ်လွန်ခဲ့ရ သည်။ သုဘဒ္ဒပရိဗိုဇ်ကား ဘုရားကိုရှာရာ ဘုရား ပရိနိဗ္ဗာန်စံခါနီးဆဲဆဲမှ တွေ့ရ၏။ အနာထပိဏ်ဖြစ်မည့် သုဒတ္တ သူကြွယ်ကြီးကား ညကြီးမင်းကြီး ဘုရားအရှာထွက်ခဲ့သူ ဖြစ်၏။ ဘုရားအရှာသွားလမ်းတွင် အနိဋ္ဌာရုံအမျိုးမျိုး ကြောင့် စိတ်ဓာတ်များပင် ပျက်ပြားခဲ့သေး၏။ သို့သော် ဇွဲမလျှော့၍ ဘုရားကိုတွေ့ကာ တရားနာရပြီး ဘုရားကျောင်း ဒကာကြီး ဖြစ်သွားရပေသည်။

ဤခေတ် နိုင်ငံပေါင်း ၁၆၀ ခန့်မှ ကမ္ဘာ့လူသား သန်း ၅၀၀၀ တို့တွင် ဘုရားစစ် ဘုရားမှန်, တရားစစ် တရားမှန်, သံဃာစစ် သံဃာမှန်ကို ရှာနေကြသူပေါင်း များစွာရှိ၏။ အတိုင်းတိုင်းအပြည်ပြည် လှည့်၍ရှာဖွေရင်း ရောဟိတဿထက် ကံကောင်းသူများဟု ဆိုရပေမည်။ ပုက္ကုသာတိ စသည်တို့ကဲ့သို့ တရားအရသာ သိသွားကြ၏။ အားထုတ်သွားကြရ၏။ အချို့ ကိုယ့်တိုင်းပြည်ကိုပင် မပြန်နိုင်ကြတော့။ မြန်မာနိုင်ငံမှာပင် ရဟန်းဝတ်နေကြတော့ သည်။ ကံကောင်းသူများပေတကား။

'ယံကိဉ္စိ ဝိတ္တံ ဣဓ ဝါ ဟုရံ ဝါ၊ သဂ္ဂေသု ဝါ ယံ ရတနံ ပဏီတံ။' စသည်ဖြင့် ရတနသုတ္တန်တွင် တရားဟောတော်မူ၏။ 'ရခဲမှ ရတနာ' ဆိုသည့်အတိုင်း 'ဘုရား' တည်းဟူသောရတနာသည် ဒုလ္လဘ ရတနာ တစ်ပါး ဖြစ်၏။ လူ့ပြည်, နတ်ပြည်, ဗြဟ္မာ့ပြည်တို့တွင် အရခဲဆုံး, အမွန်မြတ်ဆုံးဖြစ်၏။ ရှာတိုင်းမရ အလွန့် အလွန် ရှားပါးလှသော ရတနာထူးရတနာမြတ် ဖြစ်၏။ ဒုလ္လဘဒဿန, အနောမသတ္တ ပရိဘောဂ = တွေ့ကြုံရခဲ မြတ်သောသူတို့သာ ဖူးမြော်ပူဇော်ရမြဲသော ရတနာအထွတ် ဖြစ်ပါသည်။ ထို့ကြောင့် ဦးစိန်ထွန်းသည် ကမ္ဘာပတ်၍ မြတ်သောမွန်သော ရတနာအချွန် ရတနာထွတ်ကို ရှာပုံတော်လုပ်ပြထား၏။ သူ၏ 'ကမ္ဘာပတ်၍ ဘုရားရှာခြင်း' စာအုပ်ကိုသာဖတ်မိက ဘုရားကို မုချတွေ့နိုင်၏။ ကမ္ဘာပတ်၍ ဘုရားရှာနေကြသော အထက်ဖော်ပြပါ ကမ္ဘာ့ နိုင်ငံပေါင်းများစွာမှပုဂ္ဂိုလ်တို့အား ဤစာအုပ်ကို ဖတ်ကြည့်စမ်းပါဟု တိုက်တွန်းလိုက်ချင်ပါ၏။

ပန်းရွှေပြည်စာအုပ်တိုက်

# ဆရာဦးရွှေအောင်(မဟာဝိဇ္ဇာ)၏
## အမှာစာ

စာရေးသူသည် ကမ္ဘာပေါ်တွင် မိမိတို့ကိုးကွယ်သည့် ဘုရားများအကြောင်းကို ရေးသားထားသော ကမ္ဘာ့ဘာသာရေးစာပေများကို လေ့လာဖတ်ရှုလိုစိတ်၊ ဘုရားအမျိုးမျိုးကို ရှာဖွေသိမြင်လိုစိတ်၊ ရေးသားဖြန့်ဝေလိုစိတ်များ ဖြစ်ပေါ်လာပါန် ရှိပါသည်။ သို့အတွက် ဘာသာရေးစာပေအမျိုးမျိုးကို အကိုးအကားပြု၍ ဤကျမ်းစာကို ရေးသားဖြန့်ချိခြင်း ဖြစ်ပေသည်။

ဤကျမ်းတွင် ဂေါတမဗုဒ္ဓအပေါ် လူမျိုးခြား ကမ္ဘာ့စာပေပညာရှင်အသီးသီးတို့၏ ထင်မြင်ယူဆ ရေးပြချက်များကို ဖော်ပြထားကြောင်း တွေ့ရပါသည်။ အခြားဘာသာဝင်တို့ ကိုးကွယ်ရာအသီးသီးအကြောင်းကိုလည်း ဖော်ပြထားကြောင်း တွေ့ရှိရပါသည်။

သို့ဖြစ်၍ ဤကျမ်းစာသည် ဘာသာရေးကို စုံလင်စွာလေ့လာလိုသူများအတွက် များစွာ အထောက်အကူပြုမည့်ကျမ်းစာဖြစ်ကြောင်း ဖော်ပြလိုက်ရပေသည်။

ဦးရွှေအောင်

# တတိယအကြိမ် အမှာစာ

ဤစာအုပ်ကို ယခု တတိယအကြိမ် ရိုက်နှိပ်မှုအဖြစ် ဖော်ပြရသော်လည်း အမှန်မှာ ဤတတိယအကြိမ် ရိုက်နှိပ်ခြင်းနှင့်ပေါင်းလျှင် သတ္တမ ၇ ကြိမ်မြောက် ဖြစ်ခဲ့ပြီးဖြစ်ပါသည်။ အဘယ်ကြောင့်ဆိုသော် ပထမအကြိမ် ရိုက်နှိပ်ခြင်းကို အကြိမ်ကြိမ်ပြန်လည်ရိုက်နှိပ်ခဲ့ရာ ၅ ကြိမ်တိတိရိုက်နှိပ်ခဲ့ခြင်း ဖြစ်သောကြောင့် ဖြစ်သည်။

ပထမအကြိမ် ရိုက်နှိပ်ခြင်းကို ၁၀ ချိုးအဖြစ် ရိုက်နှိပ်ထုတ်ဝေခဲ့ပြီးနောက်၊ ပန်းရွှေပြည်စာအုပ်တိုက်က ဒုတိယအကြိမ်အဖြစ် ရိုက်နှိပ်ဖြန့်ချိရာတွင် ကရောင်း ၈ ချိုးအဖြစ် ရိုက်နှိပ်ဖြန့်ချိခဲ့သည်။

ယခု တတိယအကြိမ်အဖြစ် ပန်းရွှေပြည်စာအုပ်တိုက်က ရိုက်နှိပ်ရာတွင် စိတ်ကြိုက်ပုံစံဖြင့် ကွန်ပျူတာ ပြန်လည်စီပြီး ရိုက်နှိပ်ဖြန့်ချိပါသဖြင့် စာရှုသူများအနေဖြင့် ထူးခြားသောစာလုံးပုံသဏ္ဌာန်၊ ထူးခြားသောစာအုပ် အနေအထားဖြင့် ဖတ်ရှုနိုင်ကြမည်ဖြစ်ပါကြောင်း တင်ပြလိုက်ရပါသည်။

ဦးစိန်ထွန်း
(မာမက-သုတေသီ)

# အခန်း ၁

# စကြဝဠာ, ကမ္ဘာနှင့် သက်ရှိများ

## စကြဝဠာ

အာကာသကောင်းကင်ပြင်တွင် ကျွန်ုပ်တို့၏စကြဝဠာကဲ့သို့သော စကြဝဠာမျိုးပေါင်း မရေမတွက်နိုင်အောင်ရှိသည်။ ကျွန်ုပ်တို့မြင်နေရသော ကြယ်များသည် အခြားစကြဝဠာများမှ နေများ ဖြစ်သည်။ ကမ္ဘာမြေကြီးမှ အလင်းနှစ်ပေါင်း ကုဋေ ၁ သိန်းကွာဝေးသော ရပ်ဝန်းတစ်ခု၌ စကြဝဠာမျိုးပေါင်း ကုဋေ ၁ သိန်းရှိသည်ဟု နောက်ဆုံးသိပ္ပံပညာအရ သိရှိရသည်။ အလင်းနှစ်ဆိုသည်မှာ အလင်းရောင်အသွားနှုန်း တစ်စက္ကန့်လျှင် ၁၈၆,၀၀၀ (၁ သိန်း ၈ သောင်း ၆ ထောင်) မိုင်နှုန်းဖြင့် ၁ နှစ်အတွက် ဖြစ်သည်။ ဂဏန်းဖြင့်ချရေးလျှင် အလွန်ရှည်လျားပေလိမ့်မည်။ ကျွန်ုပ်တို့ ကမ္ဘာနှင့် အနီးဆုံးဖြစ်သော 'အယ်လ်ဖာစင်တော်ရီ' ခေါ်သော ကြယ်ကြီးသည်ပင် မိုင်ပေါင်း သန်း ၂၀ ကွာဝေးသည်။ ၎င်းကြယ်ကြီး၏အလင်းရောင်သည် ကမ္ဘာမြေကြီးသို့ရောက်ရန် ၄ နှစ်မျှ လာရသည်ဟု ဆိုသည်။ ၎င်းကြယ်ကြီး၏ အလင်းရောင်သည်လည်း ကျွန်ုပ်တို့၏နေထက် ၂ ဆလင်းသဖြင့် အရွယ်အစားလည်း များစွာ ပိုကြီးသည်ဟု ခန့်မှန်းရပေသည်။ 'အယ်လ်ဖာမိုရီယွန်နစ်' ခေါ်သော ကြယ်ကြီး၏အလင်းရောင်မှာမူကား ကမ္ဘာမြေသို့ရောက်ရန် နှစ်ပေါင်း ၁၅၀ လာရပြီး၊ အရွယ်အစားမှာလည်း ကျွန်ုပ်တို့နေထက် အဆ ၃၀၀ ခန့် ပိုကြီးသည်ဟု ဆိုသည်။

ထိုကြယ်ကြီးများ၏ အကွာအဝေးကို ခန့်မှန်းကြည့်ပြီး နက္ခတ္တဗေဒပညာရှင်တို့ တွက်ချက်မှုအရ အကြီးဆုံး နက္ခတ်ကြည့်မှန်ပြောင်းမှ မြင်နိုင်သလောက်ကြယ်ပေါင်းမှာ သန်းပေါင်း ၁၀၀၀ အောက် မနည်းရှိကြောင်း၊ ထိုကြယ်များ၏ အခြားတစ်ဘက်တွင်လည်း (လူတို့မြင်နိုင်စွမ်း မရှိသေးသော) ကြယ်ကြီးများမှာ မရေတွက်နိုင်အောင် ရှိနေသေးကြောင်း သိရှိရသည်။ အမှန်မှာ အနန္တစကြဝဠာပင် ဖြစ်သည်။ ကျွန်ုပ်တို့စကြဝဠာပါဝင်သော (Milky Way) နဂါးငွေ့တန်းကြီးကိုလည်း 'အနန္တစကြဝဠာ' ဟုခေါ်နေကြသည်။ ဗုဒ္ဓစာပေ၌ စကြဝဠာ ၁၀၀၀ ကို စူဠ လောကဓာတ်၊ စူဠလောကဓာတ် ၁၀ သို့မဟုတ် စကြဝဠာ ၁ သောင်းကို မဇ္ဈိမလောကဓာတ်၊ စကြဝဠာကုဋေ ၁ သိန်းကို မဟာလောကဓာတ် ခေါ်ပြီး၊ ထိုထက်များ၍ ရေတွက်မရသော စကြဝဠာပေါင်းကို အနန္တလောကဓာတ် ဟု ခေါ်ကြောင်း၊ ကျွန်ုပ်တို့၏ စကြဝဠာကား မဇ္ဈိမလောကဓာတ် ခေါ် စကြဝဠာ ၁ သောင်းစု၏ အလယ်ဗဟို၌ တည်ရှိကြောင်း ဖော်ပြထားသည်။

## ကျွန်ုပ်တို့စကြဝဠာနှင့် ဂြိုဟ်များ

ယနေ့ နက္ခတ္တဗေဒပညာရှင်တို့၏ အဆိုအရ ကျွန်ုပ်တို့၏ စကြဝဠာကား နေကို ဗဟိုပြု၍ လည်ပတ်နေသော ဂြိုဟ်ကြီး ၉ လုံးနှင့် အရံဂြိုဟ်များ ပါဝင်ပေသည်။ ၎င်းတို့မှာ အောက်ပါအတိုင်း ဖြစ်သည်။

| စဉ် | ဂြိုဟ်အမည် | အရွယ်အစား အချင်းမိုင်ပေါင်း | နေနှင့် အကွာအဝေး မိုင်သန်းပေါင်း | အရန်ဂြိုဟ် လအလုံးရေ | နေကို တစ်ပတ် ပတ်ရက် |
|---|---|---|---|---|---|
| ၁။ | မာကျူရီ (ဗုဒ္ဓဟူး) | ၃၁၀၀ | ၃၆ | - | ၈၈-ရက် |
| ၂။ | ဗီးနပ်စ် (သောကြာ) | ၇၇၀၀ | ၆၇ | - | ၇-လနှင့်ရက် အနည်းငယ် |
| ၃။ | ကမ္ဘာမြေ (ရာဟု) | ၈၀၀၀ | ၉၁ | ၁ | ၃၆၅ ၁/၂ ရက် |
| ၄။ | မားစ် (အင်္ဂါ) | ၄၂၀၀ | ၁၄၁ | ၂ | - |
| ၅။ | ဂျူပီတာ (ကြာသပတေး) | ၈၈၇၀၀ | ၄၈၃ | ၁၂ | - |
| ၆။ | ဆေတန် | ၇၅၁၀၀ | ၈၈၆ | ၉ | - |
| ၇။ | ယူရေးနပ်စ် | ၃၀၉၀၀ | ၁၇၈၃ | ၅ | - |
| ၈။ | နက်ပကျွန်း | - | - | ၂ | - |
| ၉။ | ပလူတို | - | - | - | - |
| | | | | ၃၁ လုံး | |

**မှတ်ချက်**

မြန်မာ့စွယ်စုံကျမ်း အတွဲ ၃ တွင် ဂျူပီတာ အရန်ဂြိုဟ် ၁၁ လုံး၊ နက်ပကျွန်း အရန်ဂြိုဟ် ၁ လုံးရှိသည်ဟု ပြဆိုထားပြီး၊ မာကျူရီ အချင်းမိုင် ၃၀၀၀ နှင့် ဗီးနပ်စ် အချင်းမိုင် ၇၅၇၅ ခန့်ရှိကြောင်း ဖော်ပြထားသည်။

## ဤကမ္ဘာ စတင်ဖြစ်ပေါ်သည့်ကာလ

သိပ္ပံပညာရှင်များက နေနှင့် အခြားကြယ်များ၏သက်တမ်းကို မခန့်မှန်း မဖော်ပြခဲ့သော်လည်း ဤကမ္ဘာမြေ၏သက်တမ်းကိုမူ ဖော်ပြခဲ့ကြပေသည်။ သို့သော် ဖော်ပြချက် ကာလအပိုင်းအခြားကား တူညီမှုမရှိဘဲ အမျိုးမျိုး ကွဲလွဲနေကြသည်ကို တွေ့ရှိရပေသည်။

- အချို့က ဘူမိဗေဒပညာရှင်တို့၏ သိပ္ပံနည်းကျစမ်းသပ်တွေ့ရှိချက်အရ ဤကမ္ဘာမြေသည် လွန်ခဲ့သော နှစ်သန်းပေါင်း ၄၅၀၀ ခန့်က စတင်ဖြစ်ပေါ်လာခဲ့သည်ဟု ဆိုသည်။
- အချို့က ဤကမ္ဘာမြေသည် လွန်ခဲ့သော နှစ်ပေါင်းကုဋေ ၂၀ ကျော်က စတင်ဖြစ်ပေါ်လာခဲ့သည်ဟု ဆိုသည်။
- အချို့က ဤကမ္ဘာနှင့်တကွ ဂြိုဟ်များသည် လွန်ခဲ့သော နှစ်သန်းပေါင်း ၁ သောင်းနှင့် ၂သောင်း လောက်တုန်းက စတင်ဖြစ်ပေါ်လာသည်ဟု ဆိုသည်။
- အချို့ကမူ ဤကမ္ဘာနှင့်တကွ ဂြိုဟ်များသည် လွန်ခဲ့သော နှစ်သန်းပေါင်း ၂၀၀၀ ခန့်က စတင် ဖြစ်ပေါ်လာခဲ့သည်ဟု ဆိုပြန်သည်။
- အချို့ကမူ ဤကမ္ဘာမြေသည် လွန်ခဲ့သော်နှစ် သန်းပေါင်း ၈၀၀၀ (ကုဋေ ၈၀၀)တွင် စတင်ပေါ် ပေါက်လာသည်ဟု ဆိုပြန်သည်။

## ဤကမ္ဘာ စတင်ဖြစ်ပေါ်လာပုံ

ကမ္ဘာစတင်ဖြစ်ပေါ်လာပုံနှင့်ပတ်သက်၍ ဖော်ပြရာတွင်လည်း အယူအဆအမျိုးမျိုး ကွဲပြားနေကြပြန်သည်။

- အာကာသအတွင်းတွင် နေကဲ့သို့သောကြယ်ကြီးများ လှည့်လည်သွားလာလျက် ရှိကြ၏။ ကြယ်များ၏ အရေအတွက်မှာ ပင်လယ်ကမ်းခြေအားလုံးတွင်ရှိသည့် သဲပွင့်များထက်ပင် များပြားသေး၏။ အရွယ်အစားမှာလည်း ထိုကြယ်ကြီးများတွင် ဤကမ္ဘာအလုံးပေါင်း ထောင်ချီ၍ ထည့်နိုင်လောက်အောင် ကြီးမား၏။ ဤမျှကြီးမားသော ကြယ်များသည် အာကာသအတွင်း၀ယ် အဟုန်ပြင်းစွာ ပြေးလွှားလျက် ရှိကြသည်။ သို့သော် အာကာသက ကျယ်ပြောသဖြင့် တစ်ခုနှင့်တစ်ခု ထိရန် မဆိုထားနှင့် အနီးအနားသို့ပင် မသီလာကြပေ။ သို့သော် လွန်ခဲ့သော နှစ် သန်းပေါင်း ၂၀၀၀ ခန့်က အခြားကြယ်ကြီးတစ်လုံးသည် ကျွန်ုပ်တို့၏နေကြီးအနီးသို့ ရောက်လာခဲ့၏။ ထိုအခါ လ၏ဆွဲအားကြောင့် သမုဒ္ဒရာမှ ဒီရေများ ကြွတက်လာသကဲ့သို့ နေ၏မျက်နှာပြင်တွင် ကြယ်ကြီး၏ ဆွဲအားကြောင့် ဒီလှိုင်းကြီးများ ထလာ၏။ ထိုဒီလှိုင်းကြီးများ ကြီး၍ကြီး၍လာပြီး ကြယ်၏ဆွဲအား အလွန်ပြင်းထန်လာသောအခါ ဓာတ်ငွေ့တန်းကြီးအဖြစ် နေ၏ ပင်မဒြပ်ထုမှ ပြတ်ထွက်သွားကြ၏။ ဤသို့ ပြတ်ထွက်သွားပြီးနောက် အချို့မှာ ကြယ်ကြီးနောက်သို့ လိုက်ပါသွားသည်။ အချို့ကား နေ၏ဆွဲအားကြောင့် နေ၏ပတ်ပတ်လည်တွင် လှည့်လည်လျက် ကျန်ရစ်ခဲ့သည်။ ထိုဓာတ်ငွေ့ အစုအဝေးများကား မူလက မီးတောက်လောင်လျက်ရှိသည်။ အေးသောအခါ အရည်ဖြစ်သွားပြီး တဖြည်းဖြည်းခဲသွားကာ ကမ္ဘာမြေကြီး အပါအဝင် ဂြိုဟ်ကြီး ၉ လုံးတို့ ဖြစ်ပေါ်လာရသည်ဟု ဆိုသည်။

ဤယူဆချက်ကို ၁၉၀၀ ပြည့်နှစ်လောက်က နက္ခတ္တဗေဒပညာရှင် ယောရက်ရေး မော်လတန်နှင့် ဘူမိဗေဒပညာရှင် တီစီချိန်ဘာလင်တို့က ကမ္ဘာသို့ တင်ပြခဲ့ကြသည်။ အင်္ဂလိပ် နက္ခတ္တဗေဒပညာရှင်များဖြစ်သော ဆာဂျိမ်းဂျီးအင်းနှင့် အိပ်ချ်ဂျက်ဖရီတို့က အနည်းငယ်ပြောင်းလဲ၍ အဆိုပြုထားခြင်း ဖြစ်သည်။ ယနေ့ သိပ္ပံပညာရှင်အများစုကလည်း သဘောကျလက်ခံနေကြသောအဆို ဖြစ်သည်။ အခြားအဆိုများလည်း ရှိကြသေးသည်။ ၎င်းတို့မှာ အောက်ပါအတိုင်း ဖြစ်သည်။

- ဂျာမန် ယထာဘူတပညာကျော် အင်မယ်ညျူအယ်ကန့်က 'ဤကမ္ဘာမြေကြီးသည် ပါးလွှာသော ဓာတ်ငွေ့ဝိုင်းကြီးမှ ဖြစ်ပေါ်လာသည်' ဟုဆိုသည်။

- ပြင်သစ် သဘာဝဗေဒဆရာ ဒပ်ဖွန်က 'နေနှင့် ကြယ်ကြီးတစ်ခုတိုက်မိရာမှ ကမ္ဘာကြီး စတင်ဖြစ်ပေါ်လာသည်' ဟုဆိုသည်။

- ပြင်သစ် နက္ခတ်ဆရာ လက်ဖလေ့စ က 'နေပေါ်တွင် ပြင်းထန်စွာပေါက်ကွဲရာမှ နက်ဖြူလာခေါ် ဓာတ်ငွေ့တန်းကြီးပေါ်ပေါက်လာပြီး ကမ္ဘာနှင့် ဂြိုဟ်ကြီးများ ဖြစ်ပေါ်လာရသည်' ဟုဆိုသည်။

- ဟားဗတ်တက္ကသိုလ်မှ ဒေါက်တာ ဝှစ်ဝဲလ်ကမူ 'ဖုန်တိုက်ကြီးမှ ကမ္ဘာ စတင်ဖြစ်ပေါ်လာရသည်' ဟု ဆိုသည်။ 'နေနှင့် အခြားဂြိုဟ်များသည်လည်း ဤဖုန်တိုက်ကြီးမှပင် ဖြစ်လာရသည်' ဟုဆိုသည်။

## ကမ္ဘာတည်နေပုံ

ကယ်လ်ဒီယန် လူမျိုးတို့က 'ကမ္ဘာသည် သမုဒ္ဒရာမှပေါ်ပေါက်လာသောနံရံများအတွင်းတွင် ကုတ်နေသော မိုးကောင်းကင်ကိုမျက်နှာကြက်ပြုလျက် တည်နေသည်' ဟု ယုံကြည်ကြသည်။

ရှေးအိဂျစ်တို့ကမူ 'ကမ္ဘာကို ဆင်ကြီး ၄ ကောင်က ထမ်းထားပြီး၊ ထိုဆင်များသည် သမုဒ္ဒရာရေပြင်တွင် ကူးလျက်ရှိသော ကမ္ဘာလိပ်ကြီး၏ကျောက်ကုန်းပေါ်တွင် တည်ရှိသည်' ဟု ယုံကြည်ကြသည်။

ရှေးဂရိတို့ကလည်း 'ဤကမ္ဘာမြေသည် သမုဒ္ဒရာဝိုင်းရံထားသော မြေပြင်ကြီးတစ်ခုသာ ဖြစ်သည်' ဟု ယုံကြည်ကြသည်။

## စကြဝဠာနှင့် ကမ္ဘာ ပျက်စီးနိုင်ပုံ

ဤသို့ စကြဝဠာနှင့် ကမ္ဘာ၏ဖြစ်ပုံကိုပြပြီးနောက် ၄င်းတို့ပျက်စီးနိုင်ပုံကိုလည်း သိပ္ပံပညာရှင်များက အောက်ပါအတိုင်း ဖော်ပြခဲ့ကြပြန်သည်။

- နက္ခတ္တဗေဒပါရဂူ အက်ဒင်တန်က 'စကြဝဠာကြီးတစ်ခုလုံးသည် အပြင်ဘက်သို့ တရွေ့ရွေ့ချဲ့လျက်ရှိသည်။ နောက်ဆုံး မချဲ့နိုင်သောအခြေသို့ ရောက်သွားမည်။ ထိုအခါ တွန်းကန်ခြင်းနိယာမ အားကြီးလျှင် အာကာသတစ်ခွင်ရှိ ဂြိုဟ်များ၊ နက္ခတ်များသည် အားလုံး အရှိန်ပြင်းစွာလွင့်စဉ်သွားကြလိမ့်မည်။ အကယ်၍ ဆွဲငင်ခြင်းနိယာမ အားကြီးလျှင် ချဲ့သွားသောစကြဝဠာသည် အရှိန်ပြင်းစွာ အတွင်းသို့ကျုံ့ဝင်သွားမည်ဟု ဆိုသည်။ ဤ ၂ မျိုးစလုံးသည် ကမ္ဘာအပါအဝင် ဂြိုဟ်များ၊ နက္ခတ်များကို ကြေမွပျက်စီးသွားစေမည့်အကြောင်းများပင် ဖြစ်သည်' ဟု ဆိုသည်။

- ဆာဂျိန်း ဂျီအင်းစ်က 'နေ၏ရောင်ခြည်သည် တစ်စထက်တစ်စ အားပျော့လာနေသည်။ ထို့ကြောင့် ကမ္ဘာပေါ်ရှိသက်ရှိများ တည်နေနိုင်ရန် လိုအပ်သောအပူဓာတ်ကိုရရှိရေးအတွက် ကမ္ဘာသည် နေနှင့်နီးရန် ပို၍လိုအပ်သည်။ သို့သော် သိပ္ပံပညာအရ သိရသည်မှာ ပြောင်းလဲ၍မရနိုင်သော နိယာမများအရ နေသည် ကမ္ဘာနှင့် နီးမလာဘဲ ပို၍ဝေးရာသို့ ရွေ့လျားလျက်ရှိသည်။ ထို့ကြောင့် တစ်ချိန်တွင် ကမ္ဘာသည် နေ၏အလင်းရောင်ကို လုံလောက်စွာမရတော့သဖြင့် အေး၍ခဲလာကာ သက်ရှိများအားလုံး ပျက်စီးရမည်' ဟုဆိုသည်။

- ရူပဗေဒက 'သာမိုဒိုင်းနမစ် ဒုတိယနိယာမကြောင့် တစ်ချိန်တွင် စကြဝဠာအတွင်းရှိအပူဓာတ်သည် အာကာသတစ်ခွင်လုံး ပျံ့နှံ့သွားလိမ့်မည်။ ထိုအခါ သက်ရှိများ မတည်ရှိနိုင်တော့' ဟုဆိုသည်။

- နက္ခတ္တဗေဒက 'ကောင်းကင်ရှိဂြိုဟ်တို့သည် တစ်ခုနှင့်တစ်ခု အချိန်မရွေး ကြေမွသွားနိုင်သည်' ဟု ဆိုသည်။

- အခြားအဆိုတစ်ရပ်ကမူ 'ကမ္ဘာ၏ လေ၊ ရေ၊ မြေထုတို့သည် တစ်ခုနှင့်တစ်ခု သဟဇာတမဖြစ်သော အင်အားစုများအကြား အားပြိုင်ရာမှပေါ်ပေါက်လာသော အတိမ်းအစောင်းမခံသည့် ဟန်ချက်ညီညွတ်မှုအပေါ် တည်မှီနေကြောင်း၊ ယင်းဟန်ချက်သည်လည်း အချိန်မရွေး ပျက်ယွင်းသွားနိုင်သောဟန်ချက်ဖြစ်ပါက ကမ္ဘာလည်ပတ်နှုန်း မြန်လာမည်ဖြစ်သည့်ပြင် လေထုအဟုန်နှင့် ဖိအားသည်လည်း မကြုံစဖူးထူးကဲအောင် ပြောင်းလဲလာရပြီး ယင်းပြောင်းလဲမှုကြောင့် ဟိုက်ဒရိုဂျင်ဗုံး ၄ လုံး၊ ၅ လုံး၊ ၁၀ လုံး အစရှိသော အဖျက်စွမ်းအားနှင့်ညီမျှသော လေပြင်းမုန်တိုင်းများ ဖြစ်ပွားလာနိုင်ကြောင်း၊ ၄င်းပြင် စွမ်းအားကြီးသော ရေလှိုင်းနှင့် ယင်းလေပြင်းအားတို့ ပေါင်းစည်းတိုက်စားမှုကြောင့် မိုင်ပေါင်းထောင်သောင်းချီရှည်လျားသော ပင်လယ်ကမ်းရိုးတန်းများ ပျက်စီးပျောက်ကွယ်သွားနိုင်ကြောင်း၊ နောက်ဆုံး၌ ကမ်းဦးရေတိမ်ပိုင်းရှိ မြေလွှာအောက်ခံဖြစ်သော ရေမကျောက်ဖျာကြီးများ ရွေ့လျားကာ တစ်ခုနှင့်တစ်ခုထိခိုက်မိပြီး ပြင်းထန်သောမြေငလျင်များလည်း ဖြစ်ပေါ်နိုင်ကြောင်း' စစ်ပြန်မဂ္ဂဇင်း အမှတ် ၄၉ တွင် သိပ္ပံပညာရှင်တို့၏ အယူအဆကို ရေးသားဖော်ပြထားသည်ကို ဖတ်ရှုခဲ့ရဖူးသည်။

- အလားတူ ၁၉၈၆ ခုနှစ် ဖွန်လခန်ကထုတ်ဝေသော ဗိုလ်တထောင်သတင်းစာတွင် ဆောင်းပါးရှင်တစ်ဦးက 'ကမ္ဘာနှင့် နေ နီးကပ်လာသဖြင့် အပူရှိန်မြင့်လာချက်အရ ရေခဲတောင်များရေပျော်လာသဖြင့် တစ်နေ့တွင် ရေလွှမ်းမိုးမှုဖြင့် ကမ္ဘာပျက်နိုင်မည်ဖြစ်ကြောင်း' ရေးသားထားသည်ကို ဖတ်ရှုလိုက်ရသည်။

ကမ္ဘာကို ရေလွှမ်းမိုးနိုင်သည့်အဆိုနှင့်စပ်လျဉ်း၍ ယခင်ကလည်း အန္တာတိတ်တိုက်တစ်ခုလုံးနှင့် ယူဖရိတ်နှင့် တီဂရစ် မြစ် ၂ သွယ်ကြားရှိ လခြမ်းဒေသမှ တစ်ချိန်က ယဉ်ကျေးမှုအထွတ်အထိပ်သို့ ရောက်ခဲ့သော မက်ဆိုပိုတေးမီးယားပြည်တို့သည်လည်း ရေလွှမ်း၍ ပျောက်ပျက်ခဲ့ရကြောင်း သမိုင်းဆရာတို့ဆိုထားချက်နှင့် တိုက်ဆိုင်လျက်ရှိသည်။

ရေလွှမ်းမိုးမှုဖြစ်ခဲ့သည့်ဖြစ်ရပ်ကို ဟိန္ဒူ၊ ဂျူး၊ ခရစ်ယာန်နှင့် အစ္စလာမ်ကျမ်းစာများ၌လည်း ဖော်ပြထားသည်ကို တွေ့ရသည်။ ဂျူး၊ ခရစ်ယာန်နှင့် အစ္စလာမ်တို့၏ သမ္မာကျမ်းစာဟောင်း၌ အာဒမ်မှ ဆင်းသက်လာသော လူမျိုးဆက် ၉ ဆက်မြောက် နောဧ လက်ထက် (၂၃၀၀ ဘီစီ နှင့် ၂၃၆၉ ဘီစီ အတွင်း) တွင် ကမ္ဘာကြီးတစ်ခုလုံး ရေလွှမ်းမိုးသွားကြောင်းနှင့် နောဧမိသားစု လူသား ၄ စုံတို့သည် တိရစ္ဆာန်များမှတစ်စုံစီကို သင်္ဘောဖြင့်တင်ဆောင်၍ ရှောင်တိမ်းနေခဲ့ရကြောင်း ဖော်ပြထားသည်။ ဟိန္ဒူဘာသာကျမ်းများအရ အိန္ဒိယနိုင်ငံ၏ ပထမဦးဆုံးဘုရင်ဖြစ်သော မနု လက်ထက် (၃၁၀၀ ဘီစီ) ၌ ကမ္ဘာကြီးကို ရေလွှမ်းမိုးခဲ့ကြောင်းနှင့် ရေလွှမ်းမိုးရာတွင် လူများသည် မြောက်ဘက်တောင်တန်းများသို့ သင်္ဘောဖြင့်သွားရောက်၍ ခိုအောင်းခဲ့ရကြောင်း ဖော်ပြထားသည်ကို တွေ့ရှိရသည်။

အချုပ်အားဖြင့် ဤကမ္ဘာသည် အပူ၊အအေးကြောင့်၊ သို့မဟုတ် မီး၊ ရေ၊ လေ ဖျက်မှုကြောင့် တစ်နေ့နေ့တွင် ပျက်စီးမည်ဟု ဆိုလိုခြင်း ဖြစ်သည်။

## ကမ္ဘာပျက်မည့်ကာလနှင့် ပျက်ပုံ

- အထက်ပါအချက်များ၌ ဤကမ္ဘာသည် မည်သည့်အချိန်၌ ပျက်စီးမည်ကို မဖော်ပြသော်လည်း ခေတ်သစ်သိပ္ပံပညာရှင်အချို့က 'ဤကမ္ဘာကြီးသည် နှစ်သန်းပေါင်း ၅ သိန်း- ၆ သိန်းကြာသောအခါ မီးလောင်၍ ပျက်စီးမည်'ဟု တွက်ချက်ပြီး ဟောကိန်းထုတ်ကြသည်။

- အိတ်-ပင်-လွှန်း ရေးသော လူတို့၏ဇာတ်ကမ္ဘာသမိုင်း စာအုပ်တွင် ကမ္ဘာပျက်မည့်အချိန်ကို ဥပမာအားဖြင့် ဖော်ပြထားသည်။ 'မိုင် ၁၀၀ မြင့်၍ မိုင် ၁၀၀ အကျယ်ရှိသော ကျောက်ဆောင်တစ်ခုသည် ငှက်ငယ်တစ်ကောင်က နှစ် ၁၀၀၀ လျှင် တစ်ကြိမ်ကျ နှုတ်သီးသွေးသောကြောင့် ၎င်း ကျောက်ဆောင်ကုန်သောအချိန်တွင် ဤကမ္ဘာကြီးပျက်စီးမည်' ဟု ရေးသားဖော်ပြထားသည်။

## ဘာသာရေးအရ ကမ္ဘာတည်ပုံနှင့် ပျက်ပုံများ

ဘာသာရေးအရ ကမ္ဘာဖြစ်ပေါ်လာပုံကို ဖော်ပြရာ၌ ဗုဒ္ဓဘာသာမှတစ်ပါး အခြားဘာသာများမှာ အဓိကအားဖြင့် တူညီကြသည်။ 'ကမ္ဘာနှင့်တကွ သက်ရှိသက်မဲ့အားလုံးကို အနန္တတန်ခိုးရှင် ထာဝရဘုရားသခင်က ဖန်ဆင်းတော်မူခဲ့သည်'ဟု ဆိုသည်။ တစ်ဖန် 'ယခုလက်ရှိ သက်ရှိသက်မဲ့အားလုံးကို ဘုရားသခင်ကပင် ထိန်းသိမ်းထားပြီး၊ နောင်အနာဂတ်ကာလတစ်ချိန်တွင် ၎င်းဘုရားသခင်ကပင် အားလုံးကို ဖျက်ဆီးပစ်လိမ့်မည်' ဟု ဆိုသည်။ ဖန်ဆင်းရှင်၏ ဖန်ဆင်းပုံအခြင်းအရာများနှင့်ပတ်သက်၍ လူသားဖန်ဆင်းမှုကိုဖော်ပြရာ၌ အနည်းအကျဉ်းသာ ဖော်ပြထားသည်။

## ဗုဒ္ဓဘာသာအရ ကမ္ဘာတည်ပုံ

ဗုဒ္ဓဘာသာ စာပေများအရ ကမ္ဘာတည်ပုံကို သိရှိသည်မှာ အဋ္ဌောတစ်ခွင် ကောင်းကင်ပြင်၌ စကြဝဠာအနန္တ, သတ္တဝါအနန္တ ရှိသည်။ ထိုစကြဝဠာအနန္တအတွင်း၌ သက်ရှိများတည်ရှိသော ဘုံဌာနများကို အဆင့်အတန်းအရရော အမျိုးအစားအရပါ မတူညီသောကြောင့် ၃၁ ဘုံ- ၃၁ ဌာနအဖြစ် ပိုင်းခြားသတ်မှတ်ထားသည်။ ၄င်းတို့မှာ အပါယ် ၄ ဘုံ, လူ့ဘုံ, နတ်ပြည် ၆ ထပ်နှင့် ရူပ အရူပ ဗြဟ္မာ့ပြည် ၂၀ တို့ ဖြစ်သည်။ ဤ ၃၁ ဘုံကိုလည်း ကျယ်ပြောလှသော ကောင်းကင်၌တည်ရှိသော အနေအထားအရ အထက်,အောက်ဟု မပိုင်းခြား မသတ်မှတ်နိုင်သော်လည်း ထိုထိုဘုံဌာန၌တည်ရှိသော သက်ရှိသတ္တဝါတို့၏ အဆင့်အတန်းအရ အထက် အထက်ဘုံ, အောက် အောက်ဘုံဟု သတ်မှတ်ခဲ့သည်။ ဤလူ့ဘုံ ကမ္ဘာအပါအဝင် စကြဝဠာအနန္တတို့၏ ဖြစ်ပျက်စဉ်များသည်လည်း (အနာဒိအနန္တ) ဆုံးစမထင်သော ဖြစ်ပျက်စဉ်ကြီး ဖြစ်သည်။ ဤစကြဝဠာတစ်ခု၊ သို့မဟုတ် ဤကမ္ဘာတစ်ခု ပျက်လျှင် အခြားစကြဝဠာတစ်ခု၊ သို့မဟုတ် အခြားကမ္ဘာတစ်ခု အသစ်ထပ်မံ ဖြစ်ပေါ်လာမည်သာ ဖြစ်သည်။

ဤသို့ ဖြစ်လိုက်, တည်လိုက်, ပျက်လိုက်သော ဖြစ်တည်ပျက်စဉ်ကြီးတွင် ကျွန်ုပ်တို့၏ကမ္ဘာ စတင်ဖြစ်ပေါ်လာပုံမှာ ပထမ ကမ္ဘာပြုမိုး နှစ်ပေါင်းများစွာ ရွာ၏။ ထိုမိုးရေများသည် ကောင်းကင်ရှိလေထုကို မထိုးဖောက်နိုင်သဖြင့် လေထုအပေါ်တွင် ရေထုအဖြစ်တင်လျက် နှစ်ပေါင်းများစွာတည်၏။ နှစ်ပေါင်းများစွာ ကြာသောအခါ အထက်ပိုင်းရေအစုတို့သည် မြေသားအဖြစ်သို့ တစ်စတစ်စပြောင်းလဲသွားလေရာ ယူဇနာ ၂ သိန်း ၄ သောင်း အထု (အထူ)ရှိသောမြေကြီး ဖြစ်လာသည်။ မြေကြီး၏ အောက်ထပ်ဝယ်ကား ကျောက်သားဖြစ်ပြီး အထက်ထပ်ဝယ်ကား မြေသားပကတိ ဖြစ်သည်။ ၄င်းမြေထုကိုခံထားသော အောက်ပိုင်းရေထုကား ယူဇနာ ၄ သိန်း ၈ သောင်း ရှိကြသည်။ ၄င်းရေထုကိုခံထားသော ပတ်ဝန်းကျင်လေထုကား ယူဇနာ ၉ သိန်း ၆ သောင်း ရှိသည်။ ထိုလေထု၏ အထက်၌ အထက်အဇ္ဇောကာသ (အထက်ကောင်းကင်), အောက်၌ အောက်အဇ္ဇောကာသ (အောက်ကောင်းကင်) တည်ရှိသည်ဟု သိရသည်။

## ဗုဒ္ဓဘာသာအရ ကမ္ဘာပျက်ပုံနှင့် ပျက်ချိန်

တည်ရှိလာသော ဤကမ္ဘာအပါအဝင် စကြဝဠာသည်လည်း အချိန်ကြာလာသောအခါ ဖြစ်တည်ပျက် နိယာမတရားအရ တစ်နေ့တွင် ပျက်စီးဦးမည်သာ ဖြစ်သည်။ ဤကမ္ဘာအပါအဝင် ဤစကြဝဠာပျက်လျှင် စကြဝဠာ ကုဋေ ၁ သိန်းပါ အတူတူလိုက်ပျက်ကြသည်။ ဘုံဌာနအားဖြင့် တတိယဈာန် ၃ ဘုံအထိ စုစုပေါင်း ၂၀ ဘုံ ပျက်စီးသည်။ ဖြစ်သောအခါလည်း အတူတူပြန်ဖြစ်လာကြသည်။ ရှေ့နောက်သာ ကွာခြားသည်။ ဤကမ္ဘာနှင့် စကြဝဠာပျက်ရာ၌ မီး, ရေ, လေ ဖျက်ဆီးမှုကြောင့် ပျက်ရခြင်း ဖြစ်သည်။ ဘုံ ၃၁ ရှိသည့်အနက် မီးကြောင့် ပထမဈာန် ၃ ဘုံအထိ၊ ရေကြောင့် ဒုတိယဈာန် ၃ ဘုံအထိ၊ လေကြောင့် တတိယဈာန် ၃ ဘုံအထိ၊ စုစုပေါင်း အပါယ် ၄ ဘုံ, လူ့ဘုံ, နတ်ပြည် ၄ ဘုံနှင့် ဗြဟ္မာ ၉ ဘုံ ဟူသော ဘုံ ၂၀ တို့ ပျက်စီးကြရသည်။

'ဤကမ္ဘာကြီးသည် မည်သည့်အချိန်တွင် ပျက်စီးမည်နည်း' ဟု မြတ်စွာဘုရားအား ရဟန်းတစ်ပါးက မေးခဲ့ဖူးသည်။ မြတ်စွာဘုရားက 'နှစ်အပိုင်းအခြားနှင့်ပြရန် မလွယ်' ဟု မိန့်ကြားပြီး၊ ဥပမာဖြင့် ဟောပြတော်မူသည်။ 'အမြင့် တစ်ယူဇနာ, အရှည် တစ်ယူဇနာ, အကျယ် တစ်ယူဇနာရှိသော ကျောက်တောင်ကြီးကို အလွန်နူးညံ့သော ကတ္တီပါစဖြင့် အနှစ် ၁၀၀ လျှင် တစ်ကြိမ်ကျ ပွတ်ပေးသည့်အတွက် ၄င်းကျောက်တောင် ကုန်သွား

သော်လည်း ဤကမ္ဘာကြီး မပျက်စီးသေးကြောင်း၊ အမြင့် တစ်ယူဇနာ၊ အရှည် တစ်ယူဇနာ၊ အကျယ် တစ်ယူဇနာ ရှိသည့် မြို့ရိုးကြီးနှင့်အပြည့် မုန်ညင်းစေ့ထည့်ထား၍ အနှစ် ၁၀၀ ကြာလျှင် တစ်လုံးကျဖြင့် ယူ၍ပစ်ထုတ်သော ကြောင့် မုန်ညင်းစေ့ကုန်သော်လည်း ဤကမ္ဘာကြီး မပျက်စီးသေးကြောင်း' ဟောတော်မူသည်။ အဋ္ဌကထာ ဋီကာဆရာများကမူ 'အန္တရကပ် ၆၄ ကပ် ကုန်ဆုံးသောအခါ ဤကမ္ဘာပျက်မည်' ဟု ရေးသားဖော်ပြကြသည်။ ပျက်စီးသောအခါလည်း ကမ္ဘာတည် သက်တမ်းတမျှ ကောင်းကင်ကြီးအဖြစ် ဟာလာဟင်းလင်းဖြစ်နေပြီး၊ ကမ္ဘာ ပြန်ဖြစ်သောအခါ၌လည်း ကမ္ဘာတည်သက်တမ်းတမျှ ပြန်ဖြစ်ရသည်ဟု ဆိုသည်။

## သက်ရှိ စတင်ဖြစ်ပေါ်လာရာကာလနှင့် ဖြစ်ပေါ်လာပုံများ

'ဤကမ္ဘာမြေကြီး စတင်ဖြစ်ပေါ်ချိန်၌ ကမ္ဘာပေါ်တွင် သက်ရှိများ မရှိသေးချေ။ လွန်ခဲ့သော နှစ်သန်းပေါင်း ၆၀၀ လောက်မှစ၍ သက်ရှိများ ဖြစ်ပေါ်ခဲ့သည်' ဟု ကျောက်ဖြစ်ရုပ်ကြွင်း သိပ္ပံပညာရှင်များက ခန့်မှန်းခဲ့ကြသည်။

အချို့က 'ဤကမ္ဘာမြေသည် လွန်ခဲ့သော နှစ်သန်း ၈၀၀၀ (ကုဋေ ၈၀၀)တွင် စတင်ဖြစ်ပေါ်လာပြီး သက်ရှိများမှာ လွန်ခဲ့သောကုဋေ ၃၀၀ ခန့်က စတင်ဖြစ်ပေါ်ခဲ့သည်' ဟု ဆိုသည်။

အချို့က 'လွန်ခဲ့သော နှစ်သန်းပေါင်း ၃၀၀ တွင် သက်ရှိများ စတင်ဖြစ်ပေါ်လာသည်' ဟု ခန့်မှန်းပြန်သည်။

အချို့ကလည်း 'သက်ရှိသတ္တဝါတို့၏အစသည် နှစ်သန်းပေါင်း ၁၅၀၀ ခန့်က ဖြစ်သည်' ဟု ဆိုပြန်သည်။

အချို့ကမူ 'လွန်ခဲ့သော နှစ်သန်းပေါင်း ၁၅၀၀ မှ ၂၀၀၀ အထိတွင် သက်ရှိများ စတင်ဖြစ်ပေါ်လာသည်'ဟု ခန့်မှန်းကြပြန်သည့်ပြင်၊ ဖြစ်ပေါ်ရာကာလကိုလည်း 'ကျောက်လွှာဦးဆုံး စပေါ်သည်မှ နှစ်သန်းပေါင်း ၆၀၀အထိ မထင်မရှား လျှို့ဝှက် သက်ရှိဖြစ်ပေါ်သောကာလနှင့် နှစ်သန်းပေါင်း ၆၀၀ မှစ၍ မျက်မြင်ထင်ရှားသော သက်ရှိများဖြစ်ပေါ်သောကာလ' ဟု သတ်မှတ်ခဲ့ကြပြန်သည်။

ကျောက်လွှာများကိုလည်း ၁- သက်မဲ့ကပ်ကျောက်လွှာ၊ ၂- သက်စကပ်ကျောက်လွှာ၊ ၃- သက်ဦး (ပဌမ)ကပ်ကျောက်လွှာ၊ ၄- သက်လယ် (ဒုတိယ)ကပ်ကျောက်လွှာ၊ ၅- သက်နှောင်း (တတိယ)ကပ်ကျောက် လွှာဟု သတ်မှတ်ပြီး၊ သက်မဲ့ကပ်လျက်လွှာကာလကို နှစ်သန်းပေါင်း ၆၀၀ အထက် ဟု သတ်မှတ်ခဲ့သည်။ သက်ရှိသက်စကပ်ကျောက်လွှာများတွင်လည်း သက်ရှိများသည် အနိမ့်ဆုံးအဆင့်မှ တိုးတက်ဖြစ်ပေါ်လာခဲ့သော အထောက်အထားများကို တွေ့ရှိရသည်ဟု ဆိုသည်။

## လူသားများ စတင်ဖြစ်ပေါ်လာရာကာလ

ကမ္ဘာမြေကြီးပေါ်၌ သက်ရှိများစတင်ဖြစ်ချိန်၌ လူသားလည်း စတင်ဖြစ်ခဲ့သည် မဟုတ်သေးပေ။ လူသား သည် မည်သည့်အချိန်က စ၍ဖြစ်ပေါ်လာခဲ့သည်ကို ကေန်ကေမဆိုနိုင်သော်လည်း သမိုင်းပညာရှင်တို့ တူးဖော် တွေ့ရှိရသောအထောက်အထားများအရ လူသားသည် လွန်ခဲ့သော နှစ် ၁ သန်းကျော်ကျော်ခန့်ကမှ စတင်ဖြစ်ပေါ် လာခဲ့သည်ဟု ယူဆကြသည်။ ဤကာလအပိုင်းအခြားသည်လည်း ခန့်မှန်းချက်သာ ဖြစ်သည်။ လူသားများ စပေါ်လျှင်ပေါ်ချင်း သမိုင်းတင်နိုင်ခဲ့ကြသည် မဟုတ်သေးချေ။ လွန်ခဲ့သော နှစ် ၇၀၀၀ ကျော် (၅၀၀၀ ဘီစီ) ခန့်ကမှသာ အထောက်အထား၊ အမှတ်အသား အခိုင်အမာအရ ရေးထိုးမှတ်တမ်းတင်ထားသော ကမ္ဘာ့သမိုင်းပေါ် ခဲ့သဖြင့် ထိုအရင်မတိုင်မီကခေတ်ကို သမိုင်းမတင်မီခေတ် (ကျောက်ခေတ်)ဟုခေါ်သည်။ ကျောက်ခေတ်ကိုလည်း

ကျောက်ကြမ်းခေတ်, ကျောက်ခေတ်လယ်, ကျောက်ချောခေတ် ဟု ၃ ပိုင်း ပိုင်းပြီးနောက်၊ ကျောက်ကြမ်းခေတ်၊ သို့မဟုတ် ကျောက်ခေတ်ဦး စခဲ့သည်မှာ အချို့က ၅၀၀၀၀ ဘီစီ, အချို့က ၃၅၀၀၀ဘီစီ ဟု ခန့်မှန်းကြသည်။

## သုညကမ္ဘာ စဉ်းစားစရာ

ကျွန်ုပ်တို့သည် လူသား စတင်ဖြစ်ပေါ်သောကာလကို လွန်ခဲ့သော နှစ် ၁ သန်း ဟု ဆိုဆို၊ ကျောက်ကြမ်းခေတ်ဦးစတင်ရာကာလကို ထောက်ဆ၍ ၅၀၀၀၀ ဘီစီ၊ သို့မဟုတ် ၃၅၀၀၀ ဘီစီခန့်ဟု ပြောပြော၊ လူသားစတင်ဖြစ်ပေါ်လာသော ကာလသက်တမ်းသည် ကမ္ဘာမြေကြီး စတင်ဖြစ်ပေါ်လာသော ကာလသက်တမ်းနှင့် နှိုင်းစာလျှင် လူ့သက်တမ်းနှင့် နတ်သက်တမ်းကို နှိုင်းစာရသည်ထက် သာလွန်၍ ကွာခြားလွန်းလှသည်ကိုတွေ့ရှိရသည်။ ပညာရှင်များသည် ဤကမ္ဘာမြေ စတင်ဖြစ်ပေါ်လာရာကာလကို အများဆုံး လွန်ခဲ့သောနှစ်သန်းပေါင်း ၂ သောင်း၊ အနည်းဆုံး လွန်ခဲ့သော နှစ်သန်းပေါင်း ၂၀၀၀ ဟု ခန့်မှန်းခဲ့ကြသည်။ လူသားစတင်ဖြစ်ပေါ်ရာကာလကို ခန့်မှန်းဖော်ပြရာ၌ လွန်ခဲ့သော နှစ် ၁ သန်းဟု ဆိုသဖြင့် အများဆုံး နှစ်သန်းပေါင်း ၁၉,၉၉၉ ခန့်၊ အနည်းဆုံး နှစ်သန်းပေါင်း ၁၉၉၉ ခန့် လူသားကင်းမဲ့သောကမ္ဘာ ဖြစ်ခဲ့သည်။

တစ်ဖန် သက်ရှိဖြစ်ပေါ်ရာကာလကို အများဆုံးလွန်ခဲ့သော နှစ်သန်းပေါင်း ၁၅၀၀ မှ ၂၀၀၀ အတွင်း၊ အနည်းဆုံး လွန်ခဲ့သော နှစ်သန်းပေါင်း ၃၀၀ ဟု သတ်မှတ်ကြပြန်သဖြင့် ကမ္ဘာမြေ စတင်ပေါ်ပေါက်ခဲ့သော ကာလနှင့် နှိုင်းစာလျှင် အများဆုံး နှစ်သန်းပေါင်း ၁၈,၀၀၀ ခန့်၊ အနည်းဆုံး ၁၇၀၀ ခန့်သည် သက်ရှိကင်းမဲ့သော သုညကမ္ဘာ ဖြစ်ခဲ့သည်ကို တွေ့ရှိရပြန်သည်။ သက်ရှိကမ္ဘာသက်တမ်းနှင့် သုညကမ္ဘာသက်တမ်းကို နှိုင်းယှဉ်ပြန်လျှင်လည်း အဆများစွာကွာခြားနေသည်ကို တွေ့ရှိရပြန်သည်။ ထိုသုညကမ္ဘာသည် ဤမျှသက်တမ်းရှိနိုင်မည် မဟုတ်ဟု ယူဆရသည်။

## သမိုင်းအတက်အကျ

အမှန်မှာ သမိုင်းအတက်အကျကြောင့်သာ သုညကမ္ဘာ ဟု ထင်ရလောက်အောင် ကာလကွာခြားနေရခြင်းဖြစ်သည်ဟု ယူဆနိုင်သည်။ ဆိုလိုသည်မှာ လူ့သမိုင်းသည် အစဉ်မပြတ် ဖြစ်ပျက်ပြောင်းလဲနေသော ဖြစ်စဉ်အရ ထိုရှည်လျားသောကာလအတွင်းတွင် လူ့ဘောင်အဖွဲ့အစည်း ယဉ်ကျေးမှုများသည်လည်း တိုးတက်လိုက်, တည်တံ့လိုက်, ပျက်စီးလိုက်, တစ်ဖန်တိုးတက်လိုက်, တည်တံ့လိုက်, ပျက်စီးလိုက်နှင့် အဆက်မပြတ် ပြောင်းလဲဖြစ်ပေါ်ခဲ့သည်ဟု ယူဆနိုင်ပေသည်။

ဥပမာအားဖြင့် ယခင်က ဆူးမားရီးယန်း, ဖိနစ်ရှန်, အဆီးရီယန်း စသည်ကဲ့သို့သော လူ့အဖွဲ့အစည်းများနှင့် ရေလွှမ်းမိုးခံခဲ့ရသော အတ္တလန်တိတ်တိုက်နှင့် မေဆိုပိုတားမီးယားပြည်, မဂဓတိုင်း စသည်ကဲ့သို့သော တစ်ချိန်က ကြီးကျယ်ခမ်းနားခဲ့သော မြို့ရွာအချို့သည် ယခုအခါ ပျောက်ကွယ်ပျက်စီး သိမ်ငယ်ခဲ့ပြီး မြို့ပြကင်းမဲ့ခဲ့သော နေရာများတွင် မြို့ပြတည်ထောင်၍ လူ့အဖွဲ့အစည်းသစ်များနှင့် ယဉ်ကျေးမှုအသစ်များ တိုးတက်စည်ကားနေသည်ကို မျက်ဝါးထင်ထင် တွေ့မြင်နေရသကဲ့သို့ ဖြစ်သည်။

ထို့ကြောင့် သိပ္ပံကဝိ ဒေါက်တာအိုင်းစတိုင်းက 'တတိယကမ္ဘာစစ် မည်သည့်အချိန်တွင်ဖြစ်မည်ကို ကျွန်ုပ်တို့ မသိပါ။ သို့ရာတွင် စတုတ္ထကမ္ဘာစစ်တွင်ကား လူတို့သည် တစ်ဦးနှင့်တစ်ဦး ကျောက်လက်နက်ဖြင့် ပစ်ခတ်တိုက်ခိုက်ကြလိမ့်မည်'ဟု ပြောခဲ့သည်။ အဓိပ္ပာယ်မှာ တတိယကမ္ဘာစစ်တွင် သာမိုနျူကလီးယားလက်နက်တို့ဖြင့်

တိုက်ခိုက်သဖြင့် လူ့ဘောင်အဖွဲ့အစည်းနှင့်တကွ လူ့ယဉ်ကျေးမှုများ ပျက်သုဉ်း၍ ကျောက်ခေတ်လူသားဘဝသို့ ပြန်လည်ရောက်ဦးမည်ဟု ဆိုလိုခြင်း ဖြစ်သည်။ ထို့ကြောင့် ထို ရှည်လျားသောကာလတစ်လျှောက်တွင် လူသားတို့၏ လူ့ဘောင်အဖွဲ့အစည်းနှင့် လူ့ယဉ်ကျေးမှုများသည် အကြိမ်ကြိမ်တိုးတက်ခဲ့ပြီး ဖြစ်သကဲ့သို့၊ အကြိမ်ကြိမ်ပင် ပျက်စီးခဲ့ပြီဟူ၍လည်း ယူဆနိုင်ပေသည်။

## သက်ရှိနှင့် လူသားများ ဖြစ်ပေါ်လာပုံ

မည်သို့ပင်ဖြစ်စေ၊ ဤကမ္ဘာမြေပေါ်တွင် လူသားများ ပေါ်ထွန်းခဲ့ပြီး ဖြစ်သည်။ အလားတူ အခြားသက်ရှိများသည်လည်း ပေါ်ထွန်းခဲ့ပြီး ဖြစ်သည်။ သို့ဆိုလျှင် လူနှင့်သက်ရှိများသည် ဤကမ္ဘာမြေပေါ်တွင် မည်ကဲ့သို့ စတင်ဖြစ်ပေါ်ခဲ့သနည်းဟု မေးဖွယ်ရှိသည်။ ဤမေးခွန်းကို ရှေးပဝေဏီကာလမှစ၍ ယနေ့အထိ မေးနေကြဆဲပင် ဖြစ်သည်။ တိကျသောအဖြေကိုကား မည်သည့်ပညာရှင်ကမှ မပေးနိုင်ခဲ့သေးပေ။ ထို့ကြောင့် အိပ်ချ်ဂျီဝဲလ်က 'ကမ္ဘာပေါ်ရှိ သက်ရှိများ ဘယ်ပုံဘယ်နည်း စတင်ဖြစ်ပေါ်ခဲ့သည်ကို ကေန်ကေ မပြောနိုင်ပါ' ဟု ရေးသားခဲ့ခြင်း ဖြစ်သည်။

သို့သော် အသိဉာဏ်ပိုင်ရှင် လူသားများသည် မှန်သည်မှားသည်ကို အပထားကာ ဉာဏ်ကစား၍ အတွေးများကို တွေးခဲ့ကြသည်သာ ဖြစ်သည်။ ရှေးလူများ၏အတွေး၌ နောက်လူများက ပိုဖျက်လိုစွက် ပြုလုပ်၍လည်း ထပ်၍ တွေးကြ၏။ ဆန့်ကျင်ဘက်ပြုလုပ်၍လည်း တွေးကြ၏။ ဤသို့ အဆင့်ဆင့်တွေးခဲ့ကြသောကြောင့် ပြဿနာအချို့၏အဖြေမှန်ကို ရရှိခဲ့သည်လည်း ရှိ၏။ အချို့ပြဿနာ၏အဖြေမှန်ကို ယနေ့တိုင် မရခဲ့ကြသေးသည်လည်း ရှိခဲ့၏။

ထိုသို့ တွေးခေါ်ခဲ့သူများအနက် ခေါမတွေးခေါ်ရှင် 'အနက်ဇီးမန်းဒါး' (၆၁၀-၅၄၇ ဘီစီ) က 'လူသည် ငါးမှဆင်းသက်လာသည်' ဟု တွေးပြီး၊ ငါးကိုမစားရန် တိုက်တွန်းခဲ့သည်။

ဒီမိုကရိတပ်ကမူ 'လူသည် အဏုမြူမှ ဖြစ်ခဲ့သည်' ဟု တွေးခဲ့သည်။

ချားလ်ဒါဝင် (အေဒီ-၁၉ ရာစု)ကမူ 'လူသည် နိမ့်ကျသောသတ္တဝါများမှ အဆင့်ဆင့်ပြောင်းလဲတိုးတက် ဖြစ်ပေါ်လာသည်' ဟု ဆိုသည်။ ပထမ ကျောရိုးမဲ့၊ နှစ်သန်းပေါင်းများစွာ ကြာသော အခါ ငါးများ၊ တစ်ဖန် ကုန်းတစ်ပိုင်း ရေတစ်ပိုင်းသတ္တဝါများ၊ ၄င်းနောက် တွားသွားသတ္တဝါများ, ငှက်များ, နို့တိုက်သတ္တဝါများ အစဉ်အတိုင်း ပေါ်ထွန်းပြီး နောက်ဆုံးတွင် ချင်ပန်ဇီ မျောက်ဝံ (လူဝံ)မှ လူဖြစ်လာသည်' ဟုဆိုသည်။

## ဘာသာရေးအရ လူသား ဖြစ်ပေါ်လာပုံများ

ဘာသာရေးအရ လူသားသည် မည်ကဲ့သို့ ဖြစ်ပေါ်လာသနည်းဟုဆိုလျှင် ဗုဒ္ဓဘာသာမှတစ်ပါး အခြားဘာသာအားလုံးသည် 'အနန္တတန်ခိုးရှင် ထာဝရဘုရားသခင်က ဖန်ဆင်းခဲ့သည်' ဟုဆိုသည်။

ဟိန္ဒူဘာသာအရ 'မိမိတစ်ဦးတည်း တည်ရှိနေသော ဗြဟ္မာ (ပြဟ္မာ)ဘုရားသည် ကမ္ဘာလောကကြီးကို မဖန်ဆင်းမီ လေဟာပြင် တစ်ခုလုံး မှောင်မည်းလျက်နေသော အမှောင်ထုကြီးကို မိမိ၏ အလင်းရောင်လက်နက်ဖြင့် ဖြိုခွင်းပစ်လိုက်ရာ အမှောင်ထုပျောက်ကွယ်သွားတော့သည်။ ထို့နောက် ရေပြင်ကိုဖန်ဆင်းလိုက်ပြီး ထိုရေထဲသို့ သတ္တဝါမျိုးစေ့ (ဗီဇ)ကို ထည့်လိုက်သည်။ ထိုမျိုးစေ့မှ ရွှေဥတစ်လုံးပေါက်လာရာ ထာဝရဘုရားက ၄င်းကို

ထက်ခြမ်းခွဲလိုက်သဖြင့် ကောင်းကင်နှင့်မြေကြီး ဖြစ်ပေါ်လာပြီးနောက် စိတ္တဇ (စိတ်အလိုအရ ဖြစ်ပေါ်လာရသော) သားတော် ၁၀ ပါး ကို ဖန်ဆင်းခဲ့ပြီး၊ ၎င်းတို့မှတစ်ဆင့် လူသားများ ဖြစ်ပေါ်လာရသည်' ဟုဆိုသည်။

အခြားအဆိုတစ်ခုကမူ 'မနုသည် 'ကဿပ'မည်သော ထာဝရဘုရား၏သားမှတစ်ဆင့် ဆင်းသက်လာပြီး၊ ၎င်းမနုမှတစ်ဆင့် လူသတ္တဝါအဆက်ဆက် ဆင်းသက်လာသည်ဟု ဆိုသည်။ စတင်ဖန်ဆင်းချိန်ကိုမူ အနာဒိ (အစမရှိ)အဖြစ်ယူပြီး ဖျက်သိမ်းလိုက်သောအချိန်အထိ ကာလအပိုင်းအခြားကို ၁ ကပ္ပ (၁ ကမ္ဘာ)ဟု သတ်မှတ်သည်။ ယင်း ၁ ကပ္ပ (၁ ကမ္ဘာ)၏ သက်တမ်းကား ထာဝရဘုရား၏ ခေတ္တအနားယူသော တစ်နေ့တာအချိန်နှင့် ညီမျှသော ယုဂ အသက် ၁၀၀၀ သို့မဟုတ် လူတို့၏ အနှစ်သန်းပေါင်း ၄၃၂ ကာလ အတိုင်းအတာ ဖြစ်သည်ဟု ဆိုသည်။ ဤနည်းဖြင့် ဗြဟ္မာရဘုရား၏ ကမ္ဘာနှင့် သက်ရှိများကိုဖန်ဆင်းခြင်း, ဖျက်သိမ်းခြင်း များစွာဖြင့် သံသရာလည်နေရသည်' ဟုဆိုသည်။

ခရစ်ယာန်ဘာသာအရ 'ဝိညာဉ်တော်အဖြစ်တည်ရှိနေသော ထာဝရဘုရားသည် ဖန်ဆင်းခြင်းလုပ်ငန်းကို ၇ ရက်အတွင်း အပြီးဆောင်ရွက်တော်မူခဲ့သည်' ဟုဆိုသည်။ ပထမနေ့တွင် ကောင်းကင်နှင့် မြေကြီးကို ဖန်ဆင်းပြီးနောက် အလင်းရောင်ကို ဖန်ဆင်းတော်မူသည်။ အလင်းရောင်ပေါ်လာသောအခါ အလင်း,အမှောင်ကာလ ၂ခု ကို ပိုင်းခြား၍ နေ့နှင့်ည ဖြစ်ပေါ်လာသည် ဟုဆိုသည်။ ဒုတိယနေ့၌ မိုးမျက်နှာကြက်(ကောင်းကင်)ကို ဖန်ဆင်း၍၊ ၎င်းထက်အောက်ရှိ ရေကို ပိုင်းခြားတော်မူသည်။ တတိယနေ့၌ ရေကို တစ်နေရာသို့ ရွှေ့စေပြီး ကမ္ဘာမြေဖြစ်စေသည်။ ရေစုဝေးရာကို သမုဒ္ဒရာ ဖြစ်စေသည်။ ကုန်းမြေတွင် သစ်ပင် ချုံနွယ်ပိတ်ပေါင်းများကို ပေါက်ရောက်စေသည်။ စတုတ္ထနေ့၌ နေ, လ, ကြယ်တာရာ နက္ခတ်များနှင့် ပဥ္စမနေ့တွင် ရေသတ္တဝါ, ကောင်းကင်ပျံသတ္တဝါတို့ကို ဖန်ဆင်းသည် ဟုဆိုသည်။ ဆဋ္ဌမနေ့တွင် ကုန်းသတ္တဝါများနှင့် အမြင့်ဆုံးလူသားတို့ကို ဖန်ဆင်းတော်မူ၏။ ဖန်ဆင်းသတ္တဝါအားလုံး လူသား၏လက်အောက်ခံဖြစ်ကြရသည်။ လူသားကို ဖန်ဆင်းရာတွင် ထာဝရဘုရားသည် မိမိ၏သဏ္ဍာန်နှင့်အလားတူစွာ လူယောကျ်ား အာဒမ်နှင့် လူမိန်းမ ဧဝတို့ကို ဖန်ဆင်းခဲ့သည်။ ၎င်းမှတစ်ဆင့် လူသားများ ဖြစ်ပေါ်လာရသည်ဟု ဆိုသည်။ သစ်ပင်ချုံနွယ်များကို လူနှင့်တိရစ္ဆာန်များ၏ အစားအစာအဖြစ် သတ်မှတ်ခဲ့သည်။ ထာဝရဘုရားသည် ၆ ရက်ပတ်လုံး ဖန်ဆင်းမှုကိုပြုပြီးနောက် သတ္တမနေ့၌ အနားယူခဲ့သည်။ ထို့ကြောင့် ၎င်းနေ့ကို 'မြင့်မြတ်သောနေ့' **(Holy day)**အဖြစ် သတ်မှတ်၍ အလုပ်များကို မလုပ်ဘဲ ရပ်နားကြသည်။

ယင်း ဖန်ဆင်းမှုနှင့်စပ်လျဉ်း၍ အချိန်ကာလကို ဖော်ပြမှု မရှိခဲ့ပါ။ သို့ရာတွင် အများက ဘုရားသခင်သည် ကမ္ဘာမြေကြီးကိုဖန်ဆင်းသောအချိန်သည် ခရစ်မပေါ်မီ ၄၀၂၆ ခုနှစ် ဖြစ်သည်ဟု အယူရှိကြသည်။ အင်္ဂလန်မှ ၁၈၈၉-ခုနှစ်၌ ထုတ်ဝေသော ကမ္ဘာ့သမိုင်းစာအုပ်တွင်မူ 'ကမ္ဘာကြီးကို ခရစ်တော်မပေါ်မီ ၄၀၀၄ ခုနှစ် အောက်တွန်ဘာ ရာသီတွင် ဖန်ဆင်းပြီးစီးသည်' ဟု ဖော်ပြထားသည်။

အလားတူ ၁၉၁၈ ခုနှစ်တွင် ခရစ်ယာန်ဘာသာ ဂိုဏ်းချုပ်ဘုန်းတော်ကြီး လိုက်ဖုတ်ဆိုသူက ဘုရားသခင်သည် လူ 'အာဒမ်'ကို ခရစ်မပေါ်မီ ၄၀၀၄ ခုနှစ်၏ တစ်ခုသော နံနက်ခင်း ၉ နာရီအချိန်လောက်တွင် ဖန်ဆင်းကြောင်း ရေးသားလိုက်၏။ ပထမ ကျမ်းဘုရင်လက်ထက်တွင် ရေးဆွဲသောစာရင်းတွင်လည်း ထိုအတိုင်းပင် ဖော်ပြထားသည်။

အစ္စလာမ်ဘာသာသည်လည်း ခရစ်ယာန်ဘာသာနှင့် သမ္မာကျမ်းဟောင်းအရ တူညီနေကြသဖြင့် ဖန်ဆင်းမှုကို ဖော်ပြရာ၌လည်း ခရစ်ယာန်နှင့် အလားတူပင် ဖြစ်သည်။ ထူးခြားသည်မှာ ဖန်ဆင်းရှင်ကို ခရစ်ယာန်ဘာသာက

'ထာဝရဘုရား' ဟုခေါ်ဆိုပြီး၊ အစ္စလာမ်ဘာသာက 'အလ္လာဟ်' ဟု ခေါ်ဆိုခြင်းသာ ကွဲပြားသည်။ သို့ရာတွင် ယင်းအလ္လာဟ်အရှင်သည်လည်း အမြဲတည်ရှိသော ထာဝရဘုရားဖြစ်ကြောင်း ယုံကြည်ကြသည်။ ခရစ်ယာန်နှင့် အစ္စလာမ်ဘာသာ ၂ ခုသည် သမ္မာဟောင်းကိုယုံကြည်လက်ခံသော ဘာသာချင်းတူကြသော်လည်း၊ အစ္စလာမ် ဘာသာ၌ တမန်တော် အီဘရာဟမ်(အာဗြဟံ)တွင် အစ္စမေလနှင့် ဇေက် ဟူ၍ သား ၂ ယောက် မွေးဖွားကြောင်း ဖော်ပြထားသည်။ ခရစ်ယာန်ဘာသာ၌မူ သားတော် ဣဇက်တစ်ပါးကိုသာ မွေးဖွားကြောင်း ဆိုသည်။ အီဘရာဟမ် (အာဗြဟံ)၏ သားတော် ၂ ပါးအနက် တမန်တော် ဇေက်အနွယ်မှာ အစ္စရေးလူမျိုးတမန်တော်များ ဆင်းသက်လာ ကြပြီး၊ သားတော် အစ္စမေလမှ ပေါ်ထွန်းလာသော တမန်တော်ကား မုဟမ်မဒ်သခင်ပင် ဖြစ်သည်ဟု ဆိုသည်။

ပထမ ရုပ်ဝတ္ထု မဟုတ်၊ ပုံပန်းသဏ္ဌာန်မရှိ၊ မည်သည့်နေရာ၌နေသည် ဟု မသိရသော အလ္လာဟ်အရှင်တစ်ပါးတည်း သာ ရှိသည်။ နောက်မှ လူသားနှင့်တကွ ကမ္ဘာလောကကြီးကိုလည်းကောင်း၊ ကမ္ဘာကြီးထဲရှိ သက်ရှိ သက်မဲ့ အရာအားလုံးကိုလည်းကောင်း ထိုအရှင်က ဖန်ဆင်းခဲ့သည်ဟု ဆိုသည်။ ကိုအရှင်သည် စကြဝဠာကို ဖန်ဆင်းခဲ့ သည့်နည်းတူ ထိုစကြဝဠာကို ပြုပြင်ထိန်းသိမ်းစောင့်ရှောက်သူလည်း ဖြစ်သည်ဟု ဆိုသည်။ ထိုအရှင်သည် လူသားတစ်ဦးစီအတွက် ကမ္ဘာကြီး၌ နေရမည့်ကာလကိုလည်း သတ်မှတ်ပေးလိုက်သည်ဟု ဆိုသည်။ ထိုအရှင် ပထမဆုံးဖန်ဆင်းလိုက်သောလူသားကား အာဒမ်ဖြစ်ပြီး၊ ထိုမှတစ်ဆင့် လူသားများ ဖြစ်ပေါ်လာရသည်ဟု ဆိုသည်။

ဗုဒ္ဓဘာသာအရ လူသား စတင်ဖြစ်ပေါ်ပုံမှာ ကမ္ဘာသစ် တစ်ဖန်ပြန်တည်လာသောအခါ ကမ္ဘာပျက်ချိန်၌ မပျက်စီးဘဲကျန်ရှိခဲ့သော ဗြဟ္မာ့ပြည်ဘုံဌာနများမှ ဗြဟ္မာများသည် စုတေသောအခါ ဤကမ္ဘာမြေတွင် ဩပပါတ် ပဋိသန္ဓေနေ၍ လူသားအဖြစ် စတင်ဖြစ်ပေါ်လာရသည်ဟု ဆိုသည်။ ဤ၌ ပဋိသန္ဓေ ဟူသည် 'တစ်ဘဝနှင့်တစ်ဘဝ ကို ဆက်စပ်ပေးခြင်း' ဟု အဓိပ္ပာယ်ရသည်။

ထိုပဋိသန္ဓေသည် ၁- သံသေဒဇ၊ ၂- ဩပပါတ်၊ ၃- အဏ္ဍဇ၊ ၄- ဇလာဗုဇ ဟူ၍ ၄ မျိုးရှိသည်။ ၎င်းအနက် သံသေဒဇပဋိသန္ဓေကား အညှိမှဖြစ်လာရခြင်း ဖြစ်သည်။ ပိုးမွှားအချို့နှင့် တိရစ္ဆာန်အချို့တို့သည် ဤ ပဋိသန္ဓေဖြင့် ဖြစ်ပေါ်လာကြသည်။ ။ ဩပပါတ်ပဋိသန္ဓေကား မိန်းကလေးအသက် ၁၆ နှစ်အရွယ်၊ ယောကျ်ား အသက် ၂၀ အရွယ် ဘွားခနဲ ဖြစ်ပေါ်သော ပဋိသန္ဓေဖြစ်သည်။ ကမ္ဘာဦးသူများ၊ နတ်ဗြဟ္မာနှင့် ငရဲသားများသည် ဤပဋိသန္ဓေနေကြသည်။ ။ အဏ္ဍဇပဋိသန္ဓေကား ဥမှပေါက်ဖွားလာခြင်း ဖြစ်သည်။ ကြက်၊ ငှက် စသော တိရစ္ဆာန်များသည် အဏ္ဍဇပဋိ သန္ဓေနေကြသည်။ ။ ဇလာဗုဇပဋိသန္ဓေကား အမိဝမ်း၌နေရသော ပဋိသန္ဓေတည်း။ လူ၊ ခွေး၊ မြင်း၊ ဆင် စသည်တို့သည် ဇလာဗုဇပဋိသန္ဓေ နေကြသည်။ ထိုတွင် အဏ္ဍဇနှင့် ဇလာဗုဇ ပဋိသန္ဓေ ၂ မျိုးကို အမိဝမ်း၌ ပဋိသန္ဓေနေပုံချင်းတူသောကြောင့် 'ဂဗ္ဘသေယျကပဋိသန္ဓေ' ဟူ၍လည်း ခေါ်သည်။

ကမ္ဘာဦးလူတို့သည် အဆင်းအတန်း အလွန်မြင့်မားကြသည်။ ဈာန်စိတ်ကြောင့် ကိုယ်ရောင်ကိုယ်ဝါလည်း တောက်ပကြပြီး၊ ကောင်းကင်၌လည်း သွားလာနိုင်ကြသည်။ ပီတိဖြင့် အာဟာရသိဒ္ဓိပြီးသဖြင့် မစားဘဲလည်း နေနိုင်ကြသည်။ နောက်ပိုင်း ကမ္ဘာ၏ ပထမဦးဆုံးမြေဆီလွှာကို စားမိကြရာမှ ကာမတဏှာ လွန်ကဲလာ၍ ကိုယ် ရောင်ကိုယ်ဝါ စသည်လည်း ပျောက်ကွယ်ခဲ့ရတော့သည်။ နောက် အကုသိုလ်စိတ်များ ဝင်လာကြသဖြင့် မြေဆီလွှာ ပါ ကုန်ခန်းပျောက်ကွယ်ခဲ့ရတော့သည်။ တစ်ဖန် နောက်ပိုင်း အိမ်ထောင်သားမွေးမှုပါ ပြုလာကြပြီး လောဘ၊ ဒေါသ၊ မောဟတရားများ ဖုံးလွှမ်းလာကြသောကြောင့် စိတ်ဓာတ်ရေးရာများ နိမ့်ကျရာမှ လူ့အဆင့်အတန်းပါ

နိမ့်ကျလာရတော့သည်။ ဤသို့ လူ့အဆင့်အတန်း ယဉ်ကျေးမှုများသည် နိမ့်တုံမြင့်တုံ ဖြစ်ပေါ်လာခဲ့ရာမှ ယနေ့ ကျွန်ုပ်တို့ လူသားဖြစ်စဉ်များကို ပြန်လည် ရှုစားလိုက်သောအခါ ကျောက်ကြမ်းခေတ် (ကျောက်ခေတ်ဦး)လူသားကို ပထမ ဦးဆုံး တွေ့မြင်ရတော့သည်။ ရှည်လျားသော ကမ္ဘာ၏သက်တမ်းတစ်လျှောက်တွင် ကျောက်ကြမ်းခေတ် လူသားတို့၏ ဟိုမှာဘက်၌ လူ့ယဉ်ကျေးမှုများ အကြိမ်မည်မျှ ထွန်းကားခဲ့ပြီး၊ အကြိမ်မည်မျှ ဆိတ်သုဉ်းပျက်ပြား ခဲ့ရသည် ကိုမူကား ကျွန်ုပ်တို့ လုံးဝ သိမြင်နိုင်စွမ်း မရှိသေးချေတကား။

# အခန်း ၂

# ကျောက်ခေတ်လူသားများနှင့် ယုံကြည်မှုများ

## လွန်ခဲ့သော နှစ် ၁ သန်းကျော်ကာလ

ပီကင်းမြို့အနီးရှိ ဂူတစ်ဂူမှ တူးဖော်ရရှိခဲ့သောလူခေါင်းခွံသည် သက်တမ်း နှစ်ပေါင်း ၅ သိန်း၊ သို့မဟုတ် နှစ် ၁ သန်းလောက် ကြာခဲ့ပြီဟု ခန့်မှန်းကြသည်။ သို့ရာတွင် မကြာသေးမီက တရုတ်ပြည် အနောက်တောင်ဘက် ဇီချွမ်ပြည်နယ်တွင် လွန်ခဲ့သော နှစ် ၁ သန်းကျော်ကနေထိုင်ခဲ့သော လူဝံကြီးများ၏ ကျောက်ဖြစ်ရုပ်ကြွင်းများကို တွေ့ရှိရသည်ဟု ဆင်ဟွာသတင်းဌာနကထုတ်ပြန်ကြောင်း ၅-၁၁-၉၈ နေ့ထုတ် မြန်မာ့အလင်းသတင်းစာ၌ ဖော်ပြထားသည်။

ဤအချက်ဖြင့် ပါဏဗေဒ၊ ဘူမိဗေဒ စသော သိပ္ပံပညာရှင်များ၊ သမိုင်းပညာရှင်များက အထောက်အထားများကို တူးဖော်ရှာဖွေပြီး၊ လွန်ခဲ့သော နှစ် ၁ သန်းကျော်ကျော်က လူသားများ စတင်ဖြစ်ပေါ်လာခဲ့သည်ဟု ခန့်မှန်းခဲ့ကြသည်။ သို့ရာတွင် ဖော်ပြပါ ပီကင်းဂူမှရရှိခဲ့သော ခေါင်းခွံသည် လူသားခေါင်းခွံလော၊ သို့မဟုတ် လူဝံ၏ ခေါင်းခွံလော ဟူသောအချက်ကို သံသယဖြစ်စေလျက် ရှိသည်။ အချုပ်အားဖြင့် ယနေ့အထိ ထို နှစ် ၁ သန်းကာလတွင် လူသားများ စတင်ပေါ်ပေါက်ခဲ့သည်ကို ပီပီပြင်ပြင်ရှာဖွေတွေ့ရှိမှု မရှိသေးသဖြင့် ထိုကာလတွင် လူသားများ မပေါ်ပေါက်သေးဟူ၍သာ ယူဆစရာ ဖြစ်နေပေသည်။ မူလအစ 'ဂျာဗားလူ'မှာ အကြမ်းဖျင်းအားဖြင့် လွန်ခဲ့သော နှစ် ၅ သိန်းလောက်က၊ 'ပီကင်းလူ'မှာ လွန်ခဲ့သော နှစ် ၄ သိန်းလောက်က၊ 'နီအန်ဒါသယ်လူ'မှာ လွန်ခဲ့သော နှစ် ၁ သိန်းလောက်က၊ 'ရိုမင်နွံလူ'မှာ လွန်ခဲ့သော နှစ် ၅ သောင်းလောက်က စတင်ပေါ်ပေါက်ခဲ့သည် ဟု အဆိုရှိသည်။ သို့ရာတွင် အချို့သမိုင်းဆရာတို့ကမူ နီအန်ဒါသယ်လူကိုပင် လူမဖြစ်တဖြစ် ဟု သတ်မှတ်ခဲ့ကြသဖြင့်၊ ၄င်းအရင်လူများကို လူအဖြစ် မသတ်မှတ်နိုင်သေးကြောင်း သိရပြန်သည်။ မည်သို့ပင်ဖြစ်စေ၊ ယင်း လူသားတို့နှင့် ပတ်သက်သော အကြောင်းအရာများမှာ မှုန်ဝါးလှသေးသဖြင့် ဆက်လက် မစဉ်းစားတော့ဘဲ လူသားအဖြစ်ပီပြင်လာသော ကျောက်ကြမ်းခေတ် လူသားများ၏အကြောင်းအရာများကိုသိရန်သာ လိုအပ်သည်။ ယနေ့အထိ အတည်ပြုထားသော အစောဆုံးနှင့် အပီပြင်ဆုံးသောလူသားကို တွေ့သောကာလများမှာ ကျောက်ကြမ်းခေတ်ပင် ဖြစ်သည်။

## ကျောက်ကြမ်းခေတ် (မုဆိုးများခေတ်)

၃ သောင်း ၅ ထောင် ဘီစီခန့်ဟု သတ်မှတ်သည်။ အချို့က ဘီစီ ၅ သောင်း မှ ၃ သောင်း ဘီစီ ဟု သတ်မှတ်သည်။ ပြင်သစ်၊ စပိန်မှ မြေထဲပင်လယ်အတွင်းရှိကျွန်းများ၊ အာဖရိကတိုက်ရှိ အချို့နေရာများ၊ အိန္ဒိယနှင့်တရုတ်ပြည်တို့တွင် ကျောက်ကြမ်းခေတ်လူများ နေထိုင်ခဲ့ကြောင်းအထောက်အထားကို တွေ့ရသည်။

ထိုလူများသည် ဝတ်လစ်စလစ်ဖြင့်၊ သို့မဟုတ် ခါးတွင် ခါးပန်းကြိုးစည်းထားခြင်းဖြင့် ဂူ, သစ်ပင်အောက် စသည်တို့၌ နေထိုင်ကြသည်။ တရုတ်ပြည်တွင်မူ ၅ သောင်း ဘီစီခန့်ကပင် ရေအိုင်ထဲ၌ အိမ်ဆောက်၍ နေထိုင်ကြသည့်အထောက်အထားကို တွေ့ရသည်။

ဤ ကျောက်ကြမ်းခေတ်လူများသည် အမဲလိုက်ကြရင်း တစ်စုနှင့်တစ်စု တိုက်ခိုက်ကြသည်။ ရှုံးသူကို ဖမ်းမိက သတ်ပစ်ကြသည်။ နောက်ပိုင်းကာလတွင် သတ်ဖြတ်ခြင်းမခံရတော့ဘဲ ကျွန်ပြုခံရတော့သည်။ အမဲလိုက်၍ရသောအသားကို ကင်၍စားကြသည့်ပြင်၊ တိရစ္ဆာန်ဆီဖြင့် ဆီမီးကိုလည်း အသုံးပြုကြသည်။ ပန်းချီပညာလည်း အစပျိုးလာသည်။ သေသူအလောင်းကို မြေမြှုပ်သောအလေ့အထရှိသဖြင့် ၎င်းသည် ကိုးကွယ်မှုအယူအဆ ကြောင့် ဟု ယူဆကြသည်။ မည်သည်ကို ကိုးကွယ်ကြသည်ကို မသိသေးချေ။

အချို့ကမူ ကျောက်ခေတ်ဦးလူတို့တွင် နီအန်ဒါသယ်လူ (လူမဖြစ်တဖြစ်)သည် ရှေးအထင်ရှားဆုံးဖြစ်၍၊ ၎င်းတို့သည် နှစ်ပေါင်း ၂ သိန်းခံခဲ့ပြီး၊ လွန်ခဲ့သော နှစ်ပေါင်း ၄ သောင်းလောက်က ပျောက်ကွယ်သွားသည် ဟုဆိုသည်။ ၎င်းတို့သည် သေသူကို အခမ်းအနားဖြင့်မြေမြှုပ်သည့်အလေ့ ရှိသည် ဟုဆိုသည်။

## ကျောက်ခေတ်လယ် (တိရစ္ဆာန်ထိန်းကျောင်းသူများခေတ်)

၃ သောင်း ၅ ထောင် ဘီစီမှ ၁ သောင်း ၅ ထောင် ဘီစီအတွင်း သတ်မှတ်သည်။ အချို့က ၃ သောင်း ဘီစီ မှ ၈၀၀၀ ဘီစီအတွင်းဟု သတ်မှတ်ကြသည်။ ဤခေတ်လူများသည် အမဲလိုက်ဘဝမှ တိရစ္ဆာန်များကို ဖမ်းဆီး၍ ယဉ်ပါးအောင် မွေးလာကြသည်။ ဂူအောင်းဘဝမှ တိရစ္ဆာန်ကိုထိန်းကျောင်းရင်း တစ်နယ်မှတစ်နယ်သို့ လှည့်လည်နေကြသည်။ သားရေမည့်တဲ၌လည်း နေလာကြသည်။ အီဂျစ်နှင့် မက်ဆိုပိုတားမီးယား၌ ၁ သောင်း ၈ ထောင် ဘီစီခန့်တွင် ကျောက်ချောခေတ်လူများ နေထိုင်ကြ၍ စိုက်ပျိုးရေးလုပ်ကိုင်နေကြပြီ ဖြစ်သည်။ ဤ ကျောက်ခေတ်လယ်လူများသည် မီးခတ်ကျောက်နှင့် လေးမြားတို့ကို အသုံးပြုတတ်လာကြသည်။ တစ်စုနှင့်တစ်စု တိုက်ပွဲဖြစ်ဆဲ, ကျွန်ပြုဆဲပင် ဖြစ်သည်။ ဆင်စွယ်အပ်များကို တွေ့ရ၍ သားရေအဝတ်များကို ဝတ်ဆင်ကြောင်း သိရသည်။ အချို့က ဂါဝန်ဝတ်သည်ကိုလည်း တွေ့ရသည်ဟု ဆိုသည်။ တရုတ်ပြည်တွင်မူ မြေအိုးမြေခွက်များ သုံးလာကြသည်ကို တွေ့ရသည်။ သေသူ၏အသုံးအဆောင်ပစ္စည်းများကို တစ်ပါတည်း ထည့်သွင်းမြေမြှုပ်ခြင်း အလေ့အထ ပေါ်၍၊ တမလွန်ဘဝကို ယုံသည်ဟု ယူဆရသည်။

အချို့သမိုင်းဆရာများကမူ ကျောက်ခေတ်လယ်လူတို့သည် သားရဲတိရစ္ဆာန်များ၏ဘေးရန်ကို ကာကွယ်ရန်, အနွေးဓာတ်ရရန် ဂူများ၌ နေထိုင်ခဲ့ကြသည့်ပြင်၊ မိသားစုအသွင် လူစုလူဝေးအဖြစ် စတင်နေထိုင်ခဲ့ကြကြောင်းနှင့် ထိုဂူနံရံအမိုးနှင့် လက်နက်များ၌ လူ,တိရစ္ဆာန်အရုပ်များကို ပန်းချီဆေးရေး၍လည်းကောင်း၊ ပန်းပုထွင်းထု၍ လည်းကောင်း ပြုလုပ်ခဲ့ကြသည်ကို တွေ့ရသည်ဟု ဆိုသည်။ ပြင်သစ်နှင့်စပိန်ပြည် အယ်လ်တာမီရာအရပ်ရှိ ကျောက်ဂူများတွင် ၎င်းတို့ရေးဆွဲခဲ့သော ပန်းချီလက်ရာများမှာ ၁၉ ရာစု ခေတ်နှောင်းပိုင်းအထိ မှေးမှိန်ခြင်းမရှိသဖြင့် အလွန်ကောင်းသော ဆေးရောင်စပ်နည်းကို ၎င်းတို့ သိရှိခဲ့ကြသည်ဟု ဆိုသည်။ အချို့က အလယ်ကျောက်ခေတ်ကို လွန်ခဲ့သော နှစ် ၄ သောင်း နှင့် ၂ သောင်း ၅ ထောင်အတွင်း ဟု သတ်မှတ်ပြီး ယနေ့လူသားဆက်သည် ဤ ခေတ်မှ စတင် ပေါ်ပေါက်လာသည် ဟုဆိုသည်။ ဤခေတ်လူများသည် နောက်ဘဝရှိသည်ဟု ယုံကြည်ဟန်ရှိကြပြီး၊ မြေထဲပင်လယ် တစ်ဝိုက်တွင် နှစ်ပေါင်း ၂ သောင်းလောက် ပြိုင်ဖက်မရှိဘဲ မင်းမူနေကြသည် ဟုဆိုသည်။ အဝတ်မဝတ်သေး ဟူ၍လည်း ဆိုသည်။

## ကျောက်ချောခေတ် (ကျောက်ခေတ်သစ်)

၆၀၀၀ ဘီစီ မှ ၅၀၀၀ ဘီစီအတွင်း၊ အချို့က ၈၀၀၀ ဘီစီမှ ၃၀၀၀ ဘီစီအတွင်း ဟုသတ်မှတ်ကြသည်။ ကြေးနီကို အသုံးပြုလာကြသည်။ သီးနှံစိုက်ပျိုးရေးလုပ်ငန်းပေါ်ပြီး တိရစ္ဆာန်တို့ကိုပါ ခိုင်းလာကြသည်။ သစ်ပင်လျှော်၊ သားရေ၊ သားမွေးတို့ဖြင့် အထည်ရက်လုပ် ဝတ်ဆင်လာကြသည်။ လူမျိုးစုအလိုက် ရပ်ရွာတည်ထောင်၍ နေလာကြသည်။ အုပ်ချုပ်သူအကြီးအကဲလည်း ပေါ်လာသည်။ တစ်စုနှင့်တစ်စုလည်း တိုက်ပွဲဖြစ်ကြဆဲပင် ဖြစ်သည်။ ရှုံးသူက ကျေးကျွန်၊ ပစ္စည်းပါ သိမ်းခံရသည်။ ပစ္စည်းဖလှယ်မှု၊ လက်ဆောင်ပဏ္ဏာတောင်းမှုအပြင် အကြမ်းဖက်လုယက်မှုများပါ ရှိလာသည်။

သီးနှံကောင်းရန် စိုက်ပျိုးရာသီ၌ ယဇ်နတ်ပူဇော်ခြင်း၊ မြစ်ချောင်းအင်းအိုင်တို့၌ ရေလျှံဘေးမှ ကာကွယ်ရန် ယဇ်နတ်ပူဇော်ခြင်း၊ စစ်တိုက်အောင်မြင်ရန် ယဇ်နတ်ပူဇော်ခြင်း အလေ့အထ ပေါ်လာသည်။ ယဇ်ဆရာများ၊ ဘုန်းကြီးအဆောင်အယောင်များလည်း ပေါ်လာသည်။ မိုးရွာချိန်၊ ကောက်မှည့်ချိန်၊ ရေကြီးချိန် စသည်တို့ကို မှတ်သားလာကြရာမှ နေ့၊မိုး၊ဆောင်းရာသီများ၊ နှစ်များ၊ ရက်များရေတွက်ခြင်းကိုဖော်ပြသော ပြက္ခဒိန်လည်း ပေါ်လာရတော့သည်။

အချို့က ဤနှောင်းကျောက်ခေတ်ကို လွန်ခဲ့သော နှစ်ပေါင်း ၁ သောင်း နှင့် ၁ သောင်း ၂ ထောင် အတွင်းဟု သတ်မှတ် သည်။ မြေထဲပင်လယ်တစ်ဝိုက်တွင် လူသစ်များ ပေါ်ပြီး၊ မြို့ရွာများ တည်ထောင်နေကြသည်။ ရွာတည်နေရာ၌ အချို့က ရေအိုင်ထဲတွင်ပင် ရွာတည်လေ့ရှိကြသည်။ ဆွစ်ဇာလန်တွင် ထိုကဲ့သို့သောရွာများသည် (၁၈၅၃-၁၈၅၄)ခုနှစ်၌ ရေခန်းရာမှ ပေါ်ထွက်လာကြသည်ကို တွေ့ရှိခဲ့ရသည်။ အချို့မြို့ရွာများကိုလည်း မြို့ရိုး ကာရံခဲ့သည်ကို တွေ့ရှိရသည်။

ဤခေတ်တွင် အချက် ၅ ချက် ပေါ်လာသည်။ ၁- ကျောက်များကိုသွေး၍ သစ်သားအရိုးတပ် ပုဆိန်နှင့် လေးမြား ပေါ်သည်။ ၂- လယ်ယာစိုက်ပျိုးရေး ပေါ်သည်။ ၃- အိုးခွက်များ ပေါ်သည်။ ၄- မွေးမြူရေး ပေါ်သည်။ ၅- ရက်ကန်းပေါ်သည်။ ၎င်းအပြင် လှေလည်း ပေါ်လာသည်သာမက၊ ကူးသန်းရောင်းဝယ်မှုလည်း ပေါ်လာသည်ဟု ဆိုသည်။ ကြေးနီလည်း ပေါ်လာသည်။

ရှေးကျောက်ခေတ်နှင့် အလယ်ကျောက်ခေတ်ကို 'အစာရှာခေတ်' ဟုခေါ်သည်။ နှောင်းကျောက်ခေတ်ကို 'အစာထုတ်ခေတ်' ဟူ၍လည်းကောင်း၊ 'စိုက်ပျိုးမွေးမြူရေးခေတ်' ဟူ၍လည်းကောင်း၊ 'ကျောက်ခေတ်သစ်' ဟူ၍လည်းကောင်း ခေါ်သည်။ ဤခေတ်လူတို့သည် အကြီးအကဲအား ကိုးကွယ်မှုနှင့် နေနတ်ပူဇော်မှု ပေါ်လာသည် ဟုဆိုသည်။ နှောင်းကျောက်ခေတ်သည် ၃၀၀၀ ဘီစီ၌ ကုန်ဆုံးသွားသည် ဟုဆိုသည်။ ကြေးနီကိုတွေ့သည်မှာ နှစ်ပေါင်း ၇ ထောင်ရှိပြီ ဟု သုတေသီတို့က ပြောကြသည်။

## လူမျိုးများ

ယခုအချိန်၌ ကမ္ဘာပေါ်တွင် လူမျိုးများစွာရှိသည်။ တိုင်းပြည်တစ်ပြည်၌ပင် လူမျိုးပေါင်း မြောက်မြားစွာ ရှိသည်။ ကမ္ဘာပေါ်တွင် ဘာသာစကားပေါင်း ၆၀၀၀ ကျော် ရှိသည်ဟု မြန်မာ့စွယ်စုံကျမ်း၌ ဖော်ပြထားပေရာ၊ လူမျိုးပေါင်းမှာလည်း ၆၀၀၀ ကျော် ရှိသည်ဟု ဆိုရမည် ဖြစ်သည်။ မည်သို့ပင် များပြားစေကာမူ မူလဘူတက အသားအရောင်အားဖြင့် ၅ မျိုးရှိသည်ဟု ယူဆဖွယ်ရှိသည်။ ၎င်းတို့မှာ အသားဖြူ၊ အသားမည်း၊ အသားဝါ၊

အသားနီ၊ အသားညိုလူမျိုးတို့ ဖြစ်ကြသည်။ ဥရောပတိုက် ကော့ကေးရှန်းလူမျိုးတို့သည် အသားဖြူလူမျိုးများ ဖြစ်သည်။ အာဖရိကတိုက် အီသီယိုးပီးယန်းအနွယ်တို့သည် အသားမည်းလူမျိုးများ ဖြစ်သည်။ အာရှတိုက်မွန်ဂိုလီယန်းအနွယ်တို့သည် အသားဝါလူမျိုးများဖြစ်သည်။ အမေရိကတိုက် အမေရင်းအနွယ်တို့သည် အသားနီလူမျိုးများ ဖြစ်သည်။ မလေးဖိုနီရှန်းအနွယ်တို့သည် အသားညိုလူမျိုးများဖြစ်ပြီး ယင်းလူမျိုးနွယ် ၅ မျိုးမှ လူ့အဖွဲ့အစည်း အသီးသီး ကွဲပြားလာကြခြင်းဖြစ်သည်ဟု သမိုင်းဆရာတို့ ဆိုကြသည်။

အသားအရောင်မှာ ရေမြေဒေသအလိုက် ကွဲပြားနိုင်သဖြင့် ယင်းအသားအရောင်ဖြင့် လူမျိုးများကိုသတ်မှတ်မှုသည် တိကျခြင်း မရှိနိုင်ပါ။ သွေးအားဖြင့်သတ်မှတ်လျှင် ပို၍တိကျနိုင်ကြောင်း သိရှိရသည်။ သွေးအားဖြင့် အေအမျိုး၊ ဘီအမျိုး၊ အေဘီအမျိုး၊ အိုအမျိုး ဟူ၍ အမျိုး ၄ မျိုးရှိပြီး၊ ၎င်းမှတစ်ဆင့် ဘာသာစကားကွဲပြားမှုကို အခြေပြု၍ လူမျိုးနွယ်များ၊ လူ့အဖွဲ့အစည်းများ ကွဲပြားလာသည်ဟု ယူဆသည်။ သို့ရာတွင် ဤစာအုပ်၌ လူ့အဖွဲ့အစည်းအားလုံးကို ဖော်ပြမည် မဟုတ်ပေ။ ကိုးကွယ်မှုထင်ရှားရှိသော လူ့အဖွဲ့အစည်းများနှင့် နောင်တွင် ဘာသာရေးတစ်ရပ်အတွက် အရေးပါသောလူ့အဖွဲ့အစည်းများကိုသာ ရေးသားဖော်ပြမည်ဖြစ်ကြောင်း ကြိုတင်ဖော်ပြအပ်ပါသည်။

# အခန်း ၃

## ရှေးဦးလူ့အဖွဲ့အစည်းများနှင့် ဘုရားများ

### ၅၀၀၀ ဘီစီ၊ ရှေးအီဂျစ်လူ့အဖွဲ့အစည်းနှင့် ကိုးကွယ်မှုများ

ပြင်သစ်သမိုင်းဆရာတစ်ဦးက ၅၀၀၀ ဘီစီခန့်က လူမျိုးတစ်မျိုး (အချို့အဆို ဟာမိုက်တစ်အနွယ်)သည် အီဂျစ်သို့ ရောက်ရှိလာကြောင်း၊ ထိုအချိန်၌ မူလရှိလူမျိုး၏ဇစ်မြစ်ကို မသိရဘဲ ကျောက်ခေတ်အဆင့်မျှသာ ရှိသေးကြောင်းနှင့် ၎င်းတို့ ရောစပ်သွားရာမှ အီဂျစ်လူမျိုး ဖြစ်ပေါ်လာကြောင်း ဆိုသည်။ အီဂျစ်လူမျိုးများ ရောနှော၍ တစ်မျိုးတည်းဖြစ်လာသောအခါ၌ ၎င်းတို့ကို 'ရိုးမီး'ဟုခေါ်ပြီး အဓိပ္ပာယ်မှာ 'လူ'ဟူ၍ ဖြစ်သည်။ 'အီဂျစ်'ဟူသော အမည်မှာ ဂရိဘာသာ 'အီဂျစ်ပတပ်စ်' ဟူသောစကားမှတစ်ဆင့် ဆင်းသက်လာခြင်းဖြစ်ပြီး၊ အဓိပ္ပာယ်မှာ 'ပတာဘုရား၏ ဝိညာဉ်ဗိမာန်' ဟု ဆိုလိုခြင်းဖြစ်သည်။ 'ပတာ' ဆိုသည်မှာ အရုပ်ဆိုးဆိုး အရုပ်ပုပု နတ်ဘုရား သီတင်းသုံးသော မင်းဖစ်မြို့ရှိ ရှေးဟောင်းဘုရားကျောင်းတော်ကြီး ဖြစ်သည် ဟု ယနေ့ခေတ်သမိုင်းဆရာအချို့က ရေးသား ဖော်ပြထားကြသည်။ ဤ ရှေးအီဂျစ်တို့သည် ကိုယ့်အုပ်စုနှင့်ကိုယ်နေကြသည်။ အုပ်စုတစ်စု၌ အမှတ်အသားအဖြစ် တိရစ္ဆာန်ရုပ်တစ်ရုပ်စီ ရှိကြသည်။ ယင်းတိရစ္ဆာန်ရုပ်များသည် ကာလကြာမြင့်လာသောအခါ ထိုအုပ်စုရှိ လူတို့၏ကိုးကွယ်ရာနတ် ဖြစ်လာတော့သည်။ ၎င်းတို့အနက် ထင်ရှားသောနတ်များမှာ 'သော့' ခေါ် သစ်တောက် ငှက်နတ်၊ 'ဆီဘက်' ခေါ် မိကျောင်းနတ်၊ 'အနုဘစ်' ခေါ် ခွေးအနတ်၊ 'ဘက်' ခေါ် ကြောင်နတ် တို့ ဖြစ်ကြသည်။ အုပ်စုတစ်စုနှင့်တစ်စု အမြဲ တိုက်ပွဲဖြစ်လျက်ရှိသည်။ ရှုံးသည့်အစုက နိုင်သည့်အစု၏နတ်ကို ကိုးကွယ်ရသည်။ မူလ မိမိတို့နတ်ကိုလည်း ကိုးကွယ်နိုင်သည်။ သို့သော်လည်း မိမိတို့နတ်သည် နိုင်သူတို့၏နတ်လောက် အဆင့်အတန်း မမြင့်တော့ပေ။

၄၃၀၀ ဘီစီလောက်တွင် ၎င်းအုပ်စုများမှ အင်အားအတောင့်တင်းဆုံး အုပ်စုကြီး ၂ စု ပေါ်ခဲ့သည်။ ပထမအုပ်စုသည် မြောက်ပိုင်း (အောက် အီဂျစ်) နိုင်းလ်မြစ်ဝကျွန်းပေါ်ဒေသကိုအုပ်စိုး၍ မြွေဟောက်နတ်ကို ကိုးကွယ်ကြသည်။ ယင်း မြွေဟောက်နတ်ရုပ်ကို မြောက်ပိုင်းရှင်ဘုရင်များသည် သူတို့၏အနီရောင်သရဖူတွင် အမြဲတပ်ဆင်ထားသည်။ ဒုတိယအုပ်စုသည် တောင်ပိုင်း(အထက် အီဂျစ်) နိုင်းလ်မြစ်ဝကျွန်းပေါ်ဒေသ ပထမရေတံခွန်အထိကို အုပ်စိုး၍ 'ဟောရပ်' ခေါ် သိမ်းငှက်နတ်ကို ကိုးကွယ်ကြသည်။ သို့သော် ၎င်းတို့၏ အထိမ်းအမှတ်အရုပ်ကား၊ 'နီခီဘက်' ခေါ် လင်းတနတ်သမီး ဖြစ်သည်။ တောင်ပိုင်းဘုရင်များသည် ၎င်းတို့၏ အဖြူရောင်သရဖူတွင် လင်းတရုပ်ကို တပ်ဆင်ထားသည်။ ဤ အီဂျစ် ၂ ပိုင်းလုံး၌ လွန်ခဲ့သော နှစ်ပေါင်း ၇ ထောင်ခန့်မှစ၍ ထီးပြိုင်နန်းပြိုင်ဘုရင်များ အဆက်ဆက်အုပ်စိုးခဲ့သော အထောက်အထားများကို တွေ့ရှိခဲ့ရသည်။ သို့သော် ၄၂၄၁ ဘီစီ (အချို့အဆို ၄၂၃၆ ဘီစီ) တွင် ၃၆၅ ရက်ရှိ ပြက္ခဒိန်ကို တီထွင်ခဲ့ကြသည်။ နောက်အနည်းငယ်ပြောင်းပြီး ယနေ့အထိ ကမ္ဘာသုံးပြက္ခဒိန် ဖြစ်နေသည်။ နေကို ဗဟိုပြုသော သူရိယမာသပြက္ခဒိန် ဖြစ်သည်။

## အီဂျစ်ပထမပြည်ထောင်စု

အထက်အီဂျစ်၊ အောက်အီဂျစ် ၂ ပြည်တို့သည် ကာလကြာမြင့်စွာ စစ်ဖြစ်နေခဲ့ကြရာ နောက်ပိုင်းတွင် အောက်အီဂျစ်က အထက်အီဂျစ်ကို နိုင်လိုက်သည့်အတွက် ပထမဆုံး အီဂျစ်ပြည်ထောင်စုကို ထူထောင်နိုင်ခဲ့သည်။ ပထမအီဂျစ်ပြည်ထောင်စု ထူထောင်သောကာလကို အချို့က ၄၃၀၀ ဘီစီမှ ၃၅၀၀ ဘီစီ အတွင်းလောက်၊ အချို့က ၄၀၀၀ ဘီစီခန့်က ဖြစ်သည်ဟု ခန့်မှန်းကြသည်။ အချို့ကမူ ၃၀၀၀ ဘီစီခန့်၌ ပထမဆုံး အီဂျစ်ဘုရင် မေနေ က စည်းရုံးထူထောင်ခဲ့သည်ဟု ဆိုသည်။

မည်သို့ပင်ဖြစ်စေ၊ ဤ ပထမပြည်ထောင်စုပေါ်လာပြီးနောက် နန်းစိုက်ရာနေပြည်တော်ကို ဟယ်လီယိုပိုလစ် (အာဒိစ္စပူရ) နေပြည်တော် ဟုခေါ်ခဲ့ကြသည်။ နိုင်ငံတော်အစိုးရနှင့် ပြည်သူပြည်သားများကိုးကွယ်သော နတ် ၂ ပါးလည်း ပေါ်လာခဲ့သည်။ ပထမနတ်က အလင်းရောင်နှင့် အပူငွေ့ပေးသော ရေး(နေ)နတ် ဖြစ်သည်။ ဒုတိယနတ်ကား ရေနှင့် နုံးမြေကိုပေးသော အိုဆီရစ်(နိုင်းလ်မြစ်)နတ်ဖြစ်သည်။

အုပ်စိုးသောဘုရင်တို့သည် တောင်ပိုင်းသရဖူနီအတွင်း မြောက်ပိုင်းသရဖူဖြူတပ်ထားသော ၂ ထပ်သရဖူကို ဆောင်းကြသည်။ မြောက်ပိုင်းမြွေဟောက်ရုပ်နှင့် တောင်ပိုင်း လင်းတနတ်သမီးရုပ် ၂ ရုပ်စလုံး သရဖူတွင် တပ်ဆင်ထားသည်။ သက်ဦးဆံပိုင်ဘုရင်များဖြစ်ကြသည့်အပြင် အလွန် တန်ခိုးရှိကြသည်။ ထို့ကြောင့် နိုင်ငံသူ နိုင်ငံသားတို့က ၎င်းတို့အား 'ဖာရို (ရွှေနန်းရှင်)' ဟု ခေါ်ဝေါ်ကြသည်။

နောက်ပိုင်းတွင် ၎င်းဘုရင်များ၏ အာဏာအရနှင့် ရှင်ဘုရင်ကထောက်ပံ့သော ဘုန်းကြီးများ၏ ဟောပြော ချက်အရ 'ဖာရိုဘုရင်များသည် နိုင်ငံတော်ကြီး၏ အကြီးဆုံးနတ်ဖြစ်သော နေနတ်မှ ဆင်းသက်ပေါက်ဖွားလာသော သားတော်များဖြစ်သည်' ဟု ပြည်သူလူထုက ယုံကြည်လာကြတော့သည်။ အုပ်ချုပ်မှုစနစ်ကလည်း ဘာသာရေး အုပ်ချုပ်မှုစနစ် ဖြစ်သည်။ သို့ရာတွင် ဘုန်းကြီးများသည် အာဏာ မရှိကြချေ။ ဖာရိုဘုရင်ကသာ ဘုရားအဖြစ်၊ ဘုရင်အဖြစ် အာဏာကို ချုပ်ကိုင်ထားသည်။ ၎င်းအပြင် ဖာရိုဘုရင်သည် ဘုရားကျောင်းလူကြီးလည်း ဖြစ်သည်။

## အီဂျစ်ပိရမစ်ခေတ်

၂၇၄၀ ဘီစီ နှင့် ၂၂၇၀ ဘီစီအတွင်းတွင် အီဂျစ်ယဉ်ကျေးမှု အမြင့်ဆုံးသို့ ရောက်ရှိခဲ့သည်။ ဤကာလ အတွင်း၌ပင် ပိရမစ်သင်္ချိုင်းများကို တည်ဆောက်ခဲ့ကြသဖြင့် ယင်းကာလကို 'ပိရမစ်ခေတ်' ဟုဆိုသည်။ အချို့ကမူ ပိရမစ်ခေတ်ကို ၃၀၀၀ ဘီစီမှ ၂၅၀၀ ဘီစီအတွင်း ဟု သတ်မှတ်ကြသည်။ ၎င်းခေတ် ရှေးပြေးအဖြစ် သိရှိရသည်မှာ ပထမအီဂျစ်ပြည်ထောင်စုသည် တည်ထောင်ပြီးနောက် နှစ်ပေါင်း ၈၀၀ ခန့်ကြာသောအခါ ပြိုကွဲခဲ့ပြန်သည်။ ထို့နောက် အထက်အီဂျစ်ဘုရင် မီးနီးက အောက်အီဂျစ်ကို သိမ်း၍ ဒုတိယပြည်ထောင်စုကို တည်ထောင်ခဲ့ရသည်။ တည်ထောင်သောကာလကို ၃၄၀၀ ဘီစီနှင့် ၂၄၀၀ ဘီစီအတွင်း ဟု ခန့်မှန်းကြသည်။

ဒုတိယပြည်ထောင်စုကို တည်ထောင်ပြီး နှစ်ပေါင်း ၄၀၀ လောက်အတွင်း၌ ရှင်ဘုရင်များက ဂူများကို နေလှန်းအုတ်ဖြင့် ပြုလုပ်ခဲ့ကြသည်။ ၃၀၀၀ ဘီစီခန့်တွင် သဲကျောက်အုတ်တို့ဖြင့် ပြုလုပ်လာကြသည်။ ဤသို့ဖြင့် ၃၀၀၀ ဘီစီမှ ၂၅၀၀ ဘီစီအတွင်းတွင် ကျောက်ဖြင့် ပြုလုပ်ထားသော ပိရမစ်ဂူကြီးများ ဖြစ်ပေါ်လာတော့သည်။ ၎င်းတို့အနက် အကြီးဆုံး ပိရမစ်ဂူကြီးမှာ ၂၈၈၅ ဘီစီတွင် ဂီဇယ်အရပ်၌ တည်ဆောက်ထားသော ခူဖူဖာရို၏ဂူ ဖြစ်သည်။ ၎င်းဂူ၏ အောက်ခြေအကျယ်အဝန်းကား ၁၃ ဧက ရှိသည်။ အလေးချိန် ၂တန်ခွဲရှိ ကျောက်တုံးပေါင်း

၂ သိန်း ၃ သောင်း ပါဝင်ပြီး၊ အမြင့် ပေ ၅၀၀ နှင့် အောက်ခြေအလျား ၇၅၆ ပေ ရှိသည်။ အီဂျစ်သမိုင်းဆရာ ဟီရိုဒိုတပ်စ် အဆိုအရ အလုပ်သမား ၁ သိန်းနှင့် နှစ်ပေါင်း ၂၀ ကြာ တည်ဆောက်ရသည်ဟု ဆိုသည်။

အီဂျစ်တို့သည် 'သေပြီးနောက် အသက်ပြန်ရှင်သည်' ဟူသောယုံကြည်မှုကြောင့်၊ တစ်နည်းအားဖြင့် 'သေသူ၏ ဝိညာဉ်သည် သူ၏အလောင်းရှိရာသို့ လာ၍နေတတ်သည်' ဟု ယုံကြည်ကြသောကြောင့် ပိရမစ်ကျောက်ဂူများကို တည်ဆောက်ကြခြင်းဖြစ်သည့်အပြင် အလောင်းကောင်ကိုလည်း ဆေးရည်စိမ်၍ ယင်းကျောက်ဂူတွင်း၌ ထားခဲ့ကြခြင်း ဖြစ်သည်။ ဤပိရမစ်ကျောက်ဂူကြီးများကို မသေခင်က တည်ဆောက်ကြခြင်းလည်း ဖြစ်သည်။ ဘုရင်၏ကျောက် ဂူကြီးပတ်ပတ်လည်တွင် ကျောက်ဂူကလေးများလည်း ရှိသည်။ ဤကျောက်ဂူကလေးများသည် ဘုရင်၏အမျိုးအနွယ်နှင့် ထင်ရှားသော မှူးမတ်ကြီးများ၏ဂူများ ဖြစ်သည်။

အသက်ရှင်စဉ်က ရှင်ဘုရင်အား ဝိုင်းရံခစားသကဲ့သို့ သေလွန်ပြီးနောက်၌လည်း ဝိုင်းရံ၍ခစားခြင်းဖြစ်သည်။ သေလွန်သောအခါ ဘဝသစ်၌သုံးစွဲနိုင်ရန် အသက်ရှင်စဉ်က အသုံးအဆောင်ပစ္စည်းများကိုပါ ကျောက်ဂူကြီး ထဲ၌ ထည့်ခဲ့ကြသည်။ အစပထမ၌ ကွယ်လွန်သူက နောက်ဘဝတွင်ခိုင်းစေရန် အစေခံအချို့ကိုပင် သတ်၍ ကွယ်လွန်သူနှင့်အတူ မြှုပ်နှံထားခဲ့ကြပြီး၊ နောက်ပိုင်းတွင် မသတ်တော့ဘဲ အစေခံအရုပ်ကို ပြုလုပ်ထည့်ခဲ့သည်ဟု ဆိုသည်။ 'မံမီ' ခေါ် အလောင်းကောင်မှထုတ်ယူသော အူ, အသည်း, ကလီစာနှင့် ဦးနှောက်များကို အိုးဟောင်း၌ ချိတ်ပိတ်ထည့်ပြီး အလောင်းနား၌ ထားခဲ့ကြသည်။ ပြုလုပ်ခဲ့သောအကုသိုလ်အတွက် ပြစ်ဒဏ်မခံရစေရန် ပပိုင်းရပ်စက္ကူပေါ်တွင် ဘုန်းကြီးများကိုယ်တိုင် ဂါထာမန္တန်များကို ရေးသားမန်းမှုတ်၍လိပ်ထားသော စက္ကူကိုပါ အလောင်းနား၌ ထည့်ထားကြသည်။ အချုပ်အားဖြင့် အီဂျစ်တို့သည် နတ်, သစ်ပင်, တိရစ္ဆာန်ရုပ်တုများ စသည်တို့ကို ကိုးကွယ်ကြသည်။ နတ်ဘုရားဝိညာဉ်အပြင် သေသူဘိုးဘွားမိဘတို့၏ ဝိညာဉ်ကိုပါ ကိုးကွယ်ကြ သည်။ ယခုဘဝ ကောင်းမှုပြုလျှင် နောက်ဘဝ၌ ကောင်းကျိုးကိုခံစားရမည် ဟု ယုံကြည်ကြသည်။ ဤခေတ် အတွင်း အီဂျစ်တို့သည် ရေနှင့် နုံးမြေကိုစောင့်သော 'အိုဆီရစ်' ခေါ် နိုင်းလ်မြစ်နတ်ဘုရားနှင့် 'ရေး' ခေါ် နေနတ်ဘုရားအပြင်၊ 'ဣသိ အိုင့်ဇစ်' ခေါ်သော နတ်မကိုလည်း ကိုးကွယ်လာကြသည်။

## အီဂျစ်နယ်စားခေတ် နယ်ချဲ့ခေတ်

၂၀၀၀ ဘီစီ ရောက်သောအခါ ဖာရိုဘုရင် တန်ခိုး မှေးမှိန်လာခဲ့သည်။ နယ်စားများ ကြီးစိုးလာကြ သည်။ ၂၀၀၀ ဘီစီနှင့် ၁၈၀၀ ဘီစီအကြားကာလတွင် ဘုန်းကြီးများသည် ဗေဒင်ဟောပြော်လာကြသည်။ ဘုရားကျောင်းအရှိန်အဝါကိုလည်း ရလာကြသည့်အပြင် ဘုရင်ကိုလည်း အန်တုလာကြသည်။ ဤခေတ် နယ်စား များ၏ ဂူရှိစာကြည့်ခန်းမှ ရရှိသောစာအုပ်တွင် 'မက်ဆိုင်းယား'မည်သော 'ကယ်တင်ရှင် စကြာမင်း'အား လူထုက မျှော်လင့်နေ ကြပုံကိုလည်း ရေးသားထားသည်ကို တွေ့ရှိရသည်။ ၁၈၀၀ ဘီစီနောက်ပိုင်း၌ ဟာစ်ဆိုးခေါ် အာရှတိုက်သား သိုးကျောင်းသားရှင်ဘုရင်များ ဝင်ရောက်အုပ်စိုးလာသဖြင့် နယ်စားခေတ် ကုန်ဆုံးခဲ့ရတော့သည်။ ဤနယ်စားခေတ်ကို အချို့က ၂၅၀၀ ဘီစီမှ ၁၅၈၀ ဘီစီကာလအထိဟု သတ်မှတ်ပြီး၊ ၂၀၀၀ ဘီစီတွင် အထွတ်အထိပ်သို့ ရောက်ခဲ့သည် ဟုဆိုသည်။

၁၆၀၀ ဘီစီခန့်တွင် 'ဓမော' ဆိုသူ ခေါင်းဆောင်ပေါ်လာ၍ ဟာစ်ဆိုး သိုးကျောင်းသားရှင်ဘုရင်တို့အား အီဂျစ်မှ နှင်ထုတ်ပြီး၊ နယ်ချဲ့ခေတ်ကို ၁၂၀၀ ဘီစီတိုင်အောင် ထူထောင်ခဲ့သည်။ အချို့အဆိုအရ အီဂျစ်တို့သည် ဟာစ်ဆိုးတို့ကို တော်လှန်ခဲ့ရာ ၁၅၈၀ ဘီစီတွင် အောင်မြင်ခဲ့ပြီး ၁၁၅၀- ဘီစီတိုင်အောင် အင်ပါယာခေတ်ကို ထူထောင်နိုင်ခဲ့သည် ဟုဆိုသည်။

ဤခေတ်အတွင်း နိုင်းလ်မြစ်အရှေ့ဘက် ကာနက်အရပ်၌ ကျောင်းတိုက်ကြီးတစ်ခုကို ကြီးကျယ်ခမ်းနားစွာ ဆောက်လုပ်ထားသည်ကို တွေ့ရှိရသည်။ ၄င်းကျောင်းတိုက်ကြီးသည် အလျား ၃၃၈ ပေ, အနံ ၁၇၀ ပေရှိပြီး၊ ကျောက်တိုင်ကြီး ၁၆ တန်းတွင် ကျောက်တိုင်ကြီးပေါင်း ၁၃၆ တိုင် ပါဝင်သည်။ အလယ်တိုင် ၁၂ တိုင်သည် ၇၉ ပေစီမြင့်ပြီး၊ တိုင်ထိပ်တွင် လူ ၁၀၀ စုရပ်နိုင်လောက်အောင် ကျယ်ဝန်းသည်။ ဤကျောင်းတိုက်အတွင်းရှိ ဝတ်ကျောင်းများကို 'အမွန်ရေး' ခေါ် နေနတ်မင်းအတွက်ရည်မှန်း၍ ဆောက်လုပ်ထားကြသည်။ ဤခေတ်၌ ဖာရိုဘုရင်များသည် ဟစ်ဆိုးတို့ဖျက်ဆီးသွားသော ရှေးဝတ်ကျောင်းများကို ပြုပြင်ထိန်းသိမ်းသည့်အပြင် အချို့ကို အသစ်ထပ်မံ ဆောက်လုပ်ခဲ့ကြသည်

အီဂျစ်တို့သည် အစပထမ၌ ၄င်းတို့ကိုးကွယ်သော နတ်များသည် အီဂျစ်တို့နှင့်သာဆိုင်သော နတ်များဟု ယူဆကြသည်။ အင်ပါယာနိုင်ငံဖြစ်လာသောအခါ အတွေးအမြင် အယူအဆလည်း ကျယ်ပြန့်လာသည်။

တမလွန်ဘဝနှင့်ပတ်သက်၍ သေသူ၏ဝိညာဉ်သည် အိုဆီရစ်နတ်သား၏အဆုံးအဖြတ်ကို နာယူရန် ၄င်း နတ်ဗိမာန်သို့ ခရီးပြင်းနှင်၍သွားရပြီး၊ ၄င်းသို့ရောက်သောအခါ 'သေသူ၏နှလုံးသားသည် ၄က်တောင်ဖြင့် ချိန်စက်ခံရသည်' ဟု အယူရှိကြသည်။ ၄က်တောင်ကား မှန်ကန်ခြင်း, တရားမျှတခြင်း၏ အဆုံးအဖြတ်ဖြစ်သည်ဟု ဆိုသည်။ ထို့ကြောင့် သေသောအခါ အိုဆီရစ် နတ်ဗိမာန်သို့သွားရာ၌ အန္တရာယ်ကင်းစွာ သွားနည်းကို ဖော်ပြထားသောစာအုပ် ၂ အုပ်ကို ထည့်သွင်းမြှုပ်နှံပေးလေ့ ရှိကြသည်။

အီဂျစ်တို့သည် အင်ပါယာခေတ်၌ မြို့တော်သီးဗီးတွင် ရေး, အိုဆီရစ်, အမွန် စသောနတ်များကို ကိုးကွယ်သော်လည်း အမွန်နတ်သည် အကြီးဆုံး ဟု ယူဆနေကြသည်။ ဘုန်းကြီးများကလည်း နတ်အမျိုးမျိုးကို ဘန်းပြ၍ ယောပြောကာ တန်ခိုးထွားလျက် အုပ်ချုပ်ရေးတွင်ပင် ဝင်ရောက်စွက်ဖက်နေကြသည်။ ထို့အပြင် ၁၃၇၅ ဘီစီတွင် နန်းတက်လာသော စတုတ္ထမြောက် အမင်ဟိုးတက်၏ ဘာသာသစ်အမိန့်အရ 'အီဂျစ်တို့၏ နေနတ်သည် တစ်ကမ္ဘာလုံးကိုအုပ်စိုးသော တစ်ဦးတည်းသောနတ်မင်းကြီး ဖြစ်သည်' ဟု ယုံကြည်လာကြသည်။ နေကို အတွန်(အက်တန်) ဟု ပေါရာဏစကားဖြင့် ခေါ်ကြသည့်အတိုင်း နေနတ်မင်းကြီးကိုလည်း အတွန် (အက်တန်) ဟုခေါ်ခဲ့ကြသည်။ ၄င်းဘုရင်သည် ဘာသာသစ်ကိုတည်ထောင်၍၊ 'အင်ပါယာ တစ်ခုလုံး၌ အတွန် (အက်တန်) တစ်ပါးတည်းကိုသာ ကိုးကွယ်ရမည်' ဟု အမိန့်ထုတ်ခဲ့သည်။ ဤအမိန့်ကို နာခံနိုင်ရန် ဝတ်ကျောင်းအားလုံးကိုပိတ်၍ ဘုန်းကြီးအားလုံးကို နှင်ထုတ်ခဲ့သည်။ ဘာသာဟောင်းနတ်များ၏ အမည်ဟူသမျှတို့ကိုလည်း ဖျက်ဆီးပစ်ခဲ့သည်။

အထူးသဖြင့် ဝတ်ကျောင်းနံရံပေါ်ရှိ အမည်များကို ဖျက်ဆီးခဲ့သည်။ ဘာသာဟောင်း၌ နေနတ်၏အမည်ကား 'အမွန်ရေး' သို့မဟုတ် 'အမင်ရေး' ဟုခေါ်ကြသည်။

အမင်ဟိုးတက်ဘုရင်သည် သူ့အမည်ကို ဘာသာသစ် နေနတ်မင်းအမည် 'အတွန်'နှင့် လိုက်လျောညီထွေရှိစေရန် 'အစ်ခနတွန် (အစ်ခနတန်)' ဟု အမည်ပြောင်းခဲ့သည်။ 'အတွန်နတ်မင်းကြီးကို အကျိုးပြုသော' ဟု အဓိပ္ပာယ်ရသည်။ 'အမင်ဟိုးတက်' အဓိပ္ပာယ်ကား 'အမင်နတ်သည် ကျေနပ်နှစ်ခြိုက်သည်' ဟု အဓိပ္ပာယ်ရသည်။ ဤဘုရင်သည် ဘာသာဟောင်းက ဝတ်ကျောင်းများနှင့် ပြည့်နှက်နေသော သီးဗီးမြို့တော်ဟောင်းကိုစွန့်၍၊ အတွန်နေနတ်မင်းအတွက် 'တယ်လ်အမားနား' ခေါ်သော မြို့တော်သစ်တစ်ခုကို နိုင်းလ်မြစ်အောက်နား၌ တည်ဆောက်ခဲ့သည်။ ယခုအခါ 'အမားနား' ဟုခေါ်သည်။ အစ်ခနတွန် နတ်ရွာစံပြီးနောက် သမက်တော် တူးတင်ခတွန်သည် ၁၂ နှစ်အရွယ်ဖြင့် အရွယ်မရောက်သေးဘဲ ရင်ခွင်ပိုက်ဖာရိုဘုရင်အဖြစ် နန်းတက်သည်။ ဤအခွင့်ကောင်းကို ယူ၍ ဘာသာဟောင်းကဘုန်းကြီးများသည် တန်ခိုးပြန်ကြီးထွားလာသည်။ ဘုန်းကြီးများ၏ဆုံးဖြတ်ချက်အရ ဖာရိုကလေးသည် အမားနားမြို့တော်ကိုစွန့်၍ သီးဗီးသို့ တစ်ဖန် ပြန်ပြောင်းလာခဲ့ရပြီး၊ အမည်ကိုလည်း 'တူးတင်ခမွန်' ဟု ပြောင်းခဲ့ရတော့သည်။

ဘာသာသစ်နတ်မင်းကြီး 'အတွန်'အမည်ကိုဖြုတ်၍ 'အမွန်'ဟု ပြန်ပြောင်းခဲ့သည်။ ထို့ကြောင့် အစ်စနတွန်တီထွင်ခဲ့သော ဘာသာသစ်သည် ဤအချိန်မှစ၍ ပြန်လည်ပျောက်ကွယ်သွားခဲ့ရပြီး၊ နတ်အများ ကိုးကွယ်မှုလည်း ပြန်လည်ထွန်းကားလာတော့သည်။ မကြာမီ တူးတင်ခမွန်လည်း အသက် ၁၈ နှစ်အရွယ် ၁၃၅၃ ဘီစီတွင် နတ်ရွာစံခဲ့သည်။ ၎င်းဘုရင်ကလေးအရွယ်ရောက်လာလျှင် ဘာသာသစ်ကို ပြန်ထူထောင်မည်စိုး၍ ဘုန်းကြီးများက တိတ်တဆိတ်လုပ်ကြံသည်ဟု ယူဆစရာရှိသည်။ ဤဖာရိုကလေး နတ်ရွာစံပြီးနောက် အီဂျစ်တွင် မင်းဆက်ပြတ်ခဲ့တော့သည်။ အချို့အဆိုမှာ မင်းဆက်မပြတ်ဘဲ ရမ်းမီးစ်မင်းဆက် ထပ်မံအုပ်စိုးခဲ့သည် ဟုဆိုသည်။ မည်သို့ပင်ဖြစ်စေ၊ အီဂျစ်တို့သည် ဘီစီ ၁၂၀၀ ခန့်မှစ၍ တဖြည်းဖြည်းဖြင့် လက်အောက်ခံနိုင်ငံများ ပုန်ကန်ခြားနားခဲ့ကြရာမှ နောက်ဆုံးတွင် အင်ပါယာလည်း ပျက်သုဉ်းခဲ့ရလေသည်။ ဤသာမက ပါရှင်း၊ ဂရိ၊ ရောမ၊ အာရပ်၊ တူရကီ၊ ဗြိတိသျှတို့၏စိုးမိုးခြင်းကိုပင် ခံခဲ့ရတော့သည်။ ၎င်းနယ်ချဲ့သမားများအနက် ၇ ရာစုအတွင်းတွင် ဂရိနယ်ချဲ့သမားများသည် အီဂျစ်သို့ရောက်ရှိလာကြပြီး ကာနက်အရပ်ရှိကျောင်းတိုက်ထဲတွင် 'အမွန်ရေး' ခေါ် နေနတ်ကိုးကွယ်ဝတ်ပြုရာ ဝတ်ကျောင်းများကို ထပ်မံတည်ဆောက်ခဲ့ကြပြန်သည်။ အချို့က ၇၃၀ ဘီစီတွင် အီသီယိုပီးယားက အီဂျစ်ကိုသိမ်းပြီး၊ ၆၇၂ ဘီစီတွင် အဆီးရီးယားက သိမ်းခဲ့သည် ဟုဆိုသည်။

## ၅၀၀၀ ဘီစီ၊ ဆူမားရီးယန်းလူ့အဖွဲ့အစည်းနှင့် ကိုးကွယ်မှုများ

မည်သည့်လူမျိုးဟု မခန့်မှန်းနိုင်သော (ဆမ်မိုက် မဟုတ်သော) လူမျိုးတစ်မျိုးသည် မြောက်ဘက်ကုန်းပြင်မြင့်မှ ရှိုင်းနားလွင်ပြင်တောင်ပိုင်းသို့ ဆင်းသက်လာကြသည်။ ၎င်းတို့သည် 'အီဘာရီယန်း' ခေါ် မြေထဲပင်လယ်ဒေသ အမျိုးအနွယ်မှ ဆင်းသက်ပေါက်ဖွားလာသူများ ဖြစ်ဖွယ်ရှိသည်ဟု သမိုင်းဆရာအချို့က ယူဆကြသည်။ ၎င်းအနွယ် တို့မှ အိန္ဒိယသို့ 'ဒရားဗီးဒီးယန်း'အမည်ဖြင့် ဝင်ရောက်သွားကြသည်ဟုလည်း ထင်ကြေးပေးကြသည်။ ၎င်းတို့ အခြေချ နေထိုင်သောအရပ်ကို 'ဆူမား'အမည်ပေးခဲ့ကြရာမှ ထိုလူမျိုးကိုလည်း 'ဆူမားရီးယန်းလူမျိုး' ဟု ခေါ်ခဲ့သည်။ ၎င်း တို့ဆင်းသက်လာသောကာလကို အချို့က ၄၀၀၀ ဘီစီခန့်၊ အချို့က ၄၅၀၀ ဘီစီခန့် ဟု ခန့်မှန်းကြသည်။ ၎င်းတို့သည် တီဂရစ်နှင့် ယူဖရိတ် မြစ် ၂ သွယ်ကြားရှိ မေဆိုပိုတားမီးယားဒေသတွင် ၄၅၀၀ ဘီစီခန့်ကပင် မြို့ကြီးများကိုတည်ထောင်၍ နေခဲ့ကြသည်။ ဘူမိဗေဒပညာရှင်များနှင့် ကျောက်စာပညာရှင်များ နောက်ဆုံးတွေ့ရှိချက်အရ ဤအရပ်က ဆူမားရီးယန်းတို့၏ယဉ်ကျေးမှုသည် အီဂျစ်ယဉ်ကျေးမှုထက် 'ယဉ်ကျေးမှုအစ အီဂျစ်က' စကားကို တော်လှန်၍ 'ယဉ်ကျေးမှုအစ မေဆိုပိုတားမီးယားက' ဟု ဆိုရလောက်အောင် ရှေးကျသည်ဟု သိရှိရသည်။ ထိုအချိန်က ထိုအရပ်၌ ဆူမားရီးယန်းတို့အသုံးပြုခဲ့သော ပြက္ခဒိန် လ၊ ရက် တွက်ချက်ပုံနှင့် နာရီ၊ မိနစ်တွက်ချက်ပုံများသည် ယနေ့ မြန်မာပြည်၌အသုံးပြုနေသော ပြက္ခဒိန်၊ လ၊ ရက် တွက်ချက်ပုံများ၊ နာရီ မိနစ်တွက်ချက်ပုံများနှင့် တထေရာတည်း တူနေသည်။ အမှန်မှာ ဆူမားရီးယန်းတို့သည် အီဂျစ်တို့၏ သူရိယမာသ ပြက္ခဒိန်ကိုမှီး၍၊ လကို ဗဟိုပြုသော စန္ဒြမာသပြက္ခဒိန်အဖြစ် တီထွင်အသုံးပြုခဲ့ကြခြင်းပင် ဖြစ်သည် ဟုဆိုသည်။

ဆူမားရီးယန်းတို့သည် ဘုရားများစွာကိုမကိုးကွယ်ဘဲ၊ 'ဘုရားတစ်ဆူတည်းသာရှိသည်' ဟု ယုံကြည်ကြသည်။ သို့သော် အချို့သမိုင်းဆရာများက 'ဆူမားရီးယန်းတို့သည် နတ်အများကို ကိုးကွယ်ကြသည်' ဟုဆိုသည်။ ၎င်းတို့ကိုးကွယ်ရာများအနက် ကျွဲ၊ နွား၊ သိုး၊ ဆိတ်ကိုစောင့်သော နတ်သမီးတစ်ပါးမှာ နွားကိုယ်ရှိနေသည်ကို တွေ့ရှိရသည်ဟု ဆိုသည်။ ၎င်းအပြင် ဆူမားရီးယန်းတို့သည် နေ၊ လ၊ မိုးကြိုး၊ ကောင်းကင်၊ တော၊ တောင်၊ ရေ၊ မြေ စသည်တို့ကို ကိုးကွယ်ခဲ့ကြောင်း၊ ၎င်းတို့တွင် နတ်တစ်ပါးစီ စောင့်ကြပ်သည်ဟု ယုံကြည်ကြကြောင်း၊ ၎င်းတို့အနက် 'အင်လီ' ခေါ်သော လေနတ်သားသည် တန်ခိုးအကြီးဆုံးဖြစ်ကြောင်း၊ ၎င်းနတ်များကိုပူဇော်ရန်

နတ်ဗိမာန်များကိုလည်း နစ်ပါအရပ်တွင် တည်ဆောက်ထားကြောင်း သမိုင်းဆရာအချို့က ဆိုသည်။ တစ်ဖန် ဘုရားပူဇော်ရာနေရာတွင် ပစ္စည်းသိုလှောင်ရာ ရုံးလုပ်ငန်းများနှင့် ကူးသန်းရောင်းဝယ်ရေးဗဟိုဌာနများကိုပါ ပူးတွဲထားသည်။ ဘုရားပူဇော်ရန်အဆောက်အအုံမှာ အဆင့် ၁၅၀ ကျော်ရှိပြီး၊ လှေကား ၃ ခုတို့ကို တပ်ထားသည်။

ဤဒေသ၌ပင် ကြေးခေတ် ပထမဦးဆုံး ထွန်းကားခဲ့သည်ဟု သမိုင်းဆရာတို့က ဆိုထားသည်။ ယိုးဒယား အရှေ့မြောက်ပိုင်း ဘန်ချီယန်ရွာအနီးတွင်တူးဖော်ရရှိသော ကြေးလက်နက်မှာ ၃၆၀၀ ဘီစီခန့်က ဖြစ်သဖြင့် မေဆိုပိုတားမီးယားထက် ရှေးကျသည် ဟု အဆိုရှိသည်။ အလားတူ ပိရမစ်တစ်ခုမှ ပေ ၁၃၀၀ ရှိသော ကြေးပိုက်လုံးတစ်ခုကိုလည်း တူးဖော်ရရှိခဲ့သေးသည်။ မေဆိုပိုတားမီးယား၌ ၄၅၀၀ ဘီစီနှင့် ၃၈၀၀ ဘီစီအကြားတွင် ဆူးမားရီးယန်းဘုရင် ၃၀ ယောက် အုပ်ချုပ်ခဲ့သည် ဟု 'ဘေရိုဆု'ဆိုသူ ချားလ်ဒေးအန်လူမျိုး သမိုင်းဆရာက ၃၀၀ ဘီစီခန့်က ရေးသားခဲ့သည်။

## တစ်မြို့တစ်နိုင်ငံခေတ်

၂၈၀၀ ဘီစီ ၂၅၀၀ ဘီစီအတွင်းလောက်တွင် ဆူးမားရီးယန်းတို့သည် ဤဒေသ၌ တစ်မြို့ တစ်နိုင်ငံ ထူထောင်ခဲ့ကြသည်။ ဆူမားရီးယန်းတို့၏ အား(ဦးလ်)မြို့နိုင်ငံသည် ၂၈၀၀ ဘီစီခန့်တွင် တန်ခိုးအကြီးဆုံးအချိန် ဖြစ်သည်။ ဤဒေသအတွင်း၌ အုပ်ချုပ်သောဘုရင်ကို ဆူးမားရီးယန်းဘာသာဖြင့် 'ပါတေစီ' ဟုခေါ်သည်။ 'ဘုန်းကြီးဘုရင်များ' ဟု အဓိပ္ပာယ်ရသည်။ 'ပါတေစီများသည် ဘုရားသခင် 'စောင့်ရှောက်ခံရသောပုဂ္ဂိုလ်' ဟု ယူဆခဲ့ကြသည်။ ဂိုဏ်းချုပ်ဘုန်းကြီးလည်း ဖြစ်သည်။ 'ဇစ်ဂူရပ်' ခေါ်သော ဘုရားရှိခိုးကျောင်းလည်း ရှိသည်။ နွားနတ်သမီးအတွက် ဆောက်လုပ်ထားသော ဝတ်ကျောင်း၊ လေနတ်သား အင်လီ အတွက် ဆောက်လုပ်ထားသော ဝတ်ကျောင်းများလည်း ရှိသည်။

လူများ ဝတ်ပြုကြသည့်အခါ ယဇ်ပူဇော်ရန် ဆိတ် သို့မဟုတ် သိုး ပါလာသည့်အပြင်၊ စွန့်ပလွှန်အရွက် စိမ်းစိုက်ထားသော ရေတစ်အိုး၊ (အချို့အဆိုကောက်ပင်စိမ်းစိုက်ထားသော ရေကရား) ပါလာသည်။ ယဇ်ပူဇော်သော သိုး၊ဆိတ်တို့၏အသည်းကိုကြည့်၍လည်း ဗေဒင်ဟောသည်။ ကောက်ပဲသီးနှံ စိမ်းလန်းစိုပြည်စေရန်၊ အထွက်တိုးစေရန်၊ ဘေးကင်းစေရန်၊ ရည်ရွယ်ချက်ဖြင့် မြေစောင့်၊ သစ်ပင်စောင့်၊ လေစောင့်၊ ကောင်းကင်စောင့်၊ ပင်လယ်စောင့်နတ်တို့ကို ပူဇော်ကြသည်။ ယဇ်ပူဇော်ပစ္စည်းများကို ပါတေစီက အကုန်ရသည်။ လူသေကို မြို့ပြင်မှာလည်း မြှုပ်သည်။ သို့သော် အများအားဖြင့် သူတို့၏အိမ်အောက်၊ သို့မဟုတ် အိမ်၏မြောက်ဘက် အုတ်တံတိုင်းခတ်ထားသည့်မြေကွက်တွင် မြှုပ်ကြသည်။ လူသေလျှင် ဘယ်ကိုရောက်မည်ဟု မဖော်ပြသော်လည်း၊ ကမ္ဘာအောက်ထပ်ရှိ မှောင်မှောင်မည်းမည်းနေရာသို့ ဆင်းသွားရသည် ဟု ထင်မှတ်နေကြသည်။

သို့သော် ဘယ်သို့ရောက်ရောက် နောက်ဘဝမှာ ကောင်းမွန်စွာနေနိုင်မည်ဟု ယုံကြည်၍ အသုံးအဆောင် ပစ္စည်းများ၊ ကျွဲ၊နွား၊အစေခံများကိုပါ ဂူတွင် ထည့်မြှုပ်ကြသည်။ အား(ဦးလ်)မြို့ပျက်ကို တူးဖော်ရာ၌ သေသူမြှုပ်နှံသည့်အနီးတွင် အစေခံများ၊ လက်နက်အသုံးအဆောင်များ၊ တိရစ္ဆာန်အရိုးစုများကို တွေ့ရသည် ဟုဆိုသည်။

ဆူးမားရီးယန်းတို့သည် ၂၇၅၀ ဘီစီလောက်၌ (အချို့အဆို ၂၅၀၀ ဘီစီခန့်)၌ အက်ကက်ဒီးယန်းဘုရင် ဆာဂွန် ၁ ၏လက်အောက်သို့ကျရောက်ပြီး၊ ဆူးမားနှင့် အက်ကက်နိုင်ငံကို ပူးပေါင်းထူထောင်ခဲ့ကြသည်။

## ၅၀၀၀ ဘီစီ၊ ရှေးတရုတ်လူ့အဖွဲ့အစည်းနှင့် ကိုးကွယ်မှု

တရုတ်ပြည်တွင် ၅ သောင်း ဘီစီခန့်၌ပေါ်သော ကျောက်ကြိမ်းခေတ်ကပင် လူ့အဖွဲ့အစည်းပေါ်နေပြီး၊ မည်သည့်လူမျိုးအနွယ်ဖြစ်သည်ကို မသိရသော်လည်း၊ ဥရောပအမျိုးအနွယ် မဟုတ်သည်မှာ သေချာသည်ဟုဆိုသည်။

၂၅၀၀ ဘီစီခန့်က မွန်ဂိုလီးယန်း မဟုတ်ဟုယူဆရသော လူရိုးကို တွေ့ခဲ့ရသည်။ ၎င်းအရိုးသည် အိုင်းနုလူမျိုး ဖြစ်နိုင်သည် ဟုယူဆသည်။

တရုတ်လူမျိုးများကား ၅၀၀၀ ဘီစီခန့်၌ မြစ်ဝါမြစ်ဝှမ်းဒေသ၌ နေခဲ့ကြသည်ဟု သမိုင်းသုတေသီတို့ ဆိုကြသည်။ အချို့သမိုင်းဆရာတို့အဆိုမှာ ပထမတွင် တရုတ်လူမျိုးတို့သည် အာရှတိုက်အလယ်ပိုင်းရှိ ဂိုဘီသဲကန္တာရတွင် နေထိုင်ကြဟန် ရှိသည် ဟုဆိုသည်။ ဂိုဘီအရပ်ဒေသ ခြောက်သွေ့လာသဖြင့် အရှေ့ဘက်နှင့် တောင်ဘက်သို့ တရွေ့ရွေ့ဆင်းသက်လာရာ မြစ်ဝါမြစ်ဝှမ်းတစ်လျှောက်နှင့် ယန်စီမြစ်ဝှမ်းတစ်လျှောက်တွင် တရုတ်လူမျိုးများ ပြောင်းရွှေ့၍ အိုးအိမ်များ အခြေတကျစိုက်ထူကာ လယ်ယာစိုက်ပျိုးရေးကို အဓိကထားလာကြဟန် ရှိသည် ဟုဆိုသည်။

တရုတ်တို့၏ မော်ကွန်းတင်သမိုင်းမှာ ၂၀၀၀ ဘီစီက စ၍ဖြစ်သည် ဟုဆိုသည်။ တရုတ်တို့၏ ပထမဦးဆုံး မင်းဆက်ဖြစ်သော ရှန်မင်းဆက်သည် ၁၅၂၃ ဘီစီမှ ၁၀၅၀ ဘီစီ၌ အုပ်စိုးခဲ့သည်။ ၎င်းကာလ၌ပင် ချိမင်းဆက်လည်း အပြိုင်ပေါ်ခဲ့သည်။ ထိုအချိန်၌ တရုတ်တို့သည် ယဉ်ကျေးမှုအဆင့်အတန်း အလွန်မြင့်မားနေပြီး ဖြစ်သည်။ သို့ရာတွင် တူးဖော်ရရှိသော ကျောက်တုံးတစ်တုံး၌ ရေးထိုးထားသော တရုတ်သမိုင်းမှာ ဒဏ္ဍာရီဆန်လှသည်ကို တွေ့ရသည်။

၎င်းအဆိုအရ တရုတ်ပြည်ကိုစိုးစံသောမင်းမှာ ပန်ကုံမင်း ဖြစ်ကြောင်း၊ ၎င်းသည် ဘုန်းတန်ခိုးနှင့် ပြည့်စုံသောကြောင့် တရုတ်ပြည်ကြီးကို နှစ်ပေါင်း ၁ သောင်း ၈ ထောင် အုပ်ချုပ်သွားခဲ့ကြောင်း၊ ၎င်းနောက် ဆက်လက်စိုးစံသောမင်းမှာ ကောင်းကင်မှဆင်းသက်လာသော နတ်မင်းများ ဖြစ်ကြောင်း၊ လူမင်းများသည် နှစ်ပေါင်း ၂ သောင်းမျှ သမ္မတအုပ်ချုပ်ရေးဖြင့် တရုတ်ပြည်ကြီးကို တရားမျှတစွာ အုပ်ချုပ်သွားကြောင်း၊ ၎င်းတို့အနက် ၂၆၉၇ ဘီစီမှ ၂၅၉၅ ဘီစီအထိစိုးစံသော ဟောင်ကီမင်းသည် အမှန်ရှိကြောင်း ဆိုထားသည်။ ၎င်းအပြင် အချို့သမိုင်းဆရာတို့က ၂၂၀၅ ဘီစီမှ ၁၇၆၆ ဘီစီ၌ စီယာမင်းဆက် အုပ်စိုးပြီးနောက် ရှန်မင်းဆက်အုပ်စိုးကြောင်း၊ ၎င်းနောက် ချောင်မင်းဆက်က ၁၁၂၂ ဘီစီမှ ၂၄၉ ဘီစီအထိ အုပ်စိုးခဲ့ကြောင်း ဖော်ပြထားသည်။

မည်သို့ပင်ဖြစ်စေ၊ ရှေးဟောင်းတရုတ်တို့သည် မြေနတ်၊ လေနတ်၊ မီးနတ်၊ မြစ်နတ် စသော နတ်အမျိုးမျိုးကို ကိုးကွယ်ခဲ့ကြသည်။ စိုက်ပျိုးရာ၌ သီးနှံထွက်ရန် လူကို ယဇ်ပူဇော်သောအလေ့ ရှိခဲ့သည် ဟုဆိုသည်။ နောင်အခါ၌ ဘုန်းကြီးများက ကောင်းကင်ဘုံဘုရားကို ကိုးကွယ်ရန် ဟောပြောခဲ့သော်လည်း နတ်ကိုးကွယ်မှုကို မပယ်ဖျက်နိုင်ကြသဖြင့် နတ်ကိုးကွယ်မှု မပပျောက်ဘဲ ဆက်လက်တည်ရှိခဲ့သည်။

တရုတ်တို့သည် ၁၀ ရာစုဘီစီခန့်မှစ၍ နန်းတွင်းမှတ်တမ်းကို နှစ်စဉ်ရေးခဲ့ကြသည်။ ၈၄၂ ဘီစီ နောက်ပိုင်းတွင် ရက်စွဲအတိအကျဖြင့် ရေးခဲ့သော ရာဇဝင်ပေါ်ခဲ့သည်။ ၆ ရာစုဘီစီ၌ ပညာရှင် ကွန်ဖြူးရှပ်က ယင်းရာဇဝင်များကို ပြင်ဆင်မွမ်းမံ၍ 'ရှုကင်း' ခေါ် ရာဇဝင်မှုရင်းကျမ်းတစ်စောင်ကို ပြုစုခဲ့ပြီး၊ ၂ ရာစု၌ ခူမာချင်က စံထားလောက်သော ရာဇဝင်တစ်စောင်ကို ရေးခဲ့သည်။ ယင်းရာဇဝင်များကို ကျောက်ခေတ်မှစ၍ မရေးနိုင်ခဲ့သော်လည်း တူးဖော်ရရှိသောအထောက်အထားများအရ ကျောက်ခေတ်လူသားများ နေခဲ့သည်ကို သိရှိရသည်။ မင်းကျင့်တရားနှင့်ညီ၍ ငြိမ်းအေးသောရွှေခေတ်ကိုမူ ဟောင်ကီဘုရင်အုပ်စိုးသော အချိန်မှ (အချို့အဆိုအရ ယော၊ ရှန်၊ ယု မင်း ၃ ပါးလက်ထက်မှ) စခဲ့သည်။ ယင်း မင်း ၃ ပါးသည် လူများ ရွေးကောက်တင်မြှောက်သော မင်းဖြစ်ပြီး၊ နောက်ဆုံး ယုမင်းဆက်လက်ထက် ၂၂၀၅ ဘီစီမှစ၍ အဖကိုဆက်ခံသော မင်းမျိုး ပေါ်ပေါက်လာသဖြင့် ပထမဆုံး စီယာမင်းဆက် အုပ်စိုးခဲ့သည်။ စီယာမင်းဆက် ၁၆ ဆက် လွန်ပြီးနောက် ရှန်နှင့် ယင်မင်းဆက်တို့ အုပ်စိုးခဲ့သည်။

အေဒီ ၁၈၉၉ တွင် ဟော်နန်မြောက်ပိုင်း၌ အရိုးနှင့် လိပ်ခွံစာများကို တွေ့ရသောအခါ ၁၇ ရာစု ဘီစီမှ ၁၃ ရာစုဘီစီအထိ အုပ်စိုးသော ယင်မင်းဆက်အကြောင်းကို သိရသည်။ ၄င်းယင်မင်းများသည် နတ်များကို ပူဇော်ပသကာ နတ်များက ညွှန်ပြသည့်အတိုင်း တိုင်းပြည်ရေးရာများကို စီမံသည် ဟုဆိုထားသည်။ ၄င်းအပြင် ဘုရင်သည် လူအများ၏ဖခင်ဖြစ်၍ ကိုးကွယ်ယုံကြည်မှုအရာ၌ ဘုန်းကြီးလည်းဖြစ်ကာ သက်ဦးဆံပိုင်စနစ်ဖြင့် အုပ်ချုပ်သည်၊ သို့ရာတွင် တစ်ခါတစ်ရံ ဘုရင်၏အဆုံးအဖြတ်ကို မှူးမတ်များက ကန့်ကွက်သည်ကိုလည်း တွေ့ရသည်။ အလွန်အရေးကြီးသောကိစ္စကြုံလျှင် နတ်ကိုးခြင်း၊ နတ်မေးခြင်းမှာ ထုံးစံ ဖြစ်သည်။ ဘုရင်နှင့် မှူးမတ်တို့ သဘောကွဲလွဲတိုင်း နတ်၏အဆုံးအဖြတ်ကို နာယူကြရသည်။ ၁၁ ရာစုတွင် 'ဂူဝမ်' ဆိုသူက နောက်ဆုံးယင်မင်းဆက်ကို သတ်၍ ချောင်မင်းဆက်ကို တည်ထောင်ခဲ့သည်။

တရုတ်တို့သည် ဟန်မင်းဆက် ၂၀၆ ဘီစီမှ ၂၂၀ အေဒီလက်ထက်၌ ဗုဒ္ဓဘာသာကို လက်ခံယုံကြည်လာကြသည်။

## ၅၀၀၀ ဘီစီ၊ ရှေးအိန္ဒိယ လူအဖွဲ့အစည်းနှင့် ကိုးကွယ်မှုများ

အိန္ဒုမြစ်ဝ၊ မ်း ဆင်းနယ်ရှိ မိုဟင်ဂျိုဒါရိုနှင့် ပန်ဂျပ်ပြည်နယ်ရှိ ဟာရပ္ပအရပ်တို့၌ ၅၀၀၀ ဘီစီမှ ၃၀၀၀ ဘီစီအတွင်း ယဉ်ကျေးမှုတစ်ခု ထွန်းကားခဲ့သည်ဟု ဆိုသည်။ ပါမောက္ခ ကောသမ္ဘီ အဆိုအရ ၄င်းမြို့များသည် ၃၀၀၀ ဘီစီမှ ၂၀၀၀ ဘီစီအတွင်း တည်ရှိခဲ့ပြီး၊ ၁၇၅၀ ဘီစီမတိုင်မီ ပျက်စီးခဲ့သည်ဟု ဆိုသည်။ မည်သည့်လူမျိုးတို့၏ ယဉ်ကျေးမှုဖြစ်သည်ကို သမိုင်းဆရာတို့က အတိအကျမပြောနိုင်ကြသေးချေ။ အိပ်ချ်ဂျီဝဲလ်က ဂင်္ဂါမြစ်ဝှမ်း၌ ရှိသော ဒရားဗီးဒီးယန်းတို့၏ယဉ်ကျေးမှု ဖြစ်နိုင်ဖွယ်ရာရှိသည် ဟုခန့်မှန်းသည်။ ဒရားဗီးဒီးယန်းတို့သည် ၂၀၀၀ ဘီစီကာလအတွင်း၌ အာရိယန်တို့မရောက်မီ ရောက်ရှိသူများဖြစ်၍၊ ၄င်းယဉ်ကျေးမှုသည် ဒရာဗီးဒီးယန်းတို့ ဝင်ရောက်နေထိုင်သည့်ကာလထက် များစွာစောနေသည်ကို သတိပြုရပေမည်။

အမှန်မှာ ထိုယဉ်ကျေးမှုသည် ၄၀၀၀ ဘီစီ ပတ်ဝန်းကျင်တစ်ဝိုက်၌ ဒေသအနှံ့အပြားသို့ ရောက်ရှိခဲ့သော ဩစတြေးလျအေရှားတစ်အမျိုးအနွယ်တို့၏ ယဉ်ကျေးမှု ဟုခန့်မှန်းနိုင်သည်။ အဘယ့်ကြောင့်ဆိုသော် ဩစတြေးလျအေရှား တစ်အနွယ်များသည် 'မုဏ္ဍာ' ဟူသောအမည်ဖြင့် အိန္ဒိယသို့ ဖွဲ့ဆော်ဦးရောက်ခဲ့ကြောင်းနှင့် နောက်မှ ဒရာဗီးဒီးယန်း၊ ပြီး အာရိယန်တို့ ရောက်ရှိလာကြောင်း အိန္ဒိယတောင်ပိုင်းသမိုင်းစာအုပ်တွင် ဒေါက်တာ ကေအေရှပ်ထရီက ရေးသားဖော်ပြထားသေးကြောင့် ဖြစ်သည်။ ယင်း ဩစတြေးလျအေရှားတစ်အနွယ်များကပင် အိန္ဒိယသို့ မိုးရေသောက် လယ်ယာစိုက်ပျိုးရေးနည်းပညာများကို သယ်ဆောင်လာခဲ့ကြောင်း သမိုင်းပညာရှင်များက လက်ခံထားခဲ့ကြသည်။ မြန်မာ့သမိုင်းပညာရှင်တစ်ဦးကမူ ဂိုဘီသဲကန္တာရမှ မွန်ဂိုလူမျိုးများ ရောက်လာပြီး စပါးစိုက်ပျိုးခြင်းကို ပြုလုပ်ခဲ့ကြသည် ဟု ဆိုရာ၌လည်း ယင်း ဩစတြေးလျအေရှားတစ်အနွယ်များကိုပင် ဆိုဟန်ရှိသည်။ မည်သို့ပင်ဖြစ်စေ၊ ၄င်းတို့၏ ယုံကြည်မှုသည် မည်ကဲ့သို့ရှိသည်ကို ပီပီပြင်ပြင် မသိရသေးသော်လည်း တူးဖော်ရရှိသော တံဆိပ်တုံးတစ်ခုတွင် မျက်နှာ ၃ ဘက်ပါ နတ်တစ်ပါးအား တိရစ္ဆာန်များဝိုင်းရံနေပုံကို တွေ့ရသည်။ အေဒီ ၈ ရာစု၌ ရှေးဟောင်းဗြာဟ္မဏ ဘာသာကိုပြုပြင်၍ပေါ်လာသော ဟိန္ဒူဘာသာဝင်တို့ကိုးကွယ်သော တိရစ္ဆာန်တို့၏အရှင်သခင် သီဝဘုရားနှင့် ဆင်တူသည် ဟုဆိုသည်။ ထို့ကြောင့် ထိုဒေသရှိလူတို့သည် နတ်များစွာ ကိုးကွယ်ကြသည် ဟု သမိုင်းဆရာတို့ ယူဆကြသည်။

## ၄၀၀၀ ဘီစီ၊ ဩစတြေးလျအေရှားတစ်လူ့အဖွဲ့အစည်းနှင့် ကိုးကွယ်မှုများ

ဩစတြေးလျအေရှားတစ်အနွယ်များသည် ၄၀၀၀ ဘီစီခန့်မှစ၍ တရုတ်ပြည်တောင်ပိုင်း ယန်စီကျန်မြစ်ဝှမ်း ဒေသမှဆင်းသက်လာကြပြီး၊ တောင်ဘက်တွင် နီကိုဗာကျွန်း၊ မြောက်ဘက်တွင် ယူနန်၊ အရှေ့ဘက်တွင် ဗီယက်နမ်၊ အနောက်ဘက်တွင် အာသံနှင့် အိန္ဒိယအလယ်ပိုင်းအထိ ပျံ့နှံ့နေထိုင်ခဲ့ကြသည်။

ဤ ဩစတြေးလျအေရှားတစ်အနွယ်များသည် ဆင်းသက်လာရာကာလကို ပြရာ၌ ဒေါက်တာ ဒဗလျူ အယ်ဗား ဟတ်က ကျောက်ခေတ်သစ်တွင် တရုတ်ပြည်တောင်ပိုင်းမှ အရပ်ရပ်သို့ ဆင်းသက်ပျံ့နှံ့ခဲ့ကြောင်း တရုတ်ရာဇဝင်တွင် ဖော်ပြထားသည်။

မြန်မာ့သမိုင်းပညာရှင်တစ်ဦးဖြစ်သူ ဗိုလ်မှူးဘရှင်ကမူ ဩစတြေးလျအေရှားတစ်အနွယ်များသည် သမိုင်းမတင်မီခေတ်ကပင် အင်ဒိုချိုင်းနားဒေသတစ်ခွင်သို့ ဆင်းသက်ရောက်ရှိ နေထိုင်ခဲ့ကြောင်းကို ပညာပဒေသာ စာစောင် အတွဲ ၁- အပိုင်း ၃-'ဗိသနိုးမြို့ဟောင်းနှင့် သမိုင်းအမြင်'စာတမ်း၌ ရေးသားထားသည်။

'ဩစတြေးလျအေရှားတစ်အနွယ်' ဟူသည် မွန်ဂိုလွိုက်နွယ်ဝင် မွန်ခမာနှင့် မလေးလူမျိုးနွယ်များပင် ဖြစ်ကြသည်။ ၁၉ဝ၆ ခုနှစ်၌ ပါမောက္ခ ရှားမစ်က ၎င်း တို့ကို 'ဩစတြေးလျအေရှားတစ်'ဟု အမည်ပေးရာမှ သမိုင်းတွင် ဩစတြေးလျအေရှားတစ် အမည် ထင်ရှားလာခြင်းဖြစ်သည်။

ဩစတြေးလျအေရှားတစ် မွန်ခမာအနွယ်များသည် ပထမ၌ မြန်မာနိုင်ငံအပါအဝင် အရှေ့တောင်အာရှဒေသ အနှံ့အပြားတွင် နေခဲ့သော်လည်း နောက်ပိုင်းတွင် အခြားအမျိုးအနွယ်များ၊ အထူးသဖြင့် ထိုင်းမျိုးနွယ်များကကြား ဖြတ်နေထိုင်လာကြသဖြင့် အချင်းချင်း အဆက်အသွယ် ပြတ်တောက်ခဲ့ရကြသည်။ ယနေ့တွေ့ရှိရသော မွန်ခမာအနွယ်များမှာ အိန္ဒိယတွင် မုဏ္ဍာနှင့် ဗိလူမျိုးများ၊ အာသံတွင် ခါစီလူမျိုး၊ ကမ္ဘောဒီးယား (ကမ်းပူးချား)တွင် ခမာလူမျိုး၊ ယိုးဒယားတွင် မွန်လူမျိုး၊ မြန်မာနိုင်ငံတွင် မွန်၊ ပလောင်၊ ဝ၊ ရိယန်၊ ဒနောလူမျိုးများ ဖြစ်ကြသည်။

ဤ မွန်ခမာအနွယ်များသည် ၂၀၀၀ ဘီစီ အထက်ကာလကပင် စပါးစိုက်ပျိုးခဲ့ကြကြောင်း သမိုင်းဆရာအများစုက အသိအမှတ်ပြုထားကြသည်။ ထို့ကြောင့် ၎င်းတို့သည် ထိုအခါမှစ၍ လယ်ယာစိုက်ပျိုးရေး၌ ရာသီဥတုမှန်စေရန်နှင့် စပါးသီးနှံများ အထွက်တိုးစေရန် မြေစောင့်နတ်၊ လယ်စောင့်နတ်၊ ကောင်းကင်စောင့်နတ် စသည်တို့ကို ရည်မှန်း၍ ကိုးကွယ်ပသမှု ပြုခဲ့ကြသည်။ ရှေးအခါက လူကိုသတ်၍ ဦးခေါင်းကိုဖြတ်ကာ ယဇ်ပူဇော်သော ဝလူမျိုးတို့ ပြုလုပ်သောအလေ့အထသည် ဤကဲ့သို့သောယုံကြည်မှုမှ ပေါက်ဖွားလာသော ကိုးကွယ်ဆည်းကပ်မှုဖြစ်သည်ဟု ဆိုသည်။ မြွေကိုကိုးကွယ်သော အလေ့အထလည်းရှိကြရာ အာသံရှိ ခါစီတို့သည် ယနေ့တိုင် မြွေကို ကိုးကွယ်ကြကြောင်း တွေ့ရသည်။ ပလောင်အမျိုးသမီးတို့၏ ဦးပေါင်းသည်လည်း မြွေကို အထွတ်အမြတ်ထား၍ ကိုးကွယ်သည့်အထိမ်းအမှတ်ဖြစ်သော မြွေဦးခေါင်းပုံသဏ္ဍာန်ဖြစ်သည် ဟုဆိုသည်။ ၎င်းအပြင် ၎င်းတို့သည် အိမ်တွင်းနတ်များကိုလည်း ကိုးကွယ်ခဲ့ကြသည်။

နောက်ပိုင်းတွင် မြန်မာနိုင်ငံမှ မွန်ခမာများသည် ဗုဒ္ဓအယူဝါဒကို မရရှိမီကာလ၌ အိန္ဒိယပြည်မှ ကုန်ကူးသန်းရောင်းဝယ်ရေးအတွက် ရေလမ်းခရီးဖြင့် ရောက်ရှိလာကြသော တေလဂူကုလားများမှတစ်ဆင့် ဗြာဟ္မဏဘာသာ ကိုးကွယ်ယုံကြည်မှုကိုလည်း ရရှိခဲ့ကြမည်ဖြစ်ကြောင်း ယူဆပါသည်။ ထိုခေတ် ထိုအခါကပင် အိန္ဒိယနှင့် သုဝဏ္ဏဘူမိတို့သည် ကုန်ကူးသန်းရောင်းဝယ်မှုဌာနများ ဖြစ်ခဲ့သောကြောင့် ရာမညဒေသတွင် ၎င်းနှင့်ဆက်စပ်နေသော ရပ်ရွာဒေသအခေါ်အဝေါ်နှင့် သမိုင်းမှတ်တမ်းအချို့ကို တွေ့နေရခြင်းဖြစ်သည်။ ဥပမာ ကုလားများ သင်္ဘောဖြင့် လာရောက်ရပ်နားသောကြောင့် 'ကုလားတော်'ဟုအမည်တွင်ရသော ဘီလူးကျွန်းရှိ 'ကုလားတို့ရွာ'၊ သင်္ဘောကို ချိတ်ဆွဲရာဖြစ်သောကြောင့် 'သင်္ဘောချိတ်' ဟု အမည်တွင်ရသော 'ဖွဲ့ကပင်' စသော ရပ်ရွာဒေသအမည်များသည် ထိုကုလားများလာရောက်ကြောင်းကို ဖော်ပြနေပါသည်။

အလားတူ ၎င်းကုန်ကူးသန်းမှုနှင့်ဆက်စပ်နေသော သမိုင်းအမှတ်အသားများလည်း များစွာရှိသည်။ ဥပမာ ကသားမင်းသားနှင့် လံဘားကုလားတို့ စစ်ပွဲ၊ ဒဂုံဆံတော်ရှင်သမိုင်းမှ တပေါတဖု ခေါ် တဖုဿ၊ဘလ္လိက ကုန်သည်ညီနောင် စသည်တို့၏ သမိုင်းများသည် ထို ၂ နိုင်ငံတို့၏ ကုန်ကူးသန်းမှုကို ဖော်ပြနေသောအချက်များပင် ဖြစ်သည်။

ထို့ကြောင့် လယ်တီဦးလှပိုင်က ကျိုက်ထီးရိုးစေတီသမိုင်းသစ်တွင် အိန္ဒိယနှင့် သုဝဏ္ဏဘူမိတို့၏ ကုန်သွယ်ရေးခရီးလမ်းကြောင်းကို အောက်ပါအတိုင်း ရေးသားဖော်ပြထားခြင်း ဖြစ်သည်။

'ခရစ်တော်မပေါ်မီက အိန္ဒိယတိုင်းရင်းသားတို့သည် 'ဇမ္ဗူဒီပ' ခေါ် ကစ္ဆပနဒီမြစ် (ယခု ကုလားတန်)မြစ်ဝ ပင်လယ်မှတစ်ဆင့် စစ်တွေ အရှေ့တောင်ထောင့် ၁၀ မိုင်ကွာဝေးသော ပင်လယ်ထဲရှိ ဖရုံကာကျွန်းစု၊ ထိုမှတစ်ဆင့် မော်တင်စွန်း၊ ထိုမှတစ်ဆင့် သိဂိုဏ္ဍရအငူကိုပတ်၍ မွန်အခေါ် ခလယ်ဒို့ (ဘီလူးကျွန်း)ဆိပ်ကမ်းလမ်းစဉ်အတိုင်း ကူးသန်းသွားလာရာလမ်း ဖြစ်သည်။'

တစ်ဖန် တဖုဿ၊ ဘလ္လိက ကုန်သည်ညီနောင်တို့ အပြန်ခရီးစဉ်ကိုပြဆိုရာ၌ လယ်တီဦးလှပိုင်က 'အိန္ဒိယပြည် ဗန္ဓုဝ(ဘော်ရဝင်) သင်္ဘောဆိပ်မှ ဒမိုးဒါမြစ်၊ ထိုမှတစ်ဆင့် ဟူဂလီမြစ်၊ ထိုမှတစ်ဆင့် သမုဒ္ဒရာပင်လယ်ပေါက်ဝသို့ ကပ်ရောက်ပြီး၊ ၎င်းမှတစ်ဆင့် ရှေးက ဇမ္ဗူဒီပကျွန်း ယခု(ဖရုံကာကျွန်း) အဇ္ဈိတ္တနဂရမြို့သို့ ရောက်ကြောင်း၊ ထိုမှတစ်ဆင့် နာဂရာဇ်မော်အငူ (ယခု ပုသိမ်မော်တင်စွန်း)သို့ ရောက်ကြောင်း၊ ထိုမှတစ်ဆင့် ဥက္ကလာဇနပုဒ် အသိတဉ္ဇန(ပေါက္ခရဝတီ) ဟာပင့်(ကပင့်) ဆိပ်ကမ်းသို့ ရောက်ရှိပြီး၊ ထိုမှတစ်ဆင့် ကမ်းရိုးတစ်လျှောက် ပင့်ဆောင်လာရာ 'ကွမ်းအေး' ခေါ် တွံတေး၊ ကော့မှူး၊ ကွမ်းခြံကုန်းနယ်များတွင် စေတီ အသီးသီး တည်ထားပူဇော်ခဲ့ကြောင်း ရေးသားဖော်ပြထားသည်။ ဤ အပြန်ခရီးစဉ် ဖော်ပြချက်နှင့်စပ်လျဉ်း၍ သုတေသီများစဉ်းစားနိုင်ရန် လေ့လာတွေ့ရှိချက်များကို အနည်းငယ် တင်ပြလိုသည်။

။ ၁ ။ လယ်တီဦးလှပိုင်က တဖုဿ၊ ဘလ္လိက ညီနောင်တို့သည် ဇမ္ဗူဒီပ (ဖရုံကာကျွန်း) အဇ္ဈိတ္တနဂရမြို့သို့ ဝင်ရောက်ခဲ့သည်ဟု ဆိုသော်လည်း ယခု ၎င်းကျွန်းပေါ်ရှိ ဆံတော်ရှင်စေတီ၌ ဌာပနာထားသော ဆံတော်မြတ် ၂ ဆူကား တဖုဿ၊ ဘလ္လိက ညီနောင်တို့မှ ရရှိခဲ့ခြင်းမဟုတ်ကြောင်း။ မဟာသက္ကရာဇ် ၁၂၃ ခုနှစ် မြတ်စွာဘုရား ၁၀ ဝါအရ ဇေတဝန်ကျောင်း၌ သီတင်းသုံးတော်မူစဉ် ရခိုင်ဝေသာလီဘုရင် စန္ဒသူရိယမင်း အဓိဋ္ဌာန်ပြု ပင့်လျှောက်ချက်အရ မြတ်စွာဘုရား ကြွတော်မူလာရာ ကျောက်တော်မြို့တစ်ဘက်ရှိ သေလာဂီရီ၌ ခေတ္တမျှတန့်တော်မူခဲ့ကြောင်း။ ထိုအခါ ထိုအရပ်ရှိနဂါးမင်းက မြတ်စွာဘုရား၏ရောင်ခြည်တော်ကိုမြင်ရ၍ တက်ရောက်ဖူးမြော်ရာ ဆံတော်မြတ် ၂ ဆူရ၍ ဖရုံကာကျွန်းပိုင် အမတ်ကြီးအားပေးခဲ့သဖြင့် ယခု အနောက်ဖရုံကာကျွန်းတွင် ထင်ရှားတည်ရှိနေသော ဆံတော်ရှင်စေတီတွင် ဌာပနာခဲ့ကြောင်းဖြင့် ယင်းစေတီသမိုင်း၌ ဖော်ပြထားသည်ကို တွေ့ရသည်။

။ ၂ ။ တစ်ဖန် အဇ္ဈိတ္တနဂရနိုင်ငံကို 'ဇမ္ဗူနိုင်ငံ' ဟူ၍လည်းခေါ်ပြီး ယခုစစ်တွေနှင့် မြို့ဟောင်းကြားရှိ ပုဏ္ဏားကျွန်းအရပ် ဖြစ်သည်ဟု ဓညဝတီ ရခိုင်ရာဇဝင်က ဆိုကြောင်းနှင့် ၁၂၆၆ ခုနှစ်၌ကူးရေးသော ရွှေတိဂုံဘုရားသမိုင်း၏ ပေမူတစ်စောင်တွင်မူ တဖုဿ၊ ဘလ္လိကတို့သည် အဇ္ဈိတ္တမြို့သို့ ရောက်ရှိခဲ့ခြင်းဖြစ်ကြောင်း၊ အဇ္ဈိတ္တမြို့မှ အဇ္ဈိတ္တနဂရသို့ ခရီး ၇ လ သွားရကြောင်း၊ ရွှေမင်းဝံဦးဖုန်းမြင့် ပြုစုသော 'မြတ်ရွှေတိဂုံစေတီတော် သမိုင်း' စာအုပ်တွင် မှတ်ချက်အဖြစ် ဖော်ပြထားသည်ကို တွေ့ရှိရပြန်သည်။

။ ၃ ။ တစ်ဖန် ဤစာအုပ်ကို တည်းဖြတ်ပေးတော်မူခဲ့သော ရွှေဆရာတော်ဘုရားကြီးကလည်း ဆရာတော်ကိုယ်တိုင် သီဟိုဠ်ကျွန်း (သီရိလင်္ကာနိုင်ငံ)သို့ ရောက်ရှိခဲ့စဉ်က တမီလ်လူမျိုးတို့ အများစုနေထိုင်ရာ သီရိလင်္ကာနိုင်ငံ အရှေ့ပိုင်း ထရင်ကိုမာလီမြို့ရှိ စေတီတော်၌ အပြန်ခရီးတွင် သီဟိုဠ်ကျွန်းသို့ လှည့်ဝင်လာသော တဖုဿ၊ ဘလ္လိက ကုန်သည်ညီနောင်မှ ရရှိခဲ့သော ဆံတော်မြတ် ၂ ဆူကို ဌာပနာထားသည်ဟု သီရိလင်္ကာနိုင်ငံရှိလူများ၏ ပြောပြချက်အရ သိရှိခဲ့ရကြောင်း မိန့်ကြားတော်မူသည်။

အထက်ဖော်ပြပါ အဆိုအမိန့် ၃ ရပ်ကို ကြည့်လျှင် တဖုဿ၊ ဘလ္လိက ညီနောင်တို့ အပြန်ခရီးတွင် ဝင်ရောက်ခဲ့သည်ဟုဆိုသော အဇ္ဈိတ္တနဂရ၊ သို့မဟုတ် အဇ္ဈိတ္တမြို့ကို ဖရုံကာကျွန်းပေါ်ရှိ မြို့တစ်မြို့ ဟုယူဆရန်

ဖြစ်နိုင်၊မဖြစ်နိုင်ကို စဉ်းစားဖွယ် ဖြစ်လာရသည်။ စာရေးသူအနေဖြင့် တဖုဿဘလ္လိက ညီနောင်တို့ ဝင်ရောက်ခဲ့သောမြို့အဖြစ် အဇ္ဈိတ္တမြို့ ဟုအတည်ယူပြီး၊ ယင်းမြို့သည်လည်း သီဟိုဠ်ကျွန်းပေါ်ရှိ မြို့တစ်မြို့မြို့၊ သို့မဟုတ် ထိုအချိန် ဘုရင့်နေပြည်တော် ဖြစ်ခဲ့သည်ဟုယူဆရသော ယခု ထရင်ကိုမာလီမြို့ပင်ဖြစ်ကြောင်း ယူဆလိုပါသည်။

အလားတူ နာဂရစ်မော်၌ တဖုဿ, ဘလ္လိက ညီနောင်တို့၏သင်္ဘော ဆိုက်ကပ်ရပ်နားစဉ် ဆံတော်မြတ်များမှ ရောင်ခြည်တော်များ ကွန့်မြူးထွက်ပေါ်နေသည်ကို မြင်တွေ့ရသော ဇယသေန နဂါးမင်းက တက်ရောက်ဖူးမြော်ရာမှ သဒ္ဓါလွန်ကဲသောကြောင့် ဆံတော်မြတ် ၂ ဆူကို ခိုးယူခဲ့ကြောင်း သမိုင်းအသီးသီးကဖော်ပြကြရာ၌ ယင်းဆံတော်မြတ် ၂ ဆူကို ပုသိမ်မော်တင်စွန်းစေတီ၌ ဌာပနာခဲ့ကြောင်း ရည်ညွှန်းလိုကြသည်ဟု ယူဆရသည်။

လှသမိန်ရေး 'မြန်မာနိုင်ငံတစ်ခွင် ဘုရားသမိုင်းပေါင်းချုပ်', ဦးမြင့်ဆွေ ရေး 'ဆံတော်ရှင် မြတ်မော်တင်စေတီတော်သမိုင်း', ဆရာမာဃ၏ 'ပုသိမ်ရာဇဝင်သစ်'တို့တွင် ယင်း ဇယသေနနဂါးမင်းသည် ဆံတော်မြတ် ၂ ဆူကိုခိုးယူပြီးနောက် မဟာသက္ကရာဇ် ၁၀၃ ခုနှစ် ဝါဆိုလပြည့်နေ့၌ ရှေးအခေါ် 'သရဏတောင်'၊ ယခုအခေါ် 'မော်တင်တောင်'၌ စေတီတည်၍ ဌာပနာခဲ့ကြောင်း ရေးသားဖော်ပြထားသည်ကို တွေ့ရှိရသည်။

သို့ရာတွင် မုံရွေး ဇေတဝန်ဆရာတော်ဘုရားကြီး၏ 'သမန္တစက္ခုဒီပနီကျမ်းကြီး'တွင် ဇယသေန နဂါးမင်း ခိုးယူထားသော ဆံတော်မြတ် ၂ ဆူကို သီဟိုဠ်မှ တိဿထေရ်၏တပည့် သီဝထေရ်က တန်ခိုးအဘိညာဉ်ဖြင့်ယူ၍ သီဟိုဠ် ကာလဝဏ္ဏတိဿမင်းအား အပ်နှင်းပြီး နလာဋဓာတ် (နဖူးသင်းကျစ်တော်ဓာတ်) ဌာပနာထားသော မင်္ဂလာစေတီတော်၌ ဌာပနာခဲ့ကြောင်းဖြင့် နလာဋဓာတုဝင်ကို ကိုးကားလျက် ရေးသားထားသည်ကို တွေ့ရသည်။

ယိုးဒယားပြည်ထွက် 'ဥပ္ပန္နသုမ္မေဝတီ ရာဇဝံသကထာ' ဟူသော မွန်ရာဇဝင်တော်ကြီး၌ကား 'တပေါ,တဖုး'ခေါ် တဖုဿ,ဘလ္လိက ညီနောင်တို့သည် ဆံတော်မြတ် ၂ ဆူကို အဇ္ဇုတ္တမင်းသို့ ပေးခဲ့ရပြီး ၂ ဆူကို ဇယသေန နဂါးမင်းက ခိုးယူခဲ့သောကြောင့် ဆံတော် ၄ ဆူဖြင့် နေရပ်သို့ ပြန်ရောက်ခဲ့သည်။ ဥက္ကလာပမင်းက အစိဋ္ဌာန်ပြုပင့်သောအခါ ဆံတော် ၈ ဆူစလုံး ပြန်လည်ကြွရောက်စံပယ်ပြီး၊ ရွှေတိဂုံစေတီတော်၌ ဆံတော် ၈ ဆူစလုံး ဌာပနာခဲ့သည်။ မော်တင်စွန်းစေတီတော်ကား သာသနာသက္ကရာဇ် ၃၀၀၊ ၂၄၄ ဘီစီခန့်၌ သီဟိုဠ်ကျွန်းတွင် ပင်လယ်ရေတိုက်စားသဖြင့် ရှင်မဟိန္ဒထေရ် ပင့်ဆောင်ခဲ့သော ဓာတ်တော်မွေတော်များကို ဌာပနာ၍ တည်ထားခဲ့သော မဟိယင်္ဂဏစေတီတော် ပြိုပျက်သွားသည့်အပြင်၊ ဒက္ခိဏာသာခါ မဟာဗောဓိပင်ပါ ရေကြောင်းကျလာသဖြင့် ပြိုလဲလုနီးဖြစ်လျက် ရှိသည်။ ဘုရင်နှင့်တကွ ရဟန်းရှင်လူများ စိုးရိမ်သောကဖြစ်နေကြရာ ဒက္ခိဏာသာခါ ရေတိုက်စားမှုဘေးမှ လွတ်မြောက်ရေးမှာ သုဝဏ္ဏဘူမိတိုင်း သထုံဘုရင်အဆက်ဆက်တို့ လက်ထဲတွင်ရှိခဲ့သော (ဝေပုလ္လ) ပတ္တမြားရတနာကို ရရှိမှ ဖြစ်နိုင်မည်ဖြစ်ကြောင်းကို အဘိညာဉ်ရ ရဟန္တာထေရ်ရှင်တို့ သိရှိတော်မူသည်။ ထို့ကြောင့် ရဟန္တာထေရ်ရှင် ၈ ပါးတို့သည် မဟိယင်္ဂဏစေတီပျက်မှ ပေါ်ထွက်လာသော ဆံတော်ဓာတ်တော်များမှ တစ်ပါးလျှင် ဆံတော် ၃ ဆူစီ၊ စုစုပေါင်း ၂၄ ဆူနှင့် တစ်ထုပ်လျှင် ဓာတ်တော် ၁၀၀ စီပါသော ဓာတ်တော် ၈ ထုပ်ကို တစ်ထုပ်စီယူ၍ သုဝဏ္ဏဘူမိတိုင်း သထုံသို့ ကြွရောက်တော်မူလာကြရာ၊ 'နာဂရာစ်အငူ' အမည်မှာယ်ရသော မွန်အခေါ် 'မုနင်ဂရပ်'သို့ ရောက်သောအခါ ခေတ္တဝင်ရောက် သီတင်းသုံးတော်မူကြစဉ်၊ ပါလာသောဆံတော်ဓာတ်တော်အချို့ကို ဌာပနာ၍ မော်တင်စွန်းစေတီကို တည်ခဲ့သည် ဟု ရေးသားဖော်ပြထားသည်ကို တွေ့ရှိရသည်။

အချုပ်အားဖြင့် ယင်းဖော်ပြချက်များသည် ထိုခေတ်ထိုအခါက ရာမညတိုင်းရှိ ပုသိမ်, ဒဂုံ, သထုံ, မုတ္တမ စသော နယ်မြေဒေသများအနေဖြင့် ဆိပ်ကမ်းမြို့များ ဖြစ်ခဲ့ကြောင်း အတည်ပြုပေးနေသော အချက်များပင်ဖြစ်သည်။

## ဗုဒ္ဓအယူဝါဒကို လက်ခံရရှိလာပုံ

ဗုဒ္ဓမြတ်စွာဘုရားပွင့်တော်မူလာသောအခါ မွန်ခမာများသည် ဗုဒ္ဓအယူဝါဒကို လက်ခံယုံကြည်လာကြပြန်သည်။ ၎င်းတို့သည် ဗုဒ္ဓအယူဝါဒကို လက်ခံရရှိကြပုံနှင့် လက်ခံရရှိသည့်အချိန်ကာလကို ဖော်ပြရာ၌ အတိအကျမပြောနိုင်သော်လည်း၊ ပါမောက္ခလုစ်က 'ရာမညဒေသ၌ ဗုဒ္ဓသာသနာမထွန်းကားမီ အချိန်ကာလ ကြာမြင့်စွာကပင်ယဉ်ကျေးမှုထွန်းကားလျက် မွန်ခမာစကား ပြောသူများသည် အရှေ့မြောက်အိန္ဒိယကို မိုးရေသောက်လယ် အကြီးအကျယ် စိုက်ပျိုးရေးနည်းပညာပေးခဲ့၍ အရှေ့မြောက်အိန္ဒိယမှ ဗုဒ္ဓသာသနာယုံကြည်မှုကို ရရှိခဲ့ကြောင်း ထင်မှတ်ဖွယ်ရှိသည်' ဟု ရေးသားခဲ့သည်။

မွန်ခမာတို့ ဗုဒ္ဓသာသနာ ယုံကြည်မှုရရှိရန် အကြောင်းများဖြစ်သော အောက်ဖော်ပြပါ အချက်များကိုလည်း ကျွန်ုပ်တို့ မျက်ကွယ်မပြုသင့်ပေ။

ဗုဒ္ဓမြတ်စွာသည် ဘုရားဖြစ်၍ ၄၉ ရက်မြောက် လင်းလွန်းပင်ရင်း၌ စံနေတော်မူခိုက် ဥက္ကလာပ ဇနပုဒ်မှ 'တပေါ၊တဖု'မည်သော ကုန်သည်ညီနောင်တို့သည် ရေလမ်းခရီးမှတစ်ဆင့် မဇ္ဈိမဒေသသို့ရောက်၍ လှည်းလမ်းကြောင်းခရီးဖြင့် ဆက်လက်သွားရာ ဘဝဟောင်း၌ အမိတော်စပ်ခဲ့ဖူးသော ရုက္ခစိုး (အချို့အဆို ဘုမ္မစိုး) နတ်သမီးတစ်ဦး၏ လမ်းညွှန်ပြချက်အရ မြတ်စွာဘုရားထံမှောက်သို့ ရောက်ရှိကြကြောင်း၊ ဆံတော်မြတ် ၈ ဆူ ရခဲ့ပြီး ဥက္ကလာပမင်းနှင့်တကွ ပြည်သူပြည်သားများက ဝမ်းသာအားရပူဇော်ကြလျက် ရွှေတိဂုံစေတီတော်မြတ်ကို တည်ထားကိုးကွယ်ခဲ့ကြောင်း၊ စေတီတည်ရာ၌ ကညင်ပင်ကြီးကို ခုတ်လှဲသောအခါ မြေမကျဘဲ အခြားကုန်းကမူတစ်ခု၌ သွားရောက်တင်နေသည်ကို မွန်ဘာသာဖြင့် ကန့်လန့်တင် (လဂုံ=ဒဂုံ) ဟုခေါ်ရာ ယင်းကိုအစွဲပြု၍ ဥက္ကလာပမြို့ကိုရော စေတီတော်မြတ်ကိုပါ 'ချုံလဂုံ = ချုံဒဂုံ၊ ကျိုက်လဂုံ = ကျိုက်ဒဂုံ' ဟု ယနေ့တိုင် ခေါ်နေကြကြောင်း ရွှေတိဂုံစေတီတော်သမိုင်းအရ သိရှိရသည်။

တစ်ဖန် 'မြတ်စွာဘုရား ၈ ဝါအရ၌ ဂဝမ္ပတိထေရ် ပင့်လျှောက်ချက်အရ မြတ်စွာဘုရားနှင့် သံဃာတော်များသည် သုဝဏ္ဏဘူမိ (သထုံ)သို့ ကြွတော်မူလာရာ မဟာသက္ကရာဇ် ၁၁၀ (၅၉၃ ဘီစီ)၌ နန်းတက်လာသောတိဿမေ္မ သီဟရာဇာမင်းနှင့်တကွ တိုင်းသူပြည်သားများလည်း သရဏဂုံဆောက်တည်ခဲ့ကြရသည့်အပြင်၊ အချို့ရသေ့များသည် ဆံတော်မြတ်များကို ရခဲ့ကြသဖြင့် စေတီအသီးသီးတည်ခဲ့ကြကြောင်း' ကျိုက်ထီးရိုးစေတီတော်သမိုင်း၊ အခြားစေတီသမိုင်းများနှင့် ဂဝမ္ပတိပေစာတွင် ရေးသားဖော်ပြထားသည်။

အထူးမှာ ထိုစဉ်အခါက မြတ်စွာဘုရားသည် သထုံအပြင်၊ ယခု 'ထားဝယ်' ခေါ်သောအရပ်သို့လည်း ကြွ၍ ထိုအရပ်၌ တင်ပလ္လင်ခွေထိုင်နေတော်မူခဲ့သည်။ ယင်းကိုအစွဲပြု၍ ယင်းဒေသကို မွန်တို့က 'ထဝိုင်းလ် (တင်ပလ္လင်ခွေ)'ဟု ယနေ့တိုင် ခေါ်ဝေါ်ခဲ့ကြပြီး၊ နောက်ပိုင်း၌ သီဟိုဠ်မှမျှောလိုက်သော ဘုရား ၄ ဆူ အပါအဝင် ယခု 'ရှင်မုဋ္ဌီး'ခေါ်သော ဘုရားကို ယင်းမြတ်စွာ ဘုရား တင်ပလ္လင်ခွေထိုင်နေတော်မူခဲ့သော နေရာတွင်ပင် တည်ထားကိုးကွယ်ခဲ့ကြသည် ဟု အဆိုရှိသည်။

စစ်ကဲတော်မင်း မောင်နော်၏ 'မွန်ရာဇဝင် စေတီတော်သမိုင်းပေါင်းချုပ်'တွင်မူ မြတ်စွာဘုရားသည် ဒွါရာဝတီ (ယိုးဒယား)မှတစ်ဆင့် ထားဝယ်အရပ်သို့ ရောက်ရှိတော်မူလာရာ ကျောက်ဖျာတစ်ခုတွင် တင်ပလ္လင်ခွေထိုင်တော်မူခဲ့ကြောင်း၊ ထိုမှတစ်ဆင့် ဟရိဘုဥ္စ(လော)သို့ ကြွပြီးမှ သထုံသို့ ကြွရောက်တော်မူခဲ့ကြောင်းဖြင့် မြတ်စွာဘုရားကြွရောက်ရာ ခရီးစဉ်အဖြစ် ဖော်ပြထားသည်ကို တွေ့ရှိရသည်။

၄င်းအပြင် မြတ်စွာဘုရား သက်တော်ထင်ရှားရှိစဉ် ရဟန္တာအရှင်မြတ် ၆ ပါးတို့သည် မြတ်စွာဘုရားထံမှ ဆံတော်တစ်ဆုစီကို ရရှိ၍ သုဝဏ္ဏဘူမိသို့ ကြွရောက်တော်မူကြပြီးနောက် စေတီ ၆ ဆူ တည်ထားတော်မူခဲ့ကြသဖြင့် သုဝဏ္ဏဘူမိသားတို့ ကုသိုလ်ပွားခဲ့ကြရကြောင်း 'ဆကေသာဓာတုဝင်'တွင် ဖော်ပြထားသည်။

တစ်ဖန် 'သာသနာသက္ကရာဇ် ၂၃၅ (၃၁၀ ဘီစီ)တွင် တတိယသင်္ဂါယနာတင်အပြီး ၉ တိုင်း ၉ ဌာနသို့ သာသနာပြု စေလွှတ်ခဲ့ရာ၌လည်း သောဏထေရ်၊ ဥတ္တရထေရ်တို့သည် 'ကိသဂုတ္တ၊ သောမာယ၊ အနုရုဒ္ဒ'ဟူသော နောက်ပါ ၃ ပါးနှင့်အတူ သုဝဏ္ဏဘူမိသို့ရောက်ရှိပြီးနောက် 'ရက္ခ' ခေါ်သော ရေဘီလူး (ကပ္ပလီနီဂရစ်တို့)များကို နှင်ထုတ်ကာ သာသနာပြုတော်မူခဲ့ကြသဖြင့် သုဝဏ္ဏဘူမိသားတို့ ဗုဒ္ဓဘာသာယုံကြည်ကိုးကွယ်မှုကို အပြည့်အဝ ရရှိခဲ့ကြောင်း' ပါဠိအဋ္ဌကထာများနှင့် မွန်ရာဇဝင်၊ မြန်မာရာဇဝင်၊ သီဟိုဠ်မဟာဝင်များ၌ ဖော်ပြထားသည်။

ဤ၌ ရှင်မဟာမောဂ္ဂလိပုတ္တ တိဿထေရ်မြတ်သည် အခြားသော သာသနာပြုဌာနများသို့ ခေါင်းဆောင် တစ်ဦးစီထား၍ သာသနာပြုစေလွှတ်တော်မူပြီး၊ သုဝဏ္ဏဘူမိကျမှ ခေါင်းဆောင်သာသနာပြု ၂ ပါး ထားရခြင်းမှာ မြန်မာနိုင်ငံတွင် အနာဂတ်သာသနာထွန်းတောက်ပြီး အရှည်တည်တံ့မည်ကို မြင်တော်မူ၍ စီစဉ်ခဲ့ခြင်းဖြစ်ကြောင်း အဆိုရှိသည်။ နောက်ပိုင်းတွင် သီဟိုဠ်မှသထုံသို့ ပိဋကတ်တော်များကို ကူးယူသယ်ဆောင်တော်မူခဲ့သော ရှင်မဟာ ဗုဒ္ဓဃောသနှင့် သထုံမှပုဂံသို့ ကြွရောက်သာသနာပြုတော်မူခဲ့ကြသော 'ဓမ္မဒဿီ' ခေါ် အရှင်အရဟံ၊ အရှင်ဥတ္တရာ ဇီဝထေရ် တို့သည်လည်း ဤသာသနာပြု သောဏထေရ်၊ ဥတ္တရထေရ်တို့၏ အဆက်အနွယ်ပင်ဖြစ်ကြောင်း ကလျာဏီကျောက်စာ၌ ဖော်ပြထားသည်။

ထိုအချိန်ကာလ၌ပင် သီဟိုဠ်မှ ဒေဝါနံပိယတိဿမင်းသည် သီရိဓမ္မာသောက စသော မင်းမြတ်များ၊ ရှင်မဟိန္ဒ အမှူးပြုသော ထေရ်ရှင်များနှင့် ညှိနှိုင်းတိုင်ပင်ပြီးနောက် ဘဒ္ဒကမ္ဘာ၌ ပွင့်တော်မူသော ကကုသန်၊ ကောဏာဂုံ၊ ကဿပ၊ ဂေါတမ ဘုရား ၄ ဆူကိုရည်စူးလျက် တင်ပလ္လင်ခွေ ဘုရား ၄ ဆူကို ဖန်ဆင်းပြုလုပ်၍ ဓာတ်တော်မွေတော်များကို ဌာပနာပြီးလျှင်၊ 'သာသနာတော် ထွန်းကားတည်တံ့မည့် တိုင်းပြည်သို့ ရောက်ရှိပါ စေသား' ဟု အဓိဋ္ဌာန်ပြုကာ ဘင်္ဂလားပင်လယ်အော်သို့ မျှောလိုက်သည်ဟု ဆိုသည်။

နောက်မှုတစ်ခု အဆိုအရ ယင်းဘုရား ၄ ဆူကို ဒေဝါနံပိယတိဿမင်းနှင့် ရှင်မဟိန္ဒတို့ ဦးစီးပြုလုပ် ကိုးကွယ်ထားခဲ့ရာမှ မင်းဆက် ၆၀ ကျော်ဖြစ်သော ဥတ္တိမင်းလက်ထက် ဘာသာခြားကုလားတို့ လွှမ်းမိုးအုပ်ချုပ် သောအခါ၌ ရဟန္တာတစ်ပါးက ယင်းဘုရား ၄ ဆူကို 'သာသနာတော်တည်သောအရပ်၌ ရောက်ရှိတည်ပါစေသား' ဟု အဓိဋ္ဌာန်ပြု၍ ဘင်္ဂလားပင်လယ်အော်သို့ မျှောလိုက်သည် ဟုဆိုပါသည်။ ယင်းဘုရား ၄ ဆူသည် ရာမည ဒေသဖြစ်သော ထားဝယ်၊ ကျိုက္ခမီ၊ ကျိုက်ထို၊ ပုသိမ်တို့သို့ဆိုက်ရောက်ခဲ့သဖြင့် ရာမညတိုင်းသားတို့ ကိုးကွယ်ခဲ့ ကြရပြန်သည်။

## ရှင်မဟာဗုဒ္ဓဃောသ နှင့် ပိဋကတ် ၃ ပုံ

အချုပ်အားဖြင့် မွန်တို့သည် အထက်ဖော်ပြပါ အချက်အလက်များစွာအနက်မှ ယင်းအချက်များနှင့် ဆက်စပ် ရာအချိန်ကာလများကပင် ဗုဒ္ဓသာသနာ ယုံကြည်ကိုးကွယ်မှုကို ရရှိခဲ့ကြောင်း ယုံကြည်ရပါသည်။ သာသနာ သက္ကရာဇ် ၉၅၃-၉၅၇ အတွင်း (အချို့အဆို ၉၅၆၊ အချို့အဆို ၉၄၆) ၌ ရှင်မဟာဗုဒ္ဓဃောသ မထေရ်မြတ်က သီဟိုဠ်သို့ ကြွရောက်ပြီး၊ သီဟိုဠ်ဘာသာဖြင့်ရှိနေသော အဋ္ဌကထာများအပါအဝင် ပိဋကတ်တော်များကို မာဂဓ ဘာသာဖြင့် ပြန်ဆိုကူးရေးကာ၊ ယင်းပိဋကတ်တော်များနှင့်တကွ ရာမညတိုင်း သုဝဏ္ဏဘုံ သထုံသို့ ကြွရောက် တော်မူလာသည်။

ထိုအချိန်၌ သီဟိုဠ်တွင် မဟာနာမ်မင်းနှင့် သထုံတွင် ဓမ္မပါလမင်းတို့ နန်းစံနေပြီး၊ ပုဂံတွင် ကြောင်ဒူရစ်မင်း နန်းစံနေသည်ဟု 'မှန်နန်းရာဇဝင်တော်ကြီး' နှင့် ရွှေစကြာဦးစိုးမြင့်၏ 'ဗုဒ္ဓရောင်ခြည်တော်' နှင့် 'ပုဂံမြို့' စာအုပ်တို့တွင် ဖော်ပြထားသည်။ ကြောင်ဒူရစ်မင်း၏ သက္ကရာဇ်ကို '၃၀၉-၃၃၄ ခုနှစ်' ဟု ရာဇဝင်များ၌ဖော်ပြထားရာ ယင်း သက္ကရာဇ်သည် သုမုန္ဒရီမင်းလက်ထက်၌ သာသနာသက္ကရာဇ် ၆၂၂ ကို ဖြို၍ ၂ ကြွင်းဖြင့် စတင်ရေတွက်ခဲ့သော ပျူသက္ကရာဇ်ဖြစ်သည်ကို သတိပြုအပ်သည်။

ဤ၌ ထေရဝါဒဗုဒ္ဓဘာသာအတွက် အလွန်ကျေးဇူးများခဲ့သော ရှင်မဟာဗုဒ္ဓဃောသမထေရ်မြတ်နှင့် ပတ်သက်၍ ရှုထောင့်စုံမှ တတ်နိုင်သမျှရှင်းလင်းပြရန် လိုမည်ဟုထင်ပါသည်။ အဘယ့်ကြောင့်ဆိုသော် ရှင်မဟာဗုဒ္ဓဃောသနှင့်ပတ်သက်၍ ဝိဝါဒကွဲပြားနေသောကြောင့် ဖြစ်သည်။

ပုဂံသို့ရောက်ရှိသွားသော ပိဋကတ်တော်များသည် သထုံမှဖြစ်ကြောင်း၊ သထုံသို့ ရောက်ရှိလာသော ပိဋကတ်တော်များမှာလည်း သီဟိုဠ်မှ ဖြစ်ကြောင်း၊ ယင်းပိဋကတ်တော်များကို ရှင်မဟာဗုဒ္ဓဃောသက သီဟိုဠ်မှ ကူးယူတော်မူခဲ့ကြောင်းကို မည်သူမျှ ငြင်းပယ်ကြမည်မဟုတ်သော်လည်း ရှင်မဟာဗုဒ္ဓဃောသမထေရ်မြတ်၏ ဇာတိရပ်ရွာ၊ မျိုးရိုးနှင့်ပတ်သက်၍ ဝိဝါဒကွဲပြားနေကြသည်ကို တွေ့ရှိရသည်။ ဤ ဝိဝါဒကွဲပြားမှုနှင့်စပ်လျဉ်း၍ ရှေးသမိုင်းမှတ်တမ်း အထောက်အထားများနှင့် အဆိုအမိန့်များကို လက်လှမ်းမီသမျှ တင်ပြလိုပါသည်။

ကောဇာသက္ကရာဇ် ၁၁၉၁၊ သာသနာသက္ကရာဇ် ၂၃၇၃ ခုနှစ်တွင် ရေးသားခဲ့သော မှန်နန်းရာဇဝင်တော်ကြီး၌ အောက်ပါအတိုင်း ရေးသားဖော်ပြထားပါသည်။

"ဤအရာ၌ ရာဇဝင်ကြီးတွင် အရှင်ဗုဒ္ဓဃောသမဟာထေရ်ကျော်သည် ပိဋကတ်ကို ဆောင်ယူအံ့သောငှာ သီဟိုဠ်ကျွန်းသို့ သထုံပြည်က ကူးသည်။ ရာဇဝင်သစ်တွင် မဇ္ဈိမဒေသက ကူးသည်ဆိုသော အကြောင်းမှုကား ဤသို့တည်း။

'သာသနာတော်သက္ကရာဇ် ၉၀၀ ကျော်သည့်တိုင်အောင် အရှင်ယောနကမဟာဓမ္မရက္ခိတ၊ အရှင်သောဏ ဥတ္တရမထေရ်တို့မှ သိဿနုသိဿဖြစ်သော တပည့်အဆက်ဆက် ပိဋကတ် ၃ ပုံကို အာဂုံသာ ရွတ်တော်မူကြသည်။ ဓမ္မဒီပ်ထက် အက္ခရာ မရှိလေသေး။ ယင်းသောအခါ မဟာဗောဓိအနီးဖြစ်သော ပုဏ္ဏားလုလင်တစ်ယောက်သည် ဆေးကျမ်းအတတ်၊ ဗေဒင်အတတ်တို့ကို အပြီးရောက်၍ ဓမ္မဒီပ်၌ သူတစ်ပါးတို့အယူကို နှိမ်နင်းလျက် လှည့်လည်လတ်သော် ကျောင်းတစ်ခုသို့ရောက်၍၊ ထက်ဝန်းကျင်ညီညွတ်သောအသံဖြင့် သရဇ္ဈာယ်သည်ကို အရှင်ရေဝတမထေရ် ကြားတော်မူလျှင် 'ဤသူကား ပညာရှိ၏။ နှိုင်းယှဉ်အပ်၏' ဟု ကြံပြီးလျှင်၊ "မြည်း၏အသံဖြင့်မြည်သည်ကား အသူနည်း" မေးလျှင်၊ လုလင်သည်လည်း "မြည်းတို့၏မြည်ခြင်း၌ အကျိုးကို သိပါသလော" ဟု ဆို၍ ထိုထိုသောပုစ္ဆာတို့ကိုမေးလျှင်၊ မေးသမျှကို အရှင်ရေဝတ ဖြေတော်မူ၏။ ပုဏ္ဏားလုလင်အား တရားကိုမေးလျှင် မဖြေနိုင်ရကား၊ 'ဗေဒင်သင်အံ့' ဟုရဟန်းပြု၍ ပိဋကတ် ၃ ပုံကို သင်၏။ ယင်းသောအခါ ဘုရားကဲ့သို့ ကျော်စောထင်ရှားဘိရကား 'အရှင်ဗုဒ္ဓဃောသ' ဟု အမည်ဖြစ်၏။

'ထိုအရှင်ဗုဒ္ဓဃောသသည် ဉာဏောဒယကျမ်း၊ အဋ္ဌသာလိနီကျမ်းတို့ကို အဋ္ဌကထာ ပြုလိုသည်ကို အရှင်ရေဝတသိတော်မူ၍၊ "ဤဓမ္မဒီပ်ကျွန်း၌ ပါဠိမျှသာရှိသည်။ အဋ္ဌကထာ မရှိ။ ပြားသောသဘောရှိသော အာစရိယဝါဒလည်း မရှိ။ သီဟိုဠ်ကျွန်း၌ရှိသော အဋ္ဌကထာသည် စင်ကြယ်၏။ သင်္ဂါယနာ ၃ တန်တင်သော ပါဠိတော်ကို သီဟိုဠ်သို့ အရှင်မဟိန္ဒမထေရ် ဆောင်၏။ သာရိပုတ္တရာ စသော အရှင်မထေရ်မြတ်တို့ပြသော စကားအစဉ်ကိုကြည့်ရှု၍ သီဟိုဠ်ဘာသာဖြင့်ထားအပ်သော အဋ္ဌကထာတို့ကို သီဟိုဠ်သို့သွားပြီးလျှင် သီဟိုဠ်ဘာသာကိုနာ၍ မာဂဓဘာသာပြန်လော့ဟု စေတော်မူ၏။' (ဤကား စူဠဝင်ကျမ်းနှင့်အညီတည်း။)

ထိုအခါ 'သုဝဏ္ဏဘူမိ'မည်သော သထုံပြည်၌ အစစွာမင်းပြုသော သီဟရာဇာမင်းမှ သားမြေးမပျက် ၂၅ ဆက်မြောက်ဖြစ်သော ဓမ္မပါလမင်းသည် သာသနာတော်၌ အလွန်ကြည်ညိုရကား အရှင်ဗုဒ္ဓဃောသအား ဆင်ဖြူတော်တစ်စီး၊ အမတ်ကြီး ၄ ယောက်နှင့်တကွ အထူးထူးသောလက်ဆောင်တို့ဖြင့် ချီးမြှင့်ပေ၏။ အရှင်ဗုဒ္ဓဃောသလည်း ပုသိမ်သင်္ဘောဆိပ်မှ မဇ္ဈိမဒေသသို့ကူးတော်မူပြီးလျှင် မဇ္ဈိမဒေသ၌ မဟာဗောဓိ၊ သတ္တဋ္ဌာန၊ နေရဉ္ဇရာ၊ ပုဗ္ဗာရုံကျောင်းတော် စသောပုံစံများကို ပန်းချီတို့ရေးစေပြီးလျှင် သီဟိုဠ်ကျွန်းသို့ကူးအံ့သည်ကို ကြံတော်မူ၏။ ။ ဤကား ရာဇဝင်နှင့် အညီတည်း။

ထိုအခါ အမြင် ၁၀၀၀ ရှိသော သိကြားနတ်မင်းသည် စက္ခုပသာဒ၏ ကြည်လင်ခြင်း၊ မဆာမလောင် အာဟာရ၏ပြည့်စုံခြင်း အကျိုးရှိသော ကြစုသီး ၂ လုံး၊ အလိုရှိတိုင်းပြီးစေနိုင်သော ကညစ်ကို ကပ်လှူလိုက်သဖြင့် ဒက္ခိဏဒေသ ဘင်္ဂရိသင်္ဘောဆိပ်သို့သက်၍ သင်္ဘောဖြင့် သီဟိုဠ်ကျွန်းသို့ ကူးရောက်တော်မူ၏။ ။ ဤကား ဗုဒ္ဓဃောသုပ္ပတ္တိ၊ သာသနဝံသနှင့် အညီတည်း။

ထိုအခါ သီဟိုဠ်ကျွန်း မဟာဝိဟာရ ပဓာနဃရ၌ သံဃပါလမထေရ်ထံ ထေရဝါဒနှင့်တကွ သီဟိုဠ် အဋ္ဌကထာကိုနာ၍ ရေးဦးစွာ ဝိသုဒ္ဓိမဂ်ကျမ်းကို ပြု၏။ ထို့နောက် အလုံးစုံသော အဋ္ဌကထာကျမ်းတို့ကို မာဂဓ ဘာသာပြန်တော်မူ၏။ ။ ဤကား စူဠဝင်ကျမ်းနှင့် အညီတည်း။

ထိုမှတစ်ပါး သီဟိုဠ် အရှင်ဗုဒ္ဓမိတ္တဆရာထံ မဟာအဋ္ဌကထာ၊ မဟာပစ္စရိတ်အဋ္ဌကထာ၊ ကုရုန္ဒီအဋ္ဌကထာ ဤ ၃ ကျမ်းကို သင်ယူ၍ ကျမ်းအများ ပြုတော်မူ၏။ ။ ဤကား အရှင်ဗုဒ္ဓဃောသ ပြုတော်မူသော ဝိနည်း ပရိဝါအဋ္ဌကထာ နိဂုံးနှင့် အညီတည်း။

ဤသို့လျှင် အရှင်ဗုဒ္ဓဃောသမထေရ်သည် ဆင်ဖြူလက်ဆောင်ဖြင့် မဟာနာမမင်းအား ပန်ကြား၍၊ ပိဋကတ် ၃ ပုံ အဋ္ဌကထာနှင့်တကွစီရင်သော ဝိသုဒ္ဓိမဂ်ကျမ်း ၃ စောင်အနက် တစ်စောင်ကိုဆောင်ယူခဲ့၍၊ ဇမ္ဗူဒိပ်သို့ ကူးသောအခါတွင် သိကြားလာ၍ 'ဇမ္ဗူဒိပ် မဇ္ဈိမဒေသတွင် သာသနာတော်တည်ရပ် မရှိချေပြီ။ သာသနာထွန်းရာ သည် အဝန်း ၉၀၀ မဇ္ဈိမဒေသဖြင့် အရှေ့တောင်ထောင့်လက်နား ပစ္စန္တဒေသဝနဝါသီ၊ သရေခေတ္တရာ၊ သီရိ ပစ္စယာ၊ ရာမညဒေသ စသော အရပ်များတွင် သာသနာတော် ၅ ထောင်ကုန်အောင် တည်ထွန်းအံ့။ ထိုအရပ်သို့သာ ဆောင်ယူတော်မူ' ဟု လျှောက်ထားသဖြင့် 'သုဓမ္မဝတီ'မည်သော သထုံမြို့သို့ ဆောင်ယူ ကူးရောက်တော်မူသည်။ ထိုအခါ ရာမညတိုင်းအလုံး အုတ်အုတ်ကျက်ကျက် တစ်ပြိုင်နက်ကျော်စောသဖြင့် မင်း၊မိဖုရား၊ပြည်သူပြည်သား လူရှင်အပေါင်းတို့သည် အထူးထူးသော သဘင်ပွဲလမ်း ပူဇော်ခြင်းတို့ဖြင့် ကြိုယူကုန်သည်။ သဗ္ဗညုမြတ်စွာဘုရား ထင်ရှားကြွရောက်တော်မူလာသကဲ့သို့ ရှိသေလေးမြတ်စွာဆောင်ယူ၍၊ မြို့နန်းသို့ရောက်လျှင် ရွှေနန်းတော်ဦး၌ သာယာလှစွာသော မြေအပြင်တွင် သုဓမ္မာမဏ္ဍပ်ဆောက်၍ 'ပိဋကတ်တော်' ဟူသော ဓမ္မစေတီတော်ကို ကောင်းစွာ သွင်းထားကြသတည်း။ ။ မှန်နန်းရာဇဝင်။

အထက်ပါ မှန်နန်းရာဇဝင်တော်၏ အဆိုအမိန့်ကို အချုပ်အားဖြင့်ဖော်ပြရလျှင် ရှင်မဟာဗုဒ္ဓဃောသသည် သီဟိုဠ် စူဠဝံသကျမ်းအရ ဗောဓိပင်အနီးရွာမှ ပုဏ္ဏားလုလင်ဖြစ်ကြောင်း သာမညမျှသာ ဖော်ပြထားပြီး၊ မွန်မြန်မာ ရာဇဝင်ဟောင်းများ၊ ဗုဒ္ဓဃောသကျမ်း၊ သာသနဝံသကျမ်းများအရ သုဝဏ္ဏဘူမိ (သထုံ)ပြည်မှ ဖြစ်ကြောင်း၊ ပိဋကတ်တော်များကိုကူးယူပြီးနောက် သထုံသို့ပင် ပြန်လည်ကြွရောက်တော်မူခဲ့ကြောင်း သိရှိရသည်။

အထူးမှာ ရှင်မဟာဗုဒ္ဓဃောသ၏ ကြစုသီး၊ ကညစ် ရရှိမှုနှင့်စပ်လျဉ်း၍ မှန်နန်းနှင့် သာသနာလင်္ကာရ စာတမ်းအဆို အနည်းငယ်ကွဲသည်ကို တွေ့ရှိရသည်။ သာသနာလင်္ကာရစာတမ်း၌ 'ရှင်မဟာဗုဒ္ဓဃောသအသွားနှင့်

ရှင်ဗုဒ္ဓဒတ်အပြန် ပင်လယ်ပြင်တွင် သင်္ဘော ၂ စီးဆုံမိသောအခါ "ကျွန်ုပ်စီရင်သော ဝိနာလင်္ကာရကျမ်းကို စကားပေါ့ဖြစ်သည်။ အဋ္ဌကထာ ဋီကာ စကားလေး မဟုတ်'ဟူ၍ ပိဋကတ်ကို မပြန်ခဲ့ မကူးခဲ့ရ။ သင်မူကား သည်ပိဋကတ် ၃ ပုံအဖွင့် အဋ္ဌကထာစကားလေးကို ပြုပါလေ"ဟု ရှင်ဗုဒ္ဓဃောသကို ရှင်ဗုဒ္ဓဒတ်ကမှာထား၍ မိမိအား သိကြားမင်းပေးသော ဖန်ခါး (ကြစု)သီး, သံအရိုးတပ်ကညစ်နှင့် သွေးကျောက်တို့ကို ပေးလိုက်၏' ဟု ရေးသားဖော်ပြထားသည်။

ပိဋကတ်တော်များကို သထုံသို့ယူဆောင်ခဲ့ခြင်းအတွက် အဆိုအမိန့်ကွဲလွဲမှု မရှိကြသော်လည်း ရှင်မဟာဗုဒ္ဓဃောသ၏ ဇာတိရပ်မြေ, မျိုးရိုးနှင့်စပ်လျဉ်း၍ အထက်ဖော်ပြပါ မှန်နန်းရာဇဝင်တော်ကြီး၏အဆိုအမိန့်အပြင် အခြားအဆိုအမိန့်များလည်း ရှိပါသေးသည်။

မော်လမြိုင် တောင်ပေါက်ဆရာတော် အရှင်စက္ကပါလ၏ ဗုဒ္ဓသာသနိက ပထဝီဝင်ကျမ်းတွင် 'အရှင်မဟာဗုဒ္ဓဃောသသည် အန္ဓကတိုင်းသား အန္ဓက(တေလဂူ)ပုဏ္ဏားမျိုး ဖြစ်သည်' ဟုဆိုသည်။ အချို့ကလည်း အထက်၌ ဖော်ပြခဲ့သည့်အတိုင်း ရှင်မဟာဗုဒ္ဓဃောသည် ဗုဒ္ဓဂယာမှတစ်ဆင့် သီဟိုဠ်ကျွန်းသို့ကူးရန် အိန္ဒိယတောင်ပိုင်းသို့ ကြွသွားရာ ကိဋ္ဌိပူရမြို့၌တွေ့ရသည်ကို အစွဲပြု၍ 'ကိဋ္ဌိပူရမြို့သား'ဟု ဆိုကြပြန်သည်။

အမရပူရ ပထမမြို့တည် ဘိုးတော်ဘုရားလက်ထက်၌ မဲထီးဆရာတော်ရေးသော ဝံသဒီပနီကျမ်းတွင် 'ရှင်မဟာဗုဒ္ဓဃောသသည် မြန်မာနိုင်ငံ သုဝဏ္ဏဘူမိ(သထုံ)ပြည်မှ ဖြစ်သည်' ဟုဆိုသည်။

ကောဇာသက္ကရာဇ် ၁၂၂၈ ခုနှစ်၌ ဆရာတော် ဦးဝရသမ္ဘောဓိ(ရေစကြို) ရေးသော ဓမ္မပဒ မဟာဋီကာပါဌ်တွင် 'ရှင်မဟာဗုဒ္ဓဃောသမထေရ်သည် သာသနာသက္ကရာဇ် ၈၀၀ ကျော်တွင် သုဓမ္မပူရ (သထုံ)နှင့် မနီးမဝေးသော ဃောသရွာမှ 'ကေသီ' မည်သောပုဏ္ဏေးမမှ ဖွားသန့်စင်သော သားမြတ်ရတနာ ဖြစ်သည်' ဟုဆိုသည်။

မောင်းထောင် သာသနာပိုင်ဆရာတော် ရေးသားသော သာသနဝံသပဒီပိကာကျမ်းတွင်လည်း အထက်ပါ အလားတူ 'ရှင်မဟာဗုဒ္ဓဃောသသည် သထုံဇောဓိပင်မှ မနီးမဝေးသော ဃောသရွာမှ 'ကေသီ' မည်သောပုဏ္ဏေးမ၏ သားရတနာဖြစ်ကြောင်း' ဖော်ပြထားသည်။

အထက်ပါ အဆို ၂ ရပ်အရ သုဓမ္မပူရ (သထုံ)နှင့် မနီးမဝေး၌တည်ရှိသော ဇောဓိပင်မှာ ရှင်သောဏ, ရှင်ဥတ္တရထေရ်တို့ သာသနာပြုကြွလာစဉ်ကပင် မျိုးစေ့ယူခဲ့ပြီးစိုက်ပျိုးထားသော ဇောဓိပင် ဖြစ်သည်ဟု ဆိုပါသည်။ ဤအဆိုနှင့်ဆက်စပ်၍ သထုံမင်းဆက် ၅၁ ဆက်မြောက် ဥဒိန္နရာဇာမင်းလက်ထက် ပြာဏဒဿီရဟန္တာသည် မဇ္ဈိမဒေသ ဥရုဝေလတောစခန်း မဟာဇောဓိရင်ပြင်တော်သို့ တန်ခိုးတော်ဖြင့် နေ့စဉ်ကြွရောက် တံမြက်စည်းလှည်းခြင်း ဝတ်နိစ္စဘတ်ဆောင်ရွက်ပြီးသော်၊ သထုံသို့ပြန်ကြွကာ ဆွမ်းခံကြောင်းနှင့် ဇောဓိပင်မှ မျိုးစေ့,အကိုင်းအခက်, အရွက်များကို ယူဆောင်၍ သထုံတွင်စိုက်ပျိုးတော်မူခဲ့ကြောင်း ကလျာဏီကျောက်စာအဆိုကိုလည်း စဉ်းစားဖွယ်တစ်ရပ်အဖြစ် ကြုံလာရပြန်သည်။ ရဟန္တာအရှင်မြတ် ပြာဏဒဿီသည်လည်း သာသနာပြု ရှင်သောဏ, ရှင်ဥတ္တရမထေရ်တို့၏ အဆက်အနွယ်ပင် ဖြစ်သည်။ ဤအရှင်သည် ရဟန္တာဖြစ်၍ ဈာန်အဘိညာဉ်တန်ခိုးဖြင့် မဇ္ဈိမဒေသရှိ မဟာဇောဓိရင်ပြင်သို့ ကြွရောက်ပြီး၍၊ ခဏချင်း သထုံသို့ပြန်ကြွ၍ ဆွမ်းခံနိုင်သည်ဟု ယူဆနိုင်သကဲ့သို့၊ သထုံနှင့်မနီးမဝေးရှိသော မဟာဇောဓိရင်ပြင်သို့ ကြွရောက်ဝတ်ပြုပြီး သထုံသို့ပြန်ကြွ၍ ဆွမ်းခံဝင်သည်ဟုလည်း ယူဆနိုင်ပြန်သည်။

နောက်ဆုံးအဆိုတစ်ရပ်မှာ 'သရဏင်္ကရ' အမည်ရှိသောပုဂ္ဂိုလ်က သီဟိုဠ်ဘာသာဖြင့် ရေးသားထားသော ဗုဒ္ဓဃောသစာအုပ်တွင် ရှင်မဟာဗုဒ္ဓဃောသသည် သထုံမှပင် သီဟိုဠ်သို့ ကြွရောက်ပြီး၊ သီဟိုဠ်မှအပြန် မုတ္တမ

ဆိပ်ကမ်းသို့ ကပ်ရောက်ခဲ့ကြောင်း ရေးသားဖော်ပြခဲ့သည်။ ၎င်းအပြင် အခြားအဆို ၂ မျိုးကိုလည်း ဆက်လက်ရေးသားဖော်ပြထားသည်ကို တွေ့ရသည်။ ၎င်းအဆို ၂ မျိုးမှာ ရှင်မဟာဗုဒ္ဓဃောသသည် မြန်မာပြည် ရာမညတိုင်းသားဖြစ်သည်ဟု အချို့ကဆိုကြောင်းနှင့် အိန္ဒိယတောင်ပိုင်း အန္ဓကတေလဂူတိုင်းသားဖြစ်သည်ဟု အချို့ကဆိုကြောင်း ဟူသောအဆိုပင် ဖြစ်သည်။

အထက်ပါ အဆိုအမိန့်များကို ယုတ္တိဗေဒနည်းကျကျ ဆင်ခြင်စဉ်းစားကြည့်လျှင် ရှင်မဟာဗုဒ္ဓဃောသသည် သုဝဏ္ဏဘူမိ သထုံမှ ကြွရောက်သွားခြင်းဖြစ်ပြီး၊ သုဝဏ္ဏဘူမိ (သထုံ)သို့ ပြန်လည် ကြွရောက်တော်မူခဲ့ကြောင်း ဟူသောအဆိုသာ သဘာဝယုတ္တိရှိသည်ကို တွေ့ရှိရသည်။ အဘယ့်ကြောင့်ဆိုသော် -

၁။ ရှင်မဟာဗုဒ္ဓဃောသ ကြွရောက်တော်မူသော သာသနာသက္ကရာဇ် ၉၀၀ ကျော် ၁၀၀၀ အတွင်းကာလသည် အိန္ဒိယ၌ ထေရဝါဒဗုဒ္ဓဘာသာ ကွယ်ပျောက်နေပြီးဖြစ်သည်က တစ်ကြောင်း။ (ထေရဝါဒဗုဒ္ဓဘာသာသည် သာသနာသက္ကရာဇ် ၆၀၀ ခန့်မှစ၍ အိန္ဒိယ၌ ကွယ်ပျောက်ခဲ့ရခြင်းအကြောင်းကို 'အခန်း ၉'၌ ဖော်ပြထားပါသည်။ ၎င်းအပြင် ထိုအချိန်၌ ရှင်မဟာဗုဒ္ဓဃောသသည် အိန္ဒိယရှိ ဂိုဏ်းကွဲဗုဒ္ဓဘာသာဝင် ရဟန်းတစ်ပါးအနေဖြင့် သီဟိုဠ်သို့သွားရောက်ခဲ့သည်မှန်လျှင်၊ တရုတ်ရဟန်းတော် ဖာဟီယန်ကဲ့သို့ မဟာယာနအနွယ်အဘယဂီရိဂိုဏ်းသို့သွား၍ သက္ကတပိဋကတ်တော်များကိုသာ ကူးယူခဲ့ရမည် ဖြစ်သည်။ မဟာဝိဟာရဝါသီဂိုဏ်းသို့သွား၍ ထေရဝါဒ (မာဂဓ) ပိဋကတ်တော်များကို ကူးယူခဲ့သည် ဟုဆိုပြန်လျှင်လည်း ယင်းမာဂဓပိဋကတ်တော်များကို အိန္ဒိယသို့သာ ယူဆောင်သွားပြီး ရှိရင်ဂိုဏ်းကွဲ ဗုဒ္ဓဘာသာရဟန်းများနှင့် စင်ပြိုင်၍ ထေရဝါဒဗုဒ္ဓသာသနာတော်ကို ထူထောင်ခဲ့တန်ရာသည်။ ယခုမူ ယင်း ပိဋကတ်တော်များကို သုဝဏ္ဏဘူမိတိုင်း သုဓမ္မဝတီ (သုဓမ္မပူရ) ခေါ် သထုံပြည်သို့သာ ယူဆောင်တော်မူခဲ့သည်ကို သတိပြုကြကုန်ရာသည်။)

၂။ 'ပါဠိမတ္တံ ဣဓာနီတံ၊ နတ္ထိ အဋ္ဌကထာ ဣဓ' ဟူသော စူဠဝင်အဆိုအရ ဤ၌ ပါဠိတော်ကိုသာ ဆောင်ယူခဲ့ကြောင်း။ ဤ၌ အဋ္ဌကထာ မရှိကြောင်း (သီဟိုဠ်၌သာ အဋ္ဌကထာရှိကြောင်း) ဟူသော အရှင်ရေဝတ၏ စကားတွင် ဣဓ-ဤ၌ ဟူသော အာဓာရပုဒ်၏ အပါဒါန်အဖြစ်၊ တစ်နည်းအားဖြင့် အာနီတံ-ဟူသော ကြိယာပုဒ်၏ အပါဒါန်အဖြစ် သုဝဏ္ဏဘူမိ (သထုံ)ကို ယူမှ သင့်လျော်မည်ဖြစ်သည်က တစ်ကြောင်း၊ အရှင်ရေဝတ၏ ဆိုလိုရင်းအဓိပ္ပာယ်မှာ 'ဤသုဝဏ္ဏဘူမိ (သထုံ)၌ အိန္ဒိယမှ ဆောင်ယူခဲ့သော ပါဠိတော်သာ ရှိပြီး အဋ္ဌကထာ မရှိကြောင်းကို' ဆိုလိုရင်းဖြစ်သည်။ ယင်း ဣဓ-အာဓာရပုဒ်အနက်ကို 'ဤဇမ္ဗူဒိပ်၌'ဟု မှန်နန်းရာဇဝင်၌ဖော်ပြပြီး၊ အာနီတံ-အနက်ကို 'ဆောင်ယူအပ်၏' ဟုမဖော်ပြဘဲ 'ရှိသည်' ဟုဖော်ပြထားသည်။ ဤဖော်ပြချက်အရ ဇမ္ဗူဒိပ်ကို အိန္ဒိယယူပြီး 'ဤအိန္ဒိယ၌ အိန္ဒိယမှဆောင်ယူခဲ့သော ပါဠိတော်သာရှိပြီး အဋ္ဌကထာ မရှိ'ဟု ဆိုလိုရင်း ဖြစ်သွားသည်။ ဤအဆိုသည် သဘာဝယုတ္တိနှင့် အလွန်ဆန့်ကျင်နေမည်ဖြစ်သည်။ ထို့ကြောင့် ယင်းစူဠဝင်အဆို၌ အာဓာရ (ဆိုက်ရောက်ရာပုဒ်)အဖြစ် သထုံကိုယူပြီး၊ အပါဒါန် (ထွက်ခွာရာပုဒ်)အဖြစ် အိန္ဒိယကိုယူမှ သဘာဝကျနိုင်ပါသည်။ သို့ဖြစ်၍ ဖော်ပြပါ အကြောင်း ၂ ချက်ဖြင့်ပင် ရှင်မဟာဗုဒ္ဓဃောသသည် သထုံမှ ကြွသွားခြင်းဖြစ်ကြောင်း ထင်ရှားလှပါတော့သည်။

ဤ၌ ရှင်မဟာဗုဒ္ဓဃောသသည် သထုံမှတစ်ဆင့် ပထမ မဇ္ဈိမဒေသ အိန္ဒိယသို့ဝင်၍ သတ္တဌာန စသော ပုံစံများကိုယူပြီးမှ သီဟိုဠ်သို့ ကြွရောက်ရသောကြောင့် အချို့က အိန္ဒိယတိုင်းသား ဟု အထင်ရောက်နေခြင်း ဖြစ်သည်။

ရှင်မဟာဗုဒ္ဓဃောသ၏ သီဟိုဠ်သို့သွားရောက်ပြီး အဋ္ဌကထာများကို ဘာသာပြန် ပြုစုကူးယူခြင်းကိစ္စ၊ သထုံသို့ ပိဋကတ်တော်များ ရောက်ရှိခြင်းကိစ္စများနှင့် စပ်လျဉ်း၍ စူဠဗုဒ္ဓဃောသအကြောင်းကို ကမ္ဘည်းကျောက်စာ ဝန်ဟောင်း ရန်ကုန်တက္ကသိုလ်ကောင်စီလူကြီး ဆီနိတ်လူကြီးဟောင်းဖြစ်သော ဦးလူဖေဝင်းက ၁၉၇၆ ခုနှစ် ဇန်နဝါရီလထုတ် မွန်မဂ္ဂဇင်းတွင် အောက်ပါအတိုင်း ဖော်ပြထားသည်ကို တွေ့ရှိရသည် -

'လွန်ခဲ့သော နှစ်ပေါင်း ၁၅၀၀ မှ အစပြု၍ ထိုစဉ်က မွန်ဒေသ, သထုံ, တိုက်ကုလား, ကေလာသ, မုတ္တမ, ပုသိမ်, ဟံသာဝတီ, ပဲခူးတို့တွင် ရှင်မဟာဗုဒ္ဓဃောသထက် ဦးဦးဖျားဖျား လင်္ကာဒီပ (သီရိလင်္ကာ)ကျွန်းသို့ အခေါက်ခေါက်ရောက်ခဲ့သော စူဠဗုဒ္ဓဃောသသည် ဝိသုဒ္ဓိမဂ်ကျမ်းကို ပြုစုဖို့ အဘိယာစကပုဂ္ဂိုလ်ဖြစ်ထိုက်သည့် အပြင် ရှင်မဟာဗုဒ္ဓဃောသ ပြုစုသော သီဟိုဠ်အဋ္ဌကထာမှ မာဂဓလို အကျဉ်းချုံး၍ ဘာသာပြန်ဆိုကာ ပါဠိလို ပြုသမျှ အဋ္ဌကထာကျမ်းများစွာကိုလည်း မိတ္တူကူးယူကာ ရှင်မဟာဗုဒ္ဓဃောသနှင့်အတူ မိမိ၏ ဇာတိတိုင်းပြည် မွန်နိုင်ငံသို့ သီဟိုဠ်ကျွန်း၌ ရှိသမျှသော သာသနိကကျမ်းမှန်သမျှကို မိတ္တူရယူ စုဆောင်းကာ ယူဆောင်လာခဲ့ခြင်း ကြောင့် လွန်ခဲ့သော ခရစ်ရာစု နှစ် ၅၀၀ ကတည်းက မွန်ဒေသနှင့် သီဟဠဒီပသည် ထိုစဉ်အခါ ခေတ်ကာလ၌ ဓမ္မရတနာ လောကုတ္တရာဥစ္စာ အများဆုံးသောနိုင်ငံများ ဖြစ်ကြသည်ဟု ကမ္ဘာ၏အဆိုပြုမှတ်ခြင်းကို ခံခဲ့ရလေသည်။

'ထိုမှတစ်ပါးလည်း ခရစ်နှစ် ၇ ရာစုသို့ ရောက်သောအခါ အိန္ဒိယတောင်ပိုင်း စောဠတိုင်းသား ဒမိဠ လူမျိုးများက သီဟိုဠ်ကျွန်းသို့ ချင်းနင်းဝင်ရောက် တိုက်ခိုက်မည့်ဆဲဆဲတွင် သီရိလင်္ကာ သံဃာများစွာတို့သည် မိမိတို့ကျောင်းတိုက်အသီးသီးတို့မှ ပရိယတ္တိဆိုင်ရာ ပေစာထုပ်ရေပေါင်းများစွာတို့ကို သယ်ဆောင်ကာ ရွက်သင်္ဘော ပေါင်းများစွာတို့ပေါ်၌တင်၍ စီးနင်းလိုက်ပါလာကြကာ မွန်တိုင်း မွန်ပြည်နယ်၌ ခိုလှုံနေထိုင်ကြလေတော့သည်။ ထိုစဉ်က မွန် ရဟန်းပရိသတ်တို့ကလည်း သီဟိုဠ်ကျွန်းမှရောက်လာသမျှ ကျမ်းကြီးကျမ်းငယ်အသွယ်သွယ်တို့ကို လက်ရေးမူလုပ်ကြ၊ ကျမ်းစာရင်းပြုလုပ်ကြ၊ အမျိုးမျိုးအားထုတ်ကြခြင်းတို့ကြောင့် ခရစ်နှစ် ၇ ရာစု, ၈ ရာစု မှသည် သထုံ မနူဟာမင်း ပုဂံသို့ရောက်ရှိသွားသော ခရစ်နှစ် ၁၀၅၇ ခုနှစ်အထိ နှစ်ပေါင်း ၂၀၀ ကျော် ၃၀၀ နီးပါးအတွင်း၌ မွန်တို့၏ရာဇဓာနီတိုင်းပြည်ကြီးသည် ကမ္ဘာ့အလယ်တွင် ထီးထီးထွားထွား ကြီးကြီးမားမား ပရိယတ္တိသာသနာဆိုင်ရာ ဗဟုသုတအဖြာဖြာ လိုလေသေးမရှိအောင် သာသနာတန်ဆောင် သာသနာ့အရောင် နေ,လ,ကြယ်တာရာ ဗိမာန်ကြီးပမာ ဖြစ်ခဲ့ရပါသည်။ ခရစ်နှစ် ၁၁ ရာစု အစလောက်တွင် မွန်ရဟန်းပညာရှိ များစွာတို့သည် မိမိတို့ရာဇဓာနီ မင်းနေပြည်၌သာမက ပသျှူးကျွန်းဆွယ်, အင်ဒိုနီးရှား, ကမ္ဘောဒီးယား, အင်ဒိုချိုင်းနား, လဝ(လော)နှင့် မြန်မာဒေသ(ပုဂံ)တို့ကို သာသနာပြုအဖွဲ့များဖွဲ့လျက် ခရီးပြင်း ခရီးဝေးထွက်ခွာကာ ပရိယတ္တိဗုဒ္ဓဓမ္မကို ဝေ၄ ဖြန့်ချိကြလေသည်။'

ဤနည်းဖြင့် သထုံမှ ပုဂံသို့ ရောက်ရှိသွားသော ပိဋကတ်တော်များမှာလည်း အထက်ဖော်ပြပါ ပိဋကတ် တော်များပင် ဖြစ်သည်။ သထုံမှ ပုဂံသို့ရောက်ရှိသွားသော ပိဋကတ်တော် ၃ ပုံမှာ အစုံ ၃၀ ပင် ရှိသည်။

## ၃၀၀၀ ဘီစီ၊ ဘက်ဘီလိုးနီးယန်း လူ့အဖွဲ့အစည်းနှင့် ကိုးကွယ်မှုများ

၂၃၂၈ ဘီစီလောက်တွင် အီလမ်မိုက်လူမျိုးတို့သည် ဆူးမားနှင့် အက်ကက်နိုင်ငံကို ထိပါးလာကြသည်။ ထိုအချိန်၌ အမိုရိုက်လူမျိုးများကလည်း မြောက်ဘက်မှဆူးမားနှင့် အက်ကက်နိုင်ငံတော်သို့ ဝင်ရောက်လာကြပြီး ဘက်ဘီလိုဒေသ၌ အခြေချနေထိုင်ကြသည်။ အမိုရိုက်လူမျိုးများကို ၄င်းဒေသကိုစွဲ၍ 'ဘက်ဘီလိုးနီးယန်း'ဟု ခေါ်သည်။ ဘက်ဘီလိုးနီးယန်းတို့သည် အီလမ်မိုက်တို့နှင့် အမြဲတိုက်ခိုက်နေကြရသည်။ သို့ရာတွင် ၄င်းတို့သည်

၂၀၀၀ ဘီစီခန့်မှန်းတက်လာသော ဟန်မူရာဘီ (အချို့အဆို ၁၉၄၈-၁၉၀၅ ဘီစီ) လက်ထက်တွင် အီလမ်မိုက် လူမျိုးတို့ကို အပြီးတိုင် အောင်မြင်စွာတိုက်ခိုက်နှင်ထုတ်နိုင်ခဲ့သည်။ ဟန်မူရာဘီလက်ထက် ဘက်ဘီလိုမြို့တော် သည် ကြီးကျယ်ထင်ရှားလာသည်။ ဟန်မူရာဘီကိုဥပဒေ ရေးထွင်းထားသောကျောက်တုံးကြီးကို မာဒပ်နတ်မင်း ကြီးအတွက်ဆောက်ထားသော ဝတ်ကျောင်းထဲ၌ စိုက်ထူထားသည်။ သူသည် ဘာသာတရားကိုင်းရှိုင်းသူလည်း ဖြစ်သည်။

ဘက်ဘီလိုနီးယန်းတို့သည် ဆူးမားရီးယန်းတို့၏ နတ်များကိုပင် ဆက်လက်ကိုးကွယ်ခဲ့ကြသည်။ သို့သော် အမိုရိုက်တို့၏မာဒပ်နတ်ကြီးကား အကြီးဆုံးဖြစ်သည်ဟု ပြဋ္ဌာန်းထားသည်။ နတ်သမီးများတွင် 'အစ်ရှတာ'ခေါ် ပီယနတ်သမီးကို အကြီးဆုံးအဖြစ် ပြဋ္ဌာန်းထားသည်။ ၄င်းနတ်သမီးကို နောင်အခါ ဂရိတို့က 'အဲဖရိုဒိုက်တီ', ရောမတို့က 'ဗီးနပ်စ်' ဟုခေါ်၍ ကိုးကွယ်ခဲ့ကြသည်။ အချုပ်အားဖြင့် ဘက်ဘီလိုးနီးယန့်တို့သည် နတ်ဘုရားအမျိုးမျိုးကို ကိုးကွယ်ကြသည်။ နတ်ဘုရားများသည် လူတို့စိတ်ထဲတွင် ခံစားနေရသောဝေဒနာများကို သိရှိခံစားနိုင်ကြပြီး လူတို့ ကူညီစောင်မနိုင်သည်ဟု ယူဆကြသည်။ အထူးသဖြင့် ကျောင်းတွင် ဘုန်းကြီးများရှိ၍ ၄င်းတို့သည် ဘုရားနှင့် စိတ်ဓာတ်ချင်း အဆက်အသွယ်ရရှိသူများဟု မှတ်ယူပြီး လူတို့၏ရှေးဖြစ်ကို ဟောပြောခဲ့ကြ သည်။ ဗေဒင်အရ တိုင်းပြည်၏ရှေ့ရေးကိုလည်း ဟောပြောကြသည်။ ဘုရားရှိခိုးကျောင်းများကိုလည်း နိုင်ငံပိုင် ပြုလုပ်ထားပြီး ငွေကြေးဆိုင်ရာလုပ်ငန်းများ, သဘောတူစာချုပ်လုပ်ငန်းများ, သစ္စာဆိုပွဲများ, ကိုးကွယ်မှု အခမ်း အနားများကို ဘုရားရှိခိုးကျောင်းတွင် ဆောင်ရွက်ကြသည်။ မျက်မှောက်ဘဝတွင် ကောင်းမှုလုပ်မှ နောက်ဘဝတွင် ကောင်းကျိုးခံစားနိုင်မည်ဟု ယုံကြည်ကြသည်။ ဘုန်းကြီးများက ယဇ်ကောင် သိုးကိုသတ်၍ သိုး၏အသည်းပေါ်တွင် ပေါ်နေသော အမှတ်အသားကိုကြည့်၍ ဟောသော ဗေဒင်လည်း ပေါ်လာသည်။ နတ်ဝင်သည်များ, မျက်လှည့်ဆရာ များလည်း ပေါ်လာသည်။

ဟန်မူရာဘီဘုရင်ကြီး နတ်ရွာစံပြီးနောက် နှစ်ပေါင်း ၂၀၀ ကျော် (၁၇၄၆ ဘီစီ)လောက်တွင် ဘက်ဘီလိုးနီး ယန်းတို့သည် ကက်ဆိုက်လူမျိုးတို့၏လက်အောက်သို့ ကျရောက်ခဲ့ပြီး တိမ်မြုပ်သွားခဲ့တော့သည်။

## ၃၀၀၀ ဘီစီ၊ အဆီးရီးယန်းလူ့အဖွဲ့အစည်းနှင့် ကိုးကွယ်မှုများ

ဘက်ဘီလိုးနီးယားလွင်ပြင်အထက်၌ အဆူး (အာဆာ)နတ်ကိုအစွဲပြု၍ခေါ်သော အဆူးဒေသကို နောင်အခါ 'အဆီးရီးယား' ဟုခေါ်သည်။ ၄င်းဒေသနေသူများကိုလည်း 'အဆီးရီးယန်း' ဟုခေါ်သည်။ ဤ အဆီးရီးယန်းတို့သည် ၂၉၀၀ ဘီစီခန့်၌ လခြမ်းဒေသတွင် နိုင်ငံငယ်တစ်ခုကို စတင်ထူထောင်ခဲ့ကြသည်။ ၄င်းတို့၏ အဆူးမြို့ကြီးများကား အဆူး(အာဆာ)နှင့် နင်နီဗာမြို့တို့ ဖြစ်သည်။ အဆူး(အာဆာ)ကား ၄င်းတို့၏ စစ်နတ်အမည် ဖြစ်သည်။ သို့သော် အင်အားချည့်နဲ့၍ အဘက်ဘက်မှ တိုက်ခိုက်ခံနေရသည်။ သို့ရာတွင် ၁၂၀၀ ဘီစီခန့်၌ အဆီးရီးယန်းတို့ခေါင်းထောင် လာပြီး အနယ်နယ်အရပ်ရပ်သို့ နယ်ချဲ့ခဲ့ကြရာ ၇၂၂ ဘီစီမှ ၆၂၆ ဘီစီအတွင်း အုပ်စိုးသွားကြသော ဒုတိယမြောက် ဆာဂွန်၊ ၄င်း၏သား ဆာနက်အာရစ် (ဆင်နာချရစ်)၊ ၄င်း၏သား အီဆာဟက်ဒွန်၊ ၄င်း၏သား ဆာနက်အာရစ် (အာဆာဘာနီပါလ်)၊ ဘုရင် ၄ ဦး၏လက်ထက်တွင် အဆီးရီးယန်းအင်ပါယာလည်း အထွတ်အထိပ်သို့ ရောက်ခဲ့ တော့သည်။ နောက်ပိုင်းမင်းများကား လက်ရုံးရည်နှလုံးရည်မရှိသဖြင့် အင်ပါယာလည်း တဖြည်းဖြည်းဆုတ်ယုတ် လာရာ ၆၁၂ ဘီစီ (အချို့အဆို ၆၀၆ ဘီစီ)၌ နင်နီဗာမြို့သည် ခါးလ်ဒီးယန်းတို့လက်အောက် ကျရောက်ခဲ့သဖြင့် ၄င်းတို့အင်ပါယာတစ်ခုလုံး ပျက်သုဉ်းခဲ့ရတော့သည်။

အဆီးရီးယန်းတို့သည် ပထမ မာဒုက (မာဒပ်) ခေါ်သော ဘက်ဘီလိုးနီးယန်း နတ်ဘုရားနှင့် 'အစ်ရှတာ' ခေါ် ပီယနတ်သမီးတို့ကို ကိုးကွယ်ခဲ့ကြသည်။ နတ်များစွာကိုလည်း ကိုးကွယ်ခဲ့ကြသည်ဟု ဆိုသည်။ နောက်ပိုင်း

တွင် မိမိတို့၏ အမျိုးသားဘုရား အဆူး (အာဆာ)ကို ကိုးကွယ်ခဲ့ကြသည်။ ခေတ်ဦးပိုင်း၌ အဆီးရီးယန်းတို့သည် လယ်သမားများဖြစ်ကြ၍ အဆူး (အာဆာ)သည် ကောက်ပဲသီးနှံကိုသာ ပေးသည်ဟု ယုံကြည်ခဲ့သော်လည်း၊ နောင်အခါ အဆီးရီးယန်းတို့ စစ်သားများဖြစ်လာကြသောအခါ အဆူး (အာဆာ)ကို နေဘုရား၊စစ်ဘုရားအဖြစ် ပြောင်းလဲ ယုံကြည်လာကြပြန်သည်။ နိုင်ငံရေးကိစ္စများ၌ ၎င်းဘုရားကိုတိုင်တည်၍ ဆောင်ရွက်လေ့ရှိကြသည်။ ဘုရားတစ်ဆူတည်းကို ကိုးကွယ်ကြသည်၊ ဘုန်းကြီးများသည် ဘုရင်လောက် အာဏာမရှိကြ။ ဘုရင်၌ ဘာသာရေး အာဏာရှိသည်။

အဆီးရီးယန်းတို့သည် ဘက်ဘီလိုးနီးယန်း၊ အီဂျစ်တို့ကဲ့သို့ပင် သေသူ၏ဝိညာဉ်သည် သေသူအလောင်း အနီးတွင် အကြာကြီးရှိနေသည် ဟုယုံသော်လည်း၊ နောက်ဆုံးတွင် ရုပ်အလောင်းကို မီးသင်္ဂြိုဟ်ခဲ့ကြသည်။ သေလျှင် ဝိညာဉ်သည် ဘုရားထံ၌ အစစ်ဆေးခံရပြီး အပြစ်ဒဏ်နှင့် ဆုလာဘ်ကို ခံစား စံစားကြရသည်ဟုလည်း ယုံကြည်သည်။

သမိုင်းဆရာအချို့က အဆီးရီးယန်းတို့သည် တမလွန်ဘဝကို မယုံကြည်သောကြောင့် စာပေနှင့် ယဉ်ကျေးမှု များ တိုးတက်ခဲ့သော်လည်း၊ ကိုယ်ကျင့်တရားအဆင့်အတန်း မမြင့်ရုံသာမက စာရိတ္တမကျိုင်လည်း ခိုင်မြဲမှုမရှိကြ။ ထို့အပြင် စစ်ကိုသာ အမြဲတိုက်ခိုက်နေရသဖြင့် အလွန် ရက်စက်ကြမ်းကြုတ် ခက်ထန်ကြသည်ဟု မှတ်ချက်ပြုကြသည်။

## ၆၀၀ ဘီစီ၊ ခါးဒီးယန်းလူ့အဖွဲ့အစည်း

အဆီးရီးယားအင်ပါယာ ပြိုပျက်ပြီးနောက် ခါးဒီးယန်းတို့သည် ဒုတိယဘက်ဘီလုံမြို့တော်ကို ပြန်လည် ထူထောင်ခဲ့ကြသည်။ ခါးဒီးယန်းတို့သည် ဆီးမိုက်အနွယ်မှဆင်းသက်လာကြပြီး ၎င်းတို့ စတင်ရောက်လာ နေထိုင်ကြသည့် ခါးဒီးယားကိုအစွဲပြု၍ ၎င်းတို့ကိုလည်း 'ခါးဒီးယန်း' ဟုခေါ်ကြသည်။ ၎င်းတို့သည် ဘက်ဘီလိုးနီးယန်းတို့၏ယဉ်ကျေးမှုကိုပင် ဆက်ခံခဲ့ကြသူများ ဖြစ်ကြသည်။ နက်ဘူကက်နက်ဇာ (၆၀၄-၅၆၁) ဘီစီ မင်းလက်ထက်၌ အင်ပါယာကိုချဲ့ထွင်၍ ဟီဘရူးများကို ဘက်ဘီလုံသို့ သုံ့ပန်းအဖြစ် ခေါ်ဆောင်ခဲ့သည့်အပြင်၊ ဘက်ဘီလုံမြို့တော်ကိုလည်း ပို၍ ကြီးကျယ်ခမ်းနားလာအောင် ပြုပြင်ခဲ့သည်။ မြို့တော်၏တောင်ဘက်၌ တံတိုင်း ခတ်ထားသော ဝတ်ကျောင်းရပ်ကွက်ကြီး ရှိသည်။ ၎င်းအတွင်း၌ တိုင်းသူပြည်သားများကိုးကွယ်သည့် နတ်များ အတွက် ၎င်းဘုရင်က ဝတ်ကျောင်းအသစ်များကို ထပ်၍ ဆောက်လုပ်ပေးခဲ့သည်။ နတ်များတွင် ပီယနတ်သမီး အစ်ရှတာလည်း အပါအဝင် ဖြစ်သည်။ ၎င်းအပြင် ကမ္ဘာ့အံ့ဖွယ် ၇ မျိုးတွင် တစ်မျိုးအပါအဝင်ဖြစ်သော မိုးပျံ ဥယျာဉ်ကိုလည်း တည်ဆောက်ခဲ့သည်။

[မြန်မာ့စွယ်စုံကျမ်းတွင် - ၁- အီဂျစ်ရှိ ပိရမစ်ဂူများ၊ ၂- ဘက်ဘီလုံရှိ ဥယျာဉ်ပျံများ၊ ၃- အက်ဖီဆပ် အရပ်ရှိ အားတီးဖစ် (ရောမအခေါ် ဒိုင်ယာနာ) နတ်သမီး၏ နတ်ကွန်းကြီး၊ ၄- ၅-ဟယ်လီကာနက်ဆပ်မြို့ရှိ မောဆိုလီယမ်သင်္ချိုင်း၊ ၆- ရုတ်ကျွန်းရှိ ကြေးဝါရုပ်ထုကြီး၊ ၇- အလက်ဇန္ဒြီးယားမြို့ရှိ ဖေးရော့မီးပြတိုက်ကြီးများ ကို ကမ္ဘာ့အံ့ဖွယ် ၇ ဖြာအဖြစ် ဖော်ပြထားသည်။]

ဤ ခါးဒီးယန်းခေတ်တွင် နက္ခတ်ပညာလည်း တိုးတက်ခဲ့သည်။ သို့သော် ဂြိုဟ် ၅ လုံးသာ တွေ့ရသေး သည်။ ၎င်း ဂြိုဟ် ၅ လုံးကို ၎င်းတို့ကိုးကွယ်သော နတ်သား ၅ ပါးအမည်ကို ပေးခဲ့ကြသည်။ သို့သော် ရောမခေတ်ရောက်သောအခါ ရောမတို့က ပီယနတ်သမီး အစ်ရှတာဂြိုဟ်ကို 'ဗီးနပ်'၊ မာဒပ်စစ်နတ်သားကို 'ဂျူပီတာ' ဟုပြောင်းလဲခေါ်ခဲ့ကြသည်။ ခါးဒီးယန်းတို့သည် နတ်သမီး၊နတ်သား ၅ ပါးနှင့် နေနတ်၊ လနတ် ၂ ပါး ပေါင်း ၇ ပါးကို နေ့စဉ် တစ်ပါးစီ ပူဇော်ပသပွဲပြုလုပ်ကြသည်။

ဤကိုအစွဲပြု၍ ရက်သတ္တပတ်၌ ၇ ရက် ဖြစ်လာရသည်။ အလှည့်ကျရာ နတ်အမည်ကိုစွဲ၍ အလှည့်ကျရာ နေ့ကို ခါးဒီးယန်းဘာသာအားဖြင့် အမည်ပေးခဲ့ကြသည်။ ကာလရွေ့လျောလာသည့်အခါ ခါးဒီးယန်းအမည်များ

ပျောက်ဆုံးပြီး ဆန်းဒေး(နေနတ်သားအမည်)၊ မန်းဒေး(လနတ်သားအမည်) စသည်ဖြင့် ဖြစ်လာရတော့သည်။ ခါးဒီးယန်းလူမျိုးမှ အထင်ရှားဆုံး နက္ခတ်ပညာရှင် ၂ ဦး ပေါ်လာခဲ့သည်။ နဘူရီမန်းနှ ၅၀၀ ဘီစီခန့်နှင့် ကီဒင်းနု ၄၀၀ ဘီစီခန့်တို့ ဖြစ်သည်။ နောက်ပိုင်းတွင် ဤခါးဒီးယန်းတို့၏နက္ခတ်ပညာကို ဂရိတို့ ဆက်ခံရရှိခဲ့ကြသည်။

## ၃၀၀၀ ဘီစီ၊ ဟစ်တိုက် လူအဖွဲ့အစည်းနှင့် ကိုးကွယ်မှုများ

အာရေဗျသဲကန္တာရတစ်ဝိုက်ရှိ မြက်ခင်းပြင်တွင် သိုး၊ နွားများကိုထိန်းကျောင်းရင်း ခြေသလုံးအိမ်တိုင်၊ ပြုနေကြသူများသည် ၃၀၀၀ ဘီစီခန့်မှစ၍ ရေကြည်ရာ မြက်နုရာရှာလျက် မြက်ခင်းပြင်မှ ထွက်ခွာလာခဲ့ကြသည်။ ၎င်းတို့အနက် အချို့သည် အိန္ဒိယ၏အရှေ့ဘက်နယ်စပ်မှ ဥရောပတစ်တိုက်လုံးကိုဖြတ်လျက် အတ္တလန္တိတ် ပင်လယ်ကမ်းခြေအထိ ကျယ်ပြန့်စွာ အခြေစိုက်နေထိုင်လာကြသည်ကို အစွဲပြု၍ ၎င်းတို့ကို 'အင်ဒို-ဥရောပလူမျိုး' ဟု သမိုင်းဆရာတို့ အမည်ပေးခဲ့ကြသည်။ ၎င်း အင်ဒိုဥရောပအနွယ်မှ လူတစ်စုသည် ၂၅၀၀ ဘီစီခန့်၌ အချို့ အဆို ၂၀၀၀ ဘီစီခန့်၌ အနားတိုးလီးယား (အာရှမိုင်းနား)ဒေသသို့ ရောက်ရှိ၍ အခြေစိုက်နေထိုင်ကြသည်။ ၎င်းတို့ကို 'ဟစ်တိုက်' ဟုခေါ်သည်။ ရှိရင်း ရှေးအနားတိုးလီးယန်းလူမျိုးတို့ကို ၎င်းတို့၏လက်အောက်ခံအဖြစ် နေခွင့် ပြုခဲ့ကြသည်။

ဟစ်တိုက်တို့သည် နတ်များစွာကို ကိုးကွယ်ကြသည်။ ၎င်းနတ်များတွင် ၎င်းတို့၏ မူလနတ်များလည်း ပါသည်။ အိမ်နီးနားချင်းနိုင်ငံမှ ကိုးကွယ်ကြသည့်နတ်များလည်း ပါသည်။ ၎င်းတို့ အင်ပါယာ ထူထောင်နိုင်သည့် အခါ၌ ၎င်းတို့နိုင်ခဲ့သောနိုင်ငံမှ နတ်များလည်း ပါဝင်သည်။ ၎င်းတို့အနက် အကြီးဆုံးနတ်မှာ လေမုန်တိုင်းနတ်၏ မိန်းမဖြစ်သော နေနတ်သမီး ဖြစ်သည်။ ၎င်း နေနတ်သမီးအပြင် နေနတ်သားလည်း အများအပြား ရှိသေးသည်။ အချို့က မြေစောင့်နတ်ကို ကိုးကွယ်ကြသည်ဟု ဆိုသည်။ ၎င်းပြင် လေမုန်တိုင်းနတ်ကို ကိုးကွယ်ရာ၌လည်း တစ်မြို့ကကိုးကွယ်သော လေမုန်တိုင်းနတ်နှင့် အခြားမြို့ကကိုးကွယ်သည့် လေမုန်တိုင်းနတ် မတူကြပေ။ ၎င်းပြင် ဟစ်တိုက်တို့သည် နွားသိုးကိုလည်း မြင့်မြတ်သောတိရစ္ဆာန်အဖြစ်ဖြင့် ကိုးကွယ်ကြသေးသည်။ ဤနတ်များသည် လူများကဲ့သို့ နေထိုင်စားသောက်မှု ရှိကြသည်ဟု ယုံကြည်ကြသောကြောင့် ဟစ်တိုက်တို့သည် ၎င်းတို့၏နတ်ရုပ်များ ကို နေ့စဉ် ရေချိုးပေးသည်။ အဝတ်အစား လဲပေးသည်။ ဆွမ်းတင်သည်။ နတ်ရှေ့၌ လိုရာဆုကို တောင်းကြသည်။ ကျူးလွန်ခဲ့သောအပြစ်များကိုလည်း ခွင့်လွှတ်ရန် တောင်းပန်ကြသည်။ ၎င်းတို့ကိုးကွယ်သော နတ်များသည် အတိတ်နိမိတ်ပြသသည်ကို လေ့လာပြီး၊ ရှေ့ မည်သို့ဖြစ်မည်ကို သိနိုင်သည်ဟု ဟစ်တိုက်တို့ ယုံကြည်ကြသည်။ ဆူးမားရီးယန်းကဲ့သို့ပင် နတ်ပူဇော်သည်။ တိရစ္ဆာန်များကိုသတ်၍ တိရစ္ဆာန်၏အသည်း၌ပေါ်နေသော အမှတ်အသားများအရ ရှေ့ဖြစ်ကို ဟောကြသည်။ ၎င်းအပြင် ဝတ်ကျောင်း၌ မြင့်မြတ်သည်ဟုယူဆ၍ ကိုးကွယ်ထားသော ငှက်များ၏အသွားအလာကိုကြည့်ပြီး ဘုန်းကြီးများက ရှေ့ဖြစ်ကို ဟောကြသေးသည်။

ဟစ်တိုက်တို့သည် ၂၀၀၀ ဘီစီခန့်၌ ဘက်စုံတိုးတက်လျက် အီဂျစ်နှင့် အဆီးရီးယားအင်ပါယာကို ပခုံးချင်း ယှဉ်ပြိုင်နိုင်သည့်အထိ ဖြစ်လာသည်။ ဟစ်တိုက်တို့သည် ပထမ၌ တစ်မြို့တစ်နိုင်ငံသဘောဖြင့် အကွဲကွဲအပြားပြား နေလာခဲ့ကြရာမှ ဟစ်တိုက်နိုင်ငံကလေးများရှိဘုရင်များက တစ်စည်းတစ်လုံးတည်းဖြစ်အောင် ဆောင်ရွက်နိုင်ခဲ့သည့် အပြင် ပြည်ပကိုပါတိုက်ခိုက်၍ ဟစ်တိုက်အင်ပါယာကို ထူထောင်နိုင်ခဲ့သည်။ ပထမအင်ပါယာခေတ်ကို ၁၉၀၀ ဘီစီ မှ ၁၆၅၀ ဘီစီအထိ၊ ဒုတိယအင်ပါယာခေတ်ကို ၁၄၀၀ ဘီစီ မှ ၁၂၀၀ ဘီစီ အထိ ထူထောင်နိုင်ခဲ့ကြသည်။

ဤ ဟစ်တိုက်အင်ပါယာခေတ်၌ ရှင်ဘုရင်သည် အခြားအရေးများ၌ အဓိကပုဂ္ဂိုလ် ဖြစ်သကဲ့သို့ ဘာသာရေး၌လည်း ခေါင်းဆောင် ဖြစ်သည်။ ဆိုင်ရာပိုင်ရာ အရှင်သခင်နတ်များသည် တိုင်းသူပြည်သားများအား ကောင်းစွာ

စောင့်ရှောက်ရန်လည်း ၄င်းကပင် တာဝန်ယူရသည်။ ထို့ကြောင့် ရှင်ဘုရင်သည် တစ်ခါတစ်ရံ စစ်ချီစစ်ထွက်မှု မပြုနိုင်ဘဲ ဗိုလ်ချုပ်အားလွှဲအပ်ခဲ့ပြီး၊ ဘာသာရေးအခမ်းအနားအချို့ကို ကိုယ်တိုင်ခေါင်းဆောင်ရသည်။

လွှဲ၍ရသောအခမ်းအနားဖြစ်မူ ကိုယ်တိုင်မတက်ဘဲ ကိုယ်တိုင် ပွတ်သပ် မန်းမှုတ်လုပ်ပေးလိုက်သော ပေါင်မုန့်တစ်လုံးက သူ့အား ကိုယ်စားပြုရသည်။ ဤဘုရင်ကြီးသေလျှင် နတ်ဖြစ်သည် ဟုလည်း ယုံကြည်ကြသည်။ ဘုရင်သေက နတ်ရွာစံသည် ဟုဆိုသကဲ့သို့၊ ရှင်ဘုရင်ကြီး နတ်ဖြစ်သွားသည်ဟု တိုင်းသူပြည်သားများက ဆိုကြသည်။

ဒုတိယ ဟာစ်တိုက်အင်ပါယာ နှစ်ပေါင်း ၂၀၀ ခန့် ကြာပြီးနောက် ယိမ်းယိုင်စပြုလာသည်။ နောက် အဆီးရီးယန်းတို့ အလုံးအရင်းနှင့် ဝင်ရောက်တိုက်ခိုက်၍ ဟာစ်တိုက်အင်ပါယာလည်း ပြိုကွဲသွားပြီး နောက်ပိုင်း၌ ဟာစ်တိုက်တို့လည်း ပျောက်ကွယ်သွားတော့သည်။

## ၃၀၀၀ ဘီစီ၊ ဖိနစ်ရှန် လူ့အဖွဲ့အစည်းနှင့် ကိုးကွယ်မှုများ

ပင်လယ်နီကမ်းရိုးတန်းတစ်လျှောက်၌ နေကြသော ဆမ်မိုက်အနွယ် ကေနန်နိုက် ခြေသလုံးအိမ်တိုင်သမား များသည် ဆီးရီးယားမြောက်ဘက်ရှိ ဖိနစ်ရှားနိုင်ငံသို့ ဝင်ရောက်၍ အခြေစိုက် နေထိုင်ကြသည်။ ၄င်းတို့ကို ဂရိတို့က လူနီဟုခေါ်သည်။ ဤဖိနစ်ရှန်တို့သည် ကမ္ဘာ့သမိုင်း၌ ပင်လယ်နှင့်အသက်မွေးသူများတွင် ရှေးအကျဆုံး ဖြစ်သည်။ ဖိနစ်ရှန်တို့သည် နောက်ပိုင်း၌ ကိုလိုနီနယ်များကိုပင် ထူထောင်လာနိုင်သည်။ အချို့ကမူ ရောမမြို့နှင့် အပြိုင် ထူထောင်ခဲ့သော ကာသေ့ဂျ်မြို့မှလွဲ၍ ကြီးမားသောနိုင်ငံ မရှိကြောင်း၊ တစ်ဖန် ဤဖိနစ်ရှန်တို့ကို စကယ်ဟု ခေါ်ကြပြီး ၄င်းတို့နေခဲ့သောကျွန်းကို စကယ်လီကျွန်းဟု ခေါ်ရာမှ စစ္စလီကျွန်းဟု ခေါ်တွင်လာကြကြောင်း ဆိုသည်။ ဖိနစ်ရှန်တို့သည် နတ်များစွာ ကိုးကွယ်ကြသည်။ နေနတ်သား၊ လနတ်သမီး၊ မြေသြဇာနတ်သမီး စသည်ဖြင့် နတ်များစွာ ရှိသည်။ ၄င်းနတ်များအနက် (ဘေးအယ်)သည် အကြီးဆုံးဖြစ်သည်။ ဖိနစ်ရှန်တို့သည် နတ်များကို ပူဇော်ပသကြရာ၌ ကြောက်စရာကောင်းလှသည်။ ကလေးကိုပင်သတ်၍ ယဇ်နတ်ပူဇော်ခဲ့သော အလေ့ကို တွေ့ရှိရသည်။ နောက်ပိုင်းတွင် ပါရှားနှင့် မက်ဆိုဒိုနီယားနိုင်ငံတို့၏လက်အောက်သို့ ရောက်သွားခဲ့၏။

## ၃၀၀၀ ဘီစီ၊ ကရီတန် (မိနော့အန်) လူ့အဖွဲ့အစည်းနှင့် ကိုးကွယ်မှုများ

ဂရိကျွန်းဆွယ်သို့ ဂရိများမရောက်မီ ကျွန်းများစွာ၌ အေဂျီယင် (အေဂျင်) လူမျိုးများ နေထိုင်ကြသည်။ အေဂျီယင်တို့သည် အီဘာရီယန်းခေါ် မြေထဲပင်လယ်ဒေသမျိုးနွယ်မှ ဆင်းသက်လာသူများ ဖြစ်ကြသည်။ ဤ အေဂျီယင်များကို ကရီကျွန်း၌နေသည်ကို အစွဲပြု၍ ကရီတန်ဟု ခေါ်ကြသည်။ ကရီတန်တို့သည် ဆမ်မိုက်နှင့် အာရီယန်တို့မပေါ်မီ ၄၀၀၀ ဘီစီခန့်ကပင် သမိုင်းဖာတ်ခုံပေါ်သို့ ရောက်ရှိခဲ့ကြပြီး ပင်လယ်ရေကြောင်းခရီး၌ ကျွမ်းကျင်ကြသူများ ဖြစ်ကြသည်။ ၄င်းတို့သည် ဂရိတို့ထက် စောစီးစွာ ယဉ်ကျေးမှုရှိကြသူများ ဖြစ်ကြသည်။ ၄င်းပြင် အီဂျစ်တို့နှင့် မရှေးမနှောင်း ယဉ်ကျေးမှုရှိကြသူများဖြစ်ပြီး ၂၅၀၀ ဘီစီမတိုင်မီက ဂရိကျွန်းသို့ အီဂျစ် ယဉ်ကျေးမှု ပျံ့နှံ့လာခဲ့သည်။ အချို့အဆို အေဂျီယင်တို့သည် ၃၀၀၀ ဘီစီ မတိုင်မီက ကျောက်ခေတ်နှောင်းအဆင့်မျှ သာ ရှိခဲ့သော်လည်း ၃၀၀၀ ဘီစီမှစ၍ ယဉ်ကျေးမှုရှိလာခဲ့ကြသူများ ဖြစ်ကြောင်း ဆိုသည်။

၂၅၀၀ ဘီစီ၌ မိနော့ဘုရင်က နိုင်ငံငယ်များကို စုစည်း၍ ကေရာဇ်နိုင်ငံအဖြစ်တည်ထောင်ပြီး တန်ခိုးလည်း ကြီးထွားလာခဲ့သည်။ ထို့ကြောင့် ဂရိဒဏ္ဍာရီ၌ မိနော့ဘုရင်ကို ဇေယုစ်နတ်မင်းနှင့် ဥရောပနတ်သမီးတို့မှ မွေးဖွားလာသူဟု ဆိုသည်။ မိနော့ခေတ်၌ မြို့ကြီးပြကြီးများကိုလည်း တည်ထောင်ခဲ့ကြသည်။ မိနော့ဘုရင်ကို

အစွဲပြု၍ ဂရိခေတ်ကို မီနော့ခေတ်၊ ကရိတန်လူမျိုးကိုလည်း မီနော့လူမျိုး သို့မဟုတ် မီနော့အန်လူမျိုးဟူ၍ ခေါ်ခဲ့ကြသည်။ လူတန်းစားအားဖြင့် ထိပ်ပိုင်းတွင် ဘုန်းကြီးများ၊ ဘုရင်နှင့် မှူးမတ်များ၊ အလယ်ပိုင်းတွင် ကုန်သည်များ၊ စစ်မှုထမ်းများ၊ လက်မှုပညာသည်များနှင့် အောက်ပိုင်းတွင် ဆင်းရဲသား လုပ်သားပြည်သူများ ပါဝင်သည်။ ဘာသာရေး၌ မီနော့အန်လူမျိုးတို့သည် တိုးတက်မှု မရှိသေးပေ။ ၎င်းတို့နှင့်နီးစပ်သော အာရှမိုင်းနားမှ လူမျိုးများကဲ့သို့ အမိဝိညာဉ်နတ်သမီးကို ကိုးကွယ်ခဲ့ကြသည်။ အချို့အဆို မြေနတ်သမီးကို ကိုးကွယ်ခဲ့ကြသည်ဟု ဆိုသည်။

## ၂၀၀၀ ဘီစီ၊ ဂရိလူ့အဖွဲ့အစည်းနှင့် ကိုးကွယ်မှုများ

ဂရိကျွန်းဆွယ်တွင် ကရိတန် သို့မဟုတ် မီနော့အန်လူမျိုးတို့ အခြေစိုက်နေထိုင်ခဲ့သည်ကို အထက်၌ပြခဲ့ပြီး ဖြစ်သည်။ ၂၀၀၀ ဘီစီခန့် ရောက်သောအခါ ဂရိကျွန်းဆွယ်သို့ အာရိယန်အနွယ်ဖြစ်သော အာကေးယန်လူမျိုးများ ဝင်ရောက်လာကြပြန်သည်။ ၁၄၀၀ ဘီစီမတိုင်မီတွင် မိဆေးနေးမြို့သားများသည် အီဂျစ်၊ ကရိတန်တို့နှင့် နန်းပြိုင်နေခဲ့ကြသည်။ ၁၁၀၀ ဘီစီခန့်တွင် အာရိယန်အနွယ်ဖြစ်သော ဒုတိယအသုတ် ဒိုရီယန်လူမျိုးများ ထပ်မံ ဝင်ရောက်လာပြီး မြို့ပြများကိုသိမ်းပိုက်၍ ဘုရင်မြောက်ကာ အခြေစိုက်နေထိုင်လာကြပြန်သည်။

ဤ ဒိုရီယန်လူမျိုးများကို ဂရိကျွန်းဆွယ်၌နေသည်ကို အစွဲပြု၍ ဂရိဟု ခေါ်တွင်ခဲ့ကြသည်။ အချို့က ၂၀၀၀ ဘီစီခန့်တွင် ဂရိတို့သည် ဘောလကန်တောင်တန်းများတွင် နေထိုင်ကြရာမှ ၁၅၀၀ ဘီစီခန့်တွင် အေဂျင်ကမ္ဘာသို့ ဝင်ရောက်လာကြသည်။ ၁၄၀၀ ဘီစီတွင် ကရိကျွန်းမင်းနှင့် အင်အားချင်းပြိုင်လာကြလေသည်။ ၁၁၈၀ ဘီစီခန့်တွင် အေဂျင်ကမ္ဘာသည် ဂရိအမျိုးသားတို့၏လက်တွင်းသို့ ကျဆင်းသွားရလေသည်ဟု ဆိုသည်။ အချို့က ဂရိလူမျိုးတို့ကို ဟယ်လင်အမည်ရှိသော ပုဂ္ဂိုလ်မှ ဆင်းသက်လာကြသည်ဟု ယုံကြည်ကြသောကြောင့် ဟယ်လင်စ်ဟူ၍လည်း ခေါ်ကြောင်း၊ ၎င်းနောက် ဂရိအမျိုးသားတို့၏ နှောင့်ယှက်ဖျက်ဆီးခြင်းကိုခံရသော အေဂျင်တို့သည် တိုင်းတစ်ပါးသို့ ထွက်ပြေးတိမ်းရှောင်သွားခဲ့ရကြောင်း၊ ဆင်းရဲနွမ်းပါးသောသူများသာလျှင် ကျန်ရှိနေရကား အေဂျင်ယဉ်ကျေးမှုသည် တိမ်ကော ပျောက်ကွယ်သွားရကြောင်း၊ ဂရိလူမျိုးများထဲတွင် အာခီယန်, ဒိုရီယန်, အိုင်အိုနီယန်, အေအိုလီယန် စသည့်လူမျိုးများ ပါဝင်ကြသော်လည်း ၎င်းတို့အားလုံးသည် ဂရိလူမျိုးများသာဖြစ်ကြောင်း ဆိုပါသည်။ ဂရိတို့သည် အေဂျီယင် (အေဂျင်)ခေါ် ကရိတန် ခေါ် မီနော့အန်တို့၏ ယဉ်ကျေးမှုနှင့် အမွေအနှစ်များကို ဆက်ခံခဲ့ကြသည်။ ဂရိတို့သည် အေဂျီယင်ခေါ် ကရိတန်တို့၏ယဉ်ကျေးမှုကို ဆက်ခံခဲ့သည့်အားလျော်စွာ ကရိတန်ခေါ် မီနော့အန်တို့ကိုးကွယ်ခဲ့သော အမိဝိညာဉ်နတ်သမီးကိုလည်း ဆက်လက် ကိုးကွယ်ခဲ့ကြသည် ဟုယူဆနိုင်သည်။

စာဆိုတော် ဟိုးမား မပေါ်မီက ဂရိတို့သည် သဘာဝဝတ္ထု ပစ္စည်းတိုင်း၌ ဝိညာဉ်ရှိသည် ဟုယူဆကာ အစားအစာများ ပူဇော်လေ့ရှိကြသည် ဟုဆိုသည်။ သစ်ပင်, တောတောင်, စိမ့်စမ်း စသည်များ၌ လည်းကောင်း၊ ငှက်နှင့် တိရစ္ဆာန်များ၌ လည်းကောင်း ထူးဆန်းသောတန်ခိုးရှိသည် ဟု ယုံကြည်ကြသည်။ မြေအောက်မှောင်အတွင်း၌ သတ္တိထူးရှိသောပုဂ္ဂိုလ်တစ်ဦးသည် သစ်ပင်များကို ပေါက်စေလျက် မြစ်များ၏ရေအလျဉ်ကို ပေးသည် ဟူ၍ လည်းကောင်း၊ သမုဒ္ဒရာအောက် နက်စွာသောအရပ်၌ နေသူတစ်ဦးကလည်း သမုဒ္ဒရာတွင် လှိုင်းတံပိုးကိုထစေသည် ဟူ၍ လည်းကောင်း၊ မြင့်မားသောကောင်းကင်တွင် နေသူတစ်ဦးကမူ နေ, လ, မိုး စသည်များကို အုပ်ချုပ်သည် ဟူ၍လည်းကောင်း ထင်မှတ်ကြသည်။ ဂရိလယ်သမားများသည် မိုးခြိမ်းခြင်း, မိုးကြိုးပစ်ခြင်းကို ကြောက်ပြီး၊ မိုးရွာ၍ သီးနှံကောင်းက ဝမ်းသာကြသည်။ အချို့ဂရိတို့သည် လင်းယုန်ငှက် ကို ‘ကောင်းကင်နတ်’ ဟုယူဆကြသည်။

အချို့နတ်များသည် လူတို့နှင့် သင့်တင့်၍၊ အချို့နတ်များသည် လူကို ရန်သူသဖွယ် သဘောထားသည်ဟု ယူဆကြသည်။ ၎င်းနတ်များသည် သီးသန့်နေရာတစ်ခုတွင် နေကြလျက် ၎င်းတို့ အမျက်ပြေစေရန်အတွက်၊ သို့မဟုတ် ၎င်းတို့ကူညီစေရန်အတွက် အစားအစာဖြင့် ၎င်းတို့အား ပူဇော်ရမည်ဟု ယုံကြည်ကြသည်။ မြေနတ်ကို ပသ လိုလျှင် သိုးကိုသတ်၍ လည်ချောင်းသွေးကို မြေတွင်စီးဆင်းစေခြင်းဖြင့် မြေနတ်ထံ ရောက်၏ ဟုယူဆ ကြသည်။ ကောင်းကင်နတ်အတွက် သိုးကိုမီးရှို့၍ အငွေ့အသက်ကို မီးခိုးနှင့်ပျံတက်စေလျှင် မိုးနတ်ထံ ရောက်၏ ဟု ယူဆကြသည်။ ကာလကြာသော် ဤနတ်များကိုပင် ဂရိတို့က ဘုရားနှင့် ဘုရားမများ ဟုသမုတ်လျက် ကိုးကွယ် ကြ၏။ အစောပိုင်းတွင် ဘုရားကျောင်းမရှိ၍ အိမ်ခြံအတွင်းရှိ မြေကွက်လပ်တစ်ခုတွင် ရှိခိုးကြသည်။

၎င်းအပြင် ဂရိတို့သည် အေဂျင် ကမ္ဘာသို့မရောက်မီ မြက်ခင်းဒေသ၌ လှည့်လည်သွားလာနေကြစဉ်က ကိုးကွယ်ခဲ့သော ကောင်းကင်ဘုရားတစ်ပါး ရှိသည်။ 'မိုးဘုရား' ဟူ၍လည်းကောင်း၊ 'မိုးကြိုးဘုရား' ဟူ၍ လည်းကောင်း အမျိုးမျိုးခေါ်ကြသည်။ အင်ဒိုဥရောပ ဘာသာဖြင့် 'ကောင်းကင်' ဟုအဓိပ္ပာယ်ရသည့် 'ဇုစ်, ဇေယု, ဇိယာဒ်'ဘွဲ့ဖြင့် ခေါ်ကြသည်။ နောင်အခါ ဇုစ်သည် ဂရိတို့ ဘုရားများအနက် ဘုရားချုပ် ဖြစ်လာသည်။ အေဂျင် (အေဂျီယင်)တို့၏ မြေနတ်ကိုလည်း ဂရိတို့က 'ဒီမီတာ' (အမိမြေကြီး) ဘုရားမဘွဲ့ဖြင့် ကိုးကွယ်ခဲ့ကြ သေးသည်။

## ဟိုးမားကဗျာပါ ဂရိဘုရားများ

၈၀၀ ဘီစီမတိုင်မီ ကာလအတွင်း၌ နာမည်ကျော် ဂရိစာဆိုတော်ကြီး ဟိုးမား၏ အီလီယာဒ်ကဗျာ ပေါ် လာသည်။ ကဗျာတွင် နတ်များစွာ၏အကြောင်းလည်း ပါဝင်သည်။ ၎င်းကဗျာအရ သိရှိရသည်မှာ ဂရိတို့သည် နတ်အများအပြားကို ကိုးကွယ်ခဲ့ကြသည်။ ၎င်းတို့အနက် ဇေယုနတ်မင်းကြီးသည် အချုပ်အခြာဖြစ်သည်။ 'ပင်လယ် စောင့်' ခေါ် ဆိုင်ဒွန်နတ်, ဇေယု၏မိဖုရား ဟေရာနတ်, အားရက်စ် ခေါ် စစ်နတ်, အာပိုလို ခေါ် အလင်းရောင်နတ်, ဒေမေတယ် ခေါ် လယ်ယာမြေကြီးစောင့်နတ်သမီး, ဒီယော်နီဆီးယုစ် ခေါ် သေရည်နှင့် အကုသိုလ်နတ်, အာသေနာ ခေါ် မြို့ပြအသိဉာဏ်နှင့် ကုန်သွယ်မှုနတ်, ဟယ်မက်စ် ခေါ် တမန်တော်နတ်, အာဖရိုဒီတာ ခေါ် အချစ်နတ်သမီး, အာရ်တေမိ ခေါ် စန္ဒာနှင့်မုဆိုးနတ်များသည် ဂရိတို့၏ ထင်ရှားသောနတ်များ ဖြစ်ကြသည်။ ယင်းနတ်များသည် သေခြင်းကင်းပြီး အိုလင်ပါ့စ်တောင်ရှိ လူတို့မမြင်နိုင်သော ဗိမာန်နန်း၌ စံမြန်းကြကာ လူ့ပြည်သို့ မကြာမကြာလာရောက်လေ့ရှိကြသည် ဟုယုံကြည်ကြသည်။

ဟာဒေးစ် ခေါ် ပြိတ္တာဘုံတွင် ပလူတိုနှင့် ပယ်ဆေးဖော်နီး ခေါ် နတ်ဆိုးများကအုပ်ချုပ်၍၊ လူသားများ သေလျှင် ထိုဘုံသို့ ရောက်ကြသည်။ သူရဲကောင်းနှင့် သူတော်ကောင်းတို့သေလျှင် အေလီဆီယန် ခေါ် ကောင်းချီး ပေးသောဘုံသို့ ရောက်ကြသည်။ ပြိတ္တာဘုံအောက်နိမ့်သော တာတာရုစ်နတ်ဆိုးကြီးအုပ်ချုပ်သည့် ငရဲဘုံသို့မူ ကောက်ကျစ်စဉ်းလဲသူများ, ယုတ်မာညစ်ညမ်းသူများ ရောက်ကြသည် ဟုယုံကြည်ကြသည်။ အချို့ကမူ ဂရိတို့သည် လူသေလျှင် ကောင်းဆိုးမခွဲဘဲ တန်းတူထားလျက် မြေအောက် ဟော့ဒ်စ်ပြည်သို့ရောက်ကြကာ ဘုရား ပလူတိုနှင့် ဘုရားမ ပယ်ဆေးဖော်နီး (ပါစီဖုံ) လင်မယား၏အုပ်ချုပ်ခြင်းကို ခံရသည် ဟုယုံကြည်ကြသည်။ အလွန်ရဲစွမ်းရှိသူ များသာ လူမရောက်ဖူးသေးသော အနောက်ဘက်သမုဒ္ဒရာကျွန်းကြီးတစ်ကျွန်းဝယ် ဘုရားများစံစားသောစည်းစိမ်ဖြင့် သေခြင်းကင်းကာ နေရမည် ဟုယုံသောကြောင့် ယခုဘဝတွင် ကောင်းသောနလုံးသားဖြင့်နေနိုင်ရန် မကြိုးစားဘဲ ရဲစွမ်းသတ္တိပြရန်ကိုသာ ကြိုးစားကြသည် ဟုဆိုသည်။

ဤကမ္ဘာမြေကြီးသည် ပြား၍ အလယ်တွင် အိုလင်ပါ့စ်တောင်ကြီး ရှိသည်ဟုလည်း ယုံကြသည်။ ဂရိ တို့သည် ဇေယုစ်နတ်မင်းကြီးနှင့် အာသေနာနတ်များအတွက် ဘုရားရှိခိုးကျောင်းကြီးနှင့် နတ်ကွန်းများကိုဆောက်၍

ကိုးကွယ်ခဲ့ကြသည်။ ၄င်းပြင် ဂရိတို့သည် ရှေးထုံးစံအတိုင်း လူသေက မီးသင်္ဂြိုဟ်သောအလေ့အထ ရှိသည်။ ရှေးထုံးစံအတိုင်း သေသူကိုရည်စူး၍ သင်္ချိုင်းတွင် အစားအသောက်သွားထားလေ့ ရှိသည်။

ဂရိတို့သည် ဒေသစွဲရှိ၍ တစ်စုနှင့်တစ်စု တိုက်ခိုက်လျက် ဘုရားလည်း မတူကြချေ။ ထို့ကြောင့် ၁၀၀၀ ဘီစီကျော်တွင် သီးခြားမြို့ပေါင်းများစွာ ရှိသည်။ နောက် အင်္ဂါစ်ပြည်ထောင်စု၊ စပါတာပြည်ထောင်စု၊ အေသင်ပြည်ထောင်စု၊ သီဘီစ်ပြည်ထောင်စု ဟူ၍ ၄ စုပေါ်လာသည်။ သို့ရာတွင် သတ်မှတ်သောရာသီ၌ ကျင်းပပြုလုပ်သော ဘုရားပွဲတော်၊ နှစ်စဉ်ကျင်းပသော အာပိုလိုပူဇော်ပွဲကြီး၊ ၄ နှစ် ၁ ကြိမ်ကျင်းပသော အိုလံပစ် အားကစားပွဲတော်မျိုးနှင့် ဘာသာရေးအဆုံးအဖြတ်ခံယူသော ခုံကိစ္စမျိုးတို့၌ တစ်မြို့တစ်နေရာတည်း၌ လာရောက်စုစည်းလျက် ရှိသည်။

## တိုင်းရင်း ခေါ် မင်းဆိုးများခေတ်

၆၀၀ ဘီစီမှ ၅၀၀ ဘီစီအတွင်း ပေါ်ပေါက်ခဲ့သော မင်းဆိုးများခေတ်၌ ဂရိတို့သည် အကျိုးများရာများကြောင်းများကို စိတ်ဝင်စားလာကြသည်ကို တွေ့ရှိရသည်။ မကောင်းမှုကိုရှောင်ကာ ကောင်းမှုကို ပွားစည်းအပ်ကြောင်း နားလည်လာကြသည်။ ဘုရားများသည် မကောင်းမှုကို ဘယ်သောအခါမျှ မလုပ် ဟုယုံကြည်လာကြသဖြင့် ရှေးအယူအဆများကိုလည်း ပြုပြင်လာကြသည်။

ယခုလက်ရှိဘဝ၏ ဆိုးပြစ်များအတွက် သေသည်၏အခြားမဲ့၌ အပြစ်ဒဏ်ခံရသည်ဟု အယူအဆများ တိုးတက်လာသည်။ ဟေးဒ်မှာ ငရဲပြည်ဖြစ်လာ၍၊ ထိုပြည်တွင် ကြီးစွာသောအစောင့်ခွေးကြီး စာဗေရပ်စ် ရှိသည် ဟုယူဆကြပြန်သည်။ ကောင်းမှုရှင်များကလည်း တမလွန်တွင် ချမ်းသာရာရမည်ဟု ယုံကြည်ကြသည်။ ရှေးက သူရဲကောင်းများ စံစားသောကျွန်းသည် ယခုအခါ အကျင့်မြူစင်သူတို့၏နေရာ ဖြစ်လာသည်။ ဒယ်လဖီတွင်ရှိသော အာပိုလိုဘုရားကျောင်းတွင် ဗေဒင်မေးခြင်းလည်း ပို၍ ခေတ်စားလာသည်။ ဤခေတ်၌ ဂရိတို့သည် ဘက်ပေါင်းစုံမှ တိုးတက်လာခဲ့ကြသည်။ အတွေးအခေါ်ရှင်ကြီးများ၊ သဘာဝတ္တပညာရှင်များ၊ သိပ္ပံပညာရှင် ပုဂ္ဂိုလ်ကြီးများလည်း ပေါ်ပေါက်လာကြသဖြင့် အတွေးအခေါ်ပိုင်းဆိုင်ရာ အသိအမြင်များလည်း အလွန်တိုးတက်လျက် ရှိကြသည်။ ဘာသာရေးဘက်တွင်လည်း အေသင်ဒီမိုကရေစီနိုင်ငံ ဘာသာရေးကို အောက်ဖော်ပြပါအတိုင်း တွေ့ရှိရသည်။

## ဒီမိုကရေစီအေသင်မြို့ ဘာသာရေး

ဂရိ ၄ ပြည်ထောင်စုအနက် အေသင်မြို့ ပြည်ထောင်စုသားတို့သည် ဘုရားနှင့် ဘုရားမတို့ကို ကိုးကွယ်ခဲ့ကြသည့်အပြင် ယဇ်ပူဇော်မှုများလည်း ပြုခဲ့ကြသည်။ ဟိုးမား၏ကဗျာပါ ဘုရားများကိုလည်း ယုံကြည်ကြသည်။ ၄ နှစ် ၁ ကြိမ် ကျင်းပသော ပန်နပ်သီနီးယား ယဇ်ပွဲကြီး၌ ဘုရားများအား နိုင်ငံစရိတ်ဖြင့် ပူဇော်ကြသည်။ ဘာသာရေး အဆုံးအမရှိသည့် ဘုန်းကြီးလည်း မရှိ။ ကောင်းမှု၊မကောင်းမှုအကျိုးကိုလည်း အယူမရှိချေ။ ထုံးစံအရ ယဇ်ပူဇော်မှုကို မစေ့ဘဲလုပ်ရသည်။ စေ့သောအခါမှပြုလုပ်လျှင် ဘုရားများက အပြစ်ပေးလိမ့်မည် ဟုယုံကြည်ကြသည်။

နောက်တစ်ဆင့်တက်၍ ယခုဘဝဆိုးကသေလျှင် မြေအောက်အမှောင်လောက၌ နေရမည်။ ယခုဘဝ ကောင်းနေလျှင် ထာဝရငြိမ်းချမ်းသည့် အယ်လီစီယန်ဥယျာဉ်တွင် တမလွန်ဘဝအဖြစ် နေကြရမည်ဟု ယုံကြည်ကြသည်။ ယင်းငြိမ်းချမ်းသောအရပ်ကို ဩဖိယပ်စ်မှ မှော်ဆရာများက ညွှန်ပြနိုင်သည်ဟု အောက်တန်းလူများက

ယုံကြည်ကြသည်။ ထို့ကြောင့် ဩဖိယပ်စ်ကျမ်းစာကို လေးစားကြသည်။ ထိုမှော်ဆရာတို့ပြောချက်ကို အမှန်ထင်၍ နေ့စဉ်တိုင်ပင်လျက် အမှုကိစ္စကိုဆောင်ရွက်ကြသည်။

၄င်းအပြင် အရှေ့တိုင်းဖြစ်သော အီဂျစ်နှင့် အာရှမိုင်းနားမှ ကုန်သည်များ ဝင်ထွက်နေသဖြင့် ၄င်းတို့ယူခဲ့သော အာရှမိုင်းနားမှ 'အမိမြေကြီး' ခေါ် အစ်စစ် (အိုင့်ဇစ်) ဘုရားမနှင့် အီဂျစ်မှ 'နေ' ခေါ် အမွန်ဘုရားတို့ကိုလည်း ဂရိတို့ ကိုးကွယ်ကြသည်။ နောက်ပိုင်းတွင် ဤအယူများကို ဖစ်ကိုဖင်းဝါဒကြောင့် သံသယဖြစ်ခဲ့ကြသည်။ ဘုရားများ အမှန်ပင်ရှိစေကာမူ လူသားတို့ကဲ့သို့ ပုံသဏ္ဌာန်နှင့် သဘောထားများ မရှိနိုင်။ ဟိုးမားမော်ကွန်းတွင်ပါသော 'ဘုရားချင်း စစ်တိုက်ခန်း၊ ဘုရားလင်မယား ရန်ဖြစ်ပြီး၊ ဘုရားစိတ်ကောက်ခန်း'တို့ကိုလည်း 'ဟုတ်ဟန်မတူ'ဟု တွက်ဆလာကြသည်။ ထိုအချက်များကို အရစ်တိုဖိန်းနှင့် ယူရစ်ဖစ်ဒ်တို့က ပြဇာတ်များ၊ လွမ်းဇာတ်များဖြင့် မီးမောင်းထိုးပြခဲ့သည်။

## ၉၀၀ ဘီစီ၊ အေထရူးကင်း(ထရပ်စကင်း)နှင့် ရောမလူ့အဖွဲ့အစည်းတို့၏ ကိုးကွယ်မှုများ

၂၀၀၀ ဘီစီခန့်တွင် ရောမသို့ အင်ဒိုဥရောပအနွယ်များ ဝင်ရောက်လာကြသည်ဟု ဆိုသည်။ အချို့အဆိုကား ၄င်းတို့သည် ဆွစ်ဇာလန်ပြည်၊ သို့မဟုတ် အဲလ်တောင်တန်း၏ မြောက်ဘက်ဆီမှ ဆင်းသက်လာသူများ ဖြစ်သည်ဟု ဆိုသည်။ နောက်ပိုင်းတွင် ဂရိတို့လည်း ဝင်ရောက်အခြေစိုက် နေထိုင်လာကြသည်။

ရောမတို့၏ ဒဏ္ဍာရီအရ ရောမမြို့ကို ၁၀၀၀ ဘီစီခန့်၌ တည်ပြီး၊ ရောမူလုစ်မင်းသား တည်ခဲ့သည်ကို အစွဲပြု၍ 'ရောမ' ဟုခေါ်ကြောင်းနှင့် နောက် အီတာလုစ်မင်း နန်းတက်ချိန်မှစ၍ 'အီတလီ'ဟု ခေါ်တွင်လာကြသည်ဟု ကြားဖူးကြောင်း ဂရိပညာရှင် အရစ္စတော်တယ်က ဆိုသည်။

ဒဏ္ဍာရီတစ်ခုကမူ 'ရိုမြူလာစ်'နှင့် 'ရေမာစ်'အမည်ရှိ အမြွှာညီနောင်က ရောမနိုင်ငံကို (ဧပြီ ၂၁ ရက် ၇၅၂ ဘီစီ)တွင် တည်ထောင်ခဲ့သည် ဟုဆိုသည်။ သို့ရာတွင် ၄င်းဒဏ္ဍာရီကို သမိုင်းဆရာတို့က ယုတ္တိယုတ္တာမရှိဟု ဆိုကာ လက်မခံကြချေ။

သမိုင်းဆရာအချို့ကမူ ထိုအချိန်၌ တောနေလယ်သမားတို့သည် ကုန်ပစ္စည်းများကို အေထရူးကင်းတို့နှင့် လာရောက်ကုန်ချင်းဖလှယ်သောနေရာ၌ ရောမအမည်ဖြင့် ရွာတည်ပြီး လက်တင်လူမျိုးတို့ နေထိုင်ကြောင်း၊ ၇၅၀ ဘီစီတွင် အေထရူးကင်းတို့ တိုက်ခိုက်သိမ်းယူခဲ့ကြောင်း၊ အေးထရူးကင်းတို့ သိမ်းယူပြီးနောက် ကယ်ပီတော်လ်တောင်ကုန်းပေါ်တွင် ဂျူပီတာဘုရားအတွက် ကျောင်းကြီးကို တည်ဆောက်ခဲ့ကြောင်း ဆိုသည်။

အေထရူးကင်းတို့ကား ၉၀၀ ဘီစီခန့် (အချို့အဆို ၁၀၀၀ ဘီစီခန့်) တွင် ရောမသို့ ဝင်ရောက်လာကြသည်။ ၄င်းတို့သည် ယဉ်ကျေးမှုလည်း ပါလာသည်။ မည်သည့်အရပ်မှ ဝင်ရောက်လာကြသည်ကိုမူ အတိအကျမသိသော်လည်း ဝတ်စားမှု၊ ဘာသာရေးဆိုင်ရာ အနုပညာလက်ရာအရ အာရှသားဆန်သောကြောင့် အာရှမိုင်းနားမှဝင်ရောက်လာသည်ဟု ယူဆကြသည်။ ၇၀၀ ဘီစီတွင် 'တာကွင်မင်းများ'ခေါ်သော အေးထရူးကင်းမင်းဆက်ကို တည်ထောင်ခဲ့သည်။

ဘာသာရေးအားဖြင့် အေထရူးကင်းတို့သည် နတ်ဘုရား ၁၂ ပါးကို ကိုးကွယ်ခဲ့ကြသည်။ ၄င်းတို့အနက် မိုးကြိုးနှင့် လျှပ်စစ်ကိုအစိုးရသော 'တီနီယာ' ခေါ် နတ်သည် တန်ခိုးအကြီးဆုံး ဖြစ်သည်။ အေထရူးကင်းတို့သည် သိုး၊ နွားနှင့် လူများကို ယဇ်ပူဇော်ကြသည်။ စစ်သုံ့ပန်းများကိုလည်း ယဇ်ကောင်အဖြစ် အသုံးပြုကြသည်။ သို့သော် ပွဲတော်ကြီးကျင်းပသည့်အခါ၌သာ လူကို ယဇ်ပူဇော်လေ့ရှိသည်။ ရန်သူများကို သတ်နိုင်မှ ငရဲကျရောက်ခြင်းကင်းလွတ်နိုင်မည် ဟုယုံကြည်ကြသောလူမျိုး ဖြစ်သည်။

၅၀၉ ဘီစီနှစ် ရောက်သောအခါ ရောမမျိုးမတ်တို့က အေထရုစကင်းမင်းဆက်ဝင် တာကွင်ဘုရင်ကို မောင်းထုတ်၍ သမ္မတနိုင်ငံ ထူထောင်ခဲ့ကြသည်။ အေထရုစကင်းတို့နှင့် မပြတ်စစ်ပွဲဆင်နွှဲနေကြရာ၊ ၄၀၀ ဘီစီ အစပိုင်း၌ အေထရုစကင်းတို့၏ ဘီအိုင်ခံတပ်ကို ရောမတို့ ထိုးဖောက်နိုင်သည့်မှစ၍ အေထရုစကင်းတို့ တစ်စတစ်စ တိမ်ကောပပျောက်သွားတော့သည်။

## ရောမအင်ပါယာခေတ်

ရောမတို့သည် အေထရုစကင်းများကိုအောင်ပြီးနောက် ကာသေ့ဂျလူမျိုးတို့နှင့် ပူနစ်စစ်ပွဲ ၃ ကြိမ် ဆင်နွှဲခဲ့ရပြန်သည်။ ဒုတိယပူနစ်စစ်ပွဲ ၁၅၀ဘီစီ-၁၄၆ဘီစီတွင် ကာသေ့မြို့လည်း ရောမလက်သို့ကျရောက်ပြီး ကာသေ့လူမျိုးများလည်း ရောမကျေးကျွန် ဖြစ်ခဲ့ရတော့သည်။ ပူနစ်စစ်ပွဲပြီးနောက် မာဆေးဒိုးနီးယားနှင့် ဂရိနယ်အားလုံး ရောမလက်သို့ ကျရောက်ခဲ့ပြန်သည်။ ရောမအင်ပါယာ ယိုယွင်းလာချိန်၌ ပြုပြင်ရေးခေါင်းဆောင်များ ပေါ်လာသည်။ နောက်ပိုင်းတွင် စစ်ဘုရင်များလည်း ပေါ်လာပြန်သည်။ စစ်ဘုရင်များကား ပထမ 'ကွန်ဆား' ခေါ် သမ္မတများပင် ဖြစ်သည်။ စစ်တိုက်အောင်မြင်မှုကို အကြောင်းပြု၍ လူထုမြှောက်စားကိုးစားကြရာမှ အာဏာရှင်ဘုရင်အဖြစ်သို့ ရောက်ရှိခဲ့ကြသူများ ဖြစ်ကြသည်။

၄င်းတို့အနက် အထင်ရှားဆုံးမှာ ၅၇ ဘီစီ (အချို့အဆို ၅၆ ဘီစီ)တွင် ကွန်ဆားဖြစ်လာသော ကိုင်ဇာ (ဂျူလီယက်ဆီဇာ) ဖြစ်သည်။ ကိုင်ဇာသည် ရောမစစ်ဘုရင် ပွန်ပေနှင့် ပြင်သစ်၊ ဘယ်လ်ဂျီယံ၊ ဂျာမန်၊ အင်္ဂလန်၊ အီဂျစ် စသည်တို့ကို တိုက်ခိုက်အောင်မြင်ပြီးနောက် ၄၆ ဘီစီ (အချို့အဆို ၄၉ ဘီစီ)၌ အာဏာရှင်အဖြစ် ရောမကို အုပ်ချုပ်သည်။ ရောမတို့က မိမိအား ဘုရင်မြှောက်သော်လည်း လက်မခံဘဲ အုပ်ချုပ်သူအဖြစ်ဖြင့်သာ အင်ပါယာကို ခိုင်ခံ့အောင်စုစည်းခဲ့သည်။ ကိုင်ဇာသည် အီဂျစ်ကိုအောင်နိုင်ပြီးနောက် အီဂျစ်၌ ဘုရင်မ ကလီယိုပါထရာနှင့်ညား၍ သားတစ်ယောက်ပင် ရခဲ့သည်။ အီဂျစ်တို့သည် ဘုရင်ကို ဘုရားကဲ့သို့ ကိုးကွယ်ခြင်းကို ကိုင်ဇာက သိရှိခဲ့သည်။ ယင်းကို နည်းယူ၍ 'ဖိုးရမ်း' ခေါ် လူထုရင်ပြင်ရှိ သူ၏ကျောက်တုရုပ်ပုံတုအောက်တွင် 'မည်သူကမျှ မနိုင်စွမ်းသောဘုရား'ဟု ကမ္ပည်းထိုးခဲ့သည်။ ကိုင်ဇာကွယ်လွန်ပြီးနောက် ၂၇ ဘီစီတွင် တစ်ဦးတည်း အချုပ်အခြာအာဏာရှိသော ဩဂုတ္တတပ်ကလည်း ဘာသာရေးဆိုင်ရာ အကြီးအကဲရာထူးကို ခံယူခဲ့ပြန်သည်။

ကိုင်ဇာနှင့်ဩဂုတ္တတပ် လက်ထက်တို့တွင် ရောမတွင် ဧကရာဇ်ဘုရင်ကိုကိုးကွယ်သောဝါဒ ထွန်းကားလာသည်ဟု ဆိုသည်။ ဩဂုတ္တတပ်ကွယ်လွန်ပြီးနောက် ၄င်းတည်ထောင်ခဲ့သောအင်ပါယာလည်း တစ်စတစ်စ ယိုယွင်းလာရာ ရိုမြူလာဩဂုတ်စတုလာစ် (အေဒီ ၄၈၆) မင်းလက်ထက်၌ ပျက်သုဉ်းခဲ့ရလေသည်။

## ရောမတို့၏ဘာသာရေး

ရောမတို့သည် ဂရိတို့ကဲ့သို့ပင် တစ်ဆူတည်းသောဘုရားကို မကိုးကွယ်ကြဘဲ နတ်ဘုရားများစွာကို ကိုးကွယ်ခဲ့ကြသည်။ ယင်းတို့တွင် ဂျူပီတာသည် ကောင်းကင်ဘုရားနှင့် ဘုရားချုပ် ဖြစ်သည်။ မားစ်သည် စစ်ဘုရား၊ ဗီးနပ်သည် အချစ်ဘုရားမ၊ ဂျူနိုသည် အမျိုးသမီးများမွေးဖွားခြင်းနှင့် လက်ထပ်ခြင်းကို စောင့်ရှောက်သောဘုရားမ၊ အက်စတာသည် အိမ်တွင်းမီးဖိုရှင်မ၊ သေနာစ်သည် မြေကို ဩဇာဓာတ်ပေးသောဘုရား၊ မာကျူရီသည် ဘုရားအပေါင်း၏တမန်တော် ဖြစ်၍ ရောင်းဝယ်ရေးကိုစောင့်ရှောက်သည် စသည်ဖြင့် ယုံကြည်ကြသည်။

ထိုဘုရားများ၏ လူ့ဘဝတွင်ထင်ရှားသော စွန့်စားဆောင်ရွက်ပုံများကို ဇာတ်လမ်းပြု၍ ပြောဆိုလေ့ရှိရာ ရောမတို့သည် မိမိတို့၏ဘုရားမ ဗီးနပ်သည် ဂရိဘုရားမ အက်ဖရိုဒိုက်တီ (ဆီးမိုက်ဘုရားမ အစ်စတာ)ပင်ဖြစ်၍

မာကျူရီသည် ဟာမက်စ် ဖြစ်လျက် ဆေရက်ဖ်သည် ဒီမီတာ ဖြစ်သည်ဟု ဤသို့ စသည်ဖြင့် ယုံကြည်ကြသည်။ ဂရိဘုရားကျောင်းတွင် ဗေဒင်မေးသော အလေ့ကိုလည်း ယုံကြည်ကြသည်။ အေထရွှးကင်းတို့၏ ယဇ်ကောင်အဆုတ်ကိုကြည့်၍ ဗေဒင်ဟောနည်းကိုလည်း ရောမတို့ ရရှိသည်။ ယဇ်ကောင်သိုး၏အသည်းကို ကြည့်၍လည်း ရှေ့ဖြစ်ကို ဟောကြသည်။ ယင်းဘုရားများအား ကန်တော့ပွဲပေးခြင်း, သားကောင်ဖြင့် ယဇ်ပူဇော်ခြင်း စသည်တို့ကိုလည်း ပြုလုပ်ကြသည်။

စတောဝစ်ဝါဒနှင့် ဧပီကူရေဝါဒ ပေါ်လာသောအခါ နတ်ကိုးကွယ်မှုများ မှေးမှိန်လာခဲ့သည်။ ဥဟေမေရပ်စီ ဆိုသူ ဝတ္ထုရေးဆရာက လူ့ဘဝတွင် ဇုစ်သည် ဘုရင်တစ်ဦးဖြစ်၍ ယဉ်ကျေးမှုတိုးတက်စေရန် ကြိုးစားခဲ့သော ကြောင့် သေသောအခါ ဘုရားဖြစ်သွားပြီဟု လူအများက မြှင့်တင်၍ကိုးကွယ်သည်ဟုပင် ထည့်ရေးခဲ့ဖူးသည်။

ထိုအခါ၌ ဘုရားရှိ,မရှိ လွတ်လပ်စွာဝေဖန်မှု ပြုလာကြတော့သည်။ ဆိုကရေးတီးကဲ့သို့ အယူသစ်ဆရာများကို သတ်ဖြတ်မှု မရှိတော့ချေ။ သို့ရာတွင် အများစုကား ဘုရားအမျိုးမျိုးကို ကိုးကွယ်လျက်ပင် ရှိသည်။ တော်လမီဘုရင်များက အရှေ့တိုင်းဘုရားတစ်ဆူဖြစ်သော ဆေရပစ်ကို နိုင်ငံတော်ဘုရားအဖြစ် အသိအမှတ်ပြု၍ အယ်လီဇန်ဒရီးယားမြို့တော်၌ ကြီးကျယ်သောဘုရားကျောင်းကိုဆောက်၍ ကိုးကွယ်ကြသည်။ အယ်လီဇန်ဒရီးယား မီးပြတိုက် ၄၄၅ ပေအမြင့်ကို ဟယ်လင်ခေတ်တွင် တည်ဆောက်ခဲ့သည်။ ဘက်ဘီလိုးနီးယားမှ ဘုရားကျောင်း ပြာသာဒ်ကို အတုယူ၍ တည်ဆောက်ခဲ့သည်ဟု ဆိုသည်။ ဟယ်လင်ခေတ်ကား အယ်လက်ဇန်းဒါး လွန်ပြီးနောက် အနှစ် ၃၀၀ ခန့် အရှေ့တိုင်းသို့ ဂရိယဉ်ကျေးမှု ပျံ့နှံ့သောခေတ်ကို ခေါ်သည်။

သို့ရာတွင် ဩဂုစတပ်လက်ထက်၌ ဂရိမှတစ်ဆင့် ပျံ့နှံ့ရောက်ရှိလာသော အရှေ့တိုင်းဘုရားများကို မကိုးကွယ်ရဘဲ ရောမဘုရားစစ်စစ်များကိုသာကိုးကွယ်ရန် အမိန့်ထုတ်ခဲ့သည်။ ဩဂုစတပ်သည် ကြီးကျယ်စည်ကားသည့်ဘုရားပွဲတော်များကို ပြုလုပ်စေခဲ့သည့်အပြင် နိုင်ငံစရိတ်ဖြင့် ဘုရားကျောင်းဟောင်းများကိုလည်း ပြင်ဆင်စေခဲ့သည်။ သူသည် ပလာတင်နန်းတော်ကို တည်ဆောက်ပြီး၊ ၄င်းနှင့်ကပ်လျက်ရှိသော အာပိုလိုဘုရားကျောင်းကြီးကိုလည်း အသစ်ပြုပြင်သည်။ ၄င်းနှင့်တွဲလျက်ရှိသော ကြီးမားသည့်စာကြည့်တိုက်ကြီးကိုပါ တည်ဆောက်ခဲ့သည်။

# အခန်း ၄

## ဗြာဟ္မဏ ဟိန္ဒူဘာသာနှင့် ၎င်းတို့၏ဘုရားများ

### ၂၀၀၀ ဘီစီ၊ အာရိယန်လူ့အဖွဲ့အစည်း

အိန္ဒုမြစ်ဝှမ်းယဉ်ကျေးမှု ကွယ်ပျောက်ပြီး နှစ်ပေါင်း ၁၀၀၀ ကျော်ကြာသောအခါ ၁၈၀၀ ဘီစီ- ၂၀၀၀ ဘီစီခန့်၌ အာရိယန်တို့သည် 'အီရန်' ခေါ် ပါးရှားဘက်သို့ ထွက်ခွာသွားခဲ့ကြသည့်နည်းတူ အိန္ဒိယသို့လည်း တစ်သုတ်ပြီးတစ်သုတ် ဝင်ရောက်လာကြသည်။ အချို့ကမူ ၎င်းအာရိယန်တို့သည် အိန္ဒိယသို့ ၃၀၀၀ ဘီစီခန့်က (၃၀၀၀ ဘီစီမှ ၂၀၀၀ ဘီစီ)အတွင်း ၁၀၀၀ ဘီစီခန့်၌ ဝင်ရောက်လာကြသည်ဟု အမျိုးမျိုးရေးသားခဲ့ကြသည်။ အထူးမှာ အာရိယန်တို့နှင့်အတူ မန္တန်အတတ်လည်း အိန္ဒိယသို့ ပါဝင်ရောက်ရှိလာခြင်းပင် ဖြစ်သည်။ ထို့ကြောင့် ပညာရှင်များက ထိုခေတ်ကို 'ဝေဒခေတ်'ဟု သတ်မှတ်ခဲ့ကြသည်။

### ဝေဒခေတ်ကာလ အပိုင်းအခြား

ဝေဒခေတ်ကို ပညာရှင်များက အကွဲကွဲအပြားပြား ခန့်မှန်းသတ်မှတ်ခဲ့ကြသည်ကို တွေ့ရှိရသည်။ ယင်းဝေဒခေတ်ကို ပါမောက္ခ စမစ်က ၂၀၀၀ ဘီစီ။ ပါမောက္ခ မက်ဒေါနယ်က ၁၅၀၀ ဘီစီ။ ပါမောက္ခ မက်စ်မူလာက ၁၅၀၀ ဘီစီမှ ၁၂၀၀ ဘီစီအတွင်း။ ဝက်ဘာက ၁၆၀၀ ဘီစီ။ ဟော့က ၂၄၀၀ ဘီစီမှ ၁၄၀၀ ဘီစီအတွင်း။ ဝှစ်တနေက ၂၀၀၀ ဘီစီမှ ၁၄၀၀ ဘီစီအတွင်း။ ကေးဂီက ၂၀၀၀ ဘီစီမှ ၁၅၀၀ ဘီစီအတွင်း။ ဝင်တာနစ်က ၁၅၀၀ ဘီစီမှ ၇၀၀ ဘီစီအတွင်း။ ပါမောက္ခ ကောသမ္ဘီက ၁၅၀၀ ဘီစီမှ ၁၂၀၀ ဘီစီအတွင်း။ ပါမောက္ခ ဘာရှမ်က ၁၅၀၀ ဘီစီမှ ၉၀၀ ဘီစီအတွင်း။ ပါမောက္ခ ဒေးဗီးဂ်က ၁၂၀၀ ဘီစီမှ ၈၀၀ ဘီစီအတွင်း ဟု သတ်မှတ်ခဲ့ကြသည်။ ပါမောက္ခ ကီဂျီထိလပ်ကမူ ၆၀၀၀ ဘီစီမှ ၄၀၀၀ ဘီစီ ဟူ၍ပင် ဆိုသည်။

### ဝေဒခေတ် ကိုးကွယ်မှုနှင့် ဝေဒ ၄ ပုံ

ဝေဒခေတ်၌ အာရိယန်တို့သည် ကိုးကွယ်ရာအဖြစ် နတ်များကို အုပ်စု ၃ စု ခွဲထားကြသည်။ တစ်အုပ်စုလျှင် နတ်ပေါင်း ၁၁ ယောက်ကျစီဖြင့် နတ်ပေါင်း ၃၃ ယောက် ရှိသည် ဟုဆိုသည်။

ပထမ- ပထဝီဌာနိကနတ်အုပ်စုမှ ထင်ရှားသောနတ်များမှာ ပထဝီ (မြေ), အဂ္ဂိနိ (မီး), ယမ (သေရည်), သောမ (သေအရက်)နတ်တို့ ဖြစ်ကြသည်။

ဒုတိယ- အန္တလိက္ခဌာနိကနတ်အုပ်စုမှ ထင်ရှားသောနတ်များမှာ ဣန္ဒြာ (သိကြား), ဝါယု(လေ), ပဇ္ဇုန္န (မိုး), အာပေါ (ရေ)နတ်တို့ ဖြစ်ကြသည်။

တတိယ- ဒျုဌာနိကနတ်အုပ်စုမှ ထင်ရှားသောနတ်များမှာ သူရိယ(နေ), ဥသာ(အရုဏ်), ရာတြိ-(ညဥ့်)နတ်တို့ ဖြစ်ကြသည်။

ဖော်ပြပါနတ်များကို ကိုးကွယ်ကြရာ၌ ထိုနတ်တို့၏ဘုန်းတော်ဘွဲ့များကို ရွတ်ဆိုကြရသည်။ ၄င်းနတ်များ၏ ဘုန်းတော်ဘွဲ့များကို ဖော်ပြသောကျမ်းကို 'ရိဂ်ဝေဒ (ဣရုဝေဒ)'ဟု ခေါ်သည်။ နောက်ပိုင်း၌ ဘုန်းတော်ဘွဲ့ ရွတ်ဆိုရုံနှင့် မပြီးတော့ဘဲ လှူဒါန်းပူဇော်မှု၊ ယဇ်ပူဇော်မှုကိစ္စများကို တီထွင်လာကြသည်။ ယဇ်ပူဇော်ပုံပူဇော်နည်း များကို ဖော်ပြသောကျမ်းကို 'ယဇုဝေဒ'ဟု ခေါ်သည်။ တစ်ဖန် နောက်ပိုင်း၌ ဘုန်းတော်ဘွဲ့များ ရွတ်ဆိုရုံ၊ ပစ္စည်း ဝတ္ထုများကို ခမ်းခမ်းနားနားပူဇော်ရုံနှင့် ကိစ္စမပြီးတော့ဘဲ သာယာငြိမ့်ညောင်းသော တေးဂီတများကို ထည့်သွင်း ပူဇော်ရန် စီစဉ်လာခဲ့ကြသည်။ ယင်းတေးဂီတများကို ဖော်ပြသောကျမ်းကို 'သာမဝေဒ'ဟု ခေါ်သည်။ ယင်း တေးဂီတများကို ရွတ်ဆိုရာ၌ အသံ၏စွမ်းပကားကို သိလာရသောအခါ ဂါထာမန္တန်အမျိုးမျိုးကို တီထွင်လာကြပြန် သည်။ ယင်း ဂါထာမန္တန် မန်းမှုတ်ခြင်းကို ပြသောကျမ်းကို 'အာတဗ္ဗဏဝေဒ'ဟု ခေါ်သည်။

အာတဗ္ဗဏဝေဒတွင် ရှေးဝေဒ ၃ ပုံကဲ့သို့ နတ်တို့၏ဘုန်းတော်ဘွဲ့များအပြင် ဆုတောင်းမှုများ၊ သဘော တရားများလည်း ပါဝင်လာသည်။ အလွန်နောက်ကျမှပေါ်လာသော ယင်း အာတဗ္ဗဏဝေဒကို ဗြာဟ္မဏတို့က ဝေဒအဖြစ် ရေတွက်ကြသော်လည်း ပညာရှင်များကမူ ဝေဒအဖြစ် လက်မခံကြပေ။ အလားတူ ဗုဒ္ဓစာပေ၌လည်း ဣရုု (ရိဂ်)၊ ယဇု၊သာမ ဟူ၍ ဝေဒ ၃ ပုံကိုသာ ဖော်ပြထားသည်။ မည်သို့ပင်ဖြစ်စေ၊ ယနေ့ ဟိန္ဒူဗြာဟ္မဏများ သည် ဖော်ပြပါ ဝေဒကျမ်းများကို 'ဘုရားက ရသေ့များအား တစ်ဆင့်ပို့ချပေးခဲ့သော ဘုရား၏နှုတ်ထွက်များဖြစ် သည်' ဟု ယုံကြည်ကိုးကွယ်လျက် ရှိကြသည်။

## ဖန်ဆင်းရှင်ဘုရား

ထိုသို့ နတ်အမျိုးမျိုးကို ကိုးကွယ်ပူဇော်ကြရာမှ နောက်ပိုင်းတွင် နတ်မင်းကြီးတစ်ဆူတည်း ကိုးကွယ်မှုဘက်သို့ တိမ်းညွှတ်လာကြသည်ကို တွေ့ရသည်။ ထိုနတ်မင်းကြီးသည်ပင် သတ္တဝါနှင့် လောကကို ဖန်ဆင်းသောအရှင် ဖြစ်သည်ဟု ယုံကြည်လာကြသည်။ ထိုနတ်မင်းကို 'ပဇာပတိ (သတ္တဝါတို့၏ ဖခင်ကြီး)'ဟု ခေါ်ကြသည်။ အချို့က ဖန်ဆင်းရှင်ကို 'ပုရိသ'ဟူ၍၊ အချို့က 'ဟိရညဂဗ္ဘ(ရွှေဥ)' ဟူ၍ ခေါ်ဝေါ်ကြသည်။ ထို့ကြောင့် ရိဂ် ဝေဒတွင် သူ(ဘုရား)သည် တစ်ဆူတည်းဖြစ်၍ ပညာရှင်တို့က အမျိုးမျိုးခေါ်ဆိုကြခြင်း ဖြစ်သည်ဟု ဆိုသည်။ နောက်ပိုင်းကာလများတွင်မူ အမည်အမျိုးမျိုးရှိခဲ့သော ယင်းဖန်ဆင်းရှင်ကို 'ဗြဟ္မာ'ဟု ခေါ်တွင်လာကြပြန်သည်။

ဤဝေဒခေတ်တွင် ဘုရားများအနက် ဝါရုဏဘုရားသည် ကျန်ဘုရားများထက် အရေးပါကြောင်း တွေ့နိုင် သည်။ ရိဂ်ဝေဒတွင် ဝါရုဏ၏ဂုဏ်ကို မျိုးစုံဖော်ပြထားသည်။ သို့ရာတွင် နောက်ပိုင်း၌ ဝါရုဏအမည်ကို မတွေ့ရတော့ဘဲ ဝါရုဏ၏နေရာတွင် ဣန္ဒြာဘုရား ဝင်လာကာ 'ဘုရားတစ်ဆူတည်းသာ ရှိသည်' ဟူသောအဆို လည်း ပြိုကွဲလာတော့သည်။ နောက်တစ်ဖန် ဗိဿနိုးသည် ဝါရုဏကဲ့သို့ အရေးပါမှုကို ရယူလိုက်ပြန်သည်။

ယဇုဝေဒတွင်မူ သိဝဘုရားနှင့်ဗိဿနိုးဘုရား ထင်ရှားလာပြန်သည်။ အချို့သမိုင်းဆရာများက 'ရှေးလူတို့ သည် ကြီးမားသောဝတ္ထုပစ္စည်းများသည် ဘုရားများဖြစ်ကြသည်' ဟုဖူဆကြသော်လည်း အာတဗ္ဗဏဝေဒ ပေါ် လာသောအခါ ယင်းကျမ်းစာအရ လူတို့က ဝတ္ထုပစ္စည်းများကို ဘုရားအဖြစ် ရှိမခိုးကြတော့ဘဲ ဗြဟ္မာ၊ ဗိဿနိုး၊ သိဝ ဘုရားများကို ကိုးကွယ်လာကြသည်ဟု ဆိုသည်။ အချို့သမိုင်းဆရာများကမူ အာရိယန်များသည် ပထမ သဘာဝဘုရားများကိုကိုးကွယ်ပြီး ဝေဒကျမ်းပါဆုတောင်းစာများကို ရွတ်ဆို၍ ရှိခိုးလေ့ရှိသော်လည်း၊ နောင်တွင် ဝေဒတွင်မပါသော ဗြဟ္မာ၊ ဗိဿနိုး၊ သိဝဘုရားများ ပေါ်လာပြီး ကိုးကွယ်လာခဲ့ကြသည် ဟုဆိုသည်။

## ၃ ပါး ၁ ဆူဝါဒ

ဤသို့အားဖြင့် ဗြာဟ္မဏတို့သည် ရှည်လျားလှသောကာလများ၌ ကျမ်းစာအမျိုးမျိုးကို ဖန်တီးခဲ့ကြရာမှ နောက်ဆုံး၌ ယနေ့အချိန်တွင် 'ဗြဟ္မာ, ဗိဿနိုး, သီဝ' ဟူသော အသားတင် ဘုရား ၃ ဆူကို ဟိန္ဒူတို့ အတည်ပြုထားကြသည်ကို တွေ့ရှိရသည်။ ဤဘုရား ၃ ဆူကား ဝေဒကျမ်းများ၌ အရေးပါမှု မရှိသကဲ့သို့ တစ်လုံးတစ်စည်းတည်းလည်း မရှိခဲ့ပေ။ သို့ရာတွင် နောက်ပိုင်း၌ အချို့အဆို ဘဂဝါဂီတ ပေါ်ချိန်၊ အချို့အဆို ဂုတ္တမင်းလက်ထက်မှစ၍ တစ်လုံးတစ်စည်းတည်း ပေါင်းစည်း၍ ကိုးကွယ်လာကြသည့်ပြင် တစ်ဆူတည်းသော တန်ခိုးရှင်၏ ကိုယ်ပွား ၃ ဆူ ဟူ၍လည်း ယုံကြည်လာကြသည်ဟု ဆိုသည်။ ဤ ၃ ဆူသည် ဖန်ဆင်းရှင် 'ဣသွာရ' ခေါ် ထာဝရဘုရား၏ ကိုယ်ပွားတော်များဖြစ်သောကြောင့် ၃ ပါး တစ်ဆူပင်ဖြစ်ကြောင်း သိရသည်။ သို့ရာတွင် ယနေ့ ဟိန္ဒူတို့သည် ယင်းကိုယ်ပွား ၃ ဆူကို ၁ ဆူစီ ကိုးကွယ်မှု ပြုနေကြသည်။ အများအားဖြင့် ဗိဿနိုးနှင့် သီဝ ကိုးကွယ်မှုကို အဓိကထားနေကြသည်။ အေဒီ ၉ ရာစု အစပိုင်းလောက်တွက် ယင်းဘုရား ၂ ဆူ ကိုးကွယ်မှုကိုပင် ဟာရိ(ဗိဿနိုး), ဟာရာ (သီဝ) ကိုးကွယ်မှု ဟူ၍ ခေါ်လာကြပြန်သည်။

ဘုရား ၃ ဆူအနက် ဗြဟ္မာသည် အဓိကပင်မ ဖြစ်သည်။ ကမ္ဘာလောကကြီးနှင့် သက်ရှိသက်မဲ့ဟူသမျှကို ဤ ဗြဟ္မာဘုရားကပင် ဖန်ဆင်းခဲ့သည်။ အမှန်မှာ ဗြဟ္မာသည် စနစ်တကျ ဖန်ဆင်းရေးလုပ်ငန်းကို တာဝန်ယူ လုပ်ဆောင်သူသာ ဖြစ်သည်။ ယင်း လောကနှင့် လူသားတို့၏ တိုးတက်ကြီးပွားချမ်းသာရေး, ကောင်းမှုရေး စသော လုပ်ငန်းတာဝန်များကို ဗိဿနိုးဘုရားက တာဝန်ယူရသည်။ ဗိဿနိုးဘုရားသည် လူ့လောကကောင်းကျိုး အတွက် လိုအပ်က လူ့ပြည်သို့ဆင်း၍ 'အဝတာရ' ခေါ် လူဝင်စားဘုရားအဖြစ် ဆောင်ရွက်ရသည်။ ကမ္ဘာကြီးကို ဖျက်ဆီးရန်အတွက် သီဝဘုရားက တာဝန်ယူခဲ့ရသည်။

ဤဘုရား ၃ ဆူတို့၏ ကြင်ရာ ၃ ဦးတို့၌လည်း တာဝန်ကိုယ်စီ ရှိကြသည်။ ဗြဟ္မာ၏ကြင်ရာတော် သူရဿတီ မယ်တော်သခင်မသည် အသိပညာအလင်းရောင်ကိုပေး၍ ဝေဒစာပေကို စောင့်ရှောက်ရသည်။ ဗိဿနိုး၏ကြင်ရာတော် လက်ချမီး သခင်မမှာ ဥစ္စာတိုးပွားရန် ပေးကမ်းမှုတာဝန်ကို ယူရသည်။ သီဝ၏ ကြင်ရာတော် ပါရာဝတီကား သီဝဘုရားအတိုင်း အဖျက်လုပ်ငန်းများကို တာဝန်ယူရသည်ဟု ဆိုသည်။

## အဝတာရ (လူဝင်စား) ဘုရား ၁၀ ပါး

အထက်ဖော်ပြပါ ဘုရား ၃ ဆူအနက် ဗိဿနိုးဘုရားကား လူသား၏ ချစ်ခင်မှု, မြတ်နိုးမှုကို အများဆုံး ရရှိသော ကိုယ်ပွားဘုရား ဖြစ်သည်။ မဟာဘာရတကျမ်း, ရာမယဏကျမ်းများ ပေါ်လာသောအခါ ၎င်း ဗိဿနိုးဘုရားဝင်စားသော အဝတာရ ၁၀ ပါးကို ဖော်ပြလာသည်။ ၎င်းတို့မှာ အောက်ပါအတိုင်းဖြစ်သည်။

၁- ငါး (မသ်စယ), ၂- လိပ် (ကူးရ်မ), ၃- ဝက်ဝံ (ဝရာဟ), ၄- လူခြင်္သေ့ (မနုသီဟ), ၅- လုပု (ဝါမန), ၆- ရဲတင်းကိုင်ရာမ (ပရသူရာမ), ၇- ရာမ (ရာမ), ၈- ကရစ်သျှန (ကရီသျှနား), ၉- ဗုဒ္ဓ (ဗုဒ္ဓ), ၁၀- ကာလ်ကင် (ကာလ်ကီ)။ အဝတာရ ၁၀ ပါးကို အချို့က ငါး, လိပ် စသည်ဖြင့် ပြပြီး၊ အချို့က မသ်စယ, ကူးရ်မ စသည်ဖြင့် ပြသည်။

ဖော်ပြပါ အဝတာရ ၁၀ ပါးအနက် ဗုဒ္ဓသည် နောက်ဆုံးဗိဿနိုးဘုရား ဝင်စားသော အဝတာရဖြစ်ပြီး၊ နောက်ထပ် ကာလ်ကီအဖြစ်ဝင်စားရန်သာ ကျန်တော့သည် ဟုဆိုသည်။ အထူးမှာ ဟိန္ဒူတို့သည် ၎င်းတို့၏ အဝတာရ ၁၀ ပါးတွင် ဗုဒ္ဓဘုရားအားလည်း ၎င်းတို့၏ ဗိဿနိုးဘုရားဝင်စားသော အဝတာရတစ်ပါးအဖြစ်

ဖော်ပြထားခြင်းပင် ဖြစ်သည်။ ဤဖော်ပြချက်ကို ထောက်ဆက အဝတာရ ၁၀ ပါးကိုတင်ပြသော ရာမယဏ ကျမ်းသည် ဗုဒ္ဓရှင်တော်ဘုရား ပေါ်ပြီးနောက်ပိုင်းမှ ပေါ်လာသောကျမ်းဖြစ်ကြောင်း ထင်ရှားသည်။ ရာမယဏ ကျမ်း၌ ဗုဒ္ဓမြတ်စွာဘုရားအား အဝတာရတစ်ပါးအဖြစ် ဖော်ပြထားသကဲ့သို့ အဂ္ဂိနိပုရာဏ်ကျမ်းနှင့် ဝရာဟပုရာဏ် ကျမ်းတို့၌လည်း ဗုဒ္ဓမြတ်စွာအား ဗိဿနိုး၏ကိုယ်ပွား ၁၀၀၀ အနက် ကိုယ်ပွား အဝတာရတစ်ပါးမျှသာ ဖြစ် ကြောင်း ဖော်ပြထားသည်ကိုလည်း တွေ့ရှိရသည်။

## ဥပနိသျှဒ်ခေတ်နှင့် တွေးခေါ်မြော်မြင်ရေးပိုင်း

ရှေးကာလ ဗြာဟ္မဏဘာသာရေး၌ ယဇ်ပူဇော်မှု စသည်ဖြင့်သာ ရောင့်ရဲခဲ့ရသော်လည်း ဥပနိသျှဒ်ကျမ်းများ ပေါ်လာသောအခါ တွေးခေါ်မြော်မြင်ရေး သဘောတရားများလည်း ပေါ်လာတော့သည်။ ဝေဒခေတ်၌ ယဇ်ပူဇော် ခြင်း၊ မန္တန်ရွတ်ခြင်းကို အရေးကြီးသည်ဟု ဆိုသည်။ သို့ရာတွင် ဥပနိသျှဒ်ခေတ်သို့ ရောက်သောအခါ ၄င်းယဇ် ပူဇော်ခြင်း၊ မန္တန်ရွတ်ခြင်းသည် အရေးမကြီးတော့ဘဲ၊ ဗြဟ္မနှင့် အတ္တမကို မြင်အောင်ကြည့်နိုင်ရန်သာ အရေးကြီး သည် ဟုဆိုသည်။ ထို့ကြောင့် ဥပနိသျှဒ်ကျမ်းများသည် ဗြဟ္မနှင့်အတ္တမ (အာတ္မာ)ကို အဓိကထား ဖော်ပြလာ ကြသည်။

'ဗြဟ္မ'ဟူသည်မှာ အရာအားလုံး၏ မူလဘူတဖြစ်သည့်အပြင်၊ အရာအားလုံးကို စိုးပိုင်ဖန်ဆင်းသူဘုရား (ပရမတ္တမ အတ္တ)ကို ဆိုလိုသည်။

'အတ္တမ' ဟူသည်မှာ အတ္တ (အသက်၊ လိပ်ပြာ၊ ဝိညာဉ်ကောင်)ကို ဆိုလိုသည်။ ဇီဝအတ္တ ဟူ၍လည်း ခေါ်သည်။ ယင်း အတ္တမသည် သက်ရှိသတ္တဝါ တစ်စုံတစ်ယောက်သေသော်လည်း မပျက်မစီးဘဲ အမြဲတည်မြဲပြီး တစ်ဘဝမှတစ်ဘဝသို့ ကူးပြောင်းသွားလာနေသည်ဟု ဆိုသည်။ ဤအတ္တမသည် ဗြဟ္မ၏အစိတ်အပိုင်းဖြစ်ပြီး၊ သတ္တဝါတို့၏ ရုပ်(ကိလေသာ)တို့နှင့် နှောင်ဖွဲ့မိနေ၍ မူလဖြစ်သော ဗြဟ္မနှင့် ကင်းကွာနေရသည်။

ထို့ကြောင့် လူသည် မိမိ၏အတ္တမကို မူလဗြဟ္မနှင့် ပြန်လည်ပူးပေါင်းမိရန် ကြိုးစားကြရသည်။ လူသည် မသိမှု (အဝိဇ္ဇာ)မှ သိမှု (ဝိဇ္ဇာ)ကို ရသောအခါ မိမိ၏အတ္တမသည်လည်း မူလဗြဟ္မနှင့် ပူးပေါင်းရတော့သည်။ ထိုအခါ တစ်ဘဝမှ တစ်ဘဝသို့ ကူးပြောင်းနေရသော ဘဝသံသရာမှလွတ်မြောက်မှု 'မောက္ခ'ကို ရတော့သည်ဟု ဆို၏။

အချို့ကမူ အတ္တမသည် ကိလေသာအညစ်အကြေးမှကင်းဝေးစေရန် ဂင်္ဂါမြစ်အတွင်း၌ ရေချိုးရမည်။ ဂင်္ဂါမြစ်သည် ဟိမဝန္တာ ကေလာသတောင်ထိပ်တွင်တရားထိုင်နေသော သီဝနတ်မင်းကြီး၏ ဆံထုံးမှစ၍ စီးဆင်းလာ သောကြောင့် မြတ်သောမြစ်ဖြစ်သည် ဟုဆိုသည်။

အချို့က ယောဂအကျင့်ကို အားထုတ်ခြင်းဖြင့် ကိလေသာကို စင်ကြယ်စေနိုင်ကြောင်း၊ ယောဂအကျင့်၏ အစွမ်းဖြင့် အတ္တမသည် ကိလေသာများစင်ကြယ်ကာ ပရမတ္တမအတ္တ (ဗြဟ္မ)နှင့် ပြန်လည်ပေါင်းဆုံမိသဖြင့် သံသရာမှလွတ်မြောက်မှု မောက္ခ ကိုရနိုင်ကြောင်း ဆိုသည်။

မောက္ခကိုရရန် တစ်နည်းအားဖြင့် မိမိတို့၏ အတ္တများကို မူလဗြဟ္မနှင့် ပြန်လည်ပူးပေါင်းရန် ကျင့်စဉ်များမှာ-

၁ - ယဇ်ပူဇော်ခြင်း (ကမ္မယောဂ)၊

၂ - ယုံကြည်ခြင်း (ဘတ္တိယောဂ)၊

၃ - ဗြဟ္မနှင့်အတ္တမကို မြင်နိုင်အောင်ရှုခြင်း (ဉာဏယောဂ) တို့ဖြစ်သည်ဟု ဆိုသည်။

## ဥပနိသျှဒ်ကျမ်းအရေအတွက်နှင့် ပေါ်ပေါက်လာရာကာလ

'ဥပနိသျှဒ်' ဟူသည် 'ဆရာအနီး၌ထိုင်၍ အသိဉာဏ်ရှာခြင်း'ဟု အဓိပ္ပါယ်ရသည်။ ဝေဒခေတ်အဆုံး၌ ပေါ်လာသောကြောင့် ဝေဒန္တကျမ်းများ ဟူ၍လည်း ခေါ်ကြောင်း ဆိုသည်။ သို့ရာတွင် အချို့က ဥပနိသျှဒ်ကျမ်းအားလုံးကို ဝေဒန္တ မခေါ်ဘဲ ရှံကရကျာလယ ပြုစုခဲ့သောကျမ်းများကိုသာ ဝေဒန္တ ဟုခေါ်ဝေါ်ကြသည်။ ဥပနိသျှဒ်များ မည်မျှရှိသည်ကို အတိအကျမပြောနိုင်သော်လည်း လက်ရှိအရေအတွက်မှာ ၁၀၈ ကျမ်းရှိသည် ဟုဆိုသည်။ အစောဆုံး ဥပနိသျှဒ်ကျမ်းကို၁၀၀၀ ဘီစီအထက်၌ ရေးသားပြုစုခဲ့သည်ဟု ခန့်မှန်းကြသည်။ သို့ရာတွင် အများစုမှာ ၆၀၀ ဘီစီ အတွင်း၌ ပေါ်လာကြသည် ဟုယူဆရသည်။ အချို့သော ဥပနိသျှဒ်ကျမ်းများမှာ ဗုဒ္ဓပေါ်ပြီး နောက်ပိုင်းကာလကျမှ ပေါ်လာကြောင်း တွေ့ရှိရသည်။ အဘယ့်ကြောင့်ဆိုသော် ၎င်းကျမ်းများ၏ အယူအဆ ဖော်ပြချက်များတွင် ဗုဒ္ဓဝါဒ ၏ သြဇာသက်ရောက်မှုများကို တွေ့နေရသောကြောင့် ဖြစ်သည်။ အထူးသဖြင့် ရှံကရကျာလယ (ရှံကရစရိယ)၏ ဝေဒန္တကျမ်းတွင် ဗုဒ္ဓဝါဒကို ဟိန္ဒူဝါဒအဖြစ် ဖလှယ်ယူထားသည်ကို အများဆုံးတွေ့ရှိရသည်။ အလ္လောပနိသျှဒ်ကျမ်းမှာမူ အက္ကဘာမင်း (အေဒီ ၁၅၄၂-၁၆၀၅)လက်ထက်ကျမှ ပြုစုခဲ့သောကျမ်း ဖြစ်သည် ဟုဆိုသည်။

ဥပနိသျှဒ်ကျမ်းများသည် အမျိုးအစားများသလောက် ဒဿနရေးရာနှင့်စပ်လျဉ်း၍ အမြင်များလည်း တစ်ကျမ်းနှင့်တစ်ကျမ်း မတူကြချေ။ ထို မတူညီချက်ကိုအခြေခံ၍ နောက်ပိုင်း၌ ဒဿနကျမ်းများ ကွဲသွားကြပြီး၊ ဒဿနဂိုဏ်းကွဲများလည်း ပေါ်လာရတော့သည်။ သို့ရာတွင် ဒဿနဆိုင်ရာ မူလအကြောင်းအရာဖြစ်သော ဗြဟ္မနှင့် အတ္တမကိုအခြေခံ၍ အငြင်းပွား ကွဲပြားကြခြင်းသာ ဖြစ်သည်။ ဥပနိသျှဒ်ကျမ်း ၁၀၈ ကျမ်းအနက် ၁၆ ကျမ်းမှာ ဗြာဟ္မဏဘာသာ ဒဿနရေးရာနှင့်စပ်လျဉ်း၍ အရေးပါသည့်ကဏ္ဍမှ ပါဝင်သည်။ တစ်ဖန် ၁၆ ကျမ်းအနက် ၆ ကျမ်းကို ဗြဟ္မသုတ္တကျမ်းအဖွင့်တွင် ရှံကရစရိယက အကိုးကျမ်းများအဖြစ် အသုံးပြုပြီး၊ ကျန် ၁၀ ကျမ်းကိုမူ တစ်ကျမ်းစီ တစ်ကျမ်းစီ အကျယ်ဖွင့်ဆို၍ ယင်းတို့၏သီးခြားအဖွင့်ကျမ်းကို ပြုစုခဲ့သည်။

## ဗြာဟ္မဏလူမျိုး

ဖော်ပြပြီးခဲ့သော ဝေဒ ၄ ပုံဖြင့် အသက်မွေးဝမ်းကျောင်းပြုနေကြသောလူမျိုးကို 'ဗြာဟ္မဏ (ပုဏ္ဏား) လူမျိုး' ဟုခေါ်သကဲ့သို့ ၎င်းတို့၏ ဘာသာရေးကိုလည်း 'ဗြာဟ္မဏဘာသာရေး' ဟုခေါ်သည်။ ဆရာဦးရွှေအောင်က သူ၏ 'အတ္တဝါဒမှ အနတ္တဝါဒ'သို့ စာအုပ်တွင် ရိဂ်ဝေဒမှ အဲတရဲယနှင့် ကော်သိတကီ၊ ယဇုဝေဒမှ သဟာပထနှင့် တဲတိရိယ၊ သာမဝေဒမှ တေဏ္ဍျဖဲမိနိယနှင့်ဆဗ္ဗိသ၊ အာထဗ္ဗဏဝေဒမှ ဂေါပထ ဟူသော ဗြာဟ္မဏကျမ်းများ ဖြစ်ပေါ်လာကြောင်းနှင့် ထိုခေတ်ကို ဗြာဟ္မဏခေတ်ဟု ခေါ်ကြောင်း ရေးသားဖော်ပြထားသည်။

ဤ၌ ဗြာဟ္မဏဝေါဟာရနှင့်စပ်လျဉ်း၍ ဗုဒ္ဓစာပေ၌ အောက်ပါအတိုင်း ရေးသားဖော်ပြထားသည်။

ရှေးရှေးကာလ၌ လူသားတို့သည် ကိုယ်ကျင့်တရား ကောင်းမွန်ဖြူစင်မှု ရှိကြသည်။ ကာလရှည်ကြာလာသောအခါ ခိုးမှု၊ လိမ်လည်မှု၊ လုယက်မှု စသော မကောင်းမှုများ ရှိလာ၍ အပြစ်ဒဏ်ပေးမှုများ ပေါ်ပေါက်လာရတော့သည်။ ယင်း မကောင်းမှု၊ ယုတ်မာမှုကိစ္စရပ်များကို စက်ဆုပ်သူတို့သည် လူ့ဘောင်ကို စွန့်ခွာတောထွက်ပြီး တရားကျင့်လျက် နေကြသည်။ မေတ္တာ၊ ကရုဏာတရား ပွားများလျက်နေကြသည်။ ထိုပုဂ္ဂိုလ်တို့သည် မကောင်းမှုကို ရှေ့ဦးဆေးကြောမျှောပြီး အပပြုပြီးဖြစ်သောကြောင့် 'ဗြာဟ္မဏ' မည်ကြကုန်၏။

ကာလရှည်ကြာလာသောအခါ ဗြာဟ္မဏတို့သည် လူသူကင်းဝေးသောတောအတွင်း၌ မနေကြတော့ဘဲ ရွာနားမြို့နားသို့ ချဉ်းကပ်နေကြ၍ ဂါထာမန္တန် (ဝေဒ)များကို သီကုံးဖွဲ့ဆိုလေ့ ရှိကြသည်။ လူတို့၏ သာရေးနာရေး၌

မန္တန်များကို ရွတ်ဖတ်ပေးကြသည်။ လူတို့အတွက် ယဇ်ပူဇော်မှုများ ပြုလုပ်ပေးကြသည်။ ဝေဒမန္တန်များကိုကြီးကျယ်မြင့်မြတ်သောဗြဟ္မာဟု ခေါ်လေ့ရှိကြသည်။ ထို 'ဗြဟ္မာ'မည်သော မန္တန် (ဝေဒ)များကို ရွတ်ဖတ်လေ့ရှိသောကြောင့် ၎င်း ယဇ်ပုရောဟိတ်များကို 'ဗြာဟ္မဏ' ဟုခေါ်ဆိုလာကြသည်။

ထိုခေတ် ဗြာဟ္မဏတို့သည် ၄၈ နှစ်တိုင်တိုင် မေထုန်မှရှောင်ကြဉ်သော (ဗြဟ္မစရိယ)အကျင့်ကို ကျင့်လျက် ဝေဒကျမ်းများကို သင်ယူလေ့ကျက်ကြရသည်။ ထို့နောက် အိမ်စဉ်လှည့်၍ 'ကညာဘိက္ခ' ခေါ် 'အပျိုဆွမ်း' ခံရသည်။ အရွယ်ရောက်သော သမီးပျိုရှိသူသည် ထိုဗြာဟ္မဏ၏လက်၌ သမီးကိုအပ်၍ ရေစက်ချ လှူရသည်။ ဗြာဟ္မဏသည် သားသမီးမျိုးဆက် မပြတ်ရေးအတွက် ဦးတည်၍သာ ပုဏ္ဏေးမထံ ချဉ်းကပ်ရသည်။ ကာမဂုဏ်ခံစားမှုကို ပဓာနမထားရချေ။ ဥတုလာပြီး၍ ချိန် တစ်ကြိမ်သာ သွားလာကြရသည်။ သားတစ်ယောက် မွေးဖွားပြီးသော အခါ၌ တောထွက်၍ ရသေ့ဝတ်ကြရသည်။

## ဗြာဟ္မဏတို့၏ကျင့်ဝတ် အဿမ* ၄ ပါး

အမှန်မှာ ဗြာဟ္မဏတို့သည် အသက်အရွယ်အပိုင်းအခြားကိုလိုက်၍ အောက်ပါကျင့်ဝတ် အဿမ ၄ ပါး ကို ဆောင်ရွက်ရန် သတ်မှတ်ထားသည်။

၁- ဗြဟ္မစာရီ - မေထုန်မှ ရှောင်ကြဉ်ရသည့်ဘဝ၊

၂- ဂဟဋ္ဌ - အိမ်ထောင်ရှင်ဘဝ၊

၃- ဝါနပတ္တ - တောနေရသေ့ဘဝ၊

၄- သညာသီ - စွန့်လွှတ်ခြင်းဘဝ၊

လူ့သက်တမ်းကို ၄ ပုံပုံ၍-

ပထမအရွယ် (အသက် ၂၅ နှစ်)အထိ မေထုန်မှုမှရှောင်ကြဉ်၍ ဝေဒကို သင်အံလေ့ကျက်ရသည်။

ဒုတိယအရွယ် (အသက် ၂၆ နှစ်မှ ၅၀ နှစ်အထိ) မျိုးနွယ်တူပုဏ္ဏေးမနှင့် အိမ်ထောင်ပြုရသည်။ ကာမဂုဏ်ခံစားမှုကို ပဓာနမထားဘဲ လူမျိုးဆက်တည်တံ့ရေးကိုသာ ပဓာနထားရသည်။ ဤဒုတိယအရွယ်၌ပင် 'မဟာယည' ခေါ် ပူဇော်ခြင်းကြီး ၅ မျိုးကိုလည်း သံသရာကျေးဇူးရှင်အဖြစ် ပူဇော်၍ ကျေးဇူးဆပ်ရသည်။

မဟာယည ၅ မျိုးမှာ -

၁- ဝေဒယည - ဖန်ဆင်းရှင်ဗြဟ္မာကို ပူဇော်ခြင်း၊

၂- ဣသိယည - ဆရာသမားများအား ပူဇော်ခြင်း၊

၃- ပိတုယည - မိဘများအား ပူဇော်ခြင်း၊

၄- နရယည - လူအချင်းချင်း ပူဇော်မှု

(လူ့ဘောင်၌နေရာတွင် တစ်ဦးတည်းနေ၍မရ၊ အဖွဲ့အစည်းဖြင့် နေရသည်။ ယင်းလူ့အဖွဲ့အစည်းသည် ကျေးဇူးရှင်ပင် ဖြစ်သည်။ ထို့ကြောင့် လူအကျိုး, ပရဟိတအကျိုး သယ်ပိုးခြင်းဖြင့် ပူဇော်မှုကို ပြုရမည် ဟု လိုသည်။)

၅- ဘူတယည - တိရစ္ဆာန်နှင့် သက်မဲ့ရုပ်လောကအား ပူဇော်မှု

(လူ့ဘဝသည် အထက်ဖော်ပြပါ ဖန်ဆင်းရှင်၊ ဆရာသမား၊ မိဘ၊ လူ့အဖွဲ့အစည်းများနှင့် ဆက်နွယ်နေသည်သာမက တိရစ္ဆာန်၊ တော၊ တောင်၊ ရေ၊ မြေ စသော ပတ်ဝန်းကျင်များ အပေါ်၌လည်း တည်မှီနေရသည်။ ထို့ကြောင့် ၎င်းတို့သည်လည်း ကျေးဇူးရှိ၍ ၎င်းတို့အား ပူဇော်ရမည် ဟူလိုသည်။)

တတိယအရွယ် (အသက် ၅၁-မှ ၇၅-အထိ)၌ သားသမီး ၁ ယောက်- ၂ ယောက်ရပြီးပါက တောထွက်၍ ရသေ့ဝတ်ကြရသည်။ အထက်ဖော်ပြပါ မဟာယညအမှုကိုလည်း နေ့စဉ်ပြုရသည်။ ရသေ့၊ ရသေ့မများ အတူနေကြသည်။ ရသေ့များသည် အတတ်အမျိုးမျိုးကို လေ့လာလိုက်စား၍ တပည့်များအား သင်ကြားပို့ချပေးရသည်။ ကျမ်းစာများကို ရေးသားခြင်းသည် ဤတတိယအရွယ်၏ အဓိကကျသောလုပ်ငန်း ဖြစ်သည် ဟုဆိုသည်။ အိန္ဒိယ ရှေးဟောင်းပညာရပ်များသည် ထိုရသေ့များတီထွင်ခဲ့ကြသော အတတ်ပညာများ ဖြစ်ကြသည်။ ဝေဒကျမ်းများကို လည်း ဤကဲ့သို့သောရသေ့များကပင် ပြုစုခဲ့ကြသည်။ ထို့ကြောင့် 'အဋ္ဌက၊ ဝါမက၊ ဝါမဒေဝ၊ အင်္ဂီရသ၊ ဘဂု၊ ယမဒဂ္ဂိ၊ ဝါသိဋ္ဌ၊ ဘာရဒွါဇ၊ ကဿပ၊ ဝေဿမိတ္တ' ဟူ၍ ဝေဒ ၃ ပုံ ကျမ်းပြုရသေ့ ၁၀ ဦး ရှိကြောင်း ပါဠိအဘိဓာန်ကျမ်း၌ ဖော်ပြထားခြင်း ဖြစ်သည်။ ပါမောက္ခစမစ်ကမူ ဝေဒကျမ်းပြုသူများတွင် ယောကျ်ားများသာမက မိန်းမများပါ ပါဝင်ကြောင်း ဆိုသည်။ ၎င်းအပြင် ရသေ့များသည် မီးလုပ်ကျွေးခြင်း၊ ယဇ်ပူဇော်ခြင်း စသည်တို့ကိုလည်း ပြုလုပ်ကြရသည်။ သမာဓိဘာဝနာလုပ်ငန်း ဈာန်လမ်းစဉ်နှင့် တပအကျင့်တို့ကို လည်း ကျင့်ကြရသည်။

စတုတ္ထအရွယ် (၇၆ နှစ်မှအထက်)၌ တပည့်ပရိသတ်များသာမက မဟာယညကိစ္စများကိုပါစွန့်၍ မိမိ တစ်ဦးတည်းနေထိုင်သော တပအကျင့်ကို သေသည့်တိုင်အောင် ကျင့်သုံးရသည်။ သညာသီခေါ် ဗြာဟ္မဏများသည် ဦးခေါင်းအလယ်၌ ဦးစွန်းအရှည်ထား၍ ကျန်ဆံပင်များကို ပြောင်အောင်ရိတ်ရသည်။

## ဗြာဟ္မဏတို့ ကျင့်ဝတ်ပျက်လာခြင်း

ကာလရှည်ကြာလာသောအခါ ဗြာဟ္မဏတို့သည် တောထွက်ခြင်းမပြုတော့ဘဲ ဆက်လက်၍ ကာမဂုဏ်ခံစား ကြလေသည်။ တစ်ဖန် ဩက္ကာကမင်းကြီးလက်ထက်၌ ဗြာဟ္မဏတို့သည် မင်း၏စည်းစိမ်ချမ်းသာကို အားကျ၍ ဥစ္စာရရန် တီထွင်လာကြပြန်သည်။ ရှေးယခင်က မီးနတ် (ယဇ်)ပူဇော်မှုကို ထောပတ်၊ ပျားသကာ၊ တင်လဲတို့ဖြင့်သာ ပြုခဲ့ကြသည့် အစဉ်အလာကိုဖျက်၍၊ မြင်း၊ နွား၊ ဆိတ် စသောသတ္တဝါတို့ကို သတ်ဖြတ်၍ လည်ချောင်းသွေးဖြင့် မီးနတ် (ယဇ်)ပူဇော်မှုကိုပြုလျှင် ကြီးကျယ်မြင့်မြတ်သောအကျိုးထူးကို ရနိုင်သည်ဟု ဝေဒကျမ်းစာအသစ်များကို ရေးသား၍ ဩက္ကာကမင်းထံ ဆက်သွင်းကြသည်။ (သုတ္တနိပါတ်၊ ဗြာဟ္မဏဓမ္မိကသုတ်၊ အင်္ဂုတ္တရနိကာယ် ရဋ္ဌယသုတ်၊ မေတ္တသုတ်)

သို့ဖြင့် မြင်းကိုသတ်၍ ပူဇော်ရသော အဿမေဓယဇ်ကို ပူဇော်ပါလျှင် သားကောင်းရတနာရကြောင်း၊ လူကိုသတ်၍ ပူဇော်ရသော ပုရိသမေဓယဇ်ကို ပူဇော်ပါလျှင် နတ်ပြည်သို့ အရှင်လတ်လတ် ရောက်နိုင်ကြောင်း ရာမယဏဗာလကဏ္ဍာ၌ ဖော်ပြထားသည်။ ဤနည်းအားဖြင့် ဗြာဟ္မဏဂိုဏ်းဝင်တို့သည် အိမ်ထောင်သားမွေးပြုကြ၍ အကျင့်စာရိတ္တအားဖြင့် လူသာမန်တို့နှင့် ထူးခြားမှု မရှိတော့ချေ။ တောထွက်၍ တရားကျင့်မှု၊ ဈာန်သမာဓိရအောင် အားထုတ်မှုများမပြုကြတော့ဘဲ ပစ္စည်းဥစ္စာစုဆောင်း၍ ကာမဂုဏ်စည်းစိမ်ကို ခံစားနေကြသည်။

ဘုရင်များ၊ သူကြွယ်များအတွက် ယဇ်ပူဇော်ပေးကြသည်။ မန္တန် ရွတ်ဖတ်ပေးကြသည်။ ယဇ်ပူဇော်ခ၊ မန္တန်ရွတ်ခ ရသောဥစ္စာဖြင့် အသက်မွေးကြသည်။ အချို့သော ဗြာဟ္မဏများသည် မြို့စား ရွာစားရာထူးများကိုပင်

ရယူထားကြသည်။ အထူးသဖြင့် ဘုရင်၏ပုရောဟိတ်ဆရာကြီးရာထူးကို ဗြာဟ္မဏတို့သာ ပိုင်ဆိုင်ကြသည်။ ယဇ်ပူဇော်ပွဲများ၊ သာမူနာမူများ၌ မန္တန်ရွတ်ပွဲများသည် ဓလေ့ထုံးစံတစ်ခု ဖြစ်လာ၍ ဆင်းရဲချမ်းသာမရွေး မလွဲမရှောင်သာ ပြုကြရသည်။ ဘုရင်များသည် အဿမေဓယဇ်ပွဲများ၌ ကုဋေကုဋာသော ရွှေငွေများ၊ အသိန်းမကသော နွားများကို ဗြာဟ္မဏတို့အားပေးလှူသဖြင့် ဗြာဟ္မဏတို့သည် လွန်စွာ ကြွယ်ဝချမ်းသာလာကြသည်။

ထိုအခါ ဗြာဟ္မဏတို့သည် အကျင့်စာရိတ္တဖောက်ပြန်လာကြ၍ လူအများ အရိအသေတန်လာကြတော့သည်။ ထို့ကြောင့် လူအပေါင်း၏ရိုသေလေးစားမှုကို ခံယူရရှိရန် 'မိမိတို့ဗြာဟ္မဏမျိုးနွယ်များသည် ကောင်းကင်ရှိ ဗြဟ္မာကြီး၏အာခံတွင်းမှ မွေးဖွားလာကြသူများ ဖြစ်ကြ၍ ပင်ကိုပကတိအားဖြင့် မြင့်မြတ်သောသူများဖြစ်ကြောင်း၊ ၎င်းတို့အားလည်း ရိုသေလေးစားပြီး ပူဇော်ပသလှူဒါန်းရကြောင်း' ကိုဖော်ပြသော ဝေဒကျမ်းစာသစ်များကို ရေးသားလာကြခြင်း ဖြစ်သည်။

## အမျိုး ၄ ပါး

ဗြာဟ္မဏတို့သည် ရှေးယခင်ကပင် အမျိုး (ဝဏ္ဏ) ၄ ပါးကို ခွဲခြားသတ်မှတ်ထားခဲ့ကြသည်။ အမျိုး(ဝဏ္ဏ) ၄ ပါးမှာ -

၁- ဗြာဟ္မဏ - ပုဏ္ဏားမျိုး၊

၂- ခတ္တိယ - မင်းမျိုး၊

၃- ဝေဿ - ကုန်သည်၊လယ်လုပ်မျိုး၊

၄- သုဒ္ဒ - ဆင်းရဲမျိုးတို့ ဖြစ်ကြသည်။

၎င်းတို့အနက် ဗြာဟ္မဏမျိုးသည် ပုရိသ (မဟာဗြဟ္မာ)၏ ခံတွင်းမှ၊ ခတ္တိယမျိုးသည် ပုရိသ၏ လက်ရုံး ၂ ဖက်မှ၊ ဝေဿမျိုးသည် ပုရိသ၏ ခြေ ၂ ချောင်း (ပေါင်) မှ၊ သုဒ္ဒမျိုးသည် ပုရိသ၏ခြေဖဝါး ၂ ဖက်မှ ဖြစ်လာသည်ဟု ရိဂ်ဝေဒ၌ ဖော်ပြထားသည်။

အမှန်မှာ အာရိယန်တို့သည် အိန္ဒိယသို့ စတင်ဝင်ရောက်လာရာ၌ ရှိရင်းတိုင်းရင်းသားများဖြစ်သော ဒရာဗီဒီးယန်းတို့ထက် မြင့်မြတ်ကြောင်းဇာတ်ခွဲရာမှ အမျိုးဇာတ် ၄ မျိုး ကွဲလာခြင်းဖြစ်သည်။ ယခုမူ အိန္ဒိယတွင် အမျိုးဇာတ်ပေါင်း ၂၀၀၀ ခန့်ရှိပြီး၊ ဇာတ်မဲ့များလည်း ရှိသည်။ သမိုင်းဆရာတို့အဆိုအရ အာရိယန်တို့သည် ၂၀၀၀ ဘီစီခန့်၊ သို့မဟုတ် ၁၈၀၀ ဘီစီခန့်၌ အိန္ဒိယသို့ဝင်ရောက်ရောက်ချင်း ဇာတ်ခွဲခြားမှု မပြုကြသေးဘဲ၊ ၁၂၀၀ ဘီစီခန့် ရောက်သောအခါမှ ဇာတ်ခွဲခြားမှုစနစ် ပေါ်လာသည် ဟုသိရသည်။

## အမျိုး ၄ ပါး တာဝန်

ထိုအမျိုး ၄ ပါးတို့ ဆောင်ရွက်ရမည့် လုပ်ငန်းတာဝန်များကိုလည်း သတ်မှတ်ထားကြသည်။

ဗြာဟ္မဏမျိုးသည် ဝေဒသင်ယူမှု၊ယဇ်ပူဇော်မှုတာဝန်ကို ဆောင်ရွက်ရမည်။ ဝေဒကျမ်းများကို ဗြာဟ္မဏများမှတစ်ပါး အခြားသူများကြည့်ရှုခွင့် မရှိ ဟုဆိုသည်။

ခတ္တိယမျိုးသည် တိုင်းပြည်အုပ်ချုပ်မှု၊ စစ်တိုက်မှုတို့ကို တာဝန်ယူဆောင်ရွက်ရမည်။

ဝေဿမျိုးသည် လယ်ယာကုန်ထုတ်လုပ်ငန်း၊ ကူးသန်းရောင်းဝယ်ရေးလုပ်ငန်းများကို တာဝန်ယူ ဆောင်ရွက်ရမည်။

သုဒ္ဒမျိုးသည် လက်သမား၊ ပန်းရံ၊ သားရေနယ်လုပ်ငန်း၊ နီးလုပ်ငန်း၊ မိလ္လာကျုံး၊ ပန်းမှိုက် သွန်လုပ်ငန်း၊ သုဘရာဇာလုပ်ငန်း စသော ယုတ်နိမ့်သောအလုပ်များကို အခိုင်းအစေအဖြစ် ဆောင်ရွက်ရမည်။

၄င်းအပြင် ခတ္တိယမျိုးသည် ဗြာဟ္မဏတို့အား အန္တရာယ်မှ ကာကွယ်ပေးရခြင်း၊ ဝေသျမျိုးသည် ဗြာဟ္မဏတို့အား ပစ္စည်းတို့ဖြင့် ထောက်ပံ့လှူဒါန်းရခြင်း၊ သုဒ္ဒမျိုးသည် ဗြာဟ္မဏတို့အား အမှုကိစ္စကြီးငယ်ကို ဆောင်ရွက်ပေးရခြင်း တာဝန်အသီးသီးကိုလည်း မဟာဗြဟ္မာကြီးက သတ်မှတ်ထားကြောင်း။ ယင်းအတိုင်း မိမိတို့ဆိုင်ရာတာဝန် ကျေပွန်ပါက နတ်ပြည်သို့ရောက်နိုင်ကြောင်းကို ဘဂဝါဂီတ၌ ရေးသားဖော်ပြထားသည်။

အထူးမှာ အာရိယန်တို့သည် အိန္ဒိယသို့ စတင်ဝင်ရောက်လာကတည်းက စင်ပြိုင်နိုင်ငံငယ်များ တည်ထောင်ပြီး အချင်းချင်း တိုက်ခိုက်နေကြသည်။ သို့ရာတွင် အာရိယန်တို့ စစ်တိုက်ခြင်းမှာ မျိုးနွယ်အလိုက် သီးသန့်နေခြင်းကို ဌာနေလူများကမကြိုက်သောကြောင့် စစ်တိုက်ရခြင်းဖြစ်သည်ဟု ရိဂ်ဝေဒ၌ ဖော်ပြထားသည်။

နိုင်ငံငယ်များ ထူထောင်ကြခြင်းနှင့်ပတ်သက်၍ သမိုင်းဆရာများက အာရိယန်တို့သည် တန်ခိုးကြီးကြပြီး တစ်ဦးနှင့် တစ်ဦး မာနထောင်လွှားကြခြင်းကြောင့် နိုင်ငံပေါင်းများစွာ ပေါ်ပေါက်လာရသည် ဟုမှတ်ချက်ပြုကြသည်။ အမှန်မှာ ထိုအခါက အိန္ဒိယတွင် အာရိယန်မဟုတ်သူများက အာရိယန်ထက်ပိုများပြီး နောက်ပိုင်းတွင် အာရိယန်လူဦးရေတိုးပွားလာပြီး အခြားလူမျိုးဦးရေမှာ ယုတ်လျော့လာကြသည်။ ဤသို့ လူဦးရေတိုးလာသော အာရိယန်တို့သည် အကျင့်ဖြူစင်မှုကိုအစွဲပြု၍ ဘာရဒ္ဒါဇမျိုးနွယ်စု၊ ဝါသိဋ္ဌမျိုးနွယ်စု စသည်ဖြင့် မျိုးနွယ်စုများ ကွဲသွားရပြီး ကိုးကွယ်ရာနတ်များလည်း ကွဲပြားလာရသည်။ ဤသို့ကွဲပြားလာကြရာမှ နိုင်ငံငယ်များလည်း ကွဲပြားလာရသည် ဟုယူဆနိုင်သည်။

## ဗြာဟ္မဏတို့၏အယူဝါဒနှင့် ကျင့်ဝတ်များ

ကျမ်းစာအမျိုးမျိုးတို့ကို ဖန်တီး၍ မိမိတို့၏ဝါဒကို အမျိုးမျိုးပြုပြင်လာကြသော ဗြာဟ္မဏ (ဟိန္ဒူ)တို့၏ နောက်ဆုံးအဆင့် ရည်မှန်းချက်ပန်းတိုင်မှာ ဤဘဝတွင် ကျက်သရေမင်္ဂလာ ဘုန်းတန်ခိုး စည်းစိမ်ဥစ္စာတိုးပွား၍ နောင်ဘဝတွင် နတ်ပြည်၊ ဗြဟ္မာ့ပြည်သို့ရောက်ရှိရန် ဖြစ်သည်။ ထိုဖော်ပြပါ ကောင်းကျိုးများရရှိရန်မှာ မကောင်းမှုပါပမှ စင်ကြယ်စေရမည်။ ယင်း မကောင်းမှုစင်ကြယ်ရန် ပြုလုပ်ကြသည့် လမ်းစဉ်၊ အယူဝါဒ၊ ကျင့်ဝတ်များမှာ အောက်ပါအတိုင်း ၆ မျိုးရှိသည်။

၁- ဥဒကသုဒ္ဓိဝါဒ၊
၂- အဂ္ဂိပါရိစရိယာသုဒ္ဓိဝါဒ၊
၃- ယညသုဒ္ဓိဝါဒ၊
၄- ဣရိယာပထသုဒ္ဓိဝါဒ၊
၅- ဝတသုဒ္ဓိဝါဒ၊
၆- ဈာနသုဒ္ဓိဝါဒ။

### ၁- ဥဒကသုဒ္ဓိဝါဒ

'ရေဖြင့် စင်ကြယ်ခြင်း'ဟု အဓိပ္ပာယ်ရသည်။ ကိုယ်ခန္ဓာအညစ်အကြေးကို ရေဖြင့် ဆေးကြောသန့်ရှင်းပစ်သကဲ့သို့ မကောင်းမှုများကိုလည်း ရေဖြင့်ဆေးကြောပစ်က မကောင်းမှုကင်းစင်ပြီး ဗြဟ္မာ့ပြည်သို့ ရောက်နိုင်သည်ဟု ယူသောအယူ ဖြစ်သည်။ သို့ရာတွင် မကောင်းမှုကို ဆေးကြောသောရေမှာ သာမညရေ မဖြစ်ရဘဲ၊

ဂင်္ဂါမြစ်၌ရှိသော ဂယာရေဆိပ်၊ ပယာဂရေဆိပ်၊ အဓိကဃ္ဃရေဆိပ်နှင့် ဗဟုကာမြစ်၊ သရဿတီမြစ်၊ ဗာဟုဝတီမြစ်၊ သုန္ဒရိကာမြစ် ဟူ၍ သတ်မှတ်ထားသော ရေချိုးဆိပ်များမှ ရေအထူးဖြင့် ဆေးကြောရသည်ဟု ဆိုသည်။

ဗြာဟ္မဏတို့အတွက် ဂင်္ဂါ၊ ယမုနာ၊ ဂယာမြစ်ရေတို့သည် အထူးအရေးကြီးသည်။ သေသူ၏အရိုးပြာသည် ဂင်္ဂါမြစ်ရေနှင့်ထိရမှ ၎င်း၏ဝိညာဉ်သည် နတ်ပြည်ရောက်နိုင်သည်ဟု ယူဆကြသည်။ ရေချိုးဆိပ် မသွားနိုင်က ထိုရေဆိပ်မှရေကို သယ်၍ ချိုးကြသည်။ ဗြာဟ္မဏဘာသာဝင်တို့သည် အနည်းဆုံး ၁ နှစ် ၁ ကြိမ် ထိုရေချိုးဆိပ် တစ်ခုခု၌ ရေချိုးလေ့ ရှိသည်။

ဤကျင့်ဝတ်ကိုကျင့်သော ရသေ့များသည် နံနက်၊ နေ့၊ ညနေ ဟူ၍ တစ်နေ့ ၃ ကြိမ် ရေချိုးဆင်းလေ့ရှိသည်။ အကြိမ်များစွာ ရေချိုးပြီးကြောင်း လူများသိရှိစေရန် အချို့ရသေ့တို့သည် ကြာပန်းကို ကိုင်ဆောင်ထားကြသည်။ ရေညှိရေမှော်တို့ကိုလည်း လက်မောင်း၊ခြေသလုံးတို့၌ သုတ်လိမ်းထားလေ့ ရှိသည်။ ပစ္စုပ္ပန် စီးပွားချမ်းသာ ကျက်သရေသိဒ္ဓိ တန်ခိုးရရှိရန် ရေငုပ်ရာမှပေါ်လာသောအခါ အချို့က မန္တန်တစ်ခုခုကို ရွတ်ဆိုကြသည်။ အချို့က နေကို စိုက်ကြည့်ကြသည်။ နေကို ရှိခိုးကြသည်။ မဟာဗြဟ္မာကို ရှိခိုးကြသည်။ ဣန္ဒြာ၊ ဝရုဏ၊ သောမနတ်တို့ကိုလည်း ဟစ်အော် ခေါ်ကြသည်။ အချို့ရသေ့များမှာ ရေဖြင့် မကောင်းမှုစင်ကြယ်နိုက်တွင် သေဆုံးသွားပါက ဗြဟ္မာပြည်ရောက်ရန် သေချာသည်ဟု ယူဆသောကြောင့် ရေတွင် ၇ ကြိမ် ငုပ်တုံပေါ်တုံပြု၍၊ ရေထဲ၌ အသက်အောင့်ကာ ဓိဝိန်ချုပ်အောင်ပြုလုပ်ကြသည် ဟုဆိုသည်။

## ၂- အဂ္ဂိပါရိစရိယာသုဒ္ဓိဝါဒ

'မီးကို လုပ်ကျွေးခြင်းဖြင့် စင်ကြယ်ခြင်း'ဟု အဓိပ္ပာယ်ရသည်။ ဗြာဟ္မဏတို့သည် မီးကို 'မဟာဗြဟ္မာကြီး' ဟု ယူဆကြသည်။ မီးတောက်မီးလျှံသည် ဗြဟ္မာကြီး၏လျှာ ဖြစ်သည်။ မီးပုံထဲသို့ ထောပတ်ဆီဦးကို ထည့်လိုက်သောအခါ မီးလျှံထွက်လာခြင်းသည် ဗြဟ္မာကြီးက လျှာထုတ်၍စားသည်ဟု ယူဆကြသည်။

မီးပူဇော်ရာ၌ တောမီး၊ ထမင်းချက်သောမီး စသော သာမန်မီးများကို ပူဇော်ခြင်းမပြုဘဲ၊ အိမ်ထောင်စုတစ်စု၊ မျိုးနွယ်စုတစ်စုအတွက် သီးသန့်နေရာ၌ အမြဲတောက်နေသော အပူဇော်ခံမီးမျိုးကိုသာ ပူဇော်လေ့ရှိကြသည်။

သားယောကျ်ားများ မွေးဖွားလာသောအခါ ထိုသားအတွက် အပူဇော်ခံ မီးဖိုတစ်ခု ထွန်းညှိပေးထားရသည်။ သားဖြစ်သူ ၁၆ နှစ်အရွယ်သို့ ရောက်ပါက 'တောထွက်၍ မီးပူဇော်လုပ်ကျွေးမည်လော၊ လူ့ဘောင်၌နေမည်လော' ဟု မိဘကမေး၍၊ 'မီးကို လုပ်ကျွေးပူဇော်မည်'ဆိုပါက ထွန်းညှိထားသောမီးကို ပေးလိုက်သည်။ ထိုသူသည် ရသေ့ဝတ်ကာ တောအရပ်သို့သွား၍ မီးနတ်(မဟာဗြဟ္မာကြီး)ကို ပူဇော်လုပ်ကျွေးရသည်။ ဆွမ်းခံ၍ရသော မွန်မြတ်သော စားသောက်ဖွယ်ရာများ၊ နို့ယာနာ၊ ထောပတ်၊ ဆီဦး၊ ပျား၊ တင်လဲ၊ သကာများကို မီးနတ်ကြီးအား အစာကျွေးသည့်အနေဖြင့် ဂါထာမန္တန်ရွတ်၍ မီးတောက်ထဲသို့ လောင်းထည့်ရသည်။ ထိုသို့ မီးကို လုပ်ကျွေးပူဇော်ပါက ဗြဟ္မာပြည်ရောက်သည် ဟုယုံကြည်ကြသည်။

အိန္ဒိယပြည် ဘုံဘေမြို့တွင် ရှေးခေတ် အီရန်မှပြောင်းရွှေ့လာသော ဖာရစီလူမျိုးတို့သည် မီးနတ်ဘုရားကျောင်းဆောင်ကြီးအတွင်း၌ မီးနတ်ကြီးအား နံ့သာဖြူ၊ ကရမက် စသော နံ့သာထင်းများဖြင့် အမြဲ ပူဇော်နေကြသည်။

## ၃- ယညသုဒ္ဓိဝါဒ

ယဇ်ပူဇော်ခြင်းဖြင့် မကောင်းမှုစင်ကြယ်သည်ဟု ယူဆသောဝါဒ ဖြစ်သည်။ သတ္တဝါတို့ကို သတ်ဖြတ်၍လည်းချောင်းသွေးဖြင့် မဟာဗြဟ္မာကြီးအား ပူဇော်ခြင်း ဖြစ်သည်။ ပူဇော်ရန် တလင်းပြင်ကို ယညာဝါဋ-ယဇ်

တွင်းဟု ခေါ်သည်။ ထိုယဇ်တွင်း၌ ယဇ်တိုင် စိုက်ရသည်။ ယဇ်တိုင်၌ ကောင်းမှုရှင်၏အမည်ကို ရေးထွင်းရသည်။ သားကောင်များ ချည်နှောင်ရန်အတွက်လည်း ယဇ်တိုင်များ တန်းစီစိုက်ထားရသည်။ ယဇ်တိုင်ခုတ်ရာ၌ ကန်တော့ပွဲထိုး၍ ဓန္တန်ရွတ်ဖတ် ခုတ်ကြရသည်။ ယဇ်တိုင်များမှာ ၂၁ တောင်ရှည်၍ ၈ မြှောင့်ခုတ်ရွေရသည်။ ဥသျှစ်သား ၆ တိုင်, ရှားသား ၆ တိုင်, ပေါက်သား ၆ တိုင်, သံလွင်သား ၂ တိုင်, ဖန်ခါးသား ၁ တိုင်အားဖြင့် စုစုပေါင်း ၂၁ တိုင်ကို တစ်လံအကွာစီ စိုက်ထူရသည်။ ထုတိုင်များကို ရွှေချ၍ အဝတ်အုပ်ထားရသည်။ ငါး,လိပ်စသောရေသတ္တဝါများ၊ ငှက်များ, မြွေများ, ဆင်, မြင်း စသော တိရစ္ဆာန်တို့ကို ယဇ်တိုင်၌ ချည်နှောင်ထားရသည်။ အထူးစီမံထားသော အုတ်တို့ဖြင့် ဂဠုန်ငှက်ပုံသဏ္ဌာန်ရှိသော မီးကျီးတွင်း ပြုလုပ်ရသည်။ ခေါင်းဆောင်ဖြစ်သော ပုရောဟိတ်ဆရာကြီးက သတ္တဝါတို့၏လည်ကိုလှီး၍ လည်ချောင်းသွေးကို မီးကျီးတွင်း၌ ထည့်ရသည်။ ယဇ်တလင်းပြင်၌ နေဇာမြက်ကိုခင်း၍ ပတ်လည်၌ နေဇာမြက် ကာရံရသည်။ ယဇ်ပူဇော်မည့်အသားတို့ကို နေဇာမြက်အခင်းပေါ်၌ တင်ထားမှ နတ်သားများက နှစ်သက်သည် ဟုဆိုသည်။

ယဇ်ပူဇော်ပွဲဒါယကာ၏ စွမ်းအားအလျောက် သတ္တဝါတစ်ကောင်မှစ၍ ရာထောင်ချီလျက် သတ်ဖြတ်ပူဇော်ရသည်။ ဘုရင်မင်းများနှင့် သူဌေးသူကြွယ်များက မိမိတို့၏စွမ်းအားအလိုက် ယဇ်ပူဇော်ပွဲကို ကျင်းပကြသည်။ ဆိတ် ၁၀၀, သိုး ၁၀၀, သမင် ၁၀၀, နွား ၁၀၀, မြင်း ၁၀၀, သမီးကညာ ၁၀၀, လုလင် ၁၀၀ စသည်ဖြင့် ရာလိုက် သတ်ဖြတ်ပူဇော်ကြသည်။

ဗြာဟ္မဏစာပေတို့၌ သွေးချောင်းစီးယဇ်ပူဇော်ပွဲများကို ချီးကျူးရေးသားထားကြသည်။ ကောသလမင်းကြီး၏ ယဇ်ပူဇော်ပွဲ, ကူဋဒန္တပုဏ္ဏားကြီး၏ ယဇ်ပူဇော်ပွဲကို စသည်တို့ ဘုရားရှင်က ဟောပြောတားမြစ်ခဲ့ကြောင်း ဒီဃနိကာယ်နှင့် ဓမ္မပဒတို့၌ ဖော်ပြထားသည်။

သတ္တဝါတို့ကို သတ်ဖြတ်ပူဇော်ပါက နတ်ပြည်ရောက်သည်ဟု ယူဆ၍ မိမိသားကိုပင် ယဇ်ပူဇော်ရန် ကြိုးစားကြပုံကို ဇာတ်ကြီး ၁၀ ဘွဲ့ဝင် စန္ဒကုမာရဇာတ်တော်၌ ဖော်ပြထားသည်။

## ၄- ဣရိယာပထသုဒ္ဓိဝါဒ

'ဣရိယာပုထ်ဖြင့် မကောင်းမှုကိုစင်ကြယ်စေခြင်း' ဟုအဓိပ္ပာယ်ရသည်။ လျောင်း, ထိုင်, ရပ်, သွားဟူသော ၄ ပါးကို ခန္ဓာကိုယ် သွေးသားညီညွတ်မျှတခြင်း အကြောင်းဖြစ်သောကြောင့် ဣရိယာပုထ် ဟုခေါ်သည်။ ယင်း ဣရိယာပုထ် ၄ ပါးကို သတ်မှတ်ချက်အတိုင်း စနစ်တကျကျင့်သုံးခြင်းဖြင့် မကောင်းမှု အကုသိုလ်မှ စင်ကြယ်သည်။ ကိလေသာကင်းစင်၍ အသိဉာဏ်ထူးကို ရရှိနိုင်သည်။ နတ်ပြည်, ဗြဟ္မာပြည် ရောက်နိုင်သည်။ မောက္ခကို ရနိုင်သည်ဟု ယူဆသောဝါဒ ဖြစ်သည်။

ရပ်ခြင်း။ ။ ခြေဖျားထောက်၍ ရပ်ခြင်း၊ ဖနောင့်ထောက်၍ ရပ်ခြင်း၊ ခြေတစ်ဖက်မြှောက်၍ ခြေတစ်ဖက်ဖြင့်သာရပ်ခြင်း၊ အုန်းပင်စိုက်ခြင်း၊ လင်းနို့ကဲ့သို့ စောက်ထိုးဆွဲနေခြင်း။

သွားခြင်း။ ။ ခြေဖျားထောက်၍ သွားခြင်း၊ ခြေဖနောင့်ထောက်၍ သွားခြင်း၊ ခုန်၍ သွားခြင်း၊ ခြေတစ်ပေါင်ကျိုးခုန်၍ သွားခြင်း၊ ဖားခုန်သကဲ့သို့ ထိုင်လျက်သွားခြင်း၊ ကျွမ်းထိုး၍ သွားခြင်း၊ ဘေးတိုက်ကျွမ်းပစ်၍ သွားခြင်း။

ထိုင်ခြင်း။ ။ တင်ပျဉ်ခွေထိုင်ခြင်း၊ ဆောင့်ကြောင့်ထိုင်ခြင်း၊ လက် ၂ ဖက်ထောက်၍ထိုင်လျက် ခန္ဓာကိုယ်ကို လက် ၂ ဖက်ဖြင့်မြှောက်ထားခြင်း စသည်ဖြင့် ခက်ခဲသောထိုင်ပုံအမျိုးမျိုး။

လျောင်းခြင်း။ ။ ဆူးချွန်, ဝါးချွန်များအပေါ်၌ အိပ်ခြင်း၊ မြေပေါ်၌ အိပ်ခြင်း၊ တစ်တီတူးထောင် အိပ်ခြင်း။ ဤဖော်ပြသည့်အတိုင်း ခက်ခဲသောဣရိယာပုထ်ဖြင့် နေထိုင်ပါက ကိလေသာစင်ကြယ်သည် ဟုယူဆသည်။

## ၅- ဝတသုဒ္ဓိဝါဒ

'အကျင့်ဝလေ့စင်ကြယ်ခြင်း' ဟုအဓိပ္ပာယ်ရသည်။ ခွေး, နွား စသောတိရစ္ဆာန်တို့၏ ဝလေ့ထုံးစံအပြုအမူကို အတုယူ၍ကျင့်လျှင် ကိလေသာ အာသဝေါကင်းစင်သည် ဟု ယူဆသောဝါဒ ဖြစ်သည်။

### ကုက္ကုရဝတ (ခွေးအကျင့်)

အဝတ်မဝတ်ဘဲ ခွေးကဲ့သို့ အမြီးတစ်ခုတပ်၍ ၄ ဖက်ထောက် သွားသည်။ ခွေးကဲ့သို့ ဟောင်သည်၊ အူသည်။ အခြားခွေးကိုမြင်လျှင် သွားဖြီး၍ မာန်ဖီသည်။ ပေါင်တစ်ဖက်ကိုမြှောက်၍ ကျင်ငယ်စွန့်သည်။ မြေ၌ပုံပေးသော အစာကို ပါးစပ်ဖြင့် ကုန်း၍ဟပ်သည်။ အချို့ ပြင်းထန်စွာကျင့်သူများသည် နွားကလေးသေးကို လည်းကောင်း, လူမစင်ကိုလည်းကောင်း သောက်သည်၊ စားသည်။ ပြာပုံ, အမှိုက်ပုံတို့၌ ခွေးအိပ်သကဲ့သို့ ၃ ပတ်လှည့်၍ ခွေအိပ်သည်။

### ဂေါဝတ (နွားအကျင့်)

ဦးခေါင်း၌ ချိုတု တပ်ဆင်ထားသည်။ တင်ပါး၌ အမြီးတု တပ်ဆင်၍ ၄ ဖက်ထောက် သွားသည်။ နွားလို တွန်မြည်သည်။ မြက်ကို စားသည်။ နွားလို အိပ်သည်။ အဝတ်ဝတ်ခြင်း မရှိ။

### ဝဂ္ဂုလိဝတ (လင်းနို့အကျင့်)

သစ်ပင်ကိုင်းတို့၌ ခြေဖြင့်ချိတ်၍ ဦးခေါင်းစောက်ထိုးဆွဲလျက် နေသောအကျင့် ဖြစ်သည်။

### မိဂဝတ (သမင်အကျင့်)

ဦးခေါင်း၌ သမင်ချိုကို တပ်ဆင်ထားသည်။ သမင်အမြီးတစ်ခုခုကို တင်ပါး၌ တပ်ဆင်ထားသည်။ လူတွေ့မခံဘဲ တောထဲ၌ နေလေ့ရှိသည်။ လူမြင်ခံရပါက တောပြောင်းရသည်။

အလားတူပင် ဆိတ်အကျင့်, သိုးအကျင့် စသည်များကိုလည်း ကျင့်ကြသည်။ ထိုပုဂ္ဂိုလ်များကို လောဘ ဆန္ဒနည်းသော, ကိလေသာကင်းပြီးသော ရဟန္တာ ဟူ၍ လူထုပရိသတ်က ကြည်ညိုကြသည်။

## ၆- ဈာနသုဒ္ဓိဝါဒ

'ဈာန်သမာဓိဖြင့် မောက္ခ (လွတ်မြောက်မှု)ကို ရသည်' ဟု ယူဆသောဝါဒ ဖြစ်သည်။

ဘုရားဟောပါဠိတော်၌ ပါဝင်သော ဈာန်, ဈာန်တရားကို ယောဂသုတ္တကျမ်း၌ 'သမာဓိ' ဟုခေါ်လေသည်၊

အကျဉ်းအားဖြင့် သမာဓိကို သမ္ပဇ္ဇညတာသမာဓိ (အသိစိတ်ဖြင့် ပေါ်နေသောဈာန်), အသမ္ပဇ္ဇညတာသမာဓိ (အသိစိတ်ဖြင့် မဖြစ်သောဈာန်) ဟူ၍ ၂ မျိုးခွဲခြားထားလေသည်။

တစ်ဖန် သမ္မာဓိတာသမာဓိကို-

| | |
|---|---|
| သဝိတက္ကသမ္မာဓိတာသမာဓိ | - ဝိတက်ပါဝင်သော အတ္တ၏ဂုဏ်ကို ကြံစည်မှု၊ |
| သဝိစာရသမ္မာဓိတာသမာဓိ | - စဉ်းစားမှုပါဝင်သောဝိတက်ဖြင့် ကြံစည်သိပြီးသော သဘောများကို ထပ်ကာထပ်ကာသိနေမှု၊ |
| သာနန္ဒသမ္မာဓိတာသမာဓိ | - နှစ်သက်မှု ပီတိပါဝင်သော ဝိတက်ဖြင့်သိနေမှု၊ |
| သာသ္မိတာ | - ငါဖြစ်၏၊ ငါသည် အတ္တ၊ အတ္တသည် ငါဖြစ်၏ဟု သိမှု။ ။ ဟူ၍ ၄ မျိုးခွဲခြားထားလေသည်။ |

ရှေးဦးစွာ အာတ္တနံ ခေါ် အတ္တ၏ဂုဏ်အရည်အချင်းများကို စဉ်းစားဆင်ခြင်ရမည်။ အတ္တသည် ချမ်းသာသုခ အတိ ဖြစ်၏။ ဉာဏ်ပညာအတိ ဖြစ်၏။ အရာခပ်သိမ်း၌ စိမ့်ဝင်ပျံ့နှံ့ တည်နေ၏ ဟု အတ္တ၏ဂုဏ်အရည်အချင်း များကို အာရုံစူးစိုက်နေရာ အခြားသို့ စိတ်အာရုံပျံ့လွင့်မှုမရှိဘဲ၊ အတ္တအာရုံတစ်ခုတည်း၌ တည်ငြိမ်နေပါက 'သဝိတက္က သမ္မာဓိတာသမာဓိ' မည်၏။

တစ်ဖန် အတ္တအာရုံ၌ စိတ်တည်ငြိမ်နေစေရန် အထူးကြောင့်ကြ မစိုက်ရတော့ဘဲ ကျင့်သားရ၍ ကြာရှည်စွာ တည်ငြိမ်နေသောအခါ 'သဝိစာရသမ္မာဓိတာသမာဓိ' မည်၏။

ထို့နောက် စိတ်သည် အပြင်အာရုံများသို့ လုံးဝ ပြေးလွှားပျံ့လွင့်မှု မရှိတော့ဘဲ အဇ္ဈတ္တကိုယ်တွင်း၌သာ တည်နေသောအခါ ကြည်လင်၍ အလင်းရောင်ထွက်လာသည်။ ဤအဆင့်၌ တစ်ကိုယ်လုံး နှစ်သက်မှုပီတိ ပျံ့နှံ့ကာ လွန်စွာအေးချမ်းသာယာနေသောကြောင့် 'သာနန္ဒသမ္မာဓိတာသမာဓိ' မည်၏။

ထို့နောက် တစ်ဆင့်မြင့်လာသောအခါ သိစရာအာရုံနှင့် သိတတ်သောစိတ်သည် တစ်ခုတည်းအဖြစ် ပူးပေါင်း သွားသည်။ 'အတ္တနှင့် ငါ' ၂ ခုမပြား တစ်သားတည်း ဖြစ်သွားသည်။ တစ်လောကလုံး အတ္တအတိ ဖြစ်သည်။ အတ္တမှတစ်ပါး တခြားမည်သည့်အရာမျှ မရှိ ဟုသိလေတော့သည်။ ထိုအခါ ငါ၊ သူတစ်ပါး၊ ယောကျ်ား၊ မိန်းမ ခွဲခြား၍မသိတော့ဘဲ၊ အတ္တတစ်ခုတည်းကိုသာ သိနေတော့သည်။ ငါ၊ သူတစ်ပါး ခွဲခြားမှု၊ အဆိုး၊အကောင်း ခွဲခြားမှု မရှိခြင်းကြောင့် နှစ်သက်မှု၊ ချမ်းသာမှုကိုမခံစားရဘဲ လျစ်လျူရှုမှု ဥပေက္ခာသာ ဖြစ်နေတော့သည်။

နောက်ဆုံးဖြစ်သော 'အသမ္မာဓိတာသမာဓိ'အဆင့်၌ စိတ်ဖြစ်ပေါ်ခြင်းမရှိဘဲ ချုပ်ငြိမ်းကာ ဗြာဟ္မဏ ဉာဏ်ရည်ကို ရရှိတော့သည်ဟု ဆိုသည်။ သိတတ်သောပညာသည် အခြားကို အာရုံမပြုတော့ဘဲ မိမိပညာသဘာဝ ပညာ ဓာတ်သားကြီးအတွင်း၌သာ တည်နေလေတော့သည်။ ကေဝလျ သီးသန့်လွတ်ကင်းစွာရှိနေသော တရား သဘောအဖြစ် တည်ရှိနေခြင်း ဟုဆိုလိုသည်။

## ဗုဒ္ဓခေတ် ဗြာဟ္မဏဘာသာရေး အခြေအနေ

အာရိယန် (ဗြာဟ္မဏ)တို့သည် ပထမ ဝေဒကျမ်းလာ နတ်များစွာအား ပူဇော်ပသရေးအတွက် မုန့်ထောပတ်၊ သကာ၊ တင်လဲ စသည်များဖြင့်သာ ယဇ်ပူဇော်ခဲ့ကြသည်။ နောက်ပိုင်းတွင် မိမိတို့ အကျိုးစီးပွားများအတွက် အဿမေဓယဇ်ကဲ့သို့သော တိရစ္ဆာန်များဖြင့် ယဇ်ပူဇော်မှုကို ဖန်တီးလာကြသည်။ ဤတိရစ္ဆာန်များဖြင့် ယဇ်ပူဇော်မှု ကို တတ်စွမ်းနိုင်သောသူများသည် ကြီးကျယ်ခမ်းနားစွာ ပြုလုပ်ပူဇော်ခဲ့ကြသည်။ ဤသို့ ကြီးကျယ်စွာ ယဇ်ပူဇော်မှုကို ဗုဒ္ဓစာပေ၌ အောက်ပါအတိုင်း ဖော်ပြထားသည်ကို တွေ့ရှိရသည်။

'ထိုအခါ ပသေနဒီကောသလမင်းကြီးသည် ကြီးကျယ်သောယဇ်ပူဇော်ပသခြင်းကို ရှေးရှုစီရင်အပ်၏။ ဥသဘ ၅၀၀ တို့ကို လည်းကောင်း၊ နွားထီးငယ် ၅၀၀ တို့ကို လည်းကောင်း၊ နွားမငယ် ၅၀၀ တို့ကိုလည်းကောင်း၊ ဆိတ် ၅၀၀ တို့ကိုလည်းကောင်း၊ သိုး ၅၀၀ တို့ကိုလည်းကောင်း ယဇ်ပူဇော်ပသခြင်းငှာ ယဇ်တိုင်များ၌ စွဲချည်ဆောင်ထား အပ်ကုန်၏။ ထိုမင်း၏ ကျွန်ယောကျ်ား၊ ကျွန်မိန်းမ၊ အစေအပါး၊ အလုပ်သမားတို့ သည်လည်း ဒဏ်ဖြင့် ခြိမ်းခြောက်အပ်ကုန်သည်၊ ဘေးဖြင့် ခြိမ်းခြောက်အပ်ကုန်သည်ဖြစ်၍ မျက်ရည်ဖြင့်ပြည့်သော မျက်နှာရှိကုန်လျက် ငိုကြွေးကြကာ ယဇ်အမှုကို ပြုကြကုန်၏။'
(သံယုတ္တနိကာယ် ကောသလသံယုတ် ယညသုတ်)

အထက်ဖော်ပြပါအတိုင်း တိရစ္ဆာန်များဖြင့် ယဇ်ပူဇော်မှုများကိုသာ တီထွင်ထားကြသည် မဟုတ်သေး။ ပုရိသမေဓကဲ့သို့ လူကို ယဇ်ပူဇော်ခြင်းကိုပင် စီစဉ်ခဲ့ကြသည်။ ဗြာဟ္မဏတို့သည် အစဉ်အလာတစ်ရပ်ဖြစ်နေသော ယဇ်ပူဇော်မှုများဖြင့် ကြီးပွားချမ်းသာခဲ့ကြသကဲ့သို့၊ လူများမှာလည်း အကုန်အကျများသော ယဇ်ပူဇော်မှုများကို ငြီးငွေ့ခဲ့ကြသည်။ ထို့ကြောင့် ဗာရာဏသီပြည်သား ဝါသနာထ (ပါသွ၀)သည် ပထမဦးဆုံး ဗြာဟ္မဏများအား ဆန့်ကျင်သော သမဏဂိုဏ်းကို တည်ထောင်ခဲ့သည်။ နောက်ပိုင်းတွင်လည်း ဗြာဟ္မဏဂိုဏ်းကိုဆန့်ကျင်သော ဝါဒရှင်များ များစွာပေါ်ပေါက်ခဲ့လေသည်။ ထိုအခါ၌ ဗြာဟ္မဏတို့သည် အဘက်ဘက်မှ အသာစီးရနေသော်လည်း သမဏများ၊ ဝါဒရှင်များ၏ အကျင့်များနှင့် ဟောပြောကျွမ်းကျင်မှုများကြောင့် လူများသည် သမဏနှင့် ဝါဒရှင်များ ကို အားပေးခဲ့ကြသည်။ ထိုအခါမှစ၍ ဗြာဟ္မဏဝါဒသည် ယိမ်းယိုင်စပြုလာသဖြင့် သမဏများ၊ အခြားဝါဒရှင်များ ၏ဝါဒများနှင့် ယှဉ်ပြိုင်နိုင်ရန် အယူဝါဒကျင့်စဉ်အမျိုးမျိုးကို တီထွင်လာကြတော့သည်။

ဗုဒ္ဓမြတ်စွာဘုရား ပွင့်တော်မူလာသောအခါ ဗုဒ္ဓမြတ်စွာဘုရားကိုယ်တော်တိုင်က ဗြာဟ္မဏဖြစ်ကြောင်း ကြေညာတော်မူသည်။ သို့ရာတွင် ဗြာဟ္မဏများ၏ 'မန္တန် (ဝေဒ)ကို ရွတ်ဖတ်တတ်သောကြောင့် ဗြာဟ္မဏဖြစ်သည်' ဟူသောအဓိပ္ပာယ်ကို တော်လှန်ပြီး၊ 'မကောင်းမှုကို အပပြုပြီးသောကြောင့် ဗြာဟ္မဏဖြစ်ကြောင်း' အဓိပ္ပာယ်ကို ထုတ်ဖော်ဟောတော်မူခဲ့သည်။

တစ်ဖန် ဗုဒ္ဓမြတ်စွာဘုရားသည် ကိုယ်တော်တိုင် မဟာသမဏဖြစ်ကြောင်း ကြေညာတော်မူပြန်သည်။ သို့ရာတွင် သမဏတို့၏ 'မိမိတို့ကိုယ်ကို ပင်ပန်းမှုကိုပြုသူ' ဟု အဓိပ္ပာယ်ဖွင့်သကဲ့သို့ မဟုတ်ဘဲ၊ 'မကောင်းမှု ငြိမ်းပြီးသူ၊ ကိလေသာ ငြိမ်းပြီးသူဖြစ်သောကြောင့် သမဏဖြစ်ကြောင်း' အဓိပ္ပာယ်ဖွင့်ဆိုတော်မူခဲ့သည်။

တစ်ဖန် ဗြာဟ္မဏတို့၏ 'မိမိတို့ကိုယ်ကို အာရိယန်ဆိုပြီး မြင့်မြတ်သူအဖြစ် ယူဆခြင်း'ကို တော်လှန်၍၊ 'မဂ္ဂင် ၈ ပါး အကျင့်တရားဖြင့် ကိလေသာအညစ်အကြေး စင်ကြယ်ပြီး၊ မဂ် ၄ တန်၊ ဖိုလ် ၄ တန်အဆင့်သို့ ရောက်ရှိသောပုဂ္ဂိုလ်များကိုသာ အရိယာခေါ်ကြောင်း' ဟောတော်မူခဲ့သည်။

ဗြာဟ္မဏတို့တီထွင်ခဲ့သော 'ခတ္တိယမျိုး၊ ဗြာဟ္မဏမျိုး၊ ဝေဿမျိုး၊ သုဒ္ဒမျိုး' ဟူသော အမျိုး ၄ ပါးမှ အမျိုးကောင်းသား၊ အမျိုးကောင်းသမီးများသည် သာသနာဘောင်သို့ဝင်လာသောအခါ မူလအမျိုးအနွယ်များ ကင်းပျောက်ပြီး၊ ကြီးငယ်ထေရ်စဉ်အလိုက် အရိုအသေပေးကြရသည်။ ဗြာဟ္မဏတို့၏ ယဇ်ပူဇော်မှုကို ဆန့်ကျင်၍ ပါဏာတိပါတကို ဒုစရိုက်အဖြစ် ဟောကြားတော်မူခဲ့သည်။

ဗြာဟ္မဏတို့၏ အတ္တအယူကို ဆန့်ကျင်၍ အနတ္တအယူကို ဟောတော်မူခဲ့သည်။

တစ်ဖန် ဗြာဟ္မဏတို့၏ ဘာသာအယူ၌ 'ခတ္တိယမင်းမျိုးသည်သာ တိုင်းပြည်အုပ်ချုပ် မင်းလုပ်၍ ဗြာဟ္မဏ တို့ကို ကာကွယ်စောင့်ရှောက်ရမည်။ ပူဇော် ချီးမြှောက်ရမည်'ဟု သတ်မှတ်ပြဋ္ဌာန်းထားသည်။ သို့ရာတွင်

ဗုဒ္ဓခေတ်မှ စ၍ အသောကမင်းနောက်ပိုင်းတိုင်အောင် ခတ္တိယမျိုးဘုရင်တို့သည် ဗြာဟ္မဏပုဏ္ဏားတို့ကို ဘေးချိတ်၍ ဗုဒ္ဓဘာသာ ရဟန်းများနှင့် ဂျိန်းရဟန်းများကို ဦးစားပေး ချီးမြှောက်ခဲ့ကြသည်။ ကောသလမင်း၊ အဇာတသတ်မင်း၊ ကာလာ သောကမင်း၊ အသောကမင်း စသော ခတ္တိယမျိုးဘုရင်တို့သည် ဗုဒ္ဓဘာသာကို အင်တိုက်အားတိုက် ထောက်ပံ့ခဲ့ကြ သည်။ ကောသလမင်း၏သားတော် စန္ဒဂုတ်မင်းကြီးနှင့် အသောကမင်း၏ဖခင် ဗိန္ဒုသာရမင်းကြီးတို့ လက်ထက်၌ ကား ဂျိန်းဘာသာကို အားပေးခဲ့ကြသည်။ အသောကမင်းကြီး၏ သားမြေးမြစ်တို့၏လက်ထက်၌လည်း ဂျိန်းဘာသာ ကို ဘုရင်က အားပေးခဲ့သည်။ ထို့ကြောင့် သုင်္ဂခေတ် မတိုင်မီက ဗြာဟ္မဏပုဏ္ဏားဘာသာသည် အပယ်ခံအဖြစ်ဖြင့် မျက်နှာငယ်ခဲ့ရသည်။

## ဗြာဟ္မဏဘာသာ နိုင်ငံတော်ဘာသာ ဖြစ်လာခြင်း

အပယ်ခံဗြာဟ္မဏတို့သည် နောက်ပိုင်းတွင် ဗုဒ္ဓသာသနာတော်အတွင်းသို့ ဝင်ရောက်ခဲ့ကြပြီး မိမိတို့၏ဝါဒများ ကို သွတ်သွင်းခြင်းဖြင့် ဗုဒ္ဓဝါဒကို ပူးသတ်ခဲ့ကြသည်။ ထို့ကြောင့် ဗုဒ္ဓဝါဒတွင် ဂိုဏ်းကွဲအမျိုးမျိုး ပေါ်ခဲ့ရခြင်း ဖြစ်သည်။ နောက်ပိုင်း၌ ဗုဒ္ဓဘာသာဂိုဏ်းကွဲဖြစ်သော မဟာယာနဗုဒ္ဓဘာသာသည် ဟိန္ဒူဝါဒနှင့် ချွတ်စွပ်တူလာရ သည်အထိ ဖြစ်ခဲ့ရတော့သည်။ တစ်ဖန် အသောကမင်းကြီးနောက် မင်း ၆ ဆက်မြောက်၌ 'သုင်္ဂပုရှာမိတြ' အမည်ရှိသော ဗြာဟ္မဏပုဏ္ဏားမျိုး စစ်သူကြီးသည် မောရိယ နောက်ဆုံးမင်းဆက်ကိုသတ်၍ သုင်္ဂမင်းဆက်ကို တည်ထောင်ခဲ့သည်။

သုင်္ဂမင်းသည် ဗြာဟ္မဏပုဏ္ဏားမျိုး ဖြစ်သည့်အားလျော်စွာ ဗြာဟ္မဏဘာသာကို နိုင်ငံတော်ဘာသာအဖြစ် ပြဋ္ဌာန်းခဲ့သည်။ အသောကမင်းလက်ထက်တွင် ပိတ်ပင်ထားခဲ့သော ယဇ်ပူဇော်မှုကိုလည်း ပြန်လည်ဖော်ထုတ်ခဲ့သည်။

## မဟာဘာရတနှင့် ရာမယဏကျမ်း ပေါ်ခြင်း

သုင်္ဂခေတ်၌ ဗြာဟ္မဏတို့၏ စာပေနှင့် ရာဇဝင်သမိုင်းများကို အသစ်ပြုပြင် ပြန်လည်ရေးသားစေသည်။ မဟာဘာရတ၊ ရာမယဏ၊ ပုရာဏ်ကျမ်းများကို ခမ်းနားအောင် ပြုပြင်ရေးသားစေသည်။ မနုဓမ္မသတ်လည်း ပေါ်လာသည်။ ဗြာဟ္မဏတို့၏စာပေမှာ သက္ကတဘာသာဖြင့်ရေးသားရာ သက္ကတဘာသာကို စနစ်တကျဖြစ်စေရန် ပါဏိနိသဒ္ဒါကျမ်းအဖွင့် မဟာဘာသာကို ပတဉ္စလိဆရာကြီးက ရေးခဲ့သည်။ ထို့အပြင် သက္ကတသဒ္ဒါကျမ်းလည်း အများအပြားပေါ်ထွက်ခဲ့သည်။ သုင်္ဂခေတ်ကား ဗြာဟ္မဏပုဏ္ဏားတို့၏ အယူဝါဒကို ပြန်လည်အသက်သွင်း၍ ရှေ့တန်းထားကာ မြှောက်စားနေသောခေတ် ဖြစ်လေသည်။ ထိုအချိန်မှစ၍ သိဝ လိင်ကိုးကွယ်မှု၊ ကရိရှနဘုရား ကိုးကွယ်မှု၊ ဗိဿနိုးကိုးကွယ်မှုများ ကြီးကျယ်ထွန်းကားလာလေသည်။ ရာမယဏကျမ်းတွင် ဗုဒ္ဓကို ဗြာဟ္မဏတို့၏ ဗိဿနိုးဘုရားဝင်စားသော အဝတာရတစ်ပါးအဖြစ် သွတ်သွင်းခဲ့သည်။

အထက်ပါအဆိုအရ မဟာဘာရတနှင့် ရာမယဏကဗျာများသည် သုင်္ဂခေတ်၌ ပေါ်ခဲ့ကြောင်း သိရသည်။ သုင်္ဂခေတ်သည် မောရိယမင်းဆက် (၃၂၂ ဘီစီမှ ၁၈၇ ဘီစီ) နောက်ပိုင်းတွင် ပေါ်ခဲ့သောကြောင့် ဤမဟာဘာရတ နှင့် ရာမယဏကဗျာများသည်လည်း ၂ ရာစုဘီစီ-နောက်ပိုင်း၌ ပေါ်လာသည်ဟု ဆိုနိုင်သည်။ ဆာ ချား အဲလျော့ကမူ ရာမယဏနှင့်မဟာဘာရတကဗျာများကို ဂုတ္တခေတ်မတိုင်မီ ဖွဲ့ဆိုကြောင်းဆိုသည်။ အချို့ပညာရှင်များကမူ ရာမနှင့် ကရစ်သျှနကို ဒေသဆိုင်ရာသူရဲကောင်းများအဖြစ် ချီးမြှောက်ခဲ့ရာမှ နောက်ပိုင်းတွင် ဘုရားဝင်စားအဖြစ် ကိုးကွယ် လာခြင်း ဖြစ်တန်ရာသည်ဟု ခန့်မှန်းခဲ့ကြသည်။ အချို့သမိုင်းပညာရှင်များ၏ အဆိုအရ ၁၈၅ ဘီစီ၌ မောရိယမင်းဆက် ပြုတ်ခဲ့သည်ဟု ဆိုသည်။

သက္ကတစာပေ ပြန်လည်ထွန်းကားလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ ကမ္ဘာစာပေပညာရှင်တို့၏အဆိုကိုလည်း ဖော်ပြလိုပေသည်။ သက္ကတစာပေ၌ ကာဗျခေတ်ကို ပညာရှင်တို့က အမျိုးမျိုးသတ်မှတ်ကြသည်။ အချို့က ဝေဒခေတ်နောက် ဣတိဟာသ, ပုရာဏ်နှင့် ကဗျာတို့ အဆင့်ဆင့် ထွန်းကားလာသောခေတ်ကို 'ကာဗျခေတ်' ဟု သတ်မှတ်ကြသည်။ ကာလအားဖြင့် ၆၀၀ ဘီစီ သို့မဟုတ် ၅၀၀ ဘီစီမှ စခဲ့သည် ဟုဆိုသည်။ သို့ရာတွင် ယင်းဖော်ပြပါကာလအတွင်း၌ မဟာဘာရတနှင့် ရာမယဏကဗျာများ ပေါ်ခဲ့သည်ဟု မဆိုနိုင်ပါ။အဘယ်ကြောင့်ဆိုသော်ထိုကာလအတွင်း၌ မြတ်စွာဘုရား ပွင့်တော်မူဆဲအချိန်အခါ ဖြစ်သည့်အပြင် လူများနှင့် ဘုရင်များကလည်း ဗုဒ္ဓသာသနာကို အားပေးနေသည့်အချိန် ဖြစ်နေပေရာ ဗြာဟ္မဏတို့အနေဖြင့် ဗုဒ္ဓမြတ်စွာဘုရားအား လိုသည်ဖြစ်စေ, မလိုသည်ဖြစ်စေ ၎င်းတို့၏ ဗိဿနိုးဘုရား ဝင်စားသော အဝတာရတစ်ပါး အဖြစ်ရေးရန် မဝံ့မရဲသောအချိန်အခါဖြစ်သောကြောင့် ဖြစ်သည်။

တစ်ဖန် ဤကာဗျခေတ်ကိုပင် သက္ကတစာပေ ထွန်းကားလာသောကြောင့် 'သုတ္တခေတ်' ဟူ၍လည်း ခေါ်ကြောင်း ဆိုသည်။ သုတ္တခေတ်ကို (၆၀၀ ဘီစီမှ ၂၀၀ဘီစီ)အတွင်းဟု ခန့်မှန်းကြသည်။ ဤ၌လည်း အထက်ဖော်ပြခဲ့ပြီးသော အကြောင်းအရာကိုထောက်ဆ၍ ၂ ရာစုဘီစီကိုသာ လက်ခံနိုင်ဖွယ်ရှိသည်။ အမှန်မှာ ၎င်းခေတ်များတွင် သက္ကတစာပေ အထွန်းကားဆုံးဟု မဆိုနိုင်ပေ။ အေဒီ ၃၂၀-၅၃၅ မှစ၍ အုပ်ချုပ်ခဲ့ကြသော ဂုတ္တမင်းလက်ထက်၌သာလျှင် သက္ကတစာပေ အထွန်းကားဆုံးဖြစ်သည်။ ထို့ကြောင့် ဂုတ္တမင်းများလက်ထက်တွင် 'သက္ကတစာပေ၏ ရွှေခေတ်' ဟူ၍ သမိုင်းဆရာတို့က သတ်မှတ်ခဲ့ကြခြင်းဖြစ်သည်။

သက္ကတစာပေပညာရှင် ကိသ်ကမူ မဟာဘာရတနှင့် ရာမယဏကဗျာများ စပေါ်ချိန်မှစ၍ ကာဗျခေတ်ကို သတ်မှတ်သည်။ မဟာဘာရတကား ၄၀၀ ဘီစီခန့်၌ စပေါ်သည်ဟု ဆိုသည်။ မဟာဘာရတကဗျာကို ဗျာသဒေဝရသေ့ ရေးသားခဲ့သည်ဆိုသော်လည်း ယနေ့ပညာရှင်များက လူပေါင်းများစွာ ခေတ်အဆက်ဆက် ရေးခဲ့သည်ဟု ဆိုသည်။ ရာမယဏကား ၃၀၀ ဘီစီခန့်တွင် ရှေး၌ရှိခဲ့သောကဗျာကို အခြေခံ၍ 'ဝလ္မိကီ'မည်သော ပညာရှိက စီရင်ခဲ့သည်ဟု ဆိုသည်။ ရှေး၌ရှိခဲ့သော ကဗျာ ဆိုရာ၌ မဟာဘာရတကဗျာနောက်၊ သို့မဟုတ် တစ်ချိန်တည်း လောက်အတွင်း ပေါ်လာသောကဗျာ ဖြစ်နိုင်သည်ဟု ဆိုသည်။ ဤ ကာလသတ်မှတ်ချက်သည်လည်း ဗုဒ္ဓဘာသာဘုရင်များ ကြီးစိုးနေချိန်ဖြစ်သည်အပြင် ဗုဒ္ဓဘာသာ အထွတ်အထိပ်ရောက်နေသောအချိန် ဖြစ်သောကြောင့် ဗုဒ္ဓကို ဗိဿနိုးဘုရားဝင်စားသော အဝတာရတစ်ပါးအဖြစ်ဖော်ပြထားသော ရာမယဏကဗျာမျိုးကို ဗြာဟ္မဏတို့ ရေးသားဝံ့ခဲ့ကြမည် မဟုတ် ဟုယူဆနိုင်သည်။ အမှန်မှာ ယင်းကဗျာများကို သုင်္ဂခေတ် ၂ ရာစုဘီစီ၌ ရေးသားထုတ်ဝေခဲ့ကြောင်း မုချယူဆနိုင်သည်။ ၎င်းအပြင် ဟိန္ဒူတို့အလေးအမြတ်ပြုအပ်သော မဟာဘာရတ၏ အစိတ်အပိုင်းဖြစ်သည့် ဘဂဝါဂီတ ကဗျာကိုလည်း ဤ ၂ ရာစုဘီစီ၌ပင် ရေးသားခဲ့သည်ဟု သမိုင်းပညာရှင်တို့ ဆိုကြသည်။

## ဗြာဟ္မဏဝါဒသည် အိန္ဒိယအမျိုးသားရေးဝါဒဖြစ်လာခြင်း

မာဂဓတိုင်း ပါဋလိပုတ်နေပြည်တော်တွင် သုင်္ဂမင်းဆက် အုပ်စိုးစဉ် အန္ဓြနိုင်ငံလည်း ပေါ်ပေါက်လာသည်။ အန္ဓြမင်းသည် ၂၈ ဘီစီ၌ သုင်္ဂမင်းဆက်ကိုဆက်ခံသည့် ကန်ဝမင်းဆက်ကို တိုက်ခိုက်အောင်မြင်ခဲ့သည်။ အန္ဓြမင်းဆက်သည် ထိုအချိန်မှစ၍ နှစ် ၂၀၀ ကျော်မျှ အိန္ဒိယအလယ်ပိုင်းနှင့် မြောက်ပိုင်းတို့တွင် တန်ခိုးဩဇာကြီးမားခဲ့သည်။ ၎င်းမင်းဆက်သည် ဒရာဗီးဒီးယန်းအနွယ်ဖြစ်သော်လည်း ဗြာဟ္မဏအယူကိုပင် ယူခဲ့သည်။

အိန္ဒိယတွင် အန္ဓြတို့တန်ခိုးဩဇာကြီးသကဲ့သို့ တစ်ဘက်မှလည်း အိန္ဒိယနယ်ပယ်များစွာကို တိုက်ခိုက်သိမ်းယူခဲ့သော ကူသျှမ်တို့ကလည်း အေဒီ ၁ ရာစုမှ ၃ ရာစုအထိ အန္ဓြတို့နှင့်အပြိုင် တန်ခိုးဩဇာ ကြီးမားလျက်ရှိကြသည်။ ကူသျှမ်မင်းများသည် ထိုအချိန်၌ အိန္ဒိယတွင် ထေရဝါဒ ဗုဒ္ဓသာသနာတော် မရှိတော့သော်လည်း တည်ရှိနေသော ဂိုဏ်းကွဲဗုဒ္ဓသာသနာကို ချီးမြှောက်ခဲ့ကြသောမင်းများ ဖြစ်ကြသည်။

ကူသျှမ်မင်းဆက် ကနစ်ရှက (အေဒီ ၁၂၀ -၁၆၂) လက်ထက်၌မူ မြို့တော်ကို ဂရိပိုင် ဘက်ထရီယန်မှ ပက်ရှဝါသို့ ပြောင်းခဲ့ပြီး၊ နာမည်ကြီး သဗ္ဗတ္ထိဂိုဏ်း အဘိဓမ္မာဆရာ အသဃေယာသကို အတိုင်ပင်ခံပြု၍ သင်္ဂါယနာ ပင် တင်ခဲ့သည်။

ဤသို့ ယင်း ဂိုဏ်းကွဲဗုဒ္ဓသာသနာ ကို လူမျိုးခြားတို့အားပေး၍ လူမျိုးခြားဝါဒ ဖြစ်လာသောအခါ ဇာတ်အယူသည်းသော ဗြာဟ္မဏဘာသာသည် အိန္ဒိယအမျိုးသားရေးဝါဒ ဖြစ်လာရတော့သည်။ အန္ဓြမင်းတို့၏ အောင်မြင်မှုများနှင့် ဗြာဟ္မဏဘာသာ ပြန့်ပွားလာမှုကိုအကြောင်းပြု၍ ဗြာဟ္မဏဘာသာသည် ၁ ရာစုဘီစီမှစ၍ အိန္ဒိယ၏အမျိုးသားရေးဝါဒ ဖြစ်လာရသည် ဟု အချို့ကဆိုသည်။

## ဗြာဟ္မဏဘာသာမှ ဟိန္ဒူဘာသာသို့

အေဒီ ၈ ရာစု၌ ရှေးဗြာဟ္မဏဘာသာကိုပြုပြင်၍ ဟိန္ဒူဘာသာအဖြစ် ပြန်လည်ဖော်ထုတ်ခဲ့သည်ဟု သမိုင်းပညာရှင်တို့က ဆိုသည်။ မည်သူက မည်ကဲ့သို့ ပြုပြင်ခဲ့သည် ဟူသောအဆိုမှာမူ တိမ်မြုပ်လျက်ရှိသည်။ အမှန်မှာ ဗြာဟ္မဏတို့သည် မိမိတို့၏ဘာသာရေးကို ရှည်လျားလှသော သမိုင်းကြောင်းတစ်လျှောက်တွင် ကျမ်းစာအမျိုးမျိုးရေးထုတ်၍ ပြုပြင်ဖာထေးခဲ့ကြောင်းကို ပြခဲ့ပြီးသောအချက်အလက်များအရ သိသာထင်ရှားလှသည်။ သို့ရာတွင် ဗြာဟ္မဏဘာသာ ထွန်းကားတိုးတက်ရေးကို အလေးပေးဆောင်ရွက်ခဲ့သော သုင်္ဂခေတ်၊ အန္ဓြခေတ်၊ ဂုတ္တခေတ် (အေဒီ ၃၂၀-၅၃၅)များအထိ ဗြာဟ္မဏတို့၏ အတွေးအခေါ်သည် ရှေးကနှင့် ထူးမခြားနားပင် ဖြစ်ခဲ့သည်ကို တွေ့ရှိနိုင်သည်။ ကာလိဒါသ၊ ဗိရ်ဗလ စသည်ကဲ့သို့သော သက္ကတစာဆိုများပေါ်ထွန်းပြီး သက္ကတစာပေ၏ ရွှေခေတ် ဟုဆိုသော သက္ကတစာပေအထွန်းကားဆုံး ဂုတ္တခေတ်၌လည်း သွေးချောင်းစီးယဇ်ပူဇော်ပွဲကြီးများကို ပြုလုပ်လျက်ပင် ရှိသေးသည်ကို တွေ့ရှိနိုင်သည်။

သို့ရာတွင် အေဒီ ၇ ရာစု (အချို့အဆို အေဒီ ၈-ရာစု) သာသနာသက္ကရာဇ်အားဖြင့် ၁၂၀၀ ကျော်သောအခါ၌ ကေရလာပြည်နယ်၌ 'ရှံကရစရိယ' ခေါ် 'ရှံကရကျာလယ'အမည်ရှိသော ဗြာဟ္မဏပညာရှိတစ်ယောက် ပေါ်ထွက်လာသည်။ သူသည် ဂိုဏ်းကွဲဗုဒ္ဓဘာသာ နာမည်ကျော်အဘိဓမ္မာဆရာ ဒိန္နာဂ နှင့် ဓမ္မကိတ္တိတို့ ရေးသားထားသော တက္ကဗေဒကျမ်းများကိုလည်း တတ်မြောက်သဖြင့် တက္ကဗေဒနည်းကျ စကားစစ်ထိုးရာ၌ အလွန်ကျွမ်းကျင်သည် ဟုဆိုသည်။ ထို့ကြောင့် သူသည် ဂိုဏ်းကွဲဗုဒ္ဓဘာသာ ယောဂါစာရဂိုဏ်းနှင့် မဇ္ဈိမိကဂိုဏ်းမှ အတွေးအခေါ် သဘောတရားများကိုယူ၍ ဗြာဟ္မဏဝါဒ ဣဿရနိမ္မာန (ဖန်ဆင်းရှင်)ဝါဒကို ယုတ္တိရှိအောင် ပြုပြင်ရေးသားခဲ့သည်။ ကွဲပြား၍ ဆန့်ကျင်ဘက်ဖြစ်နေကြသော အတ္တဝါဒဆိုင်ရာကျမ်းများ၊ ဥပနိသျှဒ်ကျမ်းများကို ရှေ့နောက်ညီညွတ်အောင် အဓိပ္ပာယ်ဖွင့်ဆို၍ အဋ္ဌကထာ (ဘာသျ) ကျမ်းများကိုလည်း ရေးသားခဲ့သည်။ ဗုဒ္ဓဘာသာ သံဃာ့အဖွဲ့ အစည်းများကို အတုယူ၍ ဟိန္ဒူဘုန်းကြီး (သညာသီ)များကို ကျောင်းတိုက်များ၌ တစ်စုတဝေးတည်း တည်နေစေ သည်။ ရှံကရကျာလယသည် ကေရလာပြည်နယ် တမီးလ် စသော အိန္ဒိယတောင်ပိုင်းဘုရင်များကို ဗြာဟ္မဏဘာသာ ဒါယကာ ပြုစေသည်။ ရှံကရကျာလယသည် ဘာသာရေးဂုရုကြီးလည်း ဖြစ်လာသည်။

ဤကဲ့သို့ 'ရှံကရကျာလယ' အမည်ရှိသောပညာရှိကြီးက ရှေးဗြာဟ္မဏဘာသာရေးကို တက္ကဗေဒနည်း ကျကျ ပြုပြင်လိုက်သောဘာသာသည်ပင် ဟိန္ဒူဘာသာအဖြစ် ပြန်လည်ပေါ်ထွက်ခဲ့ခြင်း ဖြစ်သည်။

'ဟိန္ဒူဘာသာ' ဟူ၍ ခေါ်ရခြင်းနှင့်ပတ်သက်၍ အိန္ဒုမြစ်ဝှမ်းကို အစွဲပြု၍ ပါရှင်းတို့က 'အိန္ဒူဘာသာ' ခေါ်ရာမှ နောက်ပိုင်းတွင် ဟိန္ဒူဘာသာဖြစ်လာရသည်ဟု ပညာရှင်တို့ ယူဆကြသည်။

ဟိန္ဒူတို့ကမူ ၎င်းတို့၏ ဘာသာကို ရှေးကျသောတရား (သနတ္တနဓမ္မ)၊ ဝေဒကို အခြေခံသောတရား (ဝေဒဓမ္မ)၊ မြင့်မြတ်သူတို့၏တရား (အာရိယဓမ္မ)၊ ဘာရတ်ပြည်နယ်တရား (ဘာရတဓမ္မ)၊ လူသား၏တရား (မာဏဝဓမ္မ) ဟူ၍ အမျိုးမျိုးခေါ်ကြသည်။ ကမ္ဘာကမူ 'ဟိန္ဒူဘာသာ' ဟူ၍သာ အခေါ်များသည်။

ရှံကရကျာလယသည် ဂိုဏ်းကွဲ ဗုဒ္ဓဘာသာရဟန်းများနှင့် ဝါဒယှဉ်ပြိုင်ရာ၌ ဗုဒ္ဓဘာသာရဟန်းများ ရှုံးနိမ့်က ဗုဒ္ဓဘာသာကိုစွန့်၍ ဟိန္ဒူဘာသာသို့ ကူးပြောင်းစေသည်။ ထိုသို့မကူးပြောင်းပါက ထောပတ်ပွက်ပွက်ဆူနေသော ဒယ်အိုး၌ နှစ်သတ်သည် ဟုဆိုသည်။ ထိုအချိန်တွင် အိန္ဒိယတောင်ပိုင်း၌ ဂိုဏ်းကွဲဗုဒ္ဓဘာသာရဟန်းများမှာ ကျမ်းဂန်စာပေ တတ်မြောက်သူ၊ ထက်မြက်သူများ မဟုတ်ကြ၍ ရှံကရအား အရှုံးပေးကြရလေသည်။ ဂိုဏ်းကွဲဗုဒ္ဓဘာသာဝင် ရဟန်းများသည် ဝဇိရယာနဂိုဏ်းဝင်များ ဖြစ်ကြ၍ အရက်နှင့် မေထုန်ကို သုံးဆောင်နေကြရာ၊ ရှံကရနှင့် ယှဉ်ပြိုင်ဝံ့သူမရှိ ဟုဆိုသည်။

အခြား အဆိုတစ်ရပ်မှာ ဤသို့ဖြစ်သည်။ သာသနာတော်နှစ် ၁၂၀၀ ခန့်တွင် 'ဂေါဋပါဒ (ဂေါဍပါဒ)' မည်သော ဗြာဟ္မဏဆရာကြီးသည် ဂိုဏ်းကွဲဗုဒ္ဓဘာသာ အဘိဓမ္မာဆရာ နာဂအဇ္ဇုနဟောကြားခဲ့သော မာယာဝါဒ၊ 'အဇာတိဝါဒ' ခေါ် သုညဝါဒကို ဟိန္ဒူအဘိဓမ္မာအဖြစ် စတင်အသုံးပြုသည်။ မဏ္ဍူက ဥပနိသျှဒ်၏အဖွင့် ဂေါဋပါဒ ကာရိကာကျမ်း၌ စတင်အသုံးပြုသည်ကို တွေ့ရသည်။ ဂေါဍပါဒ၏မြေးတပည့် ရှံကရလက်ထက်၌မူ ဗုဒ္ဓအဘိဓမ္မာနှင့် တက္ကဗေဒကို ဟိန္ဒူဘာသာအတွင်းသို့ ပြောင်းလဲထည့်သွင်းနိုင်ခဲ့သဖြင့် ဟိန္ဒူဘာသာသည် အတွေးအခေါ်ပိုင်း၊ သဘောတရားပိုင်း၌ အဆင့်အတန်းမြင့်သွားသည်။ ဒဏ္ဍာရီပုံဝတ္ထုအဆင့်မှ ယုတ္တိယုတ္တာဆင်ခြေဆင်လက်ပြနိုင်သောအဆင့်သို့ တက်လှမ်းနိုင်ခဲ့သည်။ ဗုဒ္ဓဘာသာပညာရှင်တို့၏ ဝေဖန်မှုကို ကြံ့ကြံ့ခံနိုင်အောင် ယုတ္တိအထောက်အထားများဖြင့် အတွေးအခေါ်တစ်ရပ်ကို တည်ထောင်နိုင်ခဲ့သည်။ ဟိန္ဒူအတွေးအခေါ်ကို အတုံးလိုက်အထစ်လိုက် အကြမ်းစားအတွေးအခေါ်မှ သိမ်မွေ့နူးညံ့သော သဘောတရားရေးအဆင့်သို့ ပြောင်းလဲစေခဲ့သည်။

ဟိန္ဒူဘုန်းကြီးများ စနစ်တကျ ဖွဲ့စည်းနေထိုင်မှုနှင့် ပညာသင်ပေးရာ ကျောင်းတိုက်ကြီးများ တည်ထောင်ခဲ့ခြင်းမှာ ဗုဒ္ဓဘာသာကို အတုယူ၍ လုပ်ကိုင်ခဲ့ခြင်းဖြစ်သည်။ အထူးခြားဆုံးအချက်မှာ နွားများ၊ မြင်းများသာမက လူကိုပင်သတ်၍ ယဇ်ပူဇော်နေကြသော ဗြာဟ္မဏတို့ကို သက်သတ်လွတ်စားအောင် ပြုပြင်ပေးနိုင်ခဲ့ခြင်း ဖြစ်သည်။ သာသနာနှစ် ၁၀၀၀ ကျော်အထိပင် ဗြာဟ္မဏတို့သည် သတ်ဖြတ်ယဇ်ပူဇော်မှုကို ကျင့်သုံးခဲ့ကြသော်လည်း နောက်ပိုင်း၌မူ ရက်စက်ကြမ်းတမ်းခြင်းဖြင့် လူထုကြည်ညိုမှုကိုမရနိုင်ကြောင်း သိနားလည်လာကြသဖြင့် ဝါဒရေးရာ ပြောင်းလဲပစ်လိုက်သည်။ အသက်သတ်ရန် မဆိုထားဘိ၊ အသားကိုပင်မစားဘဲ သက်သတ်လွတ်စားရန် ဟိန္ဒူခေါင်းဆောင်များက ပြောဟောလှုံ့ဆော်ခဲ့ကြသည်။ ဟဿဝဒ္ဓမာနဘုရင်သည် 'တစ်နိုင်လုံး အသားမစားရန်' အမိန့်ထုတ်ပြန်ခဲ့သည်။ နောက်ပိုင်း၌ ဟိန္ဒူခေါင်းဆောင်များ ဟောပြောမှုကြောင့် ယခုအချိန်အထိ အိန္ဒိယပြည်သားပြည်သူအများစုသည် အသားစားရှောင်ကြဉ်မှုကို ဆက်လက်ကျင့်သုံးနေကြသည်။ ယခင်က ဗြာဟ္မဏဘာသာရေးအရ တစ္ဆေသရဲတို့ကို အသားစိမ်း ကျွေးခဲ့ကြသည်ကိုလည်း ယခုအခါ မပြုလုပ်ကြတော့ချေ။

ဟိန္ဒူထုံးစံအရ ယောကျ်ားသေ၍ မုဆိုးမဖြစ်သွားပါက ထိုမိန်းမသည် ယောကျ်ားသင်္ဂြိုဟ်သော မီးပုံထဲသို့ ခုန်ဆင်း သေရသည်။ ထိုသို့ အသေမခံပါက ယောကျ်ားအပေါ် သစ္စာမဲ့သူဖြစ်၍ လူ့ပတ်ဝန်းကျင်မှ ဝိုင်းကြဉ်ခံရသည်။ ယောက္ခမအိမ်မှ နှင်ထုတ်ခံရသည်။ မိဘများကလည်း ရှက်သဖြင့် လက်မခံ။ မုဆိုးမများမှာ လေလွင့်ပျက်စီးရတော့သည်။ အကယ်၍ မိဘဆွေမျိုးအိမ်၌ လက်ခံထားပါကလည်း ကျက်သရေတုံးသော၊ မင်္ဂလာမရှိသော မိန်းမဖြစ်၍ ခေါင်းတုံးရိတ်ထားရသည်။ အိမ်ရှိ အောက်ခြေသိမ်းအလုပ်များ လုပ်ရပြီး အကြွင်းအကျန်ကိုသာစားရသည်။

ဤသို့ တရားမျှတမှု မရှိသော ဓလေ့ထုံးစံများကို ဗုဒ္ဓဘာသာပညာရှင်တို့၏ ဝေဖန်မှုကြောင့် နောက်ပိုင်း၌ပယ်ဖျက်၍၊ ထိုမှုဆိုးမကို ကျန်ရစ်သူ ညီ၊အစ်ကိုများက မယားအဖြစ် လက်ထပ်ယူကာ လုပ်ကျွေးစောင့်ရှောက်လာကြသည် ဟုဆိုသည်။

**အရှင်အရိယမေတ္တ၏အဆိုကား ဤသို့ ဖြစ်သည်။**

ရှရီရှုံကရကျာလယသည် အိန္ဒိယတောင်ပိုင်း ထရစ်ဗန်ဒရမ်မြို့၌ ဂုဏ်သရေရှိ ဗြာဟ္မဏအနွယ်ဝင် မုဆိုးမ အမျိုးသမီးတစ်ဦးမှ မွေးဖွားခဲ့သည်ဟု ဆိုသည်။ ရှရီရှုံကရကျာလယသည် ဂိုဏ်းကွဲဗုဒ္ဓဘာသာ ရဟန်းဝတ်ဖြင့် ၃ နှစ်ခန့် နေထိုင်ခဲ့ဖူးသည်။ သို့ရာတွင် ရှရီရှုံကရကျာလယသည် ရဟန်းဘဝတွင် ကြီးလေးသောအပြစ်တစ်ခုကို ကျူးလွန်မိ၍ သာသနာ့ဘောင်မှ နှင်ထုတ်ကြဉ်ဖယ် ခံခဲ့ရသည်။ ထို့ကြောင့် သူသည် ဗုဒ္ဓဘာသာကို စိတ်နာပြီး ဗုဒ္ဓအယူဝါဒ မျိုးပြုတ်ရန်နှင့် ဟိန္ဒူတို့၏ သနန္တနတရားကိုဟောနိုင်ရန် အဓိဋ္ဌာန်ဖြင့် အိန္ဒိယပြည်မြောက်ပိုင်းသို့ ၆ လ- ၇ လကျော်မျှ ခြေကျင်ခရီး သွားခဲ့သည်။

အိန္ဒိယပြည်မြောက်ပိုင်းရောက်သောအခါ ရှရီရှုံကရကျာလယသည် မိမိအလားတူ ယခင် ဗုဒ္ဓတက္ကသိုလ်ကြီး တစ်ခု၌ ဆရာဖြစ်ခဲ့ဖူးပြီး ကြီးလေးသောပြစ်မှုကိုကျူးလွန်မိ၍ သာသနာ့ဘောင်မှ နှင်ထုတ်ဖယ်ကြဉ်ထားခြင်းခံရ သော ရှရီကုမာရလိလာဘတ္တထံ၌ သနန္တနတရားများကို လေ့လာသင်ကြားခဲ့သည်။ ၎င်းအပြင် သူသည် ဝေဒန္တ ဘာသာရေးကို ထူထောင်နိုင်ရန်အတွက် မဇ္ဈိမနိကာယ်မှ ဗုဒ္ဓတရားတော်များကိုလည်း ရှရီကုမာရလိလာဘတ္တထံမှ ရရှိခဲ့ပြီး ဝေဒန္တကျမ်းများတွင် ဗုဒ္ဓတရားတော်များကို ယူငင်သုံးစွဲထားခြင်းဖြစ်သည်။

ထို့ကြောင့် ဟိန္ဒူတို့က ရှရီရှုံကရကျာလယကို 'ဝေရောစနဗုဒ္ဓ (ရုပ်ဖျက်ထားသော ဗုဒ္ဓ)'ဟု ခေါ်ဆိုကြခြင်း ဖြစ်သည်။

၎င်းနောက် ရှရီရှုံကရကျာလယသည် မိမိ၏အဓိဋ္ဌာန်အတိုင်း ဗုဒ္ဓအယူဝါဒကိုမျိုးဖြုတ်ရန် အနစ္စကဘုရင်၏ မိဖုရားကို သွေးဘက်ပါအောင်ဆွဲဆောင်ပြီး အနစ္စကဘုရင်ကို အဆိပ်ကျွေး အသတ်ခိုင်းခဲ့သည် ဟုဆိုသည်။ အနစ္စကဘုရင် လုပ်ကြံခံရပြီးနောက် ရှရီရှုံကရကျာလယသည် ဗြာဟ္မဏလူမျိုး မှူးမတ်များ၏အကူအညီဖြင့် မိဖုရားကြီး၏ဂုရု ဖြစ်လာသည့်အပြင် ဟိန္ဒူအယူဝါဒဆိုင်ရာ၌လည်း အကြီးအကဲဖြစ်လာသည်။ ထို့နောက် သမိုင်းအရ ဂုရုကြီးက 'ဗုဒ္ဓရဟန်းတော်များနှင့် ဗုဒ္ဓဘာသာ ဥပါသကာ၊ ဥပါသိကာများကို သတ်ဖြတ်ပစ်ရမည်' ဟူသော အမိန့်ကို ရအောင်ယူခဲ့သည်ဟု ဆိုသည်။ ယင်းအမိန့်ကို ထုတ်ပြီးနောက် အနှစ် ၂၀ ကျော်- ၂၅ နှစ်ခန့် ကြာသောအခါ ဗုဒ္ဓဘာသာရဟန်းတော် ၂ သန်းနှင့် ဗုဒ္ဓဘာသာဝင် ဥပါသကာ၊ ဥပါသိကာများ ရက်ရက်စက်စက် သတ်ဖြတ်ခံခဲ့ရပြီး၊ နောက်ဆုံးတွင် ဗုဒ္ဓအယူဝါဒလည်း အိန္ဒိယပြည်၌ အပြီးတိုင်ပျောက်ကွယ်ခဲ့ရတော့သည် ဟုဆိုသည်။

**ဟိန္ဒူဘာသာရေး၏အတွေးအခေါ် ဂိုဏ်း ၆ ဂိုဏ်း**

ရှည်လျားသောကာလတစ်လျှောက်၌ ဗြာဟ္မဏ (ဟိန္ဒူ)ဘာသာရေးတွင် အဆင့်ဆင့်ပြုပြင်ခဲ့သော အတွေး အခေါ်များကို ၁၄ ရာစုလောက်တွင်ပြုစုခဲ့သော မာဓဝ၏ သဗ္ဗဒဿနသင်္ဂဟကျမ်းတွင် စုစည်း ဖော်ပြထားသည်။ ၎င်းတို့အနက် အဓိက အတွေးအခေါ်ဂိုဏ်းမှာ ၆ ဂိုဏ်းရှိပြီး၊ သဘောတူရာပေါင်းစပ်၍ အောက်ပါအတိုင်း အစု ၃ စု ခွဲထားသည်။

၁- ဉာယျဂိုဏ်းနှင့် ဝိသေသိကဂိုဏ်း၊

၂- သာချီဂိုဏ်းနှင့် ယောဂဂိုဏ်း၊

၃- မီမံသဂိုဏ်းနှင့် ဝေဒန္တဂိုဏ်း၊

၁- ဉာယျဂိုဏ်းကို ဂေါတမရသေ့ တည်ထောင်ခဲ့သည်။

ဤဂိုဏ်းကား 'အတ္တသည် လူ၏ ခန္ဓာကိုယ် အတွင်း၌ အမြဲတည်နေပြီး၊ အဝိဇ္ဇာဖုံးလွှမ်းနေ၍ အမှန်တရားကို မမြင်ဘဲ ခန္ဓာအနှောင်အဖွဲ့၌ မိခံနေရသည်' ဟုယူဆသည်။

၂။ ဝိသေသိကဂိုဏ်းကို ဥလူက ကနာဒ တည်ထောင်ခဲ့သည်။

ဤဂိုဏ်းကား 'ဤလောကတွင် အဏုမြူ နှင့် အဏုမြူမဟုတ်သော ဓာတ် ၂ မျိုး ရှိသည်။ အဏုမြူ မဟုတ်သော ဓာတ် ၄ ပါးမှာ အချိန်၊ နေရာ၊ အတ္တ၊ စိတ်တို့ ဖြစ်ကြသည်။ ပုဂ္ဂိုလ်တစ်ဦးစီတွင် အထက်ပါ ၄ မျိုးနှင့် မတူသော ဝိသေသအချက်ထူးများ ရှိကြသည်။ အဏုမြူများကား ထာဝရတည်မြဲသောအရာ ဖြစ်သည်။ သို့ရာတွင် ကမ္ဘာပျက်သောအခါ ၎င်းတို့အားလုံး ပြိုကွဲသွားပြီး၊ ၎င်းအဏုမြူဟောင်းများကို အသုံးပြု၍ ဖန်ဆင်းရှင် မဟာဗြဟ္မာက ကမ္ဘာသစ်ကို ထပ်မံတည်ထောင် ရသည်။ သို့ဖြစ်၍ လွတ်မြောက်ရေးအတွက် အတ္တနှင့် အဏုမြူ (ရုပ်စကြဝဠာ)တို့ အသီးအခြားဖြစ်မှုကို သိခြင်းပင် ဖြစ်သည်' ဟုယူဆသည်။

၃- သာချီ (ရေတွက်ခြင်း) ဂိုဏ်းကို 'ကပိလမုနိ' မည်သောပုဂ္ဂိုလ်က တည်ထောင်ပြီး၊ အလွန်ရှေးကျသော ဂိုဏ်း ဖြစ်သည်။

ဤဂိုဏ်းကား 'ကမ္ဘာတွင် အမှန်သဘော ၂၅ မျိုးရှိသည့်အနက် ထာဝရတည်မြဲသော ဓာတ်သတ္တိ ၂ ပါးမှာ ပကတိ(ရုပ်)နှင့် ပုရိသ(အတ္တ)တို့ ဖြစ်ကြသည်။ ပကတိ၌ ရာဇ၊ သတ္တ၊ တမဂုဏ် ၃ ပါးရှိပြီး၊ ပုရိသသည် ယင်းပကတိအပေါ် မှီခိုနေသည်မဟုတ်သော်လည်း ၎င်းနှင့် နှောင်ဖွဲ့မိနေသည်။ ထို့ကြောင့် ၎င်း ပကတိနှင့် ပုရိသတို့ ကွဲကွာသွားသောအခါ ပုရိသ (အတ္တ)သည် လွတ်မြောက်မှုကို ရရှိတော့သည်' ဟုယူဆသည်။

၎င်းအပြင် ဤဂိုဏ်းက 'ပကတိ(ရုပ်)သည် ဖန်ဆင်းရှင်ကဖန်ဆင်း၍ ပေါ်လာရသည်မဟုတ်ဘဲ၊ အလို အလျောက် ဖြစ်ပေါ်လာသည်' ဟုယူဆသည်။

၄- ယောဂဂိုဏ်းကို ပတဉ္ဇလိရသေ့က တည်ထောင်သည်။

ဤဂိုဏ်းက သာချီဂိုဏ်း၏သဘောတရားများအတိုင်း ယူဆသော်လည်း ဘုရားတည်ရှိမှုကို အတည်ပြုထား သည်။ သို့ရာတွင် ဤဂိုဏ်း၏ဘုရားသည် ဖန်ဆင်းရှင်မဟုတ်ဘဲ ရုပ်နှင့် နှောင်ဖွဲ့မိခြင်းမရှိသော ထာဝရတည်မြဲသည့် အတ္တသာ ဖြစ်သည်။

၎င်းအပြင် ဤ ယောဂဂိုဏ်းသည် ပညာစခန်းထက် အကျင့်စခန်းကို ပို၍အလေးပေးထားသည်။ ယောဂ ဂိုဏ်းအရ ယောဂီပုဂ္ဂိုလ်သည် အောက်ပါအချက် ၈ ချက်ကိုနိုင်နင်းရမည် ဟုဆိုသည်။

- မကောင်းမှုကို ရှောင်ကြဉ်ခြင်း (ယမ)၊
- ကောင်းမှုကို ပြုခြင်း (နိယမ)၊
- ထိုင်ပုံလေ့လာရခြင်း (အာသန)၊
- ထွက်လေဝင်လေကို ထိန်းချုပ်နိုင်ခြင်း (ပရဏာမ)၊
- အာရုံများကို အတွင်းသို့ရုပ်သိမ်းနိုင်ခြင်း (ပရတ္တိယာဟာရ)၊

- အာရုံတစ်ခုခုပေါ်၌ စိတ်ကို စူးစိုက်ထားနိုင်ခြင်း (ဒါရဏ)၊
- ထိုအာရုံနှင့်ပတ်သက်ပြီး စိတ်အစဉ်မပြတ်စေဘဲ ဘာဝနာပွားနိုင်ခြင်း (ဒယာန)၊
- အာရုံပြုနေရင်း ဘာဝနာပွားနေသည့်စိတ်ကို ပျောက်သွားသည့်တိုင်အောင် သမာဓိတည်ခြင်း (သမာဓိ)။

၅- မိမံသဂိုဏ်းဝင်များသည် ဗေဒိနီ၏သုတ်များကို အဓိကထား လိုက်နာကျင့်ကြံသောပုဂ္ဂိုလ်များ ဖြစ်သည်။ ယင်းသုတ်များတွင် ဝေဒကျမ်းများ၏ မှန်ကန်မြင့်မြတ်ပုံကို တင်ပြထားသည်။

ထို့ကြောင့် ဤဂိုဏ်းသည် ဝေဒကျမ်းများကို ကာကွယ်ရန်နှင့် ဝေဒကျမ်းများ၏ မှန်ကန်မွန်မြတ်ပုံကို ရှင်းလင်းတင်ပြရန်သာ ဖြစ်သည်။ သို့ရာတွင် ၇ ရာစု- ၈ ရာစုအတွင်း၌ ဤဂိုဏ်းက လွတ်မြောက်ရေးလမ်းစဉ်ကို ချဲ့ထွင်လာသည်။ ဤဂိုဏ်း၏ လွတ်မြောက်ရေးလမ်းစဉ်မှာ ဝေဒကို ရိုသေကိုးကွယ်ခြင်း, ဝေဒကချမှတ်သည့် အတိုင်း ကျင့်ကြံခြင်းတို့ ဖြစ်သည်။

၆- ဝေဒန္တဂိုဏ်းသည် အားလုံးအနက် အရေးအပါဆုံးဖြစ်သောဂိုဏ်း ဖြစ်သည်။ ဝေဒန္တဂိုဏ်း၏ အထင်ရှားဆုံးသော ရှေ့ဆောင်ပုဂ္ဂိုလ်မှာ ရှံကရကျာလယပင် ဖြစ်သည်။

ရှံကရကျာလယ၏ ရေးသားဟောပြောချက်အရ သိရှိရသည်မှာ 'ကမ္ဘာကို ဗြဟ္မာက ဖန်ဆင်းထားခြင်း'ဖြစ်ပြီး၊ သာချိဂိုဏ်း၏အယူအဆအတိုင်း ဆက်တည်တံ့နေသည်။ အမှန်မှာ နတ်များအပါအဝင် ကမ္ဘာကြီးတစ်ခုလုံးသည် တကယ်မရှိသော မာယာမျှသာ ဖြစ်သည်။ အမှန်ရှိသည်မှာ ဗြဟ္မနှင့် အတ္တမ သာလျှင်ဖြစ်သည်။ ယင်း ဗြဟ္မနှင့် အတ္တမတို့ ပြန်လည်ပူးပေါင်းမိလျှင် လွတ်မြောက်မှု(မောက္ခ)ကို ရတော့သည်' ဟုဆိုသည်။ သို့ဖြစ်၍ ရှံကရ၏ လွတ်မြောက်ရေးလမ်းစဉ်မှာ ဗြဟ္မနှင့် အတ္တမကိုသိရှိရေး အသိဉာဏ်လမ်းစဉ် (ဉာဏယောဂ) ဖြစ်သည်။

၄င်းနှင့်ဆန့်ကျင်သော ကိုင်းရှိုင်းမှုလမ်းစဉ် (ဘတ္တိယောဂ)ကိုမူ ရာမနုဇ (အေဒီ ၁၀၁၇-၁၁၃၇)က ဟောပြောခဲ့သည်။ ရာမနုဇက ယဇ်ပူဇော်မှုများနှင့် အသိဉာဏ်လမ်းစဉ်ကို မငြင်းဆိုသော်လည်း၊ 'အကောင်းဆုံးလမ်းစဉ်မှာ ဗိဿနိုး (ဘုရား)ကို ပြင်းထန်စွာ ကိုင်းရှိုင်းမြတ်နိုးခြင်းအားဖြင့် လူသည် မိမိကိုယ်ကို ဘုရား၏အစိတ်အပိုင်းတစ်ခုပင် ဖြစ်သည်ဟု သိမြင်လာနိုင်သည်' ဟုဆိုသည်။ တစ်ဖန် ပရာဘတ္တိလမ်းစဉ်ဖြစ်သော 'ငါစွဲကို စွန့်ပယ်၍ မိမိ၏အတ္တကို ဘုရား၏လက်ထဲတွင် အပ်နှံထားခြင်း' ဖြစ်သည်။ ဤသို့ဖြင့် ရာမနုဇသည် ဘုရားကို ကြံဆရာ၌ ရှံကရ၏ ပုံသဏ္ဌာန်မဲ့ဘုရား ကဲ့သို့မဟုတ်ဘဲ ပုံသဏ္ဌာန်ရှိ ပုဂ္ဂလိကဘုရားအဖြစ် ကြံဆထားသည်ကို တွေ့ရှိရသည်။

ယင်း ရာမနုဇ၏အယူအဆကို ၁၉ ရာစုတွင် ပေါ်ထွန်းခဲ့သော မာဓဝက ချဲ့ထွင်ဟောပြောခဲ့ပြန်သည်။ မာဓဝဆရာက ဥပနိသျှဒ်လာ ဗြဟ္မနှင့် အတ္တမတို့၏တူညီမှုကို စွန့်ပယ်၍ ဒွန်တွဲတည်ရှိမှု သဘောတရား(ဒွိတ္တဝါဒ)ကို ဟောပြောခဲ့သည်။ ၄င်း ဗိဿနိုးဘုရား၊ လူ၏ အတ္တမနှင့် ပကတိ (ရုပ်)တို့သည် တခြားစီဖြစ်ကြောင်းကိုလည်း ကြေညာခဲ့သည်။

## ဆစ်ဘာသာ

ဆစ်ဘာသာကို ပန်ဂျပ်ပြည်နယ်သား 'ဂုရုနာနတ်ဒေဝဂျီ' ခေါ်သောပုဂ္ဂိုလ် (၁၄၆၉ ခုနှစ်- ၁၅၃၃ ခုနှစ်) က တည်ထောင်ခဲ့သည်။ 'အိန္ဒိယတွင် ဟိန္ဒူဘာသာနှင့် အစ္စလာမ်ဘာသာတို့အတွင်း အယူသည်းမှုများ, ကွဲပြားမှု ..., မုန်းတီးမှုများ အပြင်းအထန်ဖြစ်နေချိန်တွင် ၄င်းတို့ကိုပြုပြင်ရန် ဘုရားသခင်က ဂု

ဖြစ်သည်' ဟုဆိုသည်။ ထို့ကြောင့် ဆစ်ဘာသာဝင်များက ဂုရုနာနတ်အား ဘုရားသခင်စေလွှတ်သော တမန်တော်အဖြစ် ယုံကြည်ကြသည်။

ဆစ်တို့၏ ထာဝရဘုရားကို 'အကာလပုရိသ' ခေါ်သည်။ 'ကမ္ဘာပေါ်ရှိ သက်ရှိသက်မဲ့အရာအားလုံးကို ၎င်းထာဝရဘုရားသခင်က ဖန်ဆင်းထားသဖြင့် ၎င်းဘုရားသခင်ကသာ ပိုင်ဆိုင်သည်။ အခြား မည်သူမျှ မပိုင်ချေ။ မိမိကိုယ်ကိုပင် မိမိ မပိုင်' ဟုဆိုသည်။ သို့ရာတွင် ဆစ်ဘာသာဝင်တို့သည် 'အမှန်တရားကို လိုက်နာခြင်းသည် အမြင့်မြတ်ဆုံးသောအလုပ်ဖြစ်၍ ယင်းအမှန်တရားကိုပင် ထာဝရဘုရားအဖြစ် ကိုးကွယ်ကြသည်' ဟုဆိုသည်။

အမှန်မှာ ဤဆစ်ဘာသာကို ဗာရာဏသီမှ ဆင်းရဲသားရက်ကန်းသည် ကဘီး (၁၄၄၀ ပြည့်နှစ်-၁၅၁၈ ခုနှစ်)က စတင်မျိုးစေ့ချခဲ့ခြင်း ဖြစ်သည်။ သူသည် ဘုရားသခင်၏ရှေ့မှောက်တွင် ဟိန္ဒူနှင့် မွတ်စလင်တို့ အတူတူပင်ဖြစ်ကြောင်း၊ ဘုရားသခင်ကို ဘုရားကျောင်းထဲတွင် သော်လည်းကောင်း, ဗလီထဲတွင် သော်လည်းကောင်း တွေ့ရှိနိုင်ကြောင်း ဟောပြောခဲ့သည်။ ရုပ်တုကိုးကွယ်မှုနှင့် ဇာတ်ခွဲခြားမှုကိုလည်း ဆန့်ကျင်ခဲ့သည်။ ဤ ကဘီး ချပျိုးခဲ့သောမျိုးစေ့သည် ဂုရုနာနတ်လက်ထက်၌ ဖူးပွင့်သီးကင်းလာခြင်းပင် ဖြစ်သည်။ သို့ရာတွင် ဂုရုနာနတ်သည် သစ်ဆန်းသော ဘာသာတရားတစ်ခုကို ချမှတ်ခဲ့သည်မဟုတ်ဘဲ၊ ရှိရင်းအယူဝါဒများကိုပင် ပြင်ဆင်၍ ပြန်လည်ဆန်းသစ်စေခဲ့ခြင်းသာ ဖြစ်သည်။

ထိုအချိန်က ဂုရုနာနတ်အား အဓိကလွှမ်းမိုးနေသောဝါဒမှာ ရှံကရ ကျာလယ၏ ဒွိတ္တဝေဒန္တဝါဒ ပင်ဖြစ်သည်။ ဂုရုနာနတ်သည် ဒွိတ္တဝါဒ၌ကဲ့သို့ပင် ထာဝရဘုရားနှင့် အတ္တကို လက်ခံဟောပြောသည်။ သို့ရာတွင် ယင်းဘုရားမှာ တစ်ဆူတည်းသော အနန္တတန်ခိုးရှင်ဖြစ်သည် ဟုယူသည်။ လွတ်မြောက်ရေးအတွက်ဖော်ကျူးရာ၌ ဂုရုနာနတ်က ဝေဒန္တလမ်းစဉ်မှ ခွဲထွက်ခဲ့သည်။ ဝေဒန္တက အသိပညာလမ်းစဉ်ကို ပြဋ္ဌာန်းသော်လည်း၊ ဂုရုနာနတ်ကမူ ကိုင်းရှိုင်းမှုလမ်းစဉ်ကို လက်ခံခဲ့သည်။ ထိုစဉ်က ပေါ်ထွန်းလျက်ရှိသော ကမ္မမဂ္ဂ (အလုပ်လမ်းစဉ်), ဘတ္တိမဂ္ဂ (ကိုင်းရှိုင်းမှုလမ်းစဉ်), ဉာဏမဂ္ဂ (အသိလမ်းစဉ်) စသည်တို့ကို ခြွင်းချက်ဖြင့်လက်ခံသော်လည်း၊ ဘုရားသခင်၏ နာမတော်ကို ကိုင်းရှိုင်းစွာရွတ်ဆိုသော (နာမမဂ္ဂ)ကိုသာ အဓိကထားခဲ့သည် ဟုဆိုသည်။

အချုပ်အားဖြင့် ဂုရုနာနတ်သည် လွတ်မြောက်ရေးအတွက် 'ဓမ္မခန္ဓ, ဂိယံခန္ဓ, ရှရန်ခန္ဓ, ကမ္မခန္ဓ, သစ္စခန္ဓ' ဟူ၍ အပိုင်းကြီး ၅ ပိုင်းတို့ဖြင့် ဟောကြားခဲ့သည်ဟု ဆိုသည်။ ရုပ်တုကိုးကွယ်မှု, ဘုရားဝင်စားမှု အယူအဆကိုငြင်းပယ်ပြီး အစ္စလာမစ်ဘာသာကဲ့သို့ ဘုရားသခင်ကိုယ်စားလှယ် တမန်တော်အယူ အဆကိုသာ လက်ခံသည်။ ဘုရားသခင်၏ကိုယ်စားလှယ်များကို ဆစ်ဘာသာတွင် 'ဂုရု' ဟုခေါ်သည်။

ယနေ့ ဆစ်ဘာသာဝင်များသည် ဂုရုနာနတ် မှစ၍ ဂုရုဂိုဘင်ဆင်းအထိ ဂုရု ၁ ကျိပ်ကို လက်ခံထားကြသည်။ ဂုရုဂိုဘင်ဆင်းလက်ထက်တွင် မွတ်စလင်တို့၏နှိပ်ကွပ်ညှဉ်းပန်းမှုကို ကာကွယ်တွန်းလှန်ရန်အတွက် ဆစ်ဘာသာဝင်တို့အား စစ်တပ်အသွင် ဖွဲ့စည်းခဲ့သည်။ နဝမမြောက် ဂုရုဖြစ်သူ တိဂ်ဘဟာဒူး (ဂိုဘင်ဆင်း၏ဖခင်) အား မဂိုဘုရင် အောန်ဂရန်ဇက်က ခေါင်းဖြတ်၍သတ်ခဲ့သောကြောင့် ဤသို့စည်းလုံးခဲ့ကြရခြင်း ဖြစ်သည်ဟု ဆိုသည်။ ယနေ့ ဆစ်ဘာသာဝင်တို့၏ အမှတ်အသား ၅ ခု ဖြစ်သော ဆံပင်ရှည်မှတ်ဆိတ်ရှည်, ဘီးငယ်, ဓားမြှောင်, သံမဏိလက်ကောက်, အတွင်းခံဘောင်းဘီတို့သည် ထိုအချိန်အခါမှစ၍ ပေါ်ထွန်းခဲ့ခြင်းဖြစ်သည်။

# အခန်း ၅

## ဖာရစီ (ဇိုရိုအက်စတား) ဘာသာနှင့် အပဟူးရာမတ်ဇဒါဘုရား

### ၂၀၀၀ စုဘီစီ၊ မီးဒီးနှင့် ပါရှန်းလူအဖွဲ့အစည်း

၂၀၀၀ ဘီစီခန့်၌ အင်ဒိုဥရောပအနွယ်မှဆင်းသက်လာသော အာရိယန်တို့သည် ကက်စပီယန်ပင်လယ် အရှေ့ဘက်ရှိ မြက်ခင်းပြင်တွင် နေထိုင်ကြသည်။ အာရိယန်တို့၌ အထက်တန်းကျသောဘာသာရေး ရှိသည်။ ၎င်းတို့ဘာသာ၏ အဓိကအချက် ၂ ချက်မှာ 'ကောင်းသောအကြံနှင့် ကောင်းသောအလုပ် ဖြစ်သည်' ဟုဆိုသည်။ ၎င်းတို့၏ ပူဇော်မှုတွင် မီးသည် အလွန်အရေးပါသည်ကို တွေ့ရှိရသည်။ ၎င်းတို့၌ ဘုန်းကြီးများလည်း ရှိသည်။ ၎င်းတို့သည် ဘုန်းကြီးများကို 'မီးပူဇော်သူများ' ဟုခေါ်ကြသည်။ ၎င်းဘုန်းကြီးများသည် မီးကို မပြတ်မငြိမ်းရလေအောင် စောင့်ရှောက်ကြရသည်။

၁၈၀၀ ဘီစီ (အချို့အဆို ၂၀၀၀ ဘီစီ)ခန့်၌ အာရိယန်များ ၂ စုကွဲ၍ တစ်စုကား မေဆိုပိုတားမီးယားမြောက်ဘက်နှင့် ကုန်းမြင့်ဒေသဘက်သို့ ပျံ့နှံ့၍နေထိုင်လာကြသည်။ 'အီရန်' ဟူသောအမည်မှာ ၎င်း အာရိယန်လူမျိုးများကိုအစွဲပြု၍ ခေါ်ထားခြင်းဖြစ်သည်။ ဤအစုကို သမိုင်းဆရာတို့က 'အီရေးနီးယန်း' ဟုခေါ်သည်။ ၎င်းမှတစ်ဆင့် 'မီးတန်နီးယန်း, မီးဒီး, ပါရှန်း' ဟူ၍ လူမျိုး ၃ မျိုး ကွဲလာပြန်သည်။

၎င်းတို့သည် ထိုအချိန်လောက်က အိန္ဒိယသို့ ရောက်ရှိသွားသော အာရိယန်များနည်းတူ နတ်ဘုရားအမျိုးမျိုးကို ကိုးကွယ်ခဲ့ကြ သည်။ သို့ရာတွင် ၇၀၀ ဘီစီခန့်၌ မီးဒီးတို့သည် တီဂရစ်မြစ်၏အရှေ့ဘက်၌ရှိသော တောင်ကြားများ၌ အင်အား တောင့်တင်းသောအင်ပါယာတစ်ခုကို တည်ထောင်နိုင်ခဲ့ကြသည်။ ထိုအချိန်၌ ပါရှန်းတို့သည် မီးဒီး တို့၏လက်အောက်ခံများ ဖြစ်ခဲ့ကြသည်။

### ဇိုရိုအက်စတားပေါ်ခြင်း

၅၇၀ ဘီစီ (အချို့အဆို ၆၀၀ ဘီစီ)ခန့်၌ မီးဒီးလူမျိုးမှ 'ဇိုရိုအက်စတား' ခေါ်သော ပညာရှိကြီးတစ်ဦး ပေါ်ပေါက်ခဲ့သည်။ ဒေါက်တာ စပီးဂဲလ်အဆိုအရ ဇိုရိုအက်စတားသည် ၁၉၀၀ ဘီစီတွင်ပေါ်ခဲ့သော အာဗြဟံနှင့် တစ်ခေတ်တည်း ဖြစ်သည်ဟု ဆိုသည်။ ဒေါက်တာဟော့ဂ်က မိုးဇက် (မောရှေ)ထက်အရင် နှစ်ပေါင်းများစွာ စောသည်ဟု ဆိုသည်။ ပါမောက္ခဒေးဗီးစ်ကမူ ၁၀၀၀ ဘီစီ အချို့က (၁၂၀၀ ဘီစီ)ခန့်တွင် ပေါ်ထွန်းသည်ဟု ဆိုသည်။ ဇိုရိုအက်စတားဝါဒဆိုင်ရာကျမ်းပြု ဒါလားကမူ ၁၀၀၀ ဘီစီကို လက်ခံသည်။ အချို့ပညာရှင်များကမူ ၆၆၀-၅၈၃ ဘီစီ ဟု အတိအကျ ဖော်ပြကြသည်။ ဇိုရိုအက်စတားအမည်မှာလည်း မူလက 'ဇာရသုတ္တရ'ဖြစ်ပြီး၊ နောက်မှ ဇိုရိုအက်စတား ဖြစ်လာခြင်းဖြစ်သည် ဟုဆိုသည်။

ဇိုရိုအက်စတားသည် လယ်သမား၏သားဖြစ်သည်။ နိုင်ငံ၏ဘာသာရေးကို မနှစ်သက်။ ၁၅ နှစ်သားအရွယ်၌ အိမ်နီးချင်း (ဘုရင်)နိုင်ငံ၏ကျူးကျော်မှုကို တွန်းလှန်နိုင်ရန် စစ်ထဲဝင်၍ တိုက်ခိုက်ခဲ့သည်။ အချို့က ဇိုရို·· ်
းကို အပျိုစင်ကမွေးခဲ့သည် ဟုဆိုသည်။

စစ်ပြီးသောအခါ ဒုဋ္ဌိကွန္တရကပ်နှင့်ရောဂန္တရကပ် ဆိုက်ရောက်ခဲ့သည်။ ဇိုရိအက်စတားသည် လူမှုအကျိုးပြု လုပ်ငန်းကို ၅ နှစ်တိုင်တိုင် လုပ်ခဲ့ရပြန်သည်။ အတွေ့အကြုံများရသော်လည်း မလုံလောက်ဟု ထင်မိသည်။ အသက် ၃၀ တွင် ဇနီးကိုပန်ကြား၍ လူသူအရောက်နည်းသော ဆဗာလန်တောင်သို့ ထွက်ခဲ့သည်။ ၎င်းတောင်၌ အကောင်းနှင့် အဆိုးတို့၏ အကြောင်းရင်းအခြေခံကို လပေါင်းများစွာ ဆင်ခြင်သုံးသပ် ဝေဖန်ကြည့်နေခဲ့သည်။

**ဇိုရိအက်စတား၏တရားများ**

နောက်ဆုံး၌ ဇိုရိအက်စတားသည် အသိတစ်ခု ရခဲ့သည်။ 'လောက၌ ဒွန္ဒသဘောမှတစ်ပါး အခြား ဘာမျှမရှိ။ ယင်း ဒွန္ဒသည် မည်သည့်အခါမျှမပြောင်းလဲဘဲ မြဲသည်။ အကောင်းနှင့်အဆိုး, အကြောင်းနှင့်အကျိုး, အမှားနှင့်အမှန် ၂ ခု တစ်စုံချည်းသာ ဖြစ်သည်။ အကောင်းသည် အမြဲကောင်းနေသည်။ မည်သည့်အခါမျှ အဆိုး မဖြစ်နိုင်။ အဆိုးလည်း ထို့အတူပင် ဖြစ်သည်။ တစ်လောကလုံး၌ အကောင်းနှင့် အဆိုး အစဉ်ထာဝရ ပဋိပက္ခဖြစ်နေသည်။ အကောင်းနှင့် အဆိုးတို့ အားပြိုင်ရာ၌ အကောင်းသာ အောင်ပွဲဆင်ရသည်။ အကောင်း ဟူသည်မှာ အခြားမဟုတ်။ ထာဝရဘုရား သခင်ပင် ဖြစ်သည်။'

၎င်းအပြင် 'အသိဉာဏ်နှင့်အသိတရားသည် လူ့ဘဝအတွက်လမ်းပြဖြစ်သည်' ဟုယူဆသည်။ ထို့ကြောင့် ထာဝရ ဘုရားသခင်ကို ဇိုရိအက်စတားက 'မတ်ဇဒါ သို့မဟုတ် အဟူးရာမတ်ဇဒါ' ဟု ခေါ်ဝေါ်သမုတ်ခဲ့သည်။ 'အသိဉာဏ် ပိုင်ရှင်' ဟုအဓိပ္ပာယ်ရသည်။ 'အဟူးရာ' မှာ အင်ဒိုအီရန်စကား 'အရှင်သခင်' ဟုအဓိပ္ပာယ်ရပြီး၊ 'မတ်ဇဒါ' မှာ အီရန်စကား 'အသိဉာဏ်' ဟုအဓိပ္ပာယ်ရသည်။ သို့ရာတွင် အကောင်းအထည်ထင်ရှားမရှိ၍ လူတို့မမြင်ရ, မကြားရ, စမ်းသပ်မရပေ။ ဝိညာဉ်ဖြစ်သည့်သူသည် အားလုံးသောနတ်တို့၏ အထွတ်အထိပ် ဖြစ်သည်။ သူသည် မည်သူ့ထံကမျှ ပေါက်ဖွားလာခြင်း မဟုတ်။ သူနှင့်တူသူ မရှိ၍ သူသည် အကောင်းဆုံး ဖြစ်သည်။ သူ၏ကောင်းသောအလုပ်ကို ကြည့်ခြင်းဖြင့်သာ သူ့ကို သိနိုင်သည်။ သူ၏ဖန်ဆင်းမှုကြောင့် ပြောင်းလဲခြင်းများ တရံမလပ်ဖြစ်နေသော စကြဝဠာ အတွင်းတွင် သူကား မလှုပ်မရှား မပြောင်းလဲချေ။ အဟူးရာမတ်ဇဒါ ဘုရားက ကောင်းသောအရာကို ဖန်ဆင်းသော ကြောင့် 'စပင်တာမညု' (မြင့်မြတ်သောဝိညာဉ်တော်) ဟူသော ဘွဲ့ကိုလည်း ရရှိသည်။ မကောင်းသောအဖြစ်, မကောင်းသောအရာကိုမူ 'အင်္ဂရမညု' (ဒုစရိုက်ဝိညာဉ်) ဘုရားက ဖန်ဆင်းသည်' ဟုဆိုသည်။

အင်္ဂရမညုသည် လောကသို့ သေခြင်းနှင့် ကပ်ပြားခြင်းကို ယူလာပြီး ဘုရား၏ရည်ရွယ်ချက်ကို ဖျက်ဆီးရန် အမြဲ ကြိုးစားနေသော နတ်ဆိုး ဖြစ်သည်။ သူ့အား ဘုရားက ဖန်ဆင်းခဲ့သည် မဟုတ်။ ကင်းလွတ်စွာ တည်ရှိ နေခြင်း ဖြစ်သည်' ဟုဆိုသည်။ ထို့ကြောင့် ဆရာကြီးသည် အဟူးရာမတ်ဇဒါဘုရားကို ကိုးကွယ်ကြရန်နှင့် အင်္ဂရမညုကို တိုက်ပွဲဝင်ရန် တိုက်တွန်းခဲ့သည်။

'အဟူးရာမတ်ဇဒါ' ဟူသော ထာဝရသခင်၌ နတ်သားနတ်သမီးအခြွေအရံ များစွာရှိသည်။ ၎င်းတို့အနက် အကြီးဆုံးကား 'မစ်တရား' ခေါ်သော အလင်းရောင်နတ်သား ဖြစ်သည်။ ယင်း ထာဝရဘုရားသခင် အဟူးရာမတ်ဇဒါ နှင့် သူ့အခြွေအရံများကို အတိုက်အခံပြုလုပ်နေသော 'အရီမန်' ခေါ်သော နတ်ဆိုးတစ်ပါးလည်း ရှိသည်။ ဤနတ်ဆိုး သည် နောင်အခါတွင် ဂျူးနှင့် ခရစ်ယာန်ဘာသာ၌ 'ဆေတန်' ခေါ်သော နတ်ဆိုး ဖြစ်လာသည်။

ဂျူးများသည် ၅၈၆ ဘီစီ၌ ဘက်ဘီလုံသို့ ဖမ်းဆီးခေါ်ဆောင်သွားခြင်းခံခဲ့ရသည့်အချိန်အထိ ၎င်းတို့၏ ဘာသာရေးတွင် နတ်ဆိုး မရှိသေးချေ။ ဆိုင်းရပ်ဘုရင်က ၅၃၈ ဘီစီ၌ ဘက်ဘီလုံကိုအောင်နိုင်ပြီးနောက် ဂျူး တို့အား ပါလက်စတိုင်းသို့ ပြန်ခွင့်ပြုလိုက်ပြီးသည့်နောက်ပိုင်းတွင်မှ ဂျူးတို့သည် နတ်ဆိုးကို လက်ခံလာခဲ့ကြသည်

ဤ ဇိုရိုအက်စတားဘာသာအရ အကောင်းအဆိုး ၂ မျိုးရှိ သည့်အနက် မည်သူမဆို ကြိုက်ရာဘက်ကို ပါနိုင်သည်။ သို့ရာတွင် လူမှန်သမျှ သေပြီးနောက်ဘ၀တွင် ထာ၀ရသခင်၏အစစ်ဆေးကို ခံရမည်။ လူသေသော အခါ ဝိညာဉ်သည် 'ချင်းဗတ်' ခေါ် ပစ္စက္ခနှင့် တမလွန်ကို ဆက်စပ်ပေးသော တံတားသို့ ရောက်လာသည်။ ထိုတွင် လူတစ်ဦး၏ ကောင်းမှု, မကောင်းမှုကို ချိန်တွယ်ရေတွက်ပြီး စီရင်ချက်ချသည် ဟုဆိုသည်။ ကောင်းသော ဘက်ကို ပါရှိပါက ကောင်းသည့်အတိုင်း ခံစားရမည်။ ကောင်းကင်ဘုံသို့ ရောက်သည်။ အဆိုးဘက်ပါက ဆိုးသည့်အတိုင်း ခံစားရမည်။ ငရဲဘုံသို့ ရောက်မည်။ ဒုစရိုက်, သုစရိုက် မျှသူများအတွက် ကောင်းကင်ဘုံနှင့် ငရဲဘုံကြားတွင် ဌာနတစ်ခု ရှိသေးသည် ဟုဆိုသည်။

၄င်းအပြင် အာရိယန်တို့ အယူအဆအတိုင်း မီးကိုမူ အလင်းရောင်နှင့် အကောင်းဘက်၏ မွန်မြတ်သော အထိမ်းအမှတ်အဖြစ် အသိအမှတ်ပြု၍ ကိုးကွယ်ရသည်။ 'နောင်တမလွန်ဘ၀၌ လူတိုင်း အစစ်ဆေးခံရမည်' ဟူသော သဘောတရားကို ကမ္ဘာ့သမိုင်းအရ ဇိုရိုအက်စတားက စတင်ဟောကြားခဲ့ခြင်း ဖြစ်သည် ဟုဆိုသည်။

ဇိုရိုအက်စတားဘာသာသည် မီးဒီးလူမျိုးတို့ ယုံကြည်ခဲ့ကြသည့်အယူနှင့် ကိုးကွယ်ခဲ့ကြသည့်နတ်များကို သူ့စိတ်ကူးနှင့်ကိုက်ညီအောင် အသစ်ပြင်ထားသည့်ဘာသာ ဖြစ်သည့်အတိုင်း ရှေးမူဟောင်းအချို့ကို ဘာသာသစ် ထဲတွင် ဇိုရိုအက်စတားက လက်ခံထားသည်ကို တွေ့ရှိရသည်။ ဥပမာ မီးပူဇော်မှုမျိုး ဖြစ်သည်။ ဇိုရိုအက်စတား သည် မီးကိုပူဇော်သော 'မဲဂျိုင်' ခေါ်သော ဘုန်းကြီးများကိုလည်း အသိအမှတ်ပြုထားသည်။ ရုပ်တုကိုးကွယ်မှုကိုမူ အထူးတားမြစ်ထားသည်။ ၄င်းအပြင် လူသေသောအခါ၌လည်း မြေမမြှုပ်ရဘဲ စင်မြင့်ကြီးပေါ်၌ တင်ထားကြရ သည်။ ဤဘာသာအရ မြေ, ရေ, မီး ကို ကိုးကွယ်သောကြောင့် အလောင်းကို မြေမြှုပ်, ရေမျော, မီးသင်္ဂြိုဟ် မပြုရဘဲ စင်မြင့်ပေါ်ထားကာ လင်းတ, ပိုးလောက် စသည်တို့အား ကျွေးမွေးခြင်းဖြင့် ရှင်းပစ်ရခြင်းဖြစ်သည်။ ၄င်းစင်ကို 'ဆိတ်ငြိမ်စင်'ဟု ခေါ်သည်။

လူသေကောင်ကို စင်မြင့်၌ထားရသည့်အယူသည် အရှင်ဣန္ဒကာ၏ 'တောင်တန်းတစ်ခွင် တရားဟောထွက်ခဲ့စဉ် က' ဟူသောစာအုပ်တွင် 'တောင်တန်းဒေသရှိ နာဂတိုင်းရင်းသားတို့သည် လူသေကောင်ကို မြှုပ်နှံသင်္ဂြိုဟ်ခြင်းမပြုဘဲ စင်၌တင်၍ ပုပ်ပွပြီးအရိုးကျစေသောနည်းဖြင့် ဆောင်ရွက်နေကြသည်ကို တွေ့ရှိရပါကြောင်း' ရေးသားဖော်ပြထားသဖြင့် မြန်မာနိုင်ငံတောင်တန်းဒေသရှိ အချို့တိုင်းရင်းသားများဓလေ့နှင့် တစ်ထပ်တည်းရှိနေသည်ကို အံ့သြစွာတွေ့ရှိရသည်။

## တရား စတင်ဟောခြင်း

ဇိုရိုအက်စတားသည် သူ ရသောတရားကို ကျေနပ်စွာအိမ်သို့ပြန်ပြီး သူ့မိသားစုအား စတင်ဟောပြော သည်။ သို့ရာတွင် မည်သူမျှ လက်မခံကြ, မကြိုက်ကြ။ အလားတူ အခြားသူများအား လိုက်လံဟောပြောသော် လည်း မည်သူမျှ လက်မခံကြ, မကြိုက်ကြ။ ဇိုရိုအက်စတားသည် ဤနည်းဖြင့် ၁၀ နှစ်လုံးလုံး တိုင်းပြည်အနှံ့အပြား သွား၍ ဖွဲဖြင့် လိုက်လံတရားဟောသော်လည်း ညီ၀မ်းကွဲတစ်ယောက်ကလွဲ၍ မည်သူမျှ လက်မခံကြ, မကြိုက်ကြ ဟုဆိုသည်။

## ဇိုရိုအက်စတား ဘာသာရေးနှင့် ပါရှန်းလူအဖွဲ့အစည်း

ဇိုရိုအက်စတားသည် မိမိ၏ဟောပြောချက်ကို မီးဒီးလူမျိုးများ လေးစားလိုက်နာခြင်းမရှိသောကြောင့် ဆွေမျိုးစုတစ်စုဖြစ်သော 'အီရန်နီယန်း' ခေါ် ပါရှန်းတို့နေထိုင်ရာ ပါရှားသို့ပြောင်းရွှေ့၍ မိမိတရားကို ဆက်လက် ဟောခဲ့ပြန်သည်။ ထိုခေတ်က ပါရှန်းတို့၏ကိုးကွယ်မှုသည် ဝေဒခေတ် အိန္ဒိယပြည်၏ကိုးကွယ်မှုနှင့် များစွာတူသည်။ ရေ, မီး, လ, နေ, ကမ္ဘာ, ကောင်းကင် စသော သဘာ၀အခြင်းအရာများကိုသာ ၀တ်ပြုနေကြသည်။ အာရိ

ယန်တို့၏ မီးဆရာ၊ အာရိမန်၊ ဟိုမ၊ ဝါယု၊ ဥသျှာ စသော ဘုရားများ။ ဆီးမိုက်တို့၏ အနဟိတ (အစ်စတာ) ဘုရားမ အပြင် ဝေဒ၌မပါသော နတ်ဘုရားအချို့ကိုလည်း ကိုးကွယ်နေကြသည်။ အချုပ်အားဖြင့် ဘုရားအများကို ကိုးကွယ်မှု ဖြစ်သည်။

ပါရှန်းအများစုမှာ ပထမ၌ မယုံကြည်ကြသေးသဖြင့် ဇိုရိုအက်စတားသည် သူ၏အယူဝါဒကို နှစ်ပေါင်းများစွာပေါ့ပြောလျက်သာ နေခဲ့ရသည်။ နောက်ဆုံး၌ ဆရာကြီးသည် မြင်းသတ္တဝါကို အလွန်ချစ်သော အီရန်းယန်းလူမျိုးတို့၏ဝါသနာကို ဂရုပြုမိသည့်အလျောက်၊ ပါရှန်းဘုရင်တစ်ပါး၏မြင်းကို အံ့ဩဖွယ် ဆေးကုသပေးလိုက်ခြင်းဖြင့် ထိုဘုရင်ကို တပည့်တပန်းဖြစ်စေရာမှ သူ၏အယူဝါဒလည်း ထင်ပေါ်လာရတော့သည် ဟုဆိုသည်။ အခြားအဆိုတစ်ရပ်အရ 'ဗစ်ရှိတက်စ်ပ' ခေါ် ဘုရင်နှင့် မိဖုရားကြီး ဟွတ်တောစ တို့အား သိမ်းသွင်းစည်းရုံးနိုင်သည်မှစ၍ အီရန်တွင် ၎င်းအယူဝါဒ ပျံ့နှံ့သွားသည်ဟု ဆိုသည်။

အခြားအဆိုတစ်ရပ်မှာ ဆရာကြီးသည် အကြံတစ်ခုပေါ်လာ၍ ဝိတ္တပ္ပဘုရင်၏နန်းတော်သို့သွား၍ တရားသစ်ဟောလိုကြောင်း လျှောက်ထားရာ၊ ဘုရင်က သူ၏ အမတ်ပညာရှိဆိုသူများ၊ ယဇ်ပုရောဟိတ်များ၊ မှော်ဆရာများနှင့် ရှေးဦးစွာ ဆွေးနွေးစေခဲ့သည်။ နတ်ဘုရားမြောက်မြားစွာနှင့် ရုပ်တုပေါင်း သောင်းချီကိုးကွယ်နေသော နိုင်ငံ၏ နန်းတော်အတွင်းဝယ် ဆရာကြီး ဇိုရိုအက်စတားက 'တစ်ဆူတည်းသောပညာတော်ရှင် ဘုရားသခင်ကိုသာ ကိုးကွယ်ရမည်ဖြစ်ကြောင်း၊ ရုပ်တုများကို မကိုးကွယ်သင့်ကြောင်း' စသည်ဖြင့် ဆွေးနွေးခဲ့သည်။

ဆွေးနွေးပွဲ ၃ ရက်မြောက် နောက်ဆုံးနေ့၌ ဘုရင်က 'အကောင်းအင်အားစုနှင့် အဆိုးအင်အားစုသည် ဤအတိုင်း တည်သွားမည်လား' ဟုမေးရာ၊ ဆရာကြီးက အောက်ပါအတိုင်း ရှင်းပြခဲ့သည်။

'နောက်ဆုံး၌ အကောင်းအင်အားစုက အနိုင်ရမည်။ အနိုင်ရသည့်နေ့တွင် ပညာတော်ရှင် အဟူးရာမတ်ဇဒါ ဘုရားသခင်က တရားစစ်ဆေး ဆုံးဖြတ်မည်။ စစ်ဆေးရာ၌ သေသူ လူကောင်းလူဆိုးအားလုံး ပြန်ရှင်လာပြီး ရဲရဲတောက်နေသောသံရည်ပူချောင်းထဲ ဖြတ်ကူးကြရမည်။ လူကောင်းများက မပူဘဲ နွားနို့ပူပူနွေးနွေးထဲ ဖြတ်ကူးရသကဲ့သို့ ရှိမည်။ ၎င်းတို့သည် ကောင်းကင်ဘုံနန်း၌ စံမြန်းကြရမည်။ လူဆိုးများ ဖြတ်ကူးသည့်အခါ မခံရပ်နိုင်အောင် အပြင်းအထန်ပူမည်။ ဘုရားဆိုး အင်္ဂရမညုနှင့် လူဆိုးအားလုံးတို့သည် ထာဝရငရဲမီးပူကို ခံစားကြရမည်။ ထိုအခါ တစ်လောကလုံး လူကောင်းများချည်းရှိပြီး ပျော်ရွှင်ချမ်းမြေ့သည့်လောကကြီး ဖြစ်လာမည်။'

တစ်ဖန် ပညာရှိအမတ်တစ်ယောက်က 'အဟူးရာမတ်ဇဒါဘုရားညွှန်ကြားသည့် နည်းလမ်းများကို လိုက်နာနိုင်ရန် မည်သို့ပြုလုပ်သင့်သနည်း' ဟုမေးပြန်ရာ၊ ဆရာကြီးက 'ကောင်းမှုကို လုပ်ရမည်။ အမှန်သည် ကောင်းမှုဖြစ်ပြီး၊ အမှားမှာ မကောင်းမှုဖြစ်သည်' ဟုဖြေခဲ့သည်။

'သို့ဖြစ်လျှင် အမှန်တရားတစ်ခုတည်းသာ ဘုရားသခင်ထံရောက်ကြောင်း နည်းမှန်လမ်းမှန် ဖြစ်သလော' ဟု ထိုအမတ်က ထပ်မံမေးပြန်ရာ၊ ဆရာကြီးက 'အမှန်တရားက ပထမဆုံး လိုအပ်ချက်ဖြစ်သည်။ စိတ်သန့်ရှင်းစင်ကြယ်ခြင်း၊ ပေးကမ်းလှူဒါန်းခြင်း၊ မြေကြီးပေါ်၌ ထွန်ယက်စိုက်ပျိုး စားသောက်ခြင်း၊ လူ့အကျိုးပြု တိရစ္ဆာန်များကို သနားကြင်နာခြင်းတို့သည် လိုအပ်ချက်များဖြစ်သည်။ ကောင်းမှုအကျိုးကို တမလွန်တွင်သာမက ယခုဘဝ၌လည်း ခံစားရကြောင်း၊ မကောင်းမှုလည်း ထိုနည်းတူဖြစ်ကြောင်း' ရှင်းပြသည်။

ဝိတ္တပ္ပဘုရင်က သဘောကျ၍ 'ဤလူသည် ပညာတော်အရှင် တစ်ဆူတည်းသောဘုရားသခင်၏ တမန်တော်အစစ် ဖြစ်ပေသည်' ဟု ကြေညာလိုက်သည်မှအစ ဇိုရိုအက်စတား၏တရားသည် အနီးအပါးနိုင်ငံများသို့ပင် ပျံ့နှံ့သွား လေတော့သည်။

အိမ်နီးချင်း ဘုရင်နိုင်ငံကိုမှ တိုက်ခိုက်သိမ်းပိုက်ပြီးမှသာ သာသနာပြုကြ၏။ တူရင်နိုင်ငံသားများက မကျေနပ်၍ တိတ်တဆိတ်စည်းရုံးပြီး ပြန်လည်တိုက်ခိုက်ရာ ပါရှားနိုင်ငံ၏မြို့တော် ဘောခ်မြို့ထဲသို့ပင် ရောက်ရှိလာကြသည်။ ထိုအခါ၌ စစ်ကိုစတင်သော ဇိုရိုအက်စတားသည် ဘုရားကျောင်းအတွင်းရှိ တထိန်ထိန်တောက်နေသော မီးဘုရားရှေ့တွင် စစ်အောင်နိုင်ရေးအတွက် ဆုတောင်းနေသည်။ တူရင်စစ်သားတစ်ယောက်သည် ဘုရားကျောင်းထဲ ဝင်သွားပြီးလျှင် ဆုတောင်းနေသော တမန်တော်ဇိုရိုအက်စတားကို ဓားဖြင့်ထိုး၍ သတ်ခဲ့ပြီးလျှင် ဘုရားကျောင်းမှ ထွက်ခွာသွားတော့သည်။

ဆရာကြီး ကွယ်လွန်ပြီးနောက် ၅၀၀ ဘီစီမတိုင်မီတွင် သူ၏အယူဝါဒသည် ပါရှန်းတို့၏ ထိပ်တန်းအယူဝါဒ ဖြစ်လာကာ ဧကရာဇ်များပင် လက်ခံခဲ့ကြသဖြင့် ပါရှန်းတို့လည်း ယင်းဘာသာကို ယုံကြည်လာကြတော့သည်။ ဆရာကြီး၏ ဟောပြောချက်များကို စုပေါင်းရေးသားထားသောကျမ်းကို 'ဇင်းဒအဗက်စတာ' သို့မဟုတ် 'ပါရှန်းသမ္မာကျမ်း' ဟုခေါ်သည်။ ယင်းကျမ်းတွင် လောကီကျင့်ဝတ်များ၊ ဆုတောင်းမေတ္တာစာများအပြင်၊ နက္ခတ္တဗေဒနှင့် ဆေးပညာရပ်များလည်း ပါဝင်သည် ဟုဆိုသည်။ ဤကျမ်းအရ သိရှိရသည်မှာ ထာဝရဘုရားသခင်သည် ယင်းဘာသာတရားကို ဆရောသျ၊ ဟိုမ၊ ဂါယာမ၊ ရိုတန်တို့အား ပေးကြောင်း။ လူသားများတွင် ပထမဦးဆုံး ရရှိသူမှာ 'ယီမ' မည်သောဘုရင် ဖြစ်ကြောင်း။ ယင်းဘုရင်က ဤအယူဝါဒကိုဖြန့်ချိရန် အရည်အချင်းမပြည့်ဝ ဟု ဘုရားသခင်ထံ လျှောက်ထားသောကြောင့် ယင်းတာဝန်ကို ရာစုနှစ်ပေါင်းများစွာ ကြာပြီးနောက် ဇိုရိုအက်စတားထံ ချပေးခဲ့ရခြင်းဖြစ်ကြောင်း ဆိုသည်။

ဇိုရိုအက်စတားကျမ်းပြုဆရာ ဒါလားက ဇိုရိုအက်စတားအယူဝါဒ၏ ဖြစ်ပေါ်မှုကို ဘာသာစကားပေါ်တွင် အခြေခံ၍၊ 'ရှေးဦးခေတ်၊ ဂါထာခေတ်၊ အဗက်စတာခေတ်၊ ဖလဗီခေတ်' ဟူ၍ အဆင့်ဆင့်ပိုင်းခြားထားသည်။ ဆရာကြီး မပေါ်မီခေတ်ကို 'ရှေးဦးခေတ်' ခေါ်ပြီး၊ ဆရာကြီး သင်ကြားချက်များကိုမှ ပထမ ဂါထာဖြင့်၊ နောက် အဗက်စတန်ဘာသာ၊ ၎င်းနောက် ဖလဗီဘာသာဖြင့် ရေးသားခဲ့သည် ဟုဆိုသည်။

ဇိုရိုအက်စတား ကွယ်လွန်ပြီးနောက် နှစ်ပေါင်း ၃၀၀ ခန့်ကြာသောအခါ မက်ဆီဒိုနီးယားနိုင်ငံမှ အလက်ဇန္ဒားဘုရင်ကြီးက ပါရှားပြည်ကို တိုက်ခိုက်သိမ်းယူပြီးလျှင်၊ ဇိုရိုအက်စတားဘာသာ၏ကျမ်းစာဖြစ်သည့် ဇင်းဒအဗတ်စတာ (အဝေတ္တာ)ကို ဖျက်ဆီးပစ်လိုက်သည်။ ပါရှန်းတို့အား ဂရိတ်တို့၏ဘာသာတရားကို ကိုးကွယ်စေခဲ့သည်။ သို့ရာတွင် ပါရှန်းတို့ကမူ မိမိတို့၏ဘာသာတရားကိုသာ ကလေးငယ်များအား လျှို့ဝှက် သင်ကြားပေးနေခဲ့ကြသည်။

နှစ်ပေါင်း ၅၀၀ ခန့်ကြာ၍ နိုင်ငံခြားအုပ်စိုးမှုအောက်မှ ပါရှားပြည် လွတ်မြောက်သောအခါ ပါရှန်းတို့သည် မိမိတို့၏ဘာသာတရားကို ထင်ထင်ရှားရှား ပြန်လည်ကိုးကွယ်ကြတော့သည်။ ဇင်းဒအဗတ်စတာ (အဝေတ္တာ)ကျမ်း၏ သိမ်းဆည်းထားသမျှသော အစိတ်အပိုင်းများ၊ ဘာသာဝင်များမှတ်သားမိသမျှသော အစိတ်အပိုင်းများကို စုပေါင်း၍ ကျမ်းစာတစ်အုပ်ဖြစ်အောင် ဆောင်ရွက်ကြသည်။

သို့သော် နောင် နှစ်ပေါင်း ၄၀၀ ခန့်ကြာသောအခါ ပါရှားကို အာရပ်များ ဝင်ရောက်တိုက်ခိုက် သိမ်းပိုက်ပြီး အစ္စလာမ်ဘာသာကို အဓမ္မကိုးကွယ်စေခဲ့သည်။ အချို့ပါးရှန်းတို့က အသေခံကာ ဇိုရိုအက်စတားဘာသာကိုသာ ကိုးကွယ်သွားကြသည်။ အချို့ကား ဘာသာရေးလွတ်လပ်ခွင့်ရှိသော အိန္ဒိယ စသောနိုင်ငံများသို့ ထွက်ပြေးသွားကြသည်။ ထိုအချိန်မှစ၍ အစ္စလာမ်ဘာသာသည် ပါရှား (အီရန်)နိုင်ငံ၌ စည်ပင်လာတော့သည်။ ဇိုရိုအက်စတား ဘာသာဝင်များကား မဆိုသလောက်သာ ကျန်တော့သည်။ ယခုအခါ ဇိုရိုအက်စတား ဘာသာဝင်အများစုကို အိန္ဒိယပြည်အနောက်ပိုင်း ဘုံဘေနယ်တစ်ဝိုက်၌ တွေ့ရသည်။ သူတို့ကို 'ဖာရစ်များ' (ဖာရစီများ) ဟုခေါ်သည်။

**ဆိုင်းရပ်ဘုရင်နှင့် ဖိုရှိအက်စတား ဘာသာရေး**

ပါရှားဘုရင် ဆိုင်းရပ်သည် အင်အားကြီးလှသော မီးဒီးယားနိုင်ငံနှင့် 'မီးဒီးယန်း' ခေါ် မီးဒီးလူမျိုးတို့ကို တိုက်ခိုက်အောင်မြင်သောအခါ အနီးအနားရှိနိုင်ငံများ ကြောက်ရွံ့လာကြသဖြင့် ဆိုင်းရပ်ရန်မှကာကွယ်နိုင်ရန် ကယ်ဒီးယား၊ အီဂျစ်၊ လစ်ဒီးယား ၃ နိုင်ငံတို့သည် မဟာမိတ်ဖွဲ့ခဲ့ကြသည်။ ဂရိမှ စပါတားနိုင်ငံလည်း ၎င်းအဖွဲ့တွင် ပါဝင်သည်။ ဦးဆောင်သူကား လစ်ဒီးယားဘုရင် ကရိဆပ် ဖြစ်သည်။

ကရိဆပ်သည် ပါရှားကိုတိုက်ခိုက်က နိုင်၊မနိုင်ကို သိချင်သည်။ ထို့ကြောင့် ကရိဆပ်သည် အမတ်များအား ဒယ်လဖီနတ်ကွန်းနှင့် အခြားနာမည်ကြီး နတ်ကွန်းများသို့စေလွှတ်၍ နတ် မေးနိုင်းသည်။ နတ်များအား ပူဇော်ပသရန် အဖိုးတန်ပစ္စည်းများစွာကိုလည်း ပေးလိုက်သည်။ နတ်အားလုံးက 'ကရိဆပ် နိုင်မည်' ဟုဟောကြသည်။

ကရိဆပ်ဘုရင်သည် နတ်များဟောသည်ကိုယုံကြည်၍ ပါရှားသို့ သွားရောက်တိုက်ခိုက်တော့သည်။ ပါရှားဘုရင်ဆိုင်းရပ်လည်း မီးဒီးပညာရှိ ဟာပကာ့၏အကြံပေးချက်အရ တိုက်ခိုက်ရာ ၅၄၆ ဘီစီ၌ လစ်ဒီးယားကို အနိုင်ရကာ ကရိဆပ်အား စစ်သုံ့ပန်းအဖြစ်ဖမ်းခဲ့ပြီး ထင်းပုံပေါ်တင်၍မီးရှို့သတ်ရန် အမိန့်ပေးသည်။

ဤသို့ ထင်းပုံပေါ်တင်၍ မီးရှို့သည့်လုပ်ဆောင်ချက်ကား ယဇ်ပူဇော်ရန်၊ သို့မဟုတ် ဆိုင်းရပ်ကိုးကွယ်သည့် နတ်များ မည်မျှစွမ်းသည်၊ မစွမ်းသည်ကိုသိရန် လုပ်ဆောင်ခြင်းဖြစ်သည်ဟု သမိုင်းဆရာတို့ ယူဆကြသည်။ ထိုအခါ ထင်းပုံပေါ်မှ ကရိဆပ်သည် 'ဆိုလွန်' ဟု ၃ ကြိမ်အော်ခဲ့သည်။ ဆိုင်းရပ်ဘုရင်က အဓိပ္ပာယ်ကို စုံစမ်းရာ တစ်ခါက ဆိုလွန်ပညာရှိတစ်ဦးက ကရိဆပ်နန်းတွင်းသို့ အလည်ရောက်ရှိပြီး၊ ထီးနန်းစည်းစိမ်နှင့်တကွ ဘယ်အရာမျှ မမြဲကြောင်း၊ လူလည်း မမြဲကြောင်း၊ တစ်နေ့ကျ ယင်း ထီးနန်းစည်းစိမ်များကို ပစ်ခွာသွားရမည်သာ ဖြစ်ကြောင်း ဟောပြောခဲ့သည့်အတိုင်း၊ ယခု မိမိခံစားနေရသည်ကို သတိရ၍ ဆိုလွန်ကို တ၊ခေါ်ခြင်းဖြစ်ကြောင်း သိရသဖြင့်၊ 'ချက်ချင်းမီးငြိမ်းသတ်၍ ကရိဆပ်ကိုလွှတ်ရန်' အမိန့်ပေးလိုက်သည်။ သို့သော် ထင်းပုံမီး အတော်ပင် စွဲလောင်နေပြီးဖြစ်၍ ငြိမ်းသတ်မရတော့ချေ။

ကရိဆပ်လည်း ထင်းပုံပေါ်မှပင် "အာပိုလိုအရှင်ကြီး။ ကျွန်ုပ်သည် အရှင်ကြီးအား ပူဇော်ပသခဲ့ဖူးပါသည်။ ယင်းပူဇော်မှုကို အရှင်ကြီးကျေနပ်ပါက ကျွန်ုပ်အား မီးဘေးမှလွတ်အောင် ကယ်တော်မူပါ" ဟုအသံကုန်ဟစ်၍ လျှောက်သည်။ ထိုအခါ ကောင်းကင်လည်း ကြည်လင်၊ လေလည်း ငြိမ်နေရာမှ လေပြင်းမုန်တိုင်းကျပြီး မိုး အကြီးအကျယ်ရွာချသဖြင့် မီးလည်း ငြိမ်းသွားတော့သည်။

ဆိုင်းရပ်ဘုရင်သည် လစ်ဒီးယားနိုင်ငံကိုသိမ်းပြီးနောက် ၅၃၈ ဘီစီတွင် ဘက်ဘီလုံနှင့် ကယ်လ်ဒီးယားနိုင်ငံ တို့ကိုပါ သိမ်းပိုက်နိုင်ခဲ့သည်။ ဆိုင်းရပ်သည် ဤနည်းဖြင့် အနောက်အာရှမိုင်းနားတစ်ခုလုံးကို သိမ်းယူပြီးနောက် မဇာဂဒေတွင် နန်းတော်တည်ဆောက်သည်။ ဖိုရှိအက်စတား အယူဝါဒဆိုင်ရာ ဘုရားကျောင်းကိုလည်း တည် ဆောက်ခဲ့သည်။ ၎င်းနောက် ဆိုင်းရပ်ဘုရင်သည် နယ်ချဲ့တိုက်ပွဲ ဆက်လက်တိုက်ခိုက်ရင်း ၅၂၉ ဘီစီတွင် ကျဆုံး ခဲ့ရတော့သည်။

ဆိုင်းရပ်ဘုရင် နောက်ပိုင်း၌ ပါရှားတို့သည် အင်ပါယာကို အထွတ်အထိပ်ရောက်အောင် ထူထောင်နိုင်ခဲ့ သော်လည်း ဇာဆပ်စ် (၄၈၅-၄၆၅ ဘီစီ)ဘုရင်လက်ထက်မှစ၍ တဖြည်းဖြည်းကျဆင်းလာသည်။ နောက်ဆုံး၌ မွတ်စလင်တို့၏ လွှမ်းမိုးမှုကို ခံလိုက်ရသဖြင့် ဖာရစီ (ဖိုရှိအက်စတား)ဘာသာလည်း အားနည်းလာရပြီး၊ အချို့က အိန္ဒိယဘက်သို့ ထွက်ပြေးကာ မိမိတို့၏ဘာသာကိုပင် ဆက်လက်ကိုးကွယ်နေခဲ့ကြတော့သည်။

# အခန်း ၆

## ဂျူးဘာသာရေးနှင့် ယာဝေး (ယေဟိုဝါ) ဘုရား

### ၂၀၀၀ ဘီစီ၊ ဟီဘရူး လူ့အဖွဲ့အစည်း

ဟီးဘရူးလူမျိုးကို၊ ဣသရေလ, ရေဝတီ, ရဟူဒီ, ယောဖြဲနှင့် ဂျူး ဟူ၍ အမျိုးမျိုးခေါ်ကြသည်။ ၁၄၀၀ ဘီစီနှင့် ၁၂၀၀ ဘီစီအတွင်း (အချို့အဆို ၁၀၀၀ ဘီစီ)၌ အာရေဗျသဲကန္တာရထဲ၌ ခြေသလုံးအိမ်တိုင်ပြုနေကြသည့် ဆမ့်မျိုက်အနွယ် ဂျိုရှုအာ ခေါင်းဆောင်သော ဟီဘရူးလူမျိုးတို့သည် ပါလက်စတိုင်းသို့ ရောက်ခဲ့ကြသည်။ (မိုးဇက် ကွယ်လွန်သောအခါမှ ဂျိုရှုအာခေါင်းဆောင်ခဲ့သည်ဟု အချို့ကဆိုသည်။) ၄င်းတို့မတိုင်မီ ၃၀၀၀ ဘီစီခန့်ကပင် အာရေဗျသဲကန္တာရ၌ ခြေသလုံးအိမ်တိုင်ပြုနေကြသည့် ဆမ့်မျိုက်အနွယ် ကေနန်နိုက်လူမျိုးတို့သည် ပါလက်စတိုင်းသို့ ရောက်ကြပြီး၊ ၂၅၀၀ ဘီစီခန့်၌ မြို့ကြီးပြကြီးတည်ထောင်၍ နေထိုင်နိုင်သည်အထိ တိုးတက်ခဲ့ကြသည်။ ဟီဘရူးတို့ကား နောက်ထပ် ရောက်ရှိလာကြပြီး၊ ကေနန်နိုက်တို့ကိုတိုက်ခိုက်၍ အခြေချနေထိုင်ခဲ့ကြခြင်း ဖြစ်သည်။ ဤကေနန်နိုက်တို့သည် မြို့တံတိုင်းများကာရံကာ အိမ်ကြီးအိမ်ကောင်းများနှင့် အဘက်ဘက်က ယဉ်ကျေးသဖြင့် ဟီဘရူးများက အတုယူခဲ့ကြရသည်။

ကေနန်နိုက်နှင့် ဟီဘရူးတို့သည် နောက်ပိုင်းကာလများ၌ ရောစပ်သွားရာမှ တစ်မျိုးတည်း ဖြစ်သွားကြသည်။ အလားတူ နောက် ဟီဘရူးလူမျိုးတစ်စုက အီဂျစ်သို့ ရောက်သွားကြသည်။ ထိုအချိန်တွင် အီဂျစ်၌ ဆမ့်မျိုက်အနွယ်ဖြစ်သည့် ဟာစ်ဆိုးလူမျိုးတို့ အုပ်စိုးချိန်ဖြစ်၍ အနွယ်တူ ဟီဘရူးလူမျိုးတို့လည်း ကောင်းစားခဲ့ကြသည်။ ထို့ကြောင့် 'ဂျိုးဇက်' ဟူသောဟီဘရူးမှာ အီဂျစ်ဘုရင်ခံအထိ ခန့်ထားခြင်းခံခဲ့ရသည်။ ဘုရင်ခံသည် အီဂျစ်ဘုရင်ဖာရိုပြီးနောက် အကြီးဆုံးဖြစ်သည်။

ဟာစ်ဆိုးများ အရေးနိမ့်၍ အီဂျစ်မှဆုတ်ခွာသွားသောအခါ ကျန်ရစ်ခဲ့သည့် ဟီဘရူးလူမျိုးတို့သည် ဖာရို လက်အောက်၌ များစွာ အနှိပ်စက်ခံခဲ့ကြရသည်၊ ကျွန်ပြုခံကြရသည် ဟုဆိုသည်။ ထို့ကြောင့် ဒုတိယမြောက် ရမ်ဆီ(ရမ္မဆေး) ဖာရိုဘုရင်လက်ထက်၌ ဟီဘရူးခေါင်းဆောင်ကြီး မိုးဇက်(မောရှေ)ခေါင်းဆောင်သော ဟီဘရူးတို့သည် အီဂျစ်မှ ပါလက်စတိုင်းသို့ ထွက်ခွာနေထိုင်ခဲ့ကြသည်။

အခြားအဆိုတစ်ရပ်မှာ 'တေးရား' ခေါ်သော အရောင်းအဝယ်သမားတစ်ဦး၏သားများအနက် တစ်ယောက် ဖြစ်သော အေဗရာဟင်သည် ဆူးမားရီးယန်းတို့၏မြို့တော် အား(ဦးလ်)မြို့၌ နေသည်။ လူတို့သည် ယာဝေး (ယေဟိုဝါ)နှင့် အခြားနတ်များကို ကိုးကွယ်နေကြသည့်အပြင် ရုပ်တုအမျိုးမျိုးကိုလည်း ကိုးကွယ်နေကြသည်။ ထိုနတ်များတွင် ယာဝေး(ယေဟိုဝါ)သည် တတိယတန်းစားအောက်ဆုံးနတ် ဖြစ်သည် ဟုဆိုသည်။

အေဗရာဟင်ကမူ ယာဝေးမှ တစ်ပါး အခြားကိုးကွယ်မှုများကို ဆန့်ကျင်ခဲ့သည်။ အထူးသဖြင့် ရုပ်တု ကိုးကွယ်မှုများကို ဆန့်ကျင်ခဲ့သည်။ ထို့ကြောင့် အေဗရာဟင်သည် မိဘတို့ကိုးကွယ်ထားသော ရုပ်တုကိုပင် ပေါက်ခွဲစွန့်ပစ်ခဲ့သည် ဟုဆိုသည်။ ဤအပြုအမူများသည် ရုပ်တုကိုးကွယ်နေသည့်နိုင်ငံ၌ အလွန်အန္တရာယ်များ လှသော လုပ်ရပ် ဖြစ်သည်။

ထို့ကြောင့် အေဗရာဟင်သည် မိမိ၏မိသားစု အပေါင်းအသင်းများနှင့် သိုးများကိုယူကာ ယူဖရေးတီးမြစ်ကို ဖြတ်ကူးပြီး ၂၁၅၀ ဘီစီ၌ 'ကာနန်' ခေါ် ပါလက်စတိုင်းသို့ ပထမရောက်ရှိခဲ့ကြသည် ဟုဆိုသည်။ ဤကဲ့သို့ မြစ်ကိုဖြတ်ကူးလာသောကြောင့် ၎င်းတို့ကို 'ဟီဘရူး'(တစ်ဘက်ကမ်းမှဖြတ်ကူးလာသူ)ဟု ခေါ်ရခြင်းဖြစ်ကြောင်း ဆိုသည်။

ယင်း ဟီဘရူးတို့သည် ကာနန်ပြည်နယ်၌ ဝတ်မွတ်ခေါင်းပါးမှု ဖြစ်သောအခါ အီဂျစ်သို့ရောက်ရှိခဲ့ကြပြီး၊ အီဂျစ်နတ်ကို မကိုးကွယ်သောကြောင့် အနှိပ်စက်ခံ ကျွန်ပြုခံခဲ့ကြရသည်။

သမ္မာကျမ်းစာအရ အေဗရာဟင်ကို ဆက်ခံသူမှာ အိုက်ဇက် ဖြစ်သည်။ အိုက်ဇက်တွင် အီဆို နှင့် ဂျက်ကော့ ခေါ်သော သား ၂ ယောက် ရှိသည်။ ဂျက်ကော့ကိုအစ္စရေး ဟူ၍လည်း ခေါ်သည်။ သူသည် ခေါင်းဆောင် အရိုက်အရာကို ရရှိပြီး၊ သူ့အား သား ၁၂ ယောက် ဆက်ခံသဖြင့် 'အစ္စရေး' ၁၂ စုတို့၏ခေါင်းဆောင် ဖြစ်လာကြသည်။ ဂျက်ကော့သည် သူ၏သားဂျိုးဇက်အား ချစ်လွန်းသဖြင့် အခြားသားများက မနာလိုဖြစ်ကြပြီး၊ ဂျိုးဇက်အား အီဂျစ်သို့သွားသည့်ကုန်သည်များထံ ရောင်းစားကြသည်။ သို့သော် ဂျိုးဇက်မှာ အသက်မသေဘဲ အီဂျစ်တွင် ဘုရင် ဖြစ်နေသည်။ ကာလအတန်ကြာသောအခါ ပါလက်စတိုင်း၌ ဒုဗ္ဘိက္ခန္တရကပ်ဘေး ဆိုက်ရောက် လာသဖြင့် ဂျက်ကော့နှင့် သူ၏သားများသည် အီဂျစ်သို့ ဂျုံဝယ်ရန် လာရောက်ကြသည်။ အီဂျစ်၌ ဂျိုးဇက်၏စောင်မ မှုကြောင့် သူတို့သည် အီဂျစ်တွင် မြေယာများပိုင်လာကြရာ ထိုတွင် ဆွေစဉ်မျိုးဆက်များစွာနေထိုင်ကြပြီး ကြီးပွား ချမ်းသာလာကြသည်။ နောက်ပိုင်းတွင် အီဂျစ်တို့က အစ္စရေးတို့အပေါ် မနာလိုဝန်တိုဖြစ်လာကြပြီး ကျေးကျွန်အဖြစ် သို့ သွတ်သွင်းလိုက်ကြသည် ဟုဆိုသည်။ ၎င်းတို့သည် အီဂျစ်မှလွတ်မြောက်ရန် နည်းလမ်းရှာကြရှိန်၌ မောရှေ (မိုးဇက်) ပေါ်လာသည်။

တစ်နေ့သ၌ မောရှေသည် ကျွန် ၂ ယောက်ကို ကျွန်ထိန်းတစ်ယောက်က ရက်စက်စွာ နှိပ်စက်သတ်ဖြတ်နေ သည်ကိုမြင်၍ စိတ်မထိန်းနိုင်သဖြင့် ၎င်းကျွန်ထိန်းကို သတ်ပြီး ထွက်ပြေးရာ ဘုန်းကြီးဂျေသရိုး၏ ဥယျာဉ်ထဲသို့ ရောက်ရှိသွားသည်။ ၎င်း၌ ထိပ်တွင် စာရေးထားသည့် တန်ခိုးရှိသောတောင်ဝှေးကို တွေ့၍ ဘုန်းကြီးဂျေသရိုးထံမှ တောင်းယူပြီး အီဂျစ်သို့ ပြန်လာခဲ့သည်။ ၎င်းနောက် အီဂျစ်ဘုရင်နန်းထဲသို့ ဝင်၍ ၎င်းတောင်ဝှေးဖြင့်ခြိမ်းခြောက်ကာ ဟီဘရူးတို့အား အီဂျစ်မှထွက်ခွာခွင့်ကို တောင်းခဲ့သည်။ ဘုရင်လည်း ကြောက်သဖြင့် ထွက်ခွာခွင့်ပေးသောကြောင့် ၎င်းတို့လည်း အီဂျစ်မှထွက်ခွာလာခဲ့ရကြောင်း ဆိုသည်။ ၎င်းတို့ထွက်သွားသော ခုနှစ်ကား ၁၅၁၃ ဘီစီ ဖြစ် သည် ဟုဆိုသည်။

## ပညတ်တော် ၁၀ ပါး လက်ခံရရှိပုံ

မောရှေ(မိုးဇက်)လက်ထက်၌ ယာဝေး(ယေဟိုဝါ)နတ် ကိုးကွယ်မှုသည် ပို၍ ထင်ရှားလာသည်။ မောရှေ (မိုးဇက်)သည် အီဂျစ်၌ ကြာရှည်လေးမြင့်နေခဲ့သဖြင့် အစ်ခနတွန် ဖာရိုဘုရင်၏ အတွန်ဘာသာအကြောင်းကို ကောင်းစွာသိခဲ့ပုံ ရသည်။

အတွန်ဘာသာ၌ အတွန်နတ်မင်းကြီးတစ်ပါးသာ ရှိသည်။ အခြားနတ်များကို ပယ်သည်။ အတွန် နတ်မင်းကြီးက တစ်ကမ္ဘာလုံးကို အုပ်စိုးသည်ဟု ယုံကြည်ကြသည်။

ဟီဘရူးတို့သည် ၁၀၂၅ ဘီစီအထိ ဘာသာရေးအုပ်ချုပ်မှု ဖြစ်သည်။ ပထမဆုံးအုပ်ချုပ်သူ မိုးဇက် လက်ထက်၌ ဟီဘရူးများလိုက်နာရန် ပညတ်တော် ၁၀ ပါး ပေါ်လာသည်။ ယင်း ပညတ်တော် ၁၀ ပါးကို ယာဝေးနတ်က မိုးဇက်ကို ပြောပြခဲ့သည် ဟုအဆိုရှိသည်၊ ဘာသာရေးအဆိုအရ မောရှေ(မိုးဇက်)တို့လူစုသည်

အီဂျစ်မှထွက်ခွာလာရာ၌ ဆိုင်းနိုင်းတောင်ခြေတွင် ယာဝေး (ယေဟိုဝါ) ဘုရားသခင်ကို နွားသိုးကြီးအသွင်ဖြင့် ဖြစ်စေ၊ ငှက်ကလေးအသွင်ဖြင့် ဖြစ်စေ၊ မီးကွက်အသွင်ဖြင့် ဖြစ်စေ တွေ့ရလိမ့်မည် ဟု မျှော်လင့်ချက်အရ ဝမ်းသာနေကြသည်။ မျှော်လင့်သည့်အတိုင်း တောင်ခြေတွင် ဘာမျှမတွေ့ရသောအခါ စိတ်ပျက်ခဲ့ကြသည်။ ထိုအခါ မောရှေ(မိုးဇက်)သည် မိမိ၏လူများကို တောင်ခြေ၌ထားခဲ့၍ တောင်ထိပ်တက်ကာ ရက် ၄၀ မျှ ၎င်းတောင်ပေါ်တွင် နေခဲ့သည်။ ထိုအခါ ယာဝေး(ယေဟိုဝါ)ဘုရားသခင်ကို တွေ့ရုံမျှမက ပညတ်တော် ၁၀ ပါးကိုပင် ဘုရားသခင် ထံမှရရှိခဲ့ပြီး၊ တောင်ခြေသို့ဆင်းကာ မိမိလူများအား ပညတ်တော် ၁၀ ပါးကို ရှင်းပြခဲ့သည်။ ပညတ်တော် ၁၀ ပါး ရလာသောခုနှစ်ကို ၁၂၃၀ ဘီစီ ဟုသတ်မှတ်သည်။ ၎င်းနောက် မိုးဇက်သည် 'ဘုရားသခင်ကတိပြုထားသော ဒေသသို့ သွားရမည်' ဆိုပြီး သူ့လူများကို မြောက်ဘက်စူးစူး ကျော်ဒန်မြစ်ဆီသို့ ခေါ်သွားသည် ဟုဆိုသည်။

## ပညတ်တော် ၁၀ ပါး

၁- ယာဝေး(ယေဟိုဝါ) ဘုရားမှတစ်ပါး အခြားဘုရားကို မကိုးကွယ်ရ။

၂- ရုပ်တု မကိုးကွယ်ရ။

၃- မုသားနှင့်စပ်၍ ဘုရားသခင်၏နာမတော်ကို မမြွက်ဆိုရ။

၄- ရက်သတ္တပတ်၏ ၇ ရက်မြောက်နေ့၌ အလုပ်မလုပ်ဘဲ နားရမည်။ ၎င်းနေ့ကို မြတ်သောနေ့ (Holy Day) ဟု ခေါ်ရမည်။

၅- မိဘကို ရိုသေရမည်။

၆- လူကို မသတ်ရ။

၇- မခိုးရ။

၈- သူတစ်ပါးသားမယားကို မပြစ်မှား မကျူးလွန်ရ။

၉- ကိုယ်နှင့်နီးစပ်သူ အပြစ်ရအောင် မမှန်သက်သေ မခံရ။

၁၀- ကိုယ်နှင့်နီးစပ်သူ၏ သားမယား၊ ပစ္စည်းဥစ္စာကို လိုချင်တပ်မက်စိတ် မရှိရ။

(အချို့က အမှတ်-၁ နှင့် အမှတ် ၂ ကို ၁ အဖြစ်ယူပြီး၊ အမှတ်-၁၀ ကို သားမယားနှင့် ပစ္စည်း ၂ မျိုး ခွဲ၍ ပြကြသည်။)

## အီဂျစ်မှလွတ်မြောက်လာပြီးနောက် ဟီဘရူးတို့၏ယုံကြည်မှု

ယင်း ပညတ်တော် ၁၀ ချက်တွင် အီဂျစ်တို့မသိရှိသေးသော အချက် ၂ ချက် ပါသည်။ ၎င်းတို့မှာ မောရှေ(မိုးဇက်)တို့လူစုသည် ကျွန်ဘဝဖြင့် ရက်သတ္တပတ်လုံး မနားရဘဲ အလုပ်လုပ်ခဲ့၊ ပင်ပန်းခဲ့ရသည့်အတွေ့အကြုံကို ယူပြီး၊ ၇ ရက်မြောက်၌ အလုပ်မလုပ်ရ ဟု ပညတ်ခဲ့ခြင်းဖြစ်ပြီး၊ နောက်တစ်ချက်ကား 'ကျွန်ဘဝမှလွတ်အောင် ယာဝေး(ယေဟိုဝါ)က ကယ်တင်ခဲ့သဖြင့် ယေဟိုဝါမှတစ်ပါး အခြားဘုရား မကိုးကွယ်ရ' ဟု ပညတ်ခဲ့ခြင်းဖြစ်သည်။ ကျန် ၈ ချက်ကား အီဂျစ်တို့သိပြီးသောအချက်များ ဖြစ်သည်။ ဘာသာရေးခေါင်းဆောင် မိုးဇက်က ယာဝေး(ယေဟိုဝါ)သည် တစ်ဦးတည်းသောနတ် ဖြစ်သည် ဟုဟောပြောသော်လည်း ဟီဘရူးများ မယုံကြသေးချေ။ သူတို့ ယူဆနေကြသည်မှာ ယာဝေးသည် စစ်နတ် ဖြစ်သည် ဟုသာ သိကြသည်။ သူတို့လှည့်လည်သွားလာနေရင်း စစ်တိုက်ခဲ့ရစဉ်ကသာ ကူညီစောင်မနိုင်ပြီး၊ ယခုမြို့ပြတည်ထောင်ကြ၍ တောင်သူလယ်သမားများဖြစ်လာသော

အခါ 'ဘေးအယ်' ခေါ် မြေသြဇာနတ်လောက် သူတို့အား ကူညီစောင်မနိုင်မည်မဟုတ် ဟုယုံကြည်ကြသည်။ တစ်ဖန် နောက်ဘဝသဘောကိုလည်း ဟီဘရူးများ သဘောမပေါက်ကြသေးချေ။ လူသေက မြေကြီးအောက်ရှိ မှောင်မှောင်မည်းမည်းနေရာကြီးသို့ ရောက်သွားသည်ဟု ဘက်ဘီလုံးနီးယန်းတို့နည်းတူ ယုံကြည်ကြသည်။ ယာဝေး (ယေဟိုဝါ)သည် ဤမှောင်မှောင်မည်းမည်းနေရာသို့ ရောက်သူများကို တခြားနတ်များထက် ထူးထူးခြားခြား ကယ်နိုင်မည် မဟုတ် ဟူ၍လည်း ယူဆကြသည်။ ထို့ကြောင့် ပါလက်စတိုင်း၌ အခြေစိုက်နေထိုင်မိကြသောအခါ ဟီဘရူးအများစုက ၎င်းတို့၏ မူလနတ်ဖြစ်သော ယာဝေးကိုလည်း ကိုးကွယ်ကြသည်။ တိုင်းရင်းသားဖြစ်သည့် ကေနန်နိုက်များ ကိုးကွယ်သည့် 'ဘေးအယ်' ခေါ် မြေသြဇာနတ်ကိုလည်း ကိုးကွယ်ကြသည်။

## ဟီဘရူး ၂ နိုင်ငံကွဲခြင်းနှင့် လက်အောက်ခံဖြစ်ခြင်း

ပါလက်စတိုင်းရှိ ဟီဘရူးတို့သည် ပထမအစုများ ကွဲပြားနေထိုင်ကြသည်။ အစု ၁၂-စု ရှိသည်ဟု အဆို ရှိသည်။ ၁၁၀၀ ဘီစီခန့်၌ ဆောလ်ဘုရင်၏ဦးဆောင်မှုဖြင့် အစုကွဲနေကြသော ဟီဘရူးများသည် ဟီဘရူး တစ်မျိုးသားတည်း ဖြစ်လာကြသည်။ ဒေးဗစ်ဘုရင်လက်ထက်၌ ဂျေရုစလင်မြို့ကို မြို့တော်ပြုလုပ်ပြီး သူတို့ ကိုးကွယ်သည့် ယာဝေးနတ်အတွက် ဝတ်ကျောင်းတစ်ကျောင်းကို ဂျေရုစလင်မြို့၏တောင်ကုန်းပေါ်၌ တည်ဆောက် ရန် စီစဉ်ခဲ့သည်။ ဒေးဗစ်ဘုရင်သည် ၁၀၅၆ ဘီစီမှ ၁၀၁၅ ဘီစီအထိ အနှစ် ၄၀ တိုင်တိုင် အုပ်စိုးသွားခဲ့သည်။ အချို့က ၁၀၀၀ ဘီစီမှ ၉၆၀ ဘီစီအထိ အုပ်စိုးသွားကြောင်း ဆိုသည်။

ဒေးဗစ်ကွယ်လွန်ပြီးနောက် သားတော် ဆော်လမွန်လက်ထက်တွင် ဖော်ပြပါယာဝေးဝတ်ကျောင်းကို အပြီး ဆောက်လုပ်ခဲ့သည်။ ၎င်းဝတ်ကျောင်း ဆောက်နိုင်ရန် အခွန်အတုတ်များစွာ ကောက်ခံခဲ့သည်။ လူများကိုလည်း ချွေးတပ်အဖြစ် များစွာဆွဲခဲ့သည်။ ထို့ကြောင့် တိုင်းသူပြည်သားများ မကျေမနပ်ဖြစ်ခဲ့ကြသည်။

ဆော်လမွန်ဘုရင်နတ်ရွာစံပြီးနောက် သားတော် ရီဟိုးဘိုးအမ်(ရေဟိုးဘုန်း)လက်ထက် ၉၇၅ ဘီစီ (အချို့အဆို ၉၃၅ ဘီစီခန့်ရောက်သောအခါ မြောက်ပိုင်းက ၎င်းမင်းကို သဘောမကျ၍ ဂျီရိုဘိုအမ် (ယေရိုးဘုန်း)ကို မင်းအဖြစ် တင်မြှောက်ရာမှ ပါလက်စတိုင်းလည်း နှတောင်ပိုင်း၊ မြောက်ပိုင်း ကွဲသွားတော့သည်။ မြောက်ပိုင်းက 'အစ္စရေး' အမည်ခံပြီး၊ မြို့တော်မှာ ဆမားရီးယား ဖြစ်သည်။ တောင်ပိုင်းက 'ဂျူးဒါး'အမည်ခံပြီး မြို့တော်မှာ ဂျေရုစလင် ဖြစ်သည်။

အဆီးရီးယန်းဘုရင် ဒုတိယ ဆာဂွန်လက်ထက်၌ အစ္စရေးနိုင်ငံသည် အဆီးရီးယန်းလက်အောက်သို့ ကျ ရောက်ခဲ့သည်။ တောင်ပိုင်း ဂျူးဒါးနိုင်ငံကမူ ဘေးကင်းလျက်ရှိသည်။ အဆီးရီးယန်းဘုရင် ဆနက်အာရစ် လက်ထက်၌ အဆီးရီးယားတို့သည် ဂျူးဒါးနိုင်ငံ မြို့တော် ဂျေရုစလင်အနီးအနားအထိ ချီတက်ခဲ့ကြပြီး ပြန်လှည့် သွားကြသည်မှလွဲလျှင်၊ ဂျူးဒါးနိုင်ငံသည် ၇ရာစု ဘီစီကုန်သည်အထိ ဘေးကင်းခဲ့သည် ဟုဆိုသည်။

၅၉၇ ဘီစီခန့် (အချို့အဆို ၅၈၆ ဘီစီ) ခန့်၌ ခါလ်ဒီးယန်းဘုရင် နက်ဘူကက်နက်ဇာသည် ဂျူးဒါးနိုင်ငံကို သိမ်းပိုက်ပြီးလျှင် ရှင်ဘုရင်၊ မိဖုရား၊ မောင်းမမိသံများ၊ သူဌေးသူကြွယ်၊ လက်မှုပညာသည် အားလုံးကို စစ်သုံ့ပန်းအဖြစ် ဘက်ဘီလုံမြို့တော်သို့ ခေါ်သွားခဲ့သည်။ ဟီဘရူးလူမျိုး 'ဇယ်ဒီကီးယား' ဆိုသူကို သစ္စာရေတိုက်၍ ဘုရင်ခံအဖြစ် ဂျူးဒါး၌ တင်မြှောက်ထားခဲ့သည်။ နောက် ဇယ်ဒီကီးယား သစ္စာဖောက်သဖြင့် ၅၈၆ ဘီစီ၌ ဂျူးဒါးကို ပြန်သိမ်းခဲ့ရသည်။ ဇယ်ဒီကီးယား၏သားများကို သူ့ရှေ့တွင်သတ်ပြီး သူ့မျက်လုံးကိုဖောက်၍ ဘက်ဘီလုံ သို့ ကုန်းကြောင်း ဆွဲခေါ်သွားသည်။ ဟီဘရူးလူမျိုး အတော်များများကိုလည်း စစ်သုံ့ပန်းအဖြစ် ထပ်မံခေါ်သွားပြန် သည်။ ဂျေရုစလင်မြို့တော်ကိုရော ယာဝေးနတ်စင်ကိုပါ ကြေမွသွားအောင် ဖျက်ဆီးခဲ့ကြသည်။

## ဂျူးဘာသာ ပေါ်လာခြင်း

၅၃၈ ဘီစီ၌ ပါရှန်းတို့သည် ဘက်ဘီလုံကို သိမ်းပိုက်သောအခါကျမှ ဂျူးဒါးသို့ ဟီဘရူးစစ်သုံ့ပန်းများ ပြန်ခွင့်ရကြ၍ အချို့က ပြန်ကြပြီး အချို့က ဘက်ဘီလုံ၌ပင် နေရစ်ခဲ့ကြသည်။ ဂျူးဒါးသို့ပြန်ရောက်သော ဟီဘရူးတို့သည် မူလအမည်ဟောင်း ပျောက်ပြီး 'ဂျူး' ဟုအမည်တွင်ခဲ့ကြသည်။ ဂျူးတို့သည် ဘက်ဘီလုံ၌ နေရချိန်တွင် ဇိုရိုအက်စတားဘာသာကို လေ့လာခဲ့ရသဖြင့် အမြင်ကျယ်လာပြီး ယာဝေး(ယေဟိုဝါ)ကို ဂျူးအမျိုးသား ဘုရားအဖြစ်မှ လူသားတစ်ရပ်လုံး၏ဘုရားအဖြစ် ပြောင်းလဲလက်ခံလာကြသည်။ သို့ရာတွင် ဇိုရိုအက်စတားဘာသာ၌ အကောင်းနှင့်အဆိုး အင်အားစု ၂ စု ရှိသည်ဟူသော သဘောတရားကို ဂျူးတို့မကြိုက်, ကမ္ဘာလောကကို ဖန်ဆင်းသော တန်ခိုးရှင် ၂ ဆူ မဖြစ်နိုင် တစ်ဆူသာ ဖြစ်ရမည်။ ၎င်းကား ယေဟိုဝါပင်ဖြစ်သည်ဟု ယုံကြည်ကြသည်။ သို့ရာတွင် ဇိုရိုအက်စတားဘာသာမှ တမလွန်ဘဝယုံကြည်မှု, ငရဲဘုံနှင့်ကောင်းကင်ဘုံ ယုံကြည်မှုများကိုမူ လက်ခံလာကြသည်။ တစ်ဖန် ဇိုရိုအက်စတားဘာသာမှ ကယ်တင်ရှင်ကို အားကျ၍ ကယ်တင်ရှင်ကို ယုံကြည်လာကြပြန်သည်။ သို့သော် ပါရှန်းတို့၏ ဇိုရိုအက်စတားဘာသာ ကယ်တင်ရှင်ကား တစ်ကမ္ဘာလုံးကို အဆိုးအင်အားစုများမှ လွတ်မြောက်အောင် ကယ်တင်မည့်သူဖြစ်သည်။ ဂျူးတို့၏ကယ်တင်ရှင်ကား ဂျူးလူမျိုးတို့ကိုသာ ကယ်တင်မည့် အမျိုးသားသူရဲကောင်းဖြစ်သည်။ မည်သို့ပင်ဖြစ်စေ အဆိုးမှ အမြတ်ထွက်လာသော ဂျူးခေါင်းဆောင်တို့သည် ဂျူးတို့လိုက်နာရန် ဘာသာရေးဥပဒေကို ပြဋ္ဌာန်းခဲ့ကြသည်။ ဥပဒေပြဋ္ဌာန်းပြီးချိန်မှစ၍ ဟီဘရူးဘာသာအမည် ပျောက်ပြီး ဂျူးဒါးအဖွဲ့ (ဂျူးဘာသာ)ဟု ခေါ်ခဲ့ကြသည်။ ဘုရင်လည်း မရှိတော့ဘဲ ဘာသာရေးဂိုဏ်းချုပ်က ဘုရင်အဖြစ် နိုင်ငံကို အုပ်ချုပ်ခဲ့သည်။

## ဂျူးဘာသာရေးကျမ်းစာများ ပြုစုခြင်း

ဂျူးခေါင်းဆောင်များသည် ဟီဘရူးတို့၏ ရေးဟောင်းစာပေများကို အထူးလေ့လာခဲ့ကြသည်။ တမန်တော်များ၏ဟောပြောချက်များကိုလည်း ပြန်လည်ကူးရေးထားကြသည်။ ဝတ်ကျောင်း၌သီဆိုသော 'ဆမ်း'ခေါ် ရှေးဟောင်းသီချင်းများကိုလည်း စုဆောင်းခဲ့ကြသည်။ ဤ ဘာသာရေးဥပဒေ, တမန်တော်များ၏ဟောပြောချက်များ, 'ဆမ်း'ခေါ် ရှေးဟောင်းသီချင်းများကို စုပေါင်း၍ ဘိုင်ဘယ် (သမ္မာကျမ်းစာ)အဖြစ် ယခုရိုက်နှိပ်ထားကြခြင်း ဖြစ်သည်။ သမ္မာကျမ်းစာဟောင်းကား ၃၉ ကျမ်း ရှိသည်။ သမ္မာကျမ်းစာဟောင်းများတွင် ပထမ ၅ ကျမ်းကို 'ထိုရာ' ဟုခေါ်သည်။ ထိုရာကျမ်းကား ယာဝေး(ထာဝရ)ဘုရားသခင်က ဆိုင်းနိုင်းတောင်ပေါ်တွင် မောရှေ အားပေးခဲ့သော ဗျာဒိတ်စကားများကို ရေးမှတ်ထားသောကျမ်း ဖြစ်သည် ဟုဆိုသည်။

## ဂျူးဘာသာဝင်ဆိုင်ရာ သိမှတ်ဖွယ်များ

ဘာသာရေးဆိုင်ရာ ဥပဒေအရ ဂျူးဘာသာကို ကူးလာခြင်းဖြင့် ဂျူးတစ်ယောက်ဖြစ်နိုင်ပြီး၊ သာမန်အားဖြင့် ဂျူးမိခင်မှ မွေးဖွားသူသည်သာ ဂျူးအဖြစ်ကို ဆက်ခံခွင့်ရှိသည် ဟုဆိုကြသည်။ ၎င်းသည် မွေးဖွားချိန်မှစ၍ ဂျူးအဖြစ်ကို ရရှိသည်။ ဘီသိက်ခံယူပွဲမျိုး ပြုလုပ်ရန် မလို။ ဂျူးတို့၏ ဥပဒေအရ ယောက်ျားလေးကို မွေးဖွားပြီး ၈ ရက်မြောက်တွင် အရေပြားကို လှီးရသည်။ ယင်းကိစ္စကို ယခုအခါ ခေတ်မီ ခွဲစိတ်ကုသနည်းဖြင့် ပြုလုပ်ကြသည်။ သို့ရာတွင် ဘာသာရေးအစွဲကြီးသူများကား ဘာသာရေးအခမ်းအနားပြုလုပ်ကာ မှတ်ပုံတင်ထားသော 'မိုးဟယ်လ်' ခေါ် ကျမ်းကျင်သူတစ်ဦး၏ အစီအမံဖြင့် ပြုလုပ်ကြသည်။ ၎င်းအခမ်းအနား၌ပင် ယင်းကလေးကို

ဘာသာရေးနာမည်တစ်ခု ပေးရသည်။ 'ထိုနာမည်ဖြင့်ပင် နောင်သောအခါ သူ့ကို ထိုနေရာ၌ခေါ်ဆောင်ခြင်းကို ခံရလိမ့်မည်' ဟုယုံကြည်ကြသည်။ 'သားယောက်ျားကလေးသည် ၃ နှစ်အရွယ်မှ စ၍ ဘာသာရေးကို လေ့လာရမည်' ဟု အမိန့်တစ်ရပ်က ဆိုထားသော်လည်း၊ အစဉ်အလာအားဖြင့် 'ယောက်ျားကလေးများသည် ဘာသာတရားဆိုင်ရာပညာများကိုသာ သင်ယူပြီး၊ မိန်းကလေးများကား 'ကိုရှာ'ခေါ် အိမ်ထောင်ထိန်းကိစ္စကို သင်ယူရသည်' ဟုဆိုသည်။

'ကိုရှာ' ဟူသည် ဂျူးဘုန်းကြီးတို့က အစဉ်အလာအရ အဓိပ္ပာယ်ဖွင့်ဆိုထားသော 'ဘုရားသခင်၏ ပညတ်ချက်များနှင့်အညီ ချက်ပြုတ်ရသည့် အစားအစာ'ကို ခေါ်သည်။ ဂျူးတို့၏ ဥပဒေအရ 'မစားရသော သားငါးနှင့် စားသောက်နိုင်သည့် သားငါးများ' ဟူ၍ သတ်မှတ်ထားချက် ရှိသည်။ ဘာသာရေးစည်းကမ်းအရ အသားနှင့် နို့ကို တစ်စားပွဲတည်း၌ မကျွေးရသည့်အပြင်၊ အိုးလည်း သီးသန့်စီထားရသည်။ တစ်ဖန် သားသတ်သမားက သတ်ပေးသောတိရစ္ဆာန်တို့၏ အသားများကိုသာ စားရသည်။ 'ရှော့ခတ်' ခေါ် ထို သားသတ်သမားများသည် သူတို့၏ကျွမ်းကျင်မှုနှင့် လူသားဆန်မှုများအတွက် ဂုဏ်ယူဝင့်ကြွားကြသည် ဟုဆိုသည်။ အရေးအကြီးဆုံးမှာ သွေးကို အသားမှကုန်စင်အောင် ထုတ်ပစ်ရန်ပင် ဖြစ်သည်။ ဂျူးတို့မစားရသော အသားများအနက် အထင်ရှားဆုံး အသားမှာ ဝက်သား ဖြစ်သည်။ ယာဝေး(ထာဝရ)ဘုရားက ထိုအသားကိုမစားရန် ဂျူးတို့အား တားမြစ်ထားခဲ့သည် ဟုဆိုသည်။

အစားအသောက်နှင့်ပတ်သက်သော ပညတ်ချက်များကို ခေတ်လူတို့က ပစ်ပယ်ကြသော်လည်း၊ ဘာသာရေး အစွဲအလမ်းကြီးမားသော ဂျူးမိသားစုများအဖို့ ရက်သတ္တပတ်အတွင်း ဝတ်ပြုရန်နေ့အကြို သောကြာနေ့၌ ကြီးကျယ်သော ညစာစားပွဲကို ကျင်းပပြုလုပ်လေ့ရှိကြသည်။ သောကြာနေ့ နေဝင်ချိန်မှစ၍ စနေနေ့ နေဝင်ချိန်အထိသည် ဂျူးတို့၏ ဝတ်ပြုရန်နေ့ ဖြစ်သည်။ 'ဝတ်ပြုရန်နေ့တွင် ဘုရားရှိခိုးကျောင်းသို့ ခြေကျင်သွားရမည်' ဟုသတ်မှတ်ထားပြန်သည်။ ဂျူးယောက်ျားကလေးများသည် ၁၃ နှစ်ပြည့်ပြီးနောက် ပထမဦးဆုံးကျရောက်သည့် ဝတ်ပြုရန်နေ့တွင် ဘုရားရှိခိုးကျောင်းသို့ တက်ရောက်၍ လူများရှေ့တွင် ပထမဦးဆုံးအကြိမ် ထိုရာကျမ်းမှ ကျမ်းစာကို ဖတ်ပြီးနောက် မိတ်သင်္ဂဟများအား ပါတီပွဲပေးရသည့် ဥပဒေစည်းကမ်းကိုလည်း ချမှတ်ထားသည်။

ဂျူးဘာသာတွင် 'လူမျိုးကြီး' စကားလုံးမရှိသဖြင့် ပဋိသန္ဓေတားခြင်းကိုလည်း သဘောမတူကြချေ။ အမှန်မှာ ဗြာဟ္မဏလူမျိုးနှင့် ဗြာဟ္မဏဘာသာ မကွဲမပြား တစ်သားတည်းဖြစ်သကဲ့သို့ ဂျူးလူမျိုးနှင့် ဂျူးဘာသာလည်း မကွဲမပြား တစ်သားတည်းပင် ဖြစ်သည်။ သို့ရာတွင် ဗြာဟ္မဏတို့ကား ဇာတ်အရ မိမိတို့အမျိုးနှင့်သာ အိမ်ထောင်ပြုကြရပြီး၊ ဂျူးတို့မှာမူ အခြားဘာသာဝင်များနှင့်လည်း အိမ်ထောင်ပြုနေကြကြောင်း လေ့လာသိရှိရသည်။

ယနေ့ ဂျူးများ၏ ဘဝပြဿနာ အယူအဆမှာ သေဆုံးသူများအတွက် ယာဝေး(ထာဝရ)ဘုရားသခင်၏ ဂုဏ်ကို ချီးကျူးသော ဝတ်ပြုပွဲများကိုသာ ပြုလုပ်သည်။ ဂျူးဖြစ်စေ, ဂျူးမဟုတ်သူများ ဖြစ်စေ ကောင်းမွန်စွာ နေထိုင်ကြသူများသည် ဘုရားသခင်ထံမှောက် ရောက်ရသည်။ ကောက်ကျစ်သူများသည် ငရဲရောက်လျက် နောက်ဆုံးတွင်မှ ဘုရားသခင်ကို ဖူးတွေ့ရမည်။ အခြားအယူအဆတစ်မျိုးအရ ၄င်းကောက်ကျစ်သူများသည် အပြီးတိုင် ဆုံးရှုံးပျက်စီးသွားကြရသည် ဟုဆိုသည်။ ဂျူးဘုန်းကြီးအချို့၏ အယူအဆမှာမူ 'ကယ်တင်ရှင် ရောက်ရှိလာသောအချိန်တွင် သေဆုံးသူအားလုံး ရှင်ပြန် ထမြောက်ကြလိမ့်မည်' ဟုဆိုသည်။ 'ခရစ်ယာန်နှင့် အစ္စလာမ်ဘာသာတို့သည် ယာဝေး(ထာဝရ)ဘုရားသခင်၏ အစီအမံကြောင့် ပေါ်လာရသည်'ဟုပင် ဂျူးအချို့က ယူဆနေကြသည်။

အထူးမှာ ယနေ့ ဂျူးတို့သည် ဂျူးဘာသာ၏ အခါကြီးနေ့ကြီးများကို ဂျူးဘာသာပြက္ခဒိန်အတိုင်း ကျင်းပလေ့ရှိကြသည်။ ၎င်းပြက္ခဒိန်ကား ဘုရားသခင်က ကမ္ဘာလောကကြီးကို စတင်ဖန်ဆင်းသည့်အချိန်မှစ၍ ရေတွက်ထားသည်။ ဂျူးဘာသာ၏ ၅၇၃၄ ခုနှစ်သည် ခရစ်နှစ် ၁၉၇၄ အတွင်း ကျရောက်သဖြင့် ခရစ်နှစ်ထက် နှစ်ပေါင်း ၃၇၆၀ ခန့် စောနေသည်ကို တွေ့ရှိရသည်။

ယင်း အခါကြီးနေ့ကြီးများအနက် နှစ်သစ်ကူးပြီး ပထမ ၁၀ ရက်၏နောက်ဆုံးဖြစ်သော 'ယွန်ကစ်ပူး'ခေါ် အပြစ်မှကင်းလွတ်ခွင့်ရရန် ဝန်ချသောနေ့သည် အရေးကြီးဆုံးသောနေ့ ဖြစ်သည်။ ဤ ယွန်ကစ်ပူးနေ့ကား ယာဝေး (ထာဝရ)ဘုရားသခင်နှင့် ဂျူးလူမျိုးတို့ထားခဲ့သော ကတိကဝတ်ကို ပြန်လည်အတည်ပြုသောနေ့ဖြစ်သည်။ ယာဝေး (ထာဝရ)ဘုရားသခင်နှင့် ဂျူးလူမျိုးတို့သည် ဆိုင်းနိုင်းတောင်ပေါ်တွင် ၂ ဦး ၂ ဘက် သဘောတူညီမှု ကတိကဝတ်ပြုခဲ့ကြသည် ဟုဆိုသည်။

## အနိပ်စက်ခံဂျူးတို့၏ မျှော်မှန်းချက်

အချုပ်အားဖြင့် ဂျူးလူမျိုးတို့၏ဘဝကိုကြည့်လျှင် အနိပ်စက်ခံဘဝသာ တောက်လျှောက်ဖြစ်ခဲ့သည်ကို တွေ့ရှိရသည်။ ဂျူးတို့သည် ဒုတိယအကြိမ်အဖြစ် ပါလက်စတိုင်းသို့ပြန်ရောက်၍ ဂျူးဘာသာတစ်ရပ်ကိုပင် ပေါ်ပေါ်ထင်ထင်စီစဉ်နိုင်ခဲ့သော်လည်း၊ နောက်ပိုင်းတွင် ဂရိ၊ ရောမ၊ အီဂျစ်၊ အာရပ်နှင့် တူရကီတို့၏ တိုက်ခိုက်သိမ်းယူခြင်းကို ဆက်ကာဆက်ကာ ခံခဲ့ကြရပြန်သည်။ နောက်ဆုံးတွင် တိုင်းပြည်ပါပျောက်၍ ဟိုရောက်ဒီရောက်ဘဝဖြင့် ကြုံခဲ့ကြရသည်။ ၎င်းတို့သည် ဤကဲ့သို့ ဆက်တိုက်ခံစားနေခဲ့ရသော ဒုက္ခဝဋ်အတွင်းမှ ကာလ ဒေသ ပယောဂအားလျော်စွာ လွတ်မြောက်ရေးအတွက် ကြိုးပမ်းကြမည်သာဖြစ်သည်။ ကြိုးပမ်းမှုကို မပြုလုပ်နိုင်သောအခါ 'လူမတန် ကံချ'ဟူသော ဗုဒ္ဓဘာသာတို့၏ဆိုရိုးစကား ရှိသော်လည်း ကံ၏သဘောတရားကို မသိသော ၎င်းတို့သည် ကယ်တင်ရှင်ကို မျှော်လင့်လာခဲ့ကြမည်သာ ဖြစ်သည်။ ထိုတွင် ဗိုရိုအက်စတားဘာသာမှ ကယ်တင်ရှင်နှင့်ပတ်သက်သော သင်ကြားချက်ကို ရရှိလိုက်ပြန်သောအခါ ဂျူးတို့၏စိတ်ထဲတွင် ကယ်တင်ရှင် ယုံကြည်မှုမှာ ပို၍ပင်ခိုင်မြဲလာသည် ဟုဆိုရမည်။ ထို့ကြောင့် ၈၀၀ ဘီစီ ကုန်လုနီးအချိန်၌ ပေါ်လာသော တမန်တော် အီဇေယသည် တစ်နေ့ကျလျှင် ဂျူးလူမျိုးတို့ကို ကယ်တင်မည့် 'မက်ဆိုင်းယား' ခေါ် ကယ်တင်ရှင် ပေါ်လာမည် ဟုဟောခဲ့ခြင်းဖြစ်သည်။

သို့ရာတွင် ကယ်တင်ရှင်သည် မည်သည့်အချိန်၌ပေါ်မည်ကို မဖော်ပြထားသဖြင့် အနှိမ်ခံ ဂျူးတို့၏ဘဝတစ်လျှောက်တွင် ကယ်တင်ရှင် ဟုထင်ခဲ့ရသော လူပေါင်းလည်း များစွာပေါ်ခဲ့သည်။ ခရစ်နှစ် ၂၀၀ ဘီစီအတွင်း၌ 'ဆီမွန်ဘားကိုချဘာ' ဆိုသူသည် ပါလက်စတိုင်းမှနေ၍ ရောမတို့ကို တော်လှန်သောအခါ ၎င်းအား ကယ်တင်ရှင်ဟုသမုတ်ကြသည်။ လွန်ခဲ့သော နှစ်ပေါင်း ၃၀၀ ခန့်က လောကီပညာကိုတတ်မြောက်သော ဝိဇ္ဇာဆရာတစ်ဦးဖြစ်သူ 'ဆာဘာတိုင်ဇ်ဗီ' ဆိုသူက သူ့ကိုယ်သူ 'ကယ်တင်ရှင်' ဟုဆိုရာ ဥရောပရှိဂျူးများသည် လှုပ်လှုပ်ရွရွဖြစ်ခဲ့ကြရသည်။ အေဒီ ၁၉ ရာစုတွင် ဥရောပအနောက်ပိုင်းရှိ ဂျူးများသည် အချုပ်အချယ်မှ လွတ်မြောက်လာကြပြီး နိုင်ငံသားတစ်ဦး၏ တန်းတူရည်တူအခွင့်အရေးကို ရရှိလာသောအခါ 'ကယ်တင်ရှင်ခေတ်သို့ ရောက်ပြီ' ဟုထင်ကြပြန်သည်။ ဒုတိယကမ္ဘာစစ်ပြီးနောက်ပိုင်း ဗြိတိသျှဝန်ကြီးချုပ် ချာချီ၏ ကောင်းမှုကြောင့် စစ်ဘေးရန်အန္တရာယ် အဝိုင်းခံနေရသည့်ကြားတွင် ဂျူးတို့၏နိုင်ငံအဖြစ် 'အစ္စရေး'ဟူ၍ ပြန်လည် ပေါ်ထွန်းလာရခြင်းဖြစ်သည့်အတွက် ဗြိတိသျှဝန်ကြီးချုပ် ချာချီကိုပင် 'ကယ်တင်ရှင်' ဟုထင်ကြမည်လော၊ သို့မဟုတ် မက်ဆိုင်းယား ဟူသော ကယ်တင်ရှင်သည် ဘုန်းကြီးအချို့ယူဆသကဲ့သို့ သေဆုံးသူအားလုံး ပြန်ရှင်ထမြောက်သောနေ့ကျမှ ပေါ်မည်လော ဟူသည်ကို ကျွန်ုပ်တို့ ခန့်မှန်းနိုင်စွမ်း မရှိချေတကား။

## ဟီဘရူးတမန်တော်များ

ဟီဘရူးတို့၏ အစ္စရေး၊ဂျူးဒါး ၂ နိုင်ငံအတွက် အစ္စရေးဘုရင်များသည် လူမျိုးခြားတို့ နတ်များ ကိုးကွယ်မှုကိုလည်း အားပေးသဖြင့် မကျေနပ်သောကြောင့် လည်းကောင်း၊ အထက်၌ပြခဲ့သည့်အတိုင်း ဟီဘရူး အများစုမှာ ယာဝေးအပြင် ကေနန်နိုက်တို့၏ 'ဘေးအယ်'ခေါ် မြေသြဇာနတ်ကိုလည်း ဆက်လက် ကိုးကွယ်နေကြသောကြောင့် လည်းကောင်း၊ အစ္စရေးနိုင်ငံကျဆုံး၍ ဂျူးဒါးနိုင်ငံမကျဆုံးမီ အချိန်အတွင်း၌လည်းကောင်း၊ ဂျူးဒါးနိုင်ငံကျဆုံးပြီးနောက်၌ လည်းကောင်း၊ ဟီဘရူးလူ့အဖွဲ့အစည်း၌ ယာဝေး(ယေဟိုဝါ)သည် တစ်ဦးတည်းသော နတ်ဖြစ်ကြောင်း ဟီဘရူးများနားလည်အောင် ကြိုးပမ်း၍ဟောပြောကြသော ဟီဘရူးတမန်တော်များ ပေါ်လာကြသည်။

တမန်တော်များ၏ သင်ကြားချက်အရ သိရသည်မှာ ယာဝေး(ယေဟိုဝါ)နတ်သည် ကမ္ဘာပေါ်ရှိ လူမျိုးပေါင်းစုံအနက် ဟီဘရူးလူမျိုးတစ်မျိုးကိုသာ သူ့လူအဖြစ် အထူးစေ့ငှရွေးကောက်ခဲ့သည်။ ဟီဘရူးတို့၏ဖခင်ဖြစ်သော အေဗရာဟမ်နှင့် ယာဝေးနတ်တို့သည် ကတိစာချုပ် ပြုလုပ်ခဲ့ကြသည်။ ယာဝေး(ယေဟိုဝါ)နတ်က အလိုရှိသည့်အတိုင်း 'အေဗရာဟမ်၏နောက်လိုက် ဟီးဘရူးတို့သည် ကိုယ်ကျင့်တရားနှင့် ပြည့်စုံရမည်။ ဤကတိတည်က ယာဝေး (ယေဟိုဝါ) ကလည်း ဟီဘရူးများကို ကမ္ဘာ၌ အထွတ်အထိပ်ရောက်အောင် ကူညီစောင်မမည်' ဟု ကတိစာချုပ် ပြုလုပ်ခဲ့ကြသည် ဟုဆိုသည်။

တမန်တော်များသည် ယာဝေး(ယေဟိုဝါ) ပြောချက်များကို ကြားနိုင်သော(အကြား)နှင့် ယာဝေး(ယေဟိုဝါ)ကို မြင်နိုင်သော (အမြင်)ရှိကြသည် ဟုဆိုသည်။ တမန်တော်များသည် ယခုခေတ် နတ်ပူးကြသကဲ့သို့ ဖြစ်ကြသောအခါ ယာဝေး(ယေဟိုဝါ)ကိုမြင်ရပြီး ပြောချက်ကိုကြားရသည် ဟုဆိုသည်။

## တမန်တော် အယ်လိုင်ဂျာ

၉၇၅ ဘီစီခန့်၌ ပါလက်စတိုင်း ၂ ခြမ်းကွဲပြီးနောက် နှစ်ပေါင်း ၁၀၀ ခန့်မတိုင်ခင်၌ ပေါ်သည်။ တစ်နေ့၌ မြောက်ဘက်အစ္စရေးနိုင်ငံဘုရင် အေဟက်သည် 'နဘော့' ဟူသော စပျစ်ခြံပိုင်ရှင်တစ်ဦးကိုသတ်၍ စပျစ်ခြံကို သိမ်းလိုက်ကြောင်း ကြားသိရသောအခါ သိုးရေဝတ်ထားသော အယ်လိုင်ဂျာကိုယ်တိုင် အေဟက်ဘုရင်ကို ယာဝေးဘုရားအမည်ဖြင့် သွားရောက်၍တိုက်သည်။ တမန်တော်၏လူစုက နန်းတော်ထဲဝင်ပြီး ရှင်ဘုရင်နှင့်တကွ တစ်ဆွေလုံးကို သတ်ပစ်ခဲ့ကြသည်။

## တမန်တော် ဓမော

တမန်တော်ဓမောသည် ၇၅၀ ဘီစီ (အချို့အဆို ၇၆၀ ဘီစီ)၌ ပေါ်ပေါက်သည်။ တမန်တော် ဓမောသည် မတရားမှုကို မနှစ်သက်သည့်ပြင် ဆင်းရဲသားများအပေါ် ငွေရှိသူများ၊ အာဏာရှိသူများက လူညွှန်ရှုးစားနေသည်ကို အထူးစက်ဆုပ်သူ ဖြစ်သည်။

တမန်တော် ဓမောသည် ပါလက်စတိုင်းတောင်ပိုင်း ဂျူးဒါးနိုင်ငံသား ဖြစ်သော်လည်း ပါလက်စတိုင်းမြောက်ပိုင်း အစ္စရေးနိုင်ငံသို့သွားပြီး၊ 'ယာဝေးသည် စစ်ဘုရားသက်သက် မဟုတ်ကြောင်း၊ လူများအပေါ် ကြင်နာသော ဘုရားဖြစ်ကြောင်း၊ မတရားမှုကို မနှစ်သက်ကြောင်း၊ ထို့ကြောင့် မတရားလုပ်နေကြသူများ သတိထားကြရန်၊ တရားမှုကိုသာလိုလားသော ယာဝေး(ယေဟိုဝါ)နတ်သည် မတရားသောမြောက်ပိုင်းသားများနှင့် နိုင်ငံကို ဖျက်ဆီးပစ်ရန် အဆီးရီးယန်းစစ်တပ်ကို မကြာခင် လွှတ်လိမ့်မည်ဖြစ်ကြောင်း၊ မသောဘဲ ကျန်ရစ်သူများကိုလည်း

စစ်သုံ့ပန်းအဖြစ် ခေါ်ဆောင်သွားလိမ့်မည်ဖြစ်ကြောင်း' ဟောပြောခဲ့သည်။ တမန်တော် ဓမော ဟောကြားခဲ့သော တရားများကို ရေးသားထားခဲ့ကြသည်။

## တမန်တော် ဟိုဇီးအား

တမန်တော်ဓမော ပေါ်ပြီးမကြာမီ တမန်တော်ဟိုဇီးအား ပေါ်ခဲ့ပြန်သည်။ တမန်တော်ဟိုဇီးအားသည် ဟီဘရူးတို့ ယာဝေး(ယေဟိုဝါ)နတ်အပေါ် တစ်ဦးတည်းသောနတ်အဖြစ် လေးစားမှုမရှိကြဘဲ ပေါ့ဆနေကြသည်ကို အပြစ်ဆိုဆုံးမသည်။ လူများသည် တိရစ္ဆာန်များအားသတ်၍ ယဇ်နတ် ပူဇော်ကြသည်ကိုလည်း တားမြစ်သည်။ ယာဝေး(ယေဟိုဝါ)ကို တစ်ဦးတည်းသောနတ်အဖြစ်ကိုးကွယ်ရန် တိုက်တွန်းသည်။

## တမန်တော် အီဇေယ

တမန်တော် အီဇေယသည် ၈၀၀ ဘီစီ ကုန်လုနီးချိန်၌ပေါ်လာသည်။ အချို့က ၇၂၅ဘီစီ၊ အချို့က ၇၁၀ ဘီစီ ၌ ပေါ်သည် ဟုဆိုသည်။ ထိုအချိန်၌ ဂျူးဒါးတို့က ယာဝေးသည် အဆီးရီးယန်းဘုရား အဆူး (အာဆာ)အောက် တန်ခိုးချည့်နဲ့၍သာ အစ္စရေးတို့ အဆီးရီးယန်းလက်အောက်သို့ ကျရောက်ခဲ့ရကြောင်း ထင်နေကြသောအချိန် ဖြစ်သည်။

အခြား ပေါ်ခဲ့ပြီးသောတမန်တော်များသည် ယာဝေး(ယေဟိုဝါ)ကို ဟီးဘရူးလူမျိုးအတွက်သာ သတ်မှတ်ခဲ့ကြသော်လည်း၊ တမန်တော် အီဇေယကမူ 'ယာဝေး(ယေဟိုဝါ)သည် တစ်လောကလုံးကို အုပ်စိုးသည့် ထာဝရသခင်ဖြစ်ကြောင်း၊ တစ်ကမ္ဘာလုံးရှိ နိုင်ငံအားလုံးသည် ထာဝရသခင်၏လက်ထဲ၌ ကိုင်ထားသော လက်နက်များဖြစ်ကြောင်း၊ မကောင်းသောနိုင်ငံများကို ဖျက်ဆီးရန် ယာဝေးနတ်သည် ယင်းနိုင်ငံတို့သို့ လှည့်လည်သွားလာနေကြောင်း၊ ထို့ကြောင့် နိုင်ငံကြီးများ၏ကျူးကျော်မှုမှ လွတ်မြောက်ရန် အခြားနိုင်ငံများနှင့် စာချုပ်ချုပ်ဆိုရန် မလိုကြောင်း၊ ယာဝေး(ယေဟိုဝါ)ကိုသာ မမိုက်မသုန်ယုံကြည်ရန် လိုကြောင်း၊ အစ္စရေးနိုင်ငံ ကျဆုံးရခြင်းသည် အစ္စရေးလူမျိုးတို့ ကျူးလွန်သည့်အပြစ်ကို ဒဏ်ခတ်ခြင်းသာဖြစ်ကြောင်း' ဟောပြောခဲ့သည်။

၎င်းအပြင် ဂျူးတို့ကို ကယ်တင်မည့် 'မက်ဆိုင်းယား'ခေါ်သော ကယ်တင်ရှင်တစ်ဦး ပေါ်လိမ့်ဦးမည်ဖြစ်ကြောင်းကိုလည်း ဟောပြောခဲ့သည်။

## တမန်တော် မိုင်ကာ

တမန်တော် မိုင်ကာသည် ၇၁၅ ဘီစီ၌ ပေါ်သည်။ ယဇ်ပူဇော်ခြင်းကိုပယ်ဖျက်ကာ တရားမျှတမှု၊ သနားကြင်နာမှု၊ နှိမ့်ချခြိုးခြံမှု ကျင့်သုံးရန် ဟောပြောသည်။

## တမန်တော် ဂျာရီမီးယ

တမန်တော် ဂျာရီမီးယသည် ၆၀၀ ဘီစီ၌ ပေါ်သည်။ 'ယာဝေးကို ကိုးကွယ်ဆည်းကပ်ရာ၌ အပြင်ပန်းထက် စိတ်တွင်းယုံကြည်မှုက အရေးကြီးကြောင်း၊ ဂျေရုစလင်မြို့တော်သည် အဖျက်ဆီးခံရမည်ဖြစ်ကြောင်း၊ မြို့တော်နှင့်အတူ ယာဝေးနတ်ကွန်းလည်း အဖျက်ခံရမည်ဖြစ်ကြောင်း၊ ထို့ကြောင့် ဟီဘရူးတိုင်းသည် မိမိတို့၏နှလုံးအိမ်နတ်ကွန်း၌ ယာဝေးကိုထား၍ အမြဲကိုးကွယ်ရမည်ဖြစ်ကြောင်း၊ ဤနှလုံးအိမ်နတ်ကွန်းသည် ဂျေရုစလင်ရှိ နတ်ကွန်းထက်ပို၍ ကြာရှည်ခံမည်ဖြစ်ကြောင်း' ဟောပြောခဲ့သည်။

## တမန်တော် အီဒီကီးအယ်

နောက်တမန်တော်တစ်ဦးကား အီဒီကီးအယ် ဖြစ်သည်။ ၅၉၀ ဘီစီ၌ ပေါ်သည်။ တမန်တော် အီဒီကီးအယ်သည် အခြားသောတမန်တော်များထက် အကြားအမြင်တန်ခိုး ပိုရှိသည် ဟုဆိုသည်။ မကြာခဏ နတ်ပူးသကဲ့သို့ ဖြစ်သည်။

'ဘုရင်ဒေးဗစ်မှ ဆင်းသက်လာသူတစ်ဦးသည် တစ်နေ့သ၌ သိုးကျောင်းသားအဖြစ် ပေါ်လာမည်ဖြစ်ကြောင်း၊ ယင်း သိုးကျောင်းသားသည် ဂျူးတို့၏ဘုရင်ဖြစ်မည် ဖြစ်ကြောင်း၊ ဂျူးလူမျိုးများသည် ယာဝေး၏ ကူညီစောင်မချက်အရ နောင်အခါ ကြီးကျယ်သည့်လူမျိုးတစ်မျိုး ဖြစ်လာမည်ဖြစ်ကြောင်း' ဟောပြောသည်။

ဤသို့ အားဖြင့် တမန်တော်အဆက်ဆက်တို့ ဟောပြောချက်အရ ဟီဘရူးတို့သည် ယာဝေးကို သဲကန္တာရ တစ်ဝိုက်၌သာ တန်ခိုးရှိသည့်စစ်နတ်အဖြစ် ယုံကြည်ကိုးကွယ်လာကြရာမှ တစ်လောကလုံးကိုအုပ်စိုးသည့် တစ်ဦးတည်းသော ထာဝရသခင်အဖြစ် တဖြည်းဖြည်းယုံကြည်လာကြတော့သည်။

# အခန်း ၇

## ကမ္ဘာ့တွေးခေါ်ရှင်ကြီးများနှင့် ၎င်းတို့၏ အတွေးအခေါ်များ

### ဂရိတွေးခေါ်ရှင်များနှင့် ၎င်းတို့၏ အတွေးအခေါ်အယူအဆများ

လူသားတို့သည် ရှေးယခင်က အကြောက်တရား၊ အမျှော်တရားကိုအရင်းခံ၍ ယုံကြည်ကိုးကွယ်မှု အမျိုးမျိုးကို ကိုးကွယ်ခဲ့ကြသည်ကို တွေ့ရှိနိုင်သည်။ အမှန်မှာ ယင်းလူသားတို့သည် 'အကြောက်တရား၊ အမျှော်တရား' ဟူသောပုခက်အတွင်း၌ အိပ်မောကျနေခဲ့ကြခြင်းသာ ဖြစ်ခဲ့သည် ဟုဆိုရမည်ဖြစ်ပေသည်။ သို့ရာတွင် ၆ ရာစုဘီစီခန့်မှစ၍ ဤလူသားတို့သည် အိပ်မောကျနေခဲ့ရာမှ နိုးကြားလာကြသည့်အလား ဆန်းသစ်သော အတွေးအခေါ်များကို တွေးခေါ်၍ ထုတ်ဖော်ဟောပြောလာကြသည်ကို တွေ့ရှိရလေသည်။

၈၀၀ ဘီစီအထက်၌ ဂရိတို့သည် နတ်ဘုရားအမျိုးမျိုးကို ကိုးကွယ်ခဲ့ကြသည်ကို အထက်၌ ဖော်ပြခဲ့ပြီးဖြစ်သည်။ ယင်းနတ်များကို 'မွိုင်းယ' (ကြမ္မာ) ခေါ်သော ကံတရားက ချုပ်ကိုင်ထားသည်ဟု ယုံကြည်နေခဲ့ကြသည်။ ၎င်းအပြင် စကြဝဠာတစ်ခုလုံးကို ၎င်းနတ်တို့က စိုးမိုး၍ လောကအဖြစ်အပျက်များ၊ သဘာဝအဖြစ်အပျက်များကို လည်း ၎င်းနတ်များကပင် ဖန်တီးနေကြသည်ဟု ယုံကြည်နေခဲ့ကြသည်။ နေကြတ်ခြင်းကိုပင် နတ်ဖမ်းစားသည်ဟု ယုံကြည်နေခဲ့ကြသည်။ ဤယုံကြည်မှုများကို ပယ်ဖျက်ရန် ဂရိတွင် တွေးခေါ်ရှင်များ ပေါ်လာကြသည်။ ၎င်းတို့မှာ အောက်ပါအတိုင်းဖြစ်ကြသည်။

### သေလီ (၆၂၅-၅၄၅ ဘီစီ)

တွေးခေါ်ရှင်များသမိုင်းတွင် ပထမဦးဆုံးတွေးခေါ်ရှင်ကား သေလီ ဖြစ်သည် ဟုဆိုသည်။ သေလီကို ဂရိပြည် မိုင်လီတပ်မြို့တွင် ၆၂၄-၆၂၅ ဘီစီခန့်၌ မွေးဖွားခဲ့သည်။ သူသည် နေရာအနှံ့အပြားသွားခဲ့ရာ ဘက်ဘီလိုးနီးယားမှ ဂြိုဟ်နေ၊ ဂြိုဟ်သွားစာရင်းကို ရခဲ့ရာ၊ ထိုစာရင်းကိုမှီ၍ နေကြတ်၊ လကြတ်မည်ကို တင်ကြိုဟောခဲ့သည်။ ၅၈၅ ဘီစီ (အချို့ အဆို ၅၈၀ ဘီစီ မေလ ၂၈ ရက်) ၌ သူပြောသည့်အတိုင်း မှန်နေသဖြင့် နာမည်ကြီးလာသည်။ ထို့ကြောင့် သေလီက နေကြတ်ခြင်း၊ လကြတ်ခြင်းများသည် နတ်များအလိုကြောင့် ဖြစ်ပျက်ခြင်းမဟုတ်ဘဲ၊ သဘာဝ အလျောက် ဖြစ်ပျက်ခြင်းဖြစ်သည်ဟု ကြေညာလေသည်။

၎င်းအပြင် သေလီက 'တရားခပ်သိမ်း ကွဲသော်လည်း နောက်ဆုံး၌ အခြေခံတရား တစ်ခုတည်းသာ ရှိသည်။ ၎င်းတရားကား ရေဓာတ် ရုပ်တရားပင် ဖြစ်သည်။ ထို့ကြောင့် အရာဟူသမျှ ရေမှ စတင်ဖြစ်ပေါ်လာရသည်။ နောက်ဆုံး ရေသို့သာ ပြန်လည်ရောက်ရှိမည်။ ရေကား ပြောင်းလဲပျက်စီးမှု မရှိ။ ထာဝရ တည်မြဲနေသည်' ဟု တွေးခေါ်ဟောပြောခဲ့သည်။

**အနက်စီးမင်းဒါး (၆၁၀-၅၄၇ ဘီစီ)**

အနက်စီးမင်းဒါးသည်လည်း မိုင်လီတပ်မြို့သားပင် ဖြစ်သည်။

'စကြဝဠာကြီး၏ အခြေခံအကြောင်းတရားသည် အဆုံးအစမရှိသော ဒြပ်ထု ဖြစ်သည်။ ဤ ဒြပ်ထုမှ ရေ၊ မြေ၊ လေ၊ မီး ဓာတ်ကြီး ၄ ပါး ထွက်ပေါ်လာကာ ဤဓာတ်ကြီး ၄ ပါးကြောင့်သာ စကြဝဠာအတွင်းရှိ အရာအသီးသီး ဖြစ်လာကြသည်' ဟု တွေးခေါ်ဟောပြောသည်။

**အနက်စီးမင်းနီး (၅၈၅-၅၂၅ ဘီစီ)**

အနက်စီးမင်းနီးသည်လည်း မိုင်လီတပ်မြို့သားပင် ဖြစ်သည်။

'စကြဝဠာ၏ အခြေခံတရားသည် လေဓာတ်ဖြစ်သည်' ဟု တွေးခေါ်ဟောပြောခဲ့သည်။

**ပိုက်သာဂိုရပ် (၅၇၈ - ၅၀၀ ဘီစီ)**

ဂရိပြည် ဆာမော့ဒေသသား ဖြစ်သည်။ ပိုက်သာဂိုရပ်က 'အရာခပ်သိမ်း၏ အခြေခံအစစ်အမှန် ထာဝရ တရားကား ဂဏန်းသင်္ချာ ဖြစ်သည်။ စကြဝဠာအစစ်အမှန်တရားသည်လည်း ဂဏန်းသင်္ချာသာ ဖြစ်သည်' ဟု တွေးခေါ် ဟောပြောသည်။ ၄င်းအပြင် ကမ္ဘာသည် လုံး၍ နေ သို့မဟုတ် မီးလုံးကြီးကို လည်ပတ်နေသည့် အရာ ဝတ္ထုတစ်ခုဖြစ်ကြောင်းကိုလည်း ဟောပြောခဲ့သည်။

ပိုက်သာဂိုရပ်ဂိုဏ်းသားများအနက် တစ်ဦးက ကမ္ဘာမြေကြီးသည် တစ်ချိန်က ရေထုလွှမ်းမိုးမှုကို ခံခဲ့ရသည် ဟု အခိုင်အမာဆိုသည်။ ၄င်း၏အကြောင်းပြချက်ကား ကျောက်တောင်ကျောက်ဆောင်များတွင် ပင်လယ်အတွင်းမှ အပင်များနှင့် ငါးသေများ ကျန်ရစ်သောကြောင့် ဟုဆိုသည်။

**ဟေရာကလိတပ် (၅၃၅ - ၄၇၅ ဘီစီ)**

ဂရိနိုင်ငံ အက်ဖီဆပ်မြို့သား ဖြစ်သည်။ ဟေရာကလိတပ်က 'ပြောင်းလဲဖောက်ပြန် ပျက်စီးနေခြင်း(သင်္ခါရ) တရားသည်သာ အစစ်အမှန်တရား ဖြစ်သည်။ စကြဝဠာကြီးအတွင်းရှိ အရာရာတို့သည် မီးသဘော ရှိသည်။ မီးသည် အစဉ်ပြောင်းလဲနေသောအရာ ဖြစ်သည်။ ထို့ကြောင့် အရာဟူသမျှတို့သည်လည်း ပြောင်းလဲနေကြသည်။ လူတစ်ယောက်သည် မြစ်တစ်ခုကို ၂ ကြိမ် မဆင်းနိုင်။ လူသည် ညအချိန်၌ ထွန်းညှိထားသော ဆီမီးနှင့်တူသည်။ ထိုမီးသည် ညအခါ၌ ထွန်းညှိသော်လည်း ညအခါ၌ပင် ငြိမ်းခြင်းအဖြစ်သို့ ရောက်၏' စသည်ဖြင့် သဘာဝကြီးနှင့် လူသားတို့၏ အစဉ်မပြတ် ပြောင်းလဲနေပုံကို ဥပမာ ဥပမေယျအဖုံဖုံတို့ဖြင့် ရှင်းပြခဲ့သည်။ နောက်ဆုံး၌ စကြဝဠာသည် အမြဲပြောင်းလဲနေသော ဖြစ်စဉ်တစ်ခုဟု ယူဆပြီး၊ 'မြေသေက မီးဖြစ်၊ မီးသေက လေဖြစ်၊ လေသေက ရေဖြစ်၊ ရေသေက မြေဖြစ်' ဟူသော ဓာတ် ၄ ပါး ပြောင်းလဲစဉ်ကို ဖော်ပြခဲ့သည်။

**အင်ပီဒေါ့ကလိ (၄၉၅ ဘီစီခန့်)**

စစ္စလီပြည်တောင်ပိုင်းရှိ အာဂရိဂျင်တန်မြို့သားဖြစ်သည်။ အင်ပီဒေါ့ကလိက 'လောကတွင် အကြွင်းမဲ့ သဘောနှင့် ဖြစ်လာလိုက်၊ လုံးဝ ပျက်စီးပျောက်ကွယ်သွားလိုက် ဖြစ်နေသောအရာ မရှိ။ စုစည်းလိုက်၊ ကွဲကွာလိုက် ဖြစ်နေခြင်းမျိုးသာ ရှိသည်။ လောကထဲရှိ ခပ်သိမ်းသောအရာဝတ္ထုတို့၏ အရင်းအမြစ် (မူလဘူတ) ဓာတ်ကြီး

၄ ပါး ရှိသည်။ ၎င်းဓာတ်သဘောတို့၏ ပင်ကိုဂုဏ်အရည်အချင်းတို့ကား ပျက်စီး ပြောင်းလဲ ပျောက်ကွယ်ခြင်း မရှိ။ အမြဲတည်မြဲနေသည်။ စုစည်းမှုနှင့် ကွဲကွာမှုကို မေတ္တာနှင့် မုန်းခြင်းတို့က ဖန်တီးနေကြသည် ဟုဟော ပြောသည်။

စကြဝဠာ ဖြစ်ပေါ်လာပုံမှာလည်း လေဓာတ်ကွဲသွား၍ ကောင်းကင် ဖြစ်လာသည်။ ထို့နောက် မီးဓာတ် ဖြစ်ပေါ်လာပြီး၊ ကြယ်၊ လ၊ နက္ခတ်များကို ဖြစ်ပေါ်စေခဲ့သည်။ ကမ္ဘာသည် လည်ပတ်နေသည့်အတွက် မြေကို ဖျစ်ညှစ်ရာမှ ရေများ ပင်လယ်သမုဒ္ဒရာများ ဖြစ်လာသည်။ တစ်ဖန် ကောင်းကင်မှမီးဓာတ်ကြောင့် ရေခိုးရေငွေ့များ ဖြစ်ကာ လောကပတ်ဝန်းကျင် ဖြစ်လာသည်။ မြေပေါ်တွင် သစ်ပင်က စ၍ဖြစ်ပေါ်ပြီးနောက်မှ သက်ရှိသတ္တဝါ ဖြစ်လာသည် ဟုဟောပြောခဲ့သည်။

## ဒီမိုကရိတပ်

ဒီမိုကရိတပ်က လောကအတွင်းရှိ အဏုမြူများသည် အာကာသအတွင်း၌ မိမိတို့လမ်းကြောင်းအရ ရွေ့လျား သွားလာနေကြရာမှ အချို့အဏုမြူများသည် တစ်ချိန်တွင် လမ်းလွဲပြီး ရွေ့လျားသွားခြင်းကြောင့် စုစည်းမိသွား ကြသည်။ ထို အဏုမြူအစုမှ တစ်ဆင့် စကြဝဠာ၊ ရေ မြေ တော တောင်၊ လူ၊ တိရစ္ဆာန် စသည်တို့ ဖြစ်ပေါ်လာရသည် ဟုဟောပြောသည်။

အဏုမြူများကား အသေးငယ်ဆုံးသော ရုပ်ဝတ္ထုဖြစ်ပြီး ခွဲစိတ်မရသောအရာ ဖြစ်သည်။ အဏုမြူများ ပေါင်းစပ်ဖွဲ့စည်းထားသောအရာကိုမူ အကြားတွင် အာကာသရှိနေ၍ ခွဲစိတ်နိုင်သည်။ အဏုမြူများသည် တစ်ခုနှင့် တစ်ခု အမျိုးအစားအားဖြင့် ကွဲပြားခြားနားမှု မရှိ။ ဂုဏ်အရည်အချင်းချင်း၊ အမျိုးအစားချင်း အတူတူဖြစ်ကြသည်။ အကြီး အသေး၊ ပုံသဏ္ဌာန်၊ အလေးချိန်နှင့် အာကာသအတွင်းနေရာယူမှု၌ တစ်ခုနှင့်တစ်ခု ကွဲပြားခြားနားမှု ရှိကြသည် ဟုဆိုသည်။

မြေကြီးကိုဖြစ်စေသော အဏုမြူသည် ကြီး၍ကြမ်းသည်။ မီးကိုဖြစ်စေသော အဏုမြူသည် သေး၍ ချောမွတ်သည်။ အနူးညံ့အသိမ်မွေ့ဆုံးဖြစ်သော အဏုမြူသည် စိတ်ဖြစ်သည် ဟုဆိုသည်။

## ဂရိဆိုဖီဆရာများ

၄၆၁ ဘီစီမှ ၄၃၀ ဘီစီအထိ ထင်ရှားသော အေသင်စစ်သူကြီး ပေရီကလီအုပ်ချုပ်သောခေတ်၌ လူငယ်များ ကာယဗလဘက်၌ ပြုပြင်ကြသည်ကို နောင်အနှစ် ၃၀ ခန့်ကြာသောအခါ ပညာရှိများက ကဲ့ရဲ့လာကြသည်။ ၎င်းပညာရှိများကို 'ဆိုဖီ' ဟုခေါ်သည်။

ဆိုဖီဆရာများသည် ကိုယ်ပိုင်ကျောင်းများတည်ထောင်၍ လူငယ်များအား အခကြေးငွေယူကာ လက်ငင်း လိုအပ်နေသော လောကီရေးရာပညာများကို သင်ပေးခဲ့ကြသည်။ ဆိုဖီဆရာများခေတ်၌ တွေးခေါ်မြော်မြင်ရေးပညာ လည်း ခေတ္တမှေးမှိန်ခဲ့ရသည်။ လူငယ်လူရွယ်များလောက၌ ဆိုဖစ်ဝါဒ ပြန့်ပွားလာသောအခါ မိဘများက စိုးရိမ်လာကြသည်။ ဆိုဖီဆရာများသည် ရှေးဂရိတို့၏ နတ်(ဘုရား)များ ယုံကြည်ကိုးကွယ်မှုကို ပစ်ပယ်ခဲ့ကြသည်။ ထို့ကြောင့် ဆိုဖီဆရာများအား ပြည်နှင်ဒဏ်ပေး၍ ၎င်းတို့၏ စာအုပ်များကို မီးရှို့ရန် ဆန္ဒမဲပေး ဆုံးဖြတ်ကြရာ၌ ပေရီကလီသည် ဆိုဖီတို့ဘက်က ကူညီခဲ့သည်။

ဆိုဖီဆရာများကား လူတစ်ဦးချင်းစီ၏ သဘာဝအပေါ်၌သာ အခြေစိုက် တွေးခေါ်သောကြောင့် နောက်ပိုင်းတွင် လူပြိန်းကြိုက်ဝါဒ ဖြစ်လာသည်။ ထို့ကြောင့် စိတ်ကောင်းရှိသောအတွေးအခေါ်ရှင်များ ပြန်လည်ပေါ်လာရတော့သည်။

## ဆိုကရေးတီး (၄၆၉ - ၃၉၉ ဘီစီ)

ဆိုကရေးတီးသည် ဂရိနိုင်ငံ အေသင်မြို့သား ဖြစ်သည်။ သူသည် ဆိုဖီဆရာများ၏ ဟောပြောပို့ချချက်ကို ဆန့်ကျင်ချေဖျက်၍ အတွေးအခေါ် ကစဥ့်ကလျားဖြစ်နေမှုကို ပြန်လည်စုစည်းနိုင်ခဲ့သူ ဖြစ်သည်။ ကိုယ်ကျင့်တရားနှင့် ဆင်ခြင်တုံတရားကို အဓိကထား ဟောပြောခဲ့သည်။

ဆရာကြီးဟောပြောသော ဘာသာရပ်များမှာ စစ်ရေး၊ နိုင်ငံရေး၊ အိမ်ထောင်ရေး၊ အချစ်ရေးမှအစ ဘာသာရေး၊ သိပ္ပံပညာ၊ အတွေးအခေါ် သဘောတရားပါ မကျန်ရကား လူမှုရေးရာမှန်သမျှမှာ ဆရာကြီးဟောပြောသောတရားနှင့် ကင်းလွတ်နိုင်မည် မဟုတ်ချေ။ သို့သော်လည်း ဆရာကြီးသည် 'ဂရိနတ်ဘုရားများကို မကိုးကွယ်သူ၊ အစဥ်အလာကို ဖောက်ဖျက်သူ၊ ကလေးသူငယ်များကို ဖျက်ဆီးသူအဖြစ်' လူထု၏တောင်းဆိုချက်အရ ရုံးတင်စစ်ဆေးခံရပြီးနောက်၊ အဆိပ်ကျွေး၍ သေဒဏ်ပေးခံခဲ့ရသည်။

## ပလေတို (၄၂၇ - ၃၄၇ ဘီစီ)

ပလေတိုသည်လည်း အေသင်မြို့သားဖြစ်ပြီး ဆိုကရေးတီး၏တပည့်များစွာအနက် အထက်မြက်၊ အထူးချွန်ဆုံးသော တပည့်တစ်ယောက် ဖြစ်သည်။ ပလေတိုသည် ဆိုကရေးတီးအား ဒီမိုကရေစီစနစ်က သတ်ပစ်ခဲ့သည်ကို မျက်ဝါးထင်ထင်တွေ့မြင်ခဲ့ရသူ ဖြစ်သည့်အလျောက်၊ ဒီမိုကရေစီစနစ်ကို အလွန်ရွံရှာမုန်းတီးခဲ့သူ ဖြစ်သည်။

နောက်ပိုင်းတွင် အကယ်ဒမီကျောင်းကိုတည်ထောင်၍ ပညာရပ်အမျိုးမျိုးကို သင်ကြားပြသခဲ့သည်။ ပလေတိုသည်လည်း အတွေးအခေါ်အရာ၌ ဆင်ခြင်တုံတရားကိုပင် အဓိကထား ဟောပြောခဲ့သည်။

'လူ့ဘဝ၏လွတ်မြောက်မှုကို ဆောင်ကြဉ်းနိုင်သောသတ္တိမှာ ဆင်ခြင်ဉာဏ်သာ ဖြစ်သည်။ လွတ်မြောက်မှု မရသေးမီ ရင်ဆိုင်ရသောပြဿနာတိုင်း၌ အသိဉာဏ်က ဦးဆောင်ဖြေရှင်းပေးရမည်။ ဆင်ခြင်တုံတရား အသိဉာဏ်၏ကွပ်ကဲစောင့်ရှောက်မှုဖြင့် အရာရာကို ပြုကျင့်သူသည် ပညာရှိ မည်၏။ ကြောက်သင့်၊ မကြောက်သင့်တရားကို ဆင်ခြင်ဉာဏ်ဖြင့် သိသူသည် ရဲရင့်သူ မည်၏။ ပျော်ရွှင်ခြင်း၊ ရမ္မက်ပြင်းပြခြင်း စသည်တို့၌ ဆင်ခြင်ဉာဏ်ဖြင့် စေစားပြုကျင့်သူသည် ကိုယ်ကို ကောင်းစွာ စောင့်ထိန်းနိုင်သူ မည်၏။ ဤမည်သော ပညာရှိခြင်း၊ ရဲရင့်ခြင်း၊ ကိုယ်ကိုစောင့်ထိန်းခြင်း စသောတရားတို့နှင့် ပြည့်စုံသောအပြုအမူများသည် သင့်တင့်လျောက်ပတ်သောအပြုအမူများ ဖြစ်သည်။ ထိုအပြုအမူရှိသူများသာ တရားမျှတသူများ ဖြစ်ကြသည်' ဟုဟောပြောခဲ့သည်။

နိုင်ငံရေးအမြင်တွင်လည်း ပလေတိုက 'ပုဂ္ဂလိကလူသားသည် မိမိ၏အတ္တဟိတကို လူ့အဖွဲ့အစည်းတစ်ခုလုံး၏ ပရဟိတအတွက် စွန့်လွှတ်နိုင်ရမည်။ အကြောင်းကား လူတစ်ဦး၏ ကောင်းမွန်သောဘဝသည် လူ့အဖွဲ့အစည်းတစ်ခုလုံး၏ဘဝနှင့် ဆက်စပ်နေသောကြောင့်ဖြစ်သည်။ လူ့အဖွဲ့အစည်းတွင် လူတန်းစားများ ရှိကြသည်။ ထိုလူတန်းစားများအချင်းချင်း သင့်တင့်ညီညွတ်မှုကို တည်ဆောက်နိုင်ရန် ဆင်ခြင်ဉာဏ်ကြီးမားသောတွေးခေါ်ရှင်တို့သည်သာလျှင် အုပ်ချုပ်သူလူတန်းစား ဖြစ်သင့်သည်' ဟုဟောပြောခဲ့သည်။

သူသည် အေသင်ကို စပါးတားနိုင်ငံကဲ့သို့ ခိုင်မြဲတည်တံ့သောလူ့အဖွဲ့အစည်းအဖြစ် တည်ထောင်လိုသည်။ သူ၏ 'သမ္မတနိုင်ငံကျမ်း'တွင် ၁- လုပ်သားပြည်သူများ၊ ၂- စစ်သည်ရဲမက်များ၊ ၃- အုပ်ချုပ်သူများ ဟူ၍ လူတန်းစား ၃ ရပ် ဖော်ပြထားပြီး၊ ဘုံဝါဒအရ ပုဂ္ဂလိကပိုင်ဆိုင်ခွင့် မရှိရ။ ပုဂ္ဂလိက အိမ်ထောင်ရေးပင် မရှိရ ဟုရေးသားထားသည်။ ('အမေရိကတွင် ဘုံအိမ်ထောင်ရေး အစုတစ်စုရှိကြောင်း၊ ယောကျာ်း ၈ ယောက်၊ မိန်းမ ၈ ယောက်ဖြစ်ကြောင်း၊ လင်မယား ၂ ဦး ဘုံအိမ်ထောင်စုဝင်အဖြစ်ဝင်လိုလျှင် တရားဝင်ကွာရှင်းပြီးမှ ဝင်ရောက်ခွင့်ရရှိကြောင်း' စာစောင်တစ်ခုတွင် ဖတ်ရှုရဖူးသည်)

## အရစ္စတိုတယ်လ် (၃၈၄ - ၃၂၂ ဘီစီ)

အရစ္စတိုတယ်လ်သည် 'ဂရိ' ခေါ် ခေါမတိုင်းပညာရှင် ပလေတို တည်ထောင်သည့် ကျောင်းတော် အကယ်ဒမီ၌ အတောက်ပဆုံးသောကြယ်ပွင့်တစ်ပွင့် ဖြစ်ခဲ့သည်။ သူ့ကို ၃၈၄ ဘီစီတွင် မက်ဆီဒိုနီးယားနယ် စတက်ဂျီယာ၌ မွေးသည်။ မာဆေးဒိုးနီးယားဘုရင် ဖိလစ်၏ နန်းတွင်းသမားတော် နီကိုမာကပ်၏သား ဖြစ်သည်။

ဆရာကြီး ပလေတို ကွယ်လွန်ပြီးနောက် ခရီးရှည်လှည့်လည်သွားလာနေခဲ့ရာမှ ၃၄၂ ဘီစီတွင် ဘုရင်ဖိလစ်က သားတော် အလက်ဇန္ဒားအား ပညာသင်ပေးရန် ဆင့်ခေါ်မှုကြောင့် နန်းတွင်းသို့ပြန်လာပြီး အလက်ဇန္ဒားအား ပညာသင်ပေးခဲ့၍ ၇ နှစ် ကြာခဲ့သည်။ ၃၃၅ ဘီစီခန့်တွင် အေသင်သို့ပြန်လာပြီးနောက် လိုင်စီယန် အာပိုလိုနတ် ဘုရားကိုရည်၍ ကိုယ်ပိုင်ကျောင်းတစ်ခုကို တည်ထောင်ကာ ပညာသင်ကြား ပို့ချနေခဲ့သည်။ ထိုစဉ်အခါ အလက်ဇန္ဒား သေဆုံးမှုကို အကြောင်းပြု၍ လုပ်ကြံမှုတွင်ပါဝင်သည် ဟုစွပ်စွဲခံရသဖြင့် ထွက်ပြေးတိမ်းရှောင်ရင်း ၃၂၂ ဘီစီ၌ ယူဆိုဝါအရပ်၌ ကွယ်လွန်ရရှာသည်။

အရစ္စတိုတယ်လ်သည် ပလေတို၏တပည့်ဖြစ်သော်လည်း ဆရာပလေတို၏အမှားကို မထောက်မညှာဝေဖန် ခဲ့သူ ဖြစ်သည်။ အရစ္စတိုတယ်လ်သည် 'ပုံစံ(စိတ်ကူး) အကြောင်းတရား, ရုပ်ဝတ္ထုပစ္စည်း အကြောင်းတရား, ဖန်တီးမှု အကြောင်းတရား, ရည်ရွယ်ချက်အကြောင်းတရား ၄ ပါး ဆုံဆည်းမှသာ အရာဝတ္ထုတစ်ခု ဖန်တီးဖြစ်ပေါ် နိုင်သည်။ ဤစကြဝဠာကြီးကို ရည်ရွယ်ဖန်တီးသူမှာလည်း ထာဝရဘုရားသခင်ဖြစ်ကြောင်း, ထာဝရဘုရားသည် ပလေတိုဟောပြောခဲ့သော ယေဘုယျတရားသက်သက် ဖြစ်သည် ဟုဟောပြောခဲ့သည်။ ပလေတိုကား ဤ လောကရှိ သီးခြားတည်နေသော ပုဂ္ဂလိကပစ္စည်းတို့သည် အစဉ် ပြောင်းလဲဖောက်ပြန်နေကြသော်လည်း ယေဘုယျ နာမ်တရားများတည်ရာ လောကသည် ထာဝရတည်မြဲနေသည်။ ဤရုပ်လောကသည် စစ်မှန်သော ယေဘုယျနာမ် တရားတို့ တည်ရာလောက၏ အရိပ်, ထိုလောက၏ အသွင်သဏ္ဌာန်ဖြစ်ကြောင်း ဟောပြောခဲ့သည်။ ပလေတိုသည် ကမ္ဘာ့အတွေးအခေါ်သမိုင်းတွင် ပထမဦးဆုံး ဝိညာဏဝါဒကို ချပြိုးခဲ့သူဖြစ်သည်။

အရစ္စတိုတယ်လ်သည် ပလေတို၏ ထာဝရနာမ် (ပုံစံ)ကို လက်ခံသည်။ သို့သော် ထာဝရယေဘုယျနာမ် တရားတို့သည် ရုပ်လောက၏အပြင်ဘက်ကကမ္ဘာတွင် တသီးတခြားတည်နေသည် ဟူသောအချက်ကိုမူ လက်မခံ ခဲ့ပေ။ ထို့ကြောင့် အထက်ဖော်ပြပါ အကြောင်းတရား ၄ ပါးကို ထုတ်ဖော်ပြခဲ့ခြင်း ဖြစ်သည်။ သို့ပင်ဖြစ်စေကာ မူ နောက်ဆုံး၌ ထာဝရဘုရားသည် ယေဘုယျတရားဖြစ်သည်ဟု ပလေတို၏ ဝိညာဏဝါဒဘက်သို့ ပြန်ဦးတည် လာသည်ကို တွေ့ရှိရပြန်သည်။

တစ်ဖန် ဖြစ်ရပ်ဖြစ်ခြေအရ အရာရာသည် အစဉ်ပြောင်းလဲနေရသည်။ စကြဝဠာကြီးသည်လည်း ၄င်းဖြစ်ရပ် ဖြစ်ခြေအရ အစဉ်ပြောင်းလဲနေရသည်။ အစဉ်ပြောင်းလဲနေသော စကြဝဠာရှိလျှင် ၄င်းကိုဖန်ဆင်းရှင် ရှိရမည်။ ၄င်းဖန်ဆင်းရှင်သည် ပြောင်းလဲမှုသဘော မရှိ။ ဖန်ဆင်းရှင်သည် စကြဝဠာ၏အကြောင်းတရား ဖြစ်လေသည်။ ဖန်ဆင်းရှင်ကိုမူ မည်သူကမျှ ဖန်ဆင်းခြင်းမပြု။ အရာဝတ္ထုများသည် ဒြပ်သဘောဖြစ်၍ ပြောင်းလဲနေကြရသည်။ ဖန်ဆင်းရှင်ကား ဒြပ်သဘောမပါသော ပုံသဏ္ဌာန်သက်သက် (ဝိညာဉ်သက်သက်)သာ ရှိရမည်ဟုဟောပြောခဲ့သည်။

အချုပ်မှာ အကြောင်းတရား ၄ ပါးအရ စကြဝဠာဖန်ဆင်းရှင်သည် စကြဝဠာကြီး၏ ဖန်တီးမှုအကြောင်း တရားဖြစ်၏။ စကြဝဠာကြီး ရွေ့လျားပြောင်းလဲခြင်းသည် ၄င်း၏ပုံသဏ္ဌာန်အကြောင်းတရားကြောင့် ဖြစ်၏။ စကြဝဠာကြီးအတွင်းရှိ ဒြပ်ရုပ်များသည် စကြဝဠာကြီး၏ရုပ်အကြောင်းတရား ဖြစ်၏။ ဖန်ဆင်းရှင်သည် စကြဝဠာ ကြီးကို ဖန်ဆင်းသောအခါ ၄င်းစကြဝဠာကြီးသည် အစဉ်ရွေ့လျားပြောင်းလဲလျက် နောက်ဆုံးတွင် ၄င်း ဖန်ဆင်းရှင်

နှင့် သဘောသဘာဝအားဖြင့် ထပ်တူထပ်မျှ ဖြစ်လာရပေမည်။ သို့ဖြစ်သောကြောင့် စကြဝဠာကြီးကို ဖန်ဆင်းသော ဖန်တီးမှုအကြောင်းတရားဖြစ်သော ဖန်ဆင်းရှင်သည်ပင်လျှင် ရည်ရွယ်ချက်အကြောင်းတရား ဖြစ်သည် ဟုဆိုသည်။ သို့ဖြင့် အရစ္စတိုတယ်လ်က ဖန်ဆင်းရှင်ကို မိမိကိုယ်တိုင်မလှုပ်ရှားဘဲ တစ်ပါးသောအရာများကို လှုပ်ရှားစေနိုင်သော ဖန်ဆင်းရှင် ဟူ၍ခေါ်ခဲ့သည် ဟုဆိုသည်။

အကောင်း,အဆိုးသဘောမှာလည်း ဝိညာဉ်၏ အသိရှိခြင်းနှင့် အသိမဲ့ခြင်းသဘော ၂ ရပ်ဖြင့် ဆက်စပ်ဖြစ်ပေါ်နေသည်ဟုလည်း အယူရှိသူဖြစ်သည်။

## ဂရိပညာရှင် ဟေးစီအိုဒ်

ရောမဋ္ဌ ဖေနိုက ကောင်းမှုပြုက အကျိုး၊ မကောင်းမှုပြုက အပြစ်ဟု ဟောပြောသကဲ့သို့၊ ဂရိဋ္ဌလည်း ပညာရှင် ဟေးစီအိုဒ်က 'ဘုရားရှိသည်၊ နောင်တမလွန်ဘဝရှိသည်၊ သူ့အကျိုးကိုဖျက်က ကိုယ့်အကျိုးပါ ပျက်မည်။ လူသည် မိမိပြုသော အကျိုးအပြစ်အရ ကောင်းကျိုးဆိုးကျိုးကို ခံစားရမည်' ဟုဟောပြောခဲ့သည်။

## ဂရိပညာရှင် သူဆီးဒီးဒဲးစ်

ပညာရှင် သူဆီးဒီးဒဲးစ်ကမူ 'သမိုင်း၏ဖြစ်ပျက်မှုများသည် လူသားတို့၏စိတ်အဟုန်ပေါ်၌ အကြောင်းရင်းခံ၍ ဖြစ်ပျက်ကြသည်။ သမိုင်း၏ဖြစ်စဉ်၌ အရာဝတ္ထုတိုင်းသည် ဖြစ်ခြင်းနှင့် ပျက်ခြင်းသဘောသာ ရှိသည်' ဟုဖော်ပြခဲ့သည်။

## ရောမတွေးခေါ်ရှင်များနှင့် ၎င်းတို့၏ အတွေးအခေါ်အယူအဆများ

'ဂရိ'ခေါ် ခေါမဋ္ဌ တွေးခေါ်ရှင်ကြီးများပေါ်ထွန်းသကဲ့သို့ ရောမဋ္ဌလည်း တွေးခေါ်ရှင်များ ပေါ်ထွန်းလာကြသည်။ ၎င်းတို့မှာ အောက်ပါအတိုင်း ဖြစ်သည်။

## ပါမင်နဒီ

ပါမင်နဒီသည် အီတလီတောင်ပိုင်း အီလယမြို့သားဖြစ်သည်။ ဂရိတွေးခေါ်ရှင် ဟေရာကလိတပ် (၅၃၅ - ၄၇၅) ဘီစီ၏ ဆန့်ကျင်ဘက်တွေးခေါ်ရှင် ဖြစ်သည်။

ဟေရာကလိတပ်က 'ပြောင်းလဲခြင်း၊ မမြဲခြင်းသည် အစစ်အမှန်တရားဖြစ်၍၊ မပြောင်းလဲခြင်းသည် အသွင်သဘောမျှ ဖြစ်သည်' ဟုမြင်သည်။

ပါမင်နဒီကမူ 'မပြောင်းလဲခြင်း၊ တည်မြဲခြင်းသည် အစစ်အမှန်တရားဖြစ်၍ ပြောင်းလဲခြင်းမှာ အသွင်သဘောမျှသာ ဖြစ်သည် ဟုမြင်သည်။ အရာဝတ္ထုတစ်ခုသည် အကယ်၍ရှိငြားအံ့။ ၎င်းအရာအကြောင်းကို ဆင်ခြင်နိုင်ရမည်။ အကယ်၍ အရာဝတ္ထုတစ်ခုအကြောင်းကို မဆင်ခြင်နိုင်လျှင် ထိုအရာသည် စင်စစ်မရှိသောကြောင့်သာ ဖြစ်သည်' ဟူသော အဆိုသည် ပါမင်နဒီ၏အခြေခံအဆို ဖြစ်သည်။

## ဖေနို၏ စတိုးယစ်ဝါဒ (၃၃၆ - ၂၆၄ ဘီစီ)

ဖေနိုသည် အီတလီပြည် အီလယမြို့သားဖြစ်ပြီး ပါမင်နဒီ၏တပည့်ဖြစ်ကြောင်း၊ ၄၉၀ ဘီစီတွင် ဖွားပြီး ၄၃၁ ဘီစီ၌ ကွယ်လွန်ကြောင်း၊ ဒိုင်ယာလက်တစ်နည်းဖြင့် များပြားသောသဘောနှင့် လှုပ်ရှားပြောင်းလဲခြင်း

သဘောများ မဖြစ်နိုင်ကြောင်းကို ဖော်ပြခဲ့သည်ဟု 'ကမ္ဘာ့တွေးခေါ်ရှင်ကြီးများ' စာအုပ်တွင် ဖော်ပြထားသည်။ သို့သော် ကမ္ဘာ့သမိုင်းစာအုပ်များတွင် ဇေနို (၃၃၆-၂၆၄ ဘီစီ)သည် အေပီကူးရှော့ခ်၏ ရုပ်ဝါဒနှင့် ဆန့်ကျင်ဘက်ဖြစ်သော စတိုယဇ်ဝါဒကို ဟောပြောခဲ့သည် ဟုဆိုသည်။

ဇေနိုသည် အေသင်တွင် သဘာဝတ္တပညာ သင်ကျောင်း ၂ ကျောင်းအနက် တစ်ကျောင်းကို တည်ထောင်သူဖြစ်ပြီး၊ အေသင်ဈေးတံခါးဝတွင် တရားဟောပြောလေ့ရှိရာ ထိုတံခါးမုခ်မျိုးကို 'စတောဝါး' ဟုခေါ်၍ ၎င်း၏ သင်တန်းကျောင်းကိုလည်း 'စတောဝါးကျောင်း' ဟုခေါ်ရာမှ စတောဝစ်ဝါဒ၊ သို့မဟုတ် စတိုးယဇ်ဝါဒ ပေါ်လာရခြင်း ဖြစ်သည်။

စတိုးယဇ်ဝါဒက 'ကျိုးကြောင်း ဆင်ခြင်မှု၊ ကိုယ်ကျင့်တရားနှင့် ကမ္ဘာကြီးဖွဲ့စည်းပုံတို့ ဆက်သွယ်နေသည်' ဟုဆိုသည်။ 'သဘာဝအားဖြင့် တည်ရှိနေသော လူသားသည် သဘာဝသားသမီးများဖြစ်သဖြင့် ကမ္ဘာကြီးကို တစ်စုတစ်စည်းတည်း သွေးမကွဲဘဲ အိမ်ထောင်စုကြီးအဖြစ် တည်ထောင်ရမည်' ဟု ဇေနိုကဆိုသည်။

'ကောင်းမှုသည် အကျိုးဖြစ်၍ မကောင်းမှုသည် အပြစ်ဖြစ်သည်။ မကောင်းမှုမရှိအောင် လူသားတိုင်း ဆင်ခြင်တုံတရားကို နှလုံးသွင်းရမည်။ လူအချင်းချင်း အညီအညွတ်ညှိနှိုင်း၍ ပူးပေါင်းနေထိုင်ရမည်။ လူသားချင်း စည်းလုံးညီညွတ်လျှင် ကမ္ဘာကြီးအေးချမ်းမည်' ဟု ဇေနိုက ဟောပြောသည်။ ၎င်းအပြင် 'လောကတွင် ကောင်းမြတ်သောအကျင့် တည်းဟူသော အကောင်းတစ်ခု တည်းသာရှိသကဲ့သို့၊ ယုတ်မာသောဆိုးသွမ်းခြင်း တည်းဟူသော အဆိုးတစ်ခုသာရှိကြောင်း၊ သဘာဝတွင် လူတိုင်း အမြင့်ဆုံးရည်ရွယ်ချက်အဖြစ်ဖြင့် မျှော်မှန်းသင့်သောအရာကား ကောင်းသောအကျင့်အကြံမှရစေမည့် စိတ်ချမ်းသာမှုပင်ဖြစ်၍ လောကစံ၏ ဆူကြုံနိမ့်မြင့်များနှင့် တွေ့သောအခါ ထူး၍ဝမ်းသာဝမ်းနည်း မဖြစ်ရန် ကြိုးစားသင့်ကြောင်း' ဟောပြောခဲ့သည်။

## အေပီကူးရှော့ခ် (၃၄၂ - ၂၇၁ ဘီစီ)

အေပီကူးရှော့ခ်သည်လည်း အီတလီပြည် အီလယ်မြို့သားဖြစ်ပြီး၊ ဒီမိုကရိတပ်၏တပည့်ဖြစ်၍ အဏုမြူဝါဒကိုပင် ဟောပြောခဲ့သူဖြစ်သည်။

'ကမ္ဘာနှင့် သက်ရှိသက်မဲ့အားလုံးသည် ခွဲမရသော အဏုမြူဒြပ်ရုပ်တုများ အမျိုးအစားအမျိုးမျိုး ပေါင်းစပ်နေခြင်းသာ ဖြစ်သည်။ စိတ်သည်လည်း အဏုမြူကလေးများ စုပေါင်းရာမှ ဖြစ်ပေါ်လာသော စက်ယန္တရားဆန်ဆန် လှုပ်ရှားမှုသာဖြစ်သည်' ဟုပြောခဲ့သည်။

၎င်းအပြင် အထက်ဖော်ပြပါ သဘာဝတ္တပညာသင်ကျောင်း ၂ ကျောင်းအနက် တစ်ကျောင်းကို ဇေနိုနှင့်အပြိုင်တည်ထောင်ခဲ့သူ ဖြစ်သည်။ အေပီကူးရှော့(ခ်) က စိတ်ရောလူပါ ပျော်ရွှင်မှုသည်သာလျှင် လောကတွင် အလိုအပ်ဆုံး ဖြစ်ရကား ပျော်ရွှင်မှုကို အသိပညာနှင့် ထိန်းအုပ်လျက် မြင့်မြတ်စွာ ကြံဆောင်ဖော်ထုတ်၍ တရားမျှတစွာ အမှုကိစ္စအဝဝကို ဆောင်ရွက်ပါမှ ထိုထိုပျော်ရွှင်မှုကို ရနိုင်ပေသည်ဟု ဟောပြောခဲ့သည်။ နောင်အခါ သူ၏ဟောပြောချက်ကို ရောမများက လို သလို အဓိပ္ပာယ်ဆွဲယူ၍ နက်ဖြန်တွင် သေကောင်းသေမည်ဖြစ်ရကား ယနေ့ အစားအသောက်ပျော်ရွှင် သင့်သည်ဟု တွင်တွင်သုံးလာကြသည်။ ယနေ့တိုင် အပျော်ကြူးသူများကို ဧပီကူးရေဟု ခေါ်စမှတ်ပြုကြသည်။

## တရုတ်တွေးခေါ်ရှင်များနှင့် ၎င်းတို့၏အတွေးအခေါ် အယူအဆများ

၆၀၀ ဘီစီပတ်ဝန်းကျင်တွင် ခေါမနှင့် ရောမတို့၌ တွေးခေါ်ရှင်များ ပေါ်လာကြသကဲ့သို့၊ တရုတ်ပြည်၌လည်း တွေးခေါ်ရှင်များ ပေါ်ပေါက်ခဲ့ကြသည်။ သို့ရာတွင် တရုတ်တွေးခေါ်ရှင်များသည် ကိုယ်ကျင့်တရား

မြင့်မားရေးနှင့် စိတ်ဓာတ် ဖြူစင်မြင့်မြတ်ရေးများကို ဦးစားပေး တွေးခေါ်ဟောပြောခဲ့သည်ကို တွေ့ရှိရသည်။ တရုတ်ပြည်တွင်ပေါ်ခဲ့သော တွေးခေါ်ရှင်များအနက် ထင်ရှားသောတွေးခေါ်ရှင်များမှာ အောက်ပါအတိုင်း ဖြစ်သည်။

## လော်ဇူ (၆၀၄ ဘီစီ)

လော်ဇူကို 'လာအိုဇီ' ဟူ၍လည်းကောင်း၊ 'လောင်တဇု' ဟူ၍လည်းကောင်း ခေါ်ဆိုကြသည်။ လော်ဇူသည် ၆၀၄ ဘီစီတွင်မွေးဖွားပြီး အဘိဓမ္မာဆရာကြီးတစ်ဦးဖြစ်ကာ၊ တရုတ်ပြည်၌ ယခုတိုင်ကိုးကွယ်နေသော တော်ရစ်ဇင်းဝါဒကို တီထွင်ခဲ့သူဖြစ်သည်။ အချို့က ၎င်းဝါဒကို 'တောင်ဝါဒ' ဟုခေါ်ကြသည်။ ၎င်းဝါဒကို တောင်းတေးကင်းကျမ်းစာယယ်၌ ရေးသားထားသည်။

၎င်းသည် နိုင်ငံရေးရာကို စိတ်ဝင်စားသူမဟုတ်သည့်အပြင် ရှေးထုံးစဉ်လာပူဇော်ပွဲများကို လိုလားသူလည်း မဟုတ်ပေ။ 'မနုဿလူသားတို့သည် စိတ်ထားနှိမ့်ချခြင်းဖြင့် ငြိမ်းချမ်းရေးကို ရရှိနိုင်သည်' ဟုယူဆသည်။

၎င်းအပြင် လော်ဇူသည် 'တရားဥပဒေများဖြင့် အုပ်ချုပ်နေခြင်းသည် တိုးတက်ဖွယ်ရာ နည်းလမ်းမရှိကြောင်း၊ ဥပဒေများသလောက် တိုင်းပြည်၌ လူဆိုးများ၊ သူခိုးများ ပွားများလာလိမ့်မည်ဖြစ်ကြောင်း၊ စိတ်ထားနှိမ့်ချခြင်း၊ လောကီစည်းစိမ်ကို မမက်မောခြင်း တရားများသည်သာ မနုဿလူသားများ၏ချမ်းသာခြင်းကို ရရှိလိမ့်မည်ဖြစ်ကြောင်း၊ 'ပညာရှိ'ခေါ်ခံထိုက်သူသည် ဝါကြွားခြင်းမရှိသည့်အပြင် မိမိကိုယ်ကို ရန်ပြုမည့်သူအား သည်းခံခြင်း တရားဖြင့် တန်ပြန်ကာ ကျင့်သုံးခြင်းပင်ဖြစ်ကြောင်း၊ လောက၌ ကောင်းမွန်စွာ နေထိုင်ခြင်းသည် အမြင့်မြတ်ဆုံး ဖြစ်ကြောင်း၊ မိမိအား စော်ကားသူကိုပင် ကောင်းမွန်စွာ ဆက်ဆံရမည်ဖြစ်ကြောင်း၊ သည်းခံသောသူသည် ပညာရှိ ဖြစ်ကြောင်း၊ မိမိကိုယ် မိမိ ဆုံးမနိုင်မှလည်း 'ပညာရှိ' ခေါ်ဆိုထိုက်ကြောင်း' ဟောပြောခဲ့သည်။

တစ်နည်းအားဖြင့် 'သူတစ်ပါးအကြောင်းကို သိစွမ်းသူသည် ပညာရှိသာဖြစ်၍ ကိုယ့်အကြောင်းကို ကောင်းစွာ နားလည်လာခြင်းသည်သာလျှင် ဉာဏ်အလင်းကိုရခြင်း မည်ကြောင်း၊ သူတစ်ပါးကို နှိမ်နင်းနိုင်သူသည် လူစွမ်းကောင်း သာဖြစ်၍ မိမိကိုယ်ကို အောင်နိုင်သူသာ အစွမ်းအထက်ဆုံးဖြစ်ကြောင်း၊ အကောင်းကို အကောင်းဖြင့် ကျေးဇူးပြန်၍ အဆိုးကိုလည်း အကောင်းဖြင့်သာ တုံ့ပြန်အပ်ကြောင်း၊ အဘယ့်ကြောင့်ဆိုသော် ကောင်းခြင်းသည်သာ လျှင် ဖြူစင်သန့်ရှင်းခြင်းအကျိုးရှိ၍ အမုန်းကို ကြင်နာခြင်းဖြင့် တုံ့ပြန်အပ်သောကြောင့်ဖြစ်ကြောင်း' ဟောပြောသည်။

## ကွန်ဖြူးရှပ် (၅၅၁ ဘီစီ၊ အချို့အဆို ၅၅၀)

ကွန်ဖြူးရှပ်ကို ၅၅၁ ဘီစီလောက်က ရှမ်တန်နယ် လူမြို့၌ မွေးဖွားခဲ့သည်။ ၎င်း၏ နာမည်ရင်းမှာ ကောင်ဖြူစီ ဖြစ်၏။ အချို့က 'ကွန်ဖူဇူသာ' ဖြစ်သည် ဟုဆိုသည်။

ကွန်ဖြူးရှပ်သည် နိုင်ငံရေး၌ စိတ်ဝင်စားသူဖြစ်သောကြောင့် ၎င်းဟောပြောသော တရားများသည် အများ အားဖြင့် လောကရေးရာနှင့် ပို၍ပတ်သက်လျက် ရှိသည်။ အချုပ်အားဖြင့် တိုင်းပြည်အုပ်ချုပ်ရေး၊ ပေါင်းသင်း ဆက်ဆံရေး၊ ကိုယ်ကျင့်တရားကောင်းမွန်ရေးတို့ ဖြစ်သည်။ သူသည် ဆင်းရဲသားလူတန်းစားများနှင့် ပေါင်းသင်း ဆက်ဆံမှုများကြောင့် ဆင်းရဲသားများ၏ မျက်မှောက်ဖြစ်စဉ်ဘဝကို အတွင်းကျကျသိခဲ့ရသဖြင့် ဆင်းရဲသားများအား ကယ်တင်ချင်သောစိတ် ရှိခဲ့သည်။

ထို့ကြောင့် ကွန်ဖြူးရှပ်က 'တိုင်းပြည်အုပ်ချုပ်သော မင်းများသည် ဆင်းရဲသားများအား ညှာတာထောက်ထား သင့်ကြောင်း၊ တိုင်းပြည်ငြိမ်းချမ်းရေးရရှိစေရန် အာဏာပိုင်များ၏ အုပ်ချုပ်ရေးကောင်းရမည်ဖြစ်ကြောင်း၊ အာဏာပိုင် များ၏ အုပ်ချုပ်ရေး ကောင်းမွန်ရန်မှာလည်း မင်းနှင့်တကွသော အထက်တန်းလူများသည် ကိုယ်ကျင့်သိက္ခာ ရှိရမည်

ဖြစ်ကြောင်း၊ ပြည်သူများ ဖြူစင်သောအကျင့်ကို လိုက်နာကြစေရန်အတွက် ဘုရင်များကိုယ်တိုင် စံနမူနာအဖြစ် ပြသခြင်း၊ အမိန့်ထား၍လုပ်စေခြင်းများ လိုအပ်ကြောင်း၊ ၎င်းအပြင် ဝန်ကြီးများလည်း အကျင့်သိက္ခာဖြူစင်ရန် လိုအပ်ကြောင်း၊ ဤသို့ဖြူစင်နိုင်ရန်အတွက် နည်းလမ်း ၂ သွယ် ရှိကြောင်း၊ ပထမနည်းလမ်းမှာ ရှေးဓလေ့နှင့် ပူဇော်ပသပွဲ အစဉ်အလာများကို မချွတ်မယွင်းစေအောင် ဆောင်ရွက်ခြင်းနှင့် စနစ်ကျကျ လေ့လာခြင်းတို့ ဖြစ်ကြောင်း၊ ဒုတိယနည်းမှာ အများအကျိုးကိုရှေးရှု၍ ကိုယ်ကျိုးစွန့်နိုင်စိတ်ကို မွေးမြူကြီးပွားစေခြင်း၊ ၎င်းအကျင့်အတွက် 'မိမိကိုယ်တိုင် လက်မခံနိုင်သောကိစ္စမျိုးကို သူတစ်ပါးအပေါ် သွားရောက်မကျင့်ကြံပါနှင့်' ဟူသော ဆောင်ပုဒ်ကို လိုက်နာရမည်ဖြစ်ကြောင်း၊ ဤသို့လိုက်နာလျှင် ရှေး ယောနှင့် သျှွန်များ၏လက်ထက်က ရွှေခေတ်မျိုးသို့ တရုတ်နိုင်ငံ ပြန်ရောက်မည်ဖြစ်ကြောင်း။

၎င်းအပြင် ကွန်ဖြူးရှပ်သည် ရှေးထုံးကို အလွန်ရိုသေသူဖြစ်သည့်အားလျော်စွာ 'သားသမီးများသည် မိဘများအပေါ်၌ ရှိအပ်သည့် သားသမီးဝတ္တရားများကို အသက်ရှင်စဉ်ကထားရှိသည်ထက် မိဘများကွယ်လွန်ပြီးနောက် ပူဇော်ပသမှုများသည် အရေးအကြီးဆုံးဖြစ်ကြောင်း' ဟောပြောခဲ့သည်။ သူကိုယ်တိုင်ပင် မိခင်သေဆုံးပြီးနောက် လွမ်းဆွတ်ကြေကွဲသည့်အနေဖြင့် ၃ နှစ်တိုင်တိုင် ပူဇော်ပသပွဲများပြုလုပ်ကာ ရှေးဟောင်းစာပေများကို လေ့လာလျက်နေထိုင်ခဲ့သည်။

တရုတ်တို့၏ ရှေးဟောင်းဘာသာရေးအရ သိရှိရသည်မှာ လူ့ပြည်နှင့် နတ်ပြည်သည် တစ်ဆက်တည်းရှိသည်။ နတ်ပြည်တွင် နေထိုင်သူများမှာ လူ့ပြည်နေသူများ၏ ဘိုးဘွားမိဘများဖြစ်ပြီး၊ ယင်းတို့ကို အကြီးအကဲတစ်ဦးက အုပ်ချုပ်သည်။ လူ့ပြည်နှင့် နတ်ပြည်သည် အမြဲမပြတ် ဆက်သွယ်မှုရှိသည်။ နတ်ပြည်သည် လူ့ပြည်၏သာယာဝပြောရေးကို စောင့်ရှောက်ထားရှိသည်။ နတ်ပြည်တွင် လိုအပ်သည်တို့ကိုလည်း လူ့ပြည်က ယဇ်ပူဇော်ပွဲများ ပြုလုပ်၍ ထောက်ပံ့ ကူညီရသည်။

ရှေးခေတ်ကျေးရွာတိုင်း၌ ယဇ်ပူဇော်ပွဲပြုလုပ်သော တောင်ပို့တစ်ခုစီ ရှိသည်။ တစ်နိုင်ငံလုံးကို အုပ်ချုပ်မင်းလုပ်မည့်သူကို ရွေးချယ်လိုက်သောအခါ ထိုသူသည် သူ့ကိုယ်သူ 'နတ်သား' ဟူသောအမည်ကို ခံယူကာ ဘိုးဘေးဘီဘင်များအတွက် စုပေါင်းယဇ်ပူဇော်ပွဲများကို ပြုလုပ်ပေးသည်။ ကွန်ဖြူးရှပ်ခေတ်သို့ ရောက်လာသည့်တိုင်၊ 'အစဉ်အလာအရ ရှေးမိဘများကို ပူဇော်ပွဲပြုလုပ်ရန်ပျက်ကွက်သော အစိုးရတို့ကို ဆက်လက် အုပ်ချုပ်ပိုင်ခွင့်မရှိတော့' ဟုယူဆကြဆဲရှိသည်။

လူ့ပြည်သားတို့က နတ်ပြည်သို့ မိမိဆန္ဒကိုပြောလိုသောအခါ ယဇ်ပူဇော်ပွဲဖြင့်ပြသရပြီး၊ ဗေဒင်ပညာနတ်ကတော်မှတစ်ဆင့် မိမိတို့က တစ်ဖန် နာခံကြရပြန်သည်။ ရှေးမိဘတို့သည် သူတို့နေထိုင်လာခဲ့သော လူမျိုးတစ်ခုလုံးအကြောင်းကို သိထားသူများဖြစ်၍ ထိုလူမျိုးတို့၏အနာဂတ်ကို ကောင်းမွန်စွာ ခန့်မှန်းနိုင်ကြသည်။ နတ်ဘုံရှိ မိဘဘိုးဘွားများက လူ့ပြည်ရှိ ယင်းတို့၏သားမြေးများကို ဆက်သွယ်သည့်လက္ခဏာ အမှတ်အသားများလည်း ရှိသေးသည်။ အချို့မှာ လူတို့၏ခန္ဓာကိုယ်တွင် ဖြစ်ပေါ်တတ်သည့် အသားလှုပ်ရှားမှုများ၊ ယားနာခြင်း၊ နှာချေခြင်းဖြစ်၍ အချို့မှာ ပြင်ပလက္ခဏာများဖြစ်သော လျှပ်စီးလက်ခြင်း၊ မိုးခြိမ်းခြင်း၊ ကြယ်တာရာသွားလမ်းကြောင်း ပြောင်းလဲခြင်း၊ ပိုးမွှားတိရစ္ဆာန်တို့၏အပြုအမူများကို ကြည့်၍ နားလည်ကြသည် ဟုဆိုသည်။

၎င်းအပြင် ကွန်ဖြူးရှပ်သည် လော်ဇူဆရာကြီး၏ သည်းခံခြင်းတရားကို အကျယ်ချဲ့၍မဟောသော်လည်း၊ ကိုယ်ချင်းစာတရားကိုမူကား အလေးပေး၍ ဟောကြားခဲ့သည်။ ဆရာကြီးသည် မိမိကိုယ်ကိုမိမိ ပညာရှိတစ်ဦးဟုဖွင့်ဟပြောဆိုခြင်း မပြုခဲ့ပေ။ ထို့အပြင် 'မိမိဟောပြောသောတရားများသည် မိမိကိုယ်ပိုင်ဉာဏ်ဖြင့်တီထွင်၍

ဟောပြောသောတရား မဟုတ်ကြောင်း၊ မိမိဆရာ၏ တရားတော်ကို မိမိမှတစ်ဆင့် ဖောက်သည်ချ၍ တရားဟော ပြောခဲ့သူဖြစ်ကြောင်း' မကြာခဏ ပြောကြားခဲ့သည် ဟုဆိုသည်။

ထူးခြားသည်မှာ ဆရာကြီးကွန်ဖြူးရှပ် ဟောပြောသောတရားများကို ဆရာကြီး အသက်ထင်ရှားရှိစဉ်က တရုတ်ပြည်သူများ လိုက်နာကျင့်သုံးမှု မရှိခဲ့ခြင်းပင် ဖြစ်သည်။

၄င်းအပြင် လှည့်လည်တရားဟောရင်း ကွမ်မြို့သို့ ရောက်သောအခါ သူ့အား တိုက်ခိုက်မှုကိုပင် ခံခဲ့ရသည်။ သို့သော် သူသည် သူ့နောက်လိုက်များအား ဤဝါဒကို ဟောကြားရန် နတ်ပြည်က ကျွန်ုပ်အား တာဝန်ပေးအပ် ကြောင်း၊ တာဝန်ကို ထမ်းဆောင်ပြီးသည်အထိ ကွမ်မြို့သားများက မိမိအား မည်သို့မျှ မပြုလုပ်နိုင်ကြောင်း၊ ကျွန်ုပ်အကြောင်းကို နတ်ပြည်က သိနေပါကြောင်း' ဟူ၍ ဖြေသိမ့် ပြောကြားခဲ့သည်။

ဆရာကြီးကွယ်လွန်ပြီးနောက် ဆရာကြီးတပည့်များက ဆရာကြီး၏တရားများကို ဆက်လက် ဟောပြောရာ ဆရာကြီးအား လေးစားယုံကြည်ရုံတင်မကဘဲ ဆရာကြီး၏တပည့်များပင်လျှင် လူထု၏လေးစားမှုကို ခံခဲ့ကြရသည်။ ထို့ကြောင့် ဆရာကြီးသေဆုံးပြီး နှစ်ပေါင်း ၁၀၀ အတွင်းတွင် ဆရာကြီး၏ဝါဒသည် တရုတ်ပြည် တစ်ပြည်လုံးပျံ့နှံ့ ကာ တရုတ်ပြည်သူပြည်သားများ၏ကိုးကွယ်ခြင်းကို ခံရလေတော့သည်။

၂၀၉ ဘီစီခုနှစ်မှ အေဒီ ၂၂၀ ပြည့်နှစ်အထိစိုးစံခဲ့သော ဟန်မင်းဆက်လက်ထက်တွင် ကွန်ဖြူးရှပ်ဘာသာ ကို တရုတ်ပြည်၏ နိုင်ငံတော်ဘာသာအဖြစ် အသိအမှတ်ပြုခဲ့လေသည်။ ၁၃၀ ပြည့်နှစ်ဘီစီမှ စ၍ ကွန်ဖြူးရှပ်ဝါဒကို အစိုးရအရာရှိများသင်တန်းအတွက် သင်ခန်းစာအဖြစ် အသုံးပြုလာခဲ့ရာ အေဒီ ၁၉၁၁ ခုနှစ်တွင် တရုတ်သမ္မတနိုင်ငံကို တည်ထောင်သည့်အချိန်အထိ ဆက်လက်အသုံးပြုခဲ့ကြသည်။ အေဒီ ၅၉ ခုနှစ်တွင် စာသင်ကျောင်းများ၌ ကွန် ဖြူးရှပ်အတွက် ယဇ်ပူဇော်ပွဲများကို ကျင်းပစေခဲ့သည်။ ၇ ရာစုနှင့် ၈ ရာစုအတွင်းက တရုတ်ကေရာဇ် အင်ပါယာနိုင်ငံအတွင်းရှိ ခရိုင်တိုင်းတွင် ကွန်ဖြူးရှပ်နှင့် သူ၏တပည့်ကြီးများအတွက် ဗိမာန်များကို ဆောက်လုပ်စေခဲ့ သည်။ ဆွန်မင်းဆက်လက်ထက်တွင် ကွန်ဖြူးရှပ်၏ စာပေကျမ်းဂန်များကို ကျောင်းသုံးစာအုပ်အဖြစ်သာ အသုံးပြု ခြင်း မဟုတ်ဘဲ၊ ပညာရေးနှင့်ပတ်သက်သောစာအုပ်တိုင်း အခြေခံပြုရသောစာပေများအဖြစ် တည်ရှိနေခဲ့သည်။ ၁၉၃၄ ခုနှစ်တွင် သူ၏မွေးနေ့ကို တရုတ်အမျိုးသားရုံးပိတ်ရက်အဖြစ် ကြေညာခဲ့သည် ဟုသိရှိရသည်။

## မောက်ဆူ

၄၀၉ ဘီစီတွင် ဆရာကြီးကွန်ဖြူးရှပ်ကွယ်လွန်ပြီးနောက် နှစ်ပေါင်း ၁၀၀ အတွင်း (၄၀၀ ဘီစီ)စု၌ အတွေးအခေါ်ပညာနှင့် စာပေအရေးအသားတွင် ထူးချွန်သော မောက်ဆူ ပေါ်လာသည်။

မောက်ဆူသည် 'ရှေး ဘိုးဘွားအစဉ်အလာကို ကိုးကွယ်ခြင်းမှာ များစွာအရေးမပါကြောင်း၊ ယဇ်ပူဇော်ပွဲ သည်လည်း တန်ဖိုးမရှိကြောင်း' ရေးသားခဲ့သည်။ ကိုယ်ကျင့်တရားတွင် ကွန်ဖြူးရှပ်က ကိုယ်ကျိုးစွန့်ခြင်းကို အဓိကထားသော်လည်း မောက်ဆူက 'မေတ္တာကို အဓိကထားရမည်ဖြစ်ကြောင်း' ဟောပြောခဲ့သည်။ ဟောပြော ရေးသားပုံစနစ်မှာလည်း များစွာစနစ်ကျ၍ ဆင်ခြေမတက်နိုင်အောင်စေ့စပ်ပြီး တက္ကဗေဒသဘောဖြင့် ကိုးကား ရေးသားလေ့ ရှိသည်။ မောက်ဆူကို အမှီပြု၍ တရုတ်တို့၏အတွေးအခေါ်မြော်မြင်ရေးတွင် တက္ကဗေဒများ စတင် ပါဝင်လာရသည်။

## မင်းစီယပ်

ဆရာကြီးကွန်ဖြူးရှပ် ကွယ်လွန်သောအခါ တပည့်များက ဆရာကြီးကျမ်းကို မည်သူမျှ အဖွင့်နိသျများ မလုပ်ဝံ့ကြချေ။ ၃ ရာစုဘီစီအတွင်း၌ ဆရာကြီး၏မြစ်ဖြစ်သော မင်းဆီယပ် လက်ထက် ရောက်သောအခါ အဖွင့်

ဋ္ဌီကာကျမ်းကို ရေးသားခဲ့သည်။ သို့သော် ကွန်ဖြူးရှပ်ဟောပြောချက်များကို အားလုံး လက်ခံခြင်းမပြုဘဲ၊ ပြုပြင်သင့်သည်များကို ပြုပြင်ခဲ့သည်။ အစိုးရနှင့်ပတ်သက်သော မင်စီယပ်သဘောထားမှာ ကွန်ဖြူးရှပ်နှင့် မတူ။ 'ရှေးမှုများကို ပြန်လည်ဖော်ထုတ်၍ လေးစားစေခြင်းထက် နည်းသစ်နည်းကောင်းများဖြင့် တိုးတက်ပြုပြင်သင့်သည်' ဟုယူဆသည်။ တိုင်းပြည်တွင် လူထုသည်အရေးပါဆုံးဖြစ်သည့်အပြင်၊ 'နိုင်ငံအာဏာကိုလည်း လူထုကသာ ပိုင်သည်' ဟု အတိအကျ ယူဆသည်။ 'လူထုကို ညှဉ်းဆဲသောမင်းကို သတ်သောသူသည် အပြစ်မရှိနိုင်' ဟူ၍ပင် ရေးသားခဲ့သည်။

## ဆန်ဆူ

ဆန်ဆူကို 'ဆန့်တဇု' ဟုလည်း ခေါ်သည်။ ဆန်ဆူသည် မင်စီယပ်နှင့်အတူ ကွန်ဖြူးရှပ်ဝါဒကို ဖော်ထုတ်ခဲ့သော ပညာရှင်တစ်ဦး ဖြစ်သည်။ သူက 'လူများသည် မိုက်သောသတ္တဝါဖြစ်၍ စည်းကမ်းတကျ ပညာပေး ထိန်းသိမ်းခြင်းပြုပေးရန် လိုအပ်သည်' ဟုပြောခဲ့သည်။

## ကျွမ်းတဇု

ကျွမ်းတဇုသည် မင်စီယပ်နှင့် ခေတ်ပြိုင်ပေါ်သောပညာရှင် ဖြစ်သည်။ သူသည် တောင်ဝါဒကို ပြုပြင်ပြီး၊ ရှေးခေတ် တရုတ်စာရေးဆရာများအနက် အတော်ဆုံးနှင့် အတွေးဉာဏ်အထက်ဆုံးပုဂ္ဂိုလ် ဆိုလောက်သည် ဟုဆိုသည်။

## လောင်ဆူ

လောင်ဆူကို အချို့က 'လာအိုဇူ' ဟူ၍လည်း ခေါ်သည်။ လောင်ဆူသည် ဘာသာရေးအယူအဆများကို ဟောခဲ့သည်။ သူ၏အယူဝါဒကို 'တာအိုဝါဒ' ဟုခေါ်သည်။

လောင်ဆူက 'သဘာဝတ္တတရားကို အခြေပြု၍ သဘာဝတ္တတရားနှင့်ကိုက်ညီစေရန် လောဘ၊ ဒေါသ၊ မောဟတရားများကို ထိန်းသိမ်း၍ ရောင့်ရဲစွာနေရန်၊ အချင်းချင်း ဆန့်ကျင်ဘက် မပြုရန်၊ မည်သည့်အမှုကိုမျှ တုံ့ပြန်ခြင်း မပြုရန်' ဟောပြောခဲ့သည်။

အချို့က လောင်ဆူကို ၆၀၄ ဘီစီတွင်မွေးဖွားခဲ့သော လော်ဇူ(လာအိုဇီ)ပင်ဖြစ်ကြောင်း၊ ဆရာကြီး ကွန်ဖြူးရှပ်သည်ပင် ၎င်းဆရာကြီးထံ သွားရောက်တွေ့ဆုံခဲ့ဖူးကြောင်း ဆိုသည်။ အချို့ကမူ ၆၀၄ ဘီစီမှ နှစ်ပေါင်း ၃၀၀ လောက်ရောက်သောအခါ ပေါ်လာသော ပုဂ္ဂိုလ်ဖြစ်ကြောင်း ဆိုကြပြန်သည်။

သူသည် 'လူ့သဘာဝ၏ ကောင်းသောအချက်များကို ပြုစုပျိုးထောင်ပေးရန်' ဟူသော သူ၏သွန်သင်ချက်များကို လူများက မလိုက်နာကြသည့်အတွက် စိတ်ညစ်၍လည်း သူသည် စာလုံးရေ ၅၀၀၀ ပါဝင်သော ကျမ်းတစ်ကျမ်းကို ပြုစုခဲ့သည်။ ထိုကျမ်း၏အမည်မှာ 'တာအိုတေချင်'ဖြစ်ပြီး၊ အဓိပ္ပာယ်မှာ 'လမ်းစဉ်နှင့် ယင်း၏အာဏာ' ဟုအဓိပ္ပာယ်ရသည်။

တာအိုဘာသာတွင် အပိုင်း ၃ ပိုင်း ပါရှိသည်။ တွေးခေါ်မြော်မြင်ရေးဆိုင်ရာ အဘိဓမ္မာ၊ တိုင်းရေးပြည်ရာ အုပ်ချုပ်ရေးပညာ၊ ဘာသာယုံကြည်ချက်တို့ ဖြစ်သည်။

တွေးခေါ်မြော်မြင်ရေးအပိုင်းတွင် 'ဤစကြဝဠာ ကမ္ဘာ လောကကြီးအတွင်း၌ နေ၊ လ၊ ကြယ်၊ နက္ခတ် တာရာတို့ လှည့်လည်သွားလာပုံ၊ ထိုဂြိုဟ်နက္ခတ်တို့၏ လှည့်ပတ် သွားလာသည့်အတွက်ကြောင့် ကမ္ဘာမြေပြင်ကြီး တွင် အဖြစ်အပျက်များ ပြောင်းလဲမှုများ ဖြစ်ရကြောင်း'တို့ကို ပြဆိုထားသည်။

'တာအိုသည် ကောင်းကင်ပြင်အလယ်၌ ရှိသည်။ တာအိုသည် တန်ခိုးသတ္တိ၏တည်ရာ ဗဟိုအချက်အချာ ဖြစ်၏။ ကမ္ဘာလောကကြီးတစ်ခုလုံး၌ ဖြစ်ပျက်နေသော အခြင်းအရာအားလုံးကို နောက်ကွယ်မှ ကြိုးကိုင်နေသော အင်အားတစ်ရပ်ပင် ဖြစ်သည်။ တစ်နည်းအားဖြင့်ဆိုလျှင် တာအိုသည် ကိုယ်ခန္ဓာ ရုပ်ဓာတ် မရှိသော ထာဝရပုဂ္ဂိုလ်ပင် ဖြစ်သည်။ တာအိုသည် ဖိုဓာတ်နှင့် မဓာတ်ကို ဖန်ဆင်းသည်၊ သဘာဝ၌ ဖိုနှင့် မဓာတ် ရှိစမြဲပင်ဖြစ်၏။ ဖိုနှင့်မ ဓာတ်ပေါင်းစပ်၍ ကောင်းကင်နှင့် မြေကြီး ဖြစ်ပေါ်လာရသည်။ ကောင်းကင်နှင့် မြေကြီးက တစ်ဖန် သက်ရှိသတ္တဝါကို ဖြစ်စေခဲ့သည်။ တာအိုသည် လူသားများ၏ကောင်းကျိုးကို ဆောင်ရွက်ပေးသည်' ဟု ရေးသား ဖော်ပြထားသည်ကို တွေ့ရှိရသည်။

## မိုတီ

မိုတီသည်လည်း တာအိုဝါဒကဲ့သို့ ဘာသာရေးအယူအဆတစ်ခုကို ဟောပြောခဲ့သည်။ ၎င်းဝါဒကို 'မိုတီဝါဒ' ဟု ခေါ်သည်။

မိုတီက 'လူအချင်းချင်း မေတ္တာထားရမည်။ လူ၌ ကောင်းသောအရည်အချင်း ရှိ၍ မိမိကိုယ်ကို တိုးတက်အောင် ပြုလုပ်နိုင်စွမ်းရှိသည်' ဟုဟောခဲ့သည်။ စစ်ပွဲနှင့် လူတန်းစားခွဲခြားမှုကိုလည်း ရှုတ်ချသည်။ ဤပညာရှင်များ၏ အယူအဆများကို လက်ခံခဲ့ကြရာမှ နောက်ပိုင်းတွင် တရုတ်တို့သည် မဟာယာနဗုဒ္ဓဘာသာဝင်များ ဖြစ်လာကြသည်။ [မဟာယာနဗုဒ္ဓဘာသာကို ယုံကြည်မှုရရှိပုံကို အခန်း ၉ တွင် ကြည့်ပါ။]

# အခန်း ၈

## အိန္ဒိယအယူဝါဒရှင် (တိတ္ထိ)များနှင့် ၎င်းတို့၏ အယူဝါဒများ

### ဝါဒရှင် (တိတ္ထိယ)များ ပေါ်လာကြပုံနိဒါန်း

ဖြေရာစုဘီစီ ပတ်ဝန်းကျင်တစ်ဝိုက်တွင် ဂရိ၊ ရောမနှင့် တရုတ်တို့၌ အတွေးအခေါ်ပညာရှင်များ၊ ဝါဒရှင်များ၊ ဆိုဖီဆရာများ ပေါ်ပေါက်သကဲ့သို့၊ အိန္ဒိယ၌လည်း 'တိတ္ထိယ'* ခေါ်သော ဝါဒရှင်များ ပေါ်ပေါက်ခဲ့ကြသည်။ ထိုဝါဒရှင်များသည် ဗုဒ္ဓပွင့်တော်မမူမီ ပေါ်ပေါက်လာခဲ့ကြခြင်း ဖြစ်သည်။

- ကမ္ဘာပျက်မည့်ကောလာဟလ နှစ် ၁ သိန်း၊
- ဘုရားပွင့်မည့်ကောလာဟလ နှစ် ၁၀၀၀၊
- စကြဝတေးမင်းပေါ်ပေါက်မည့် ကောလာဟလ နှစ် ၁၀၀၊
- ၃၈ ဖြာမင်္ဂလာ ကောလာဟလ ၁၂ နှစ်၊
- တစ်ရွာ၌ တစ်ကြိမ်သာဆွမ်းခံ၍ တစ်နေရာ၌ တစ်ညမျှသာနေလျက် တွယ်တာမှုမရှိဘဲ ကိလေသာကို ခါတွက်တတ်သော၊ စုတင်၁၃ပါးကို ပြင်းပြင်းထန်ထန်ကျင့်သော၊ မောနေယျအကျင့်ရှိပုဂ္ဂိုလ် ပေါ်ပေါက်မည့် ကောလာဟလ ၇ နှစ်။

ဤ ၅ ပါးအနက် 'သဗ္ဗညုမြတ်စွာဘုရားရှင် ပွင့်တော်မူမည်' ဟူသော ကောလာဟလအရ အိန္ဒိယတွင် ဗုဒ္ဓမပွင့်မီ နှစ်ပေါင်း ၁၀၀၀ ခန့်ကပင် 'သဗ္ဗညု (အလုံးစုံကိုသိသော) မြတ်စွာဘုရား ပေါ်ထွန်းမည်' ဟူသော စကားသည် ပွဲတင်ထပ်လျက် ရှိခဲ့သည်။

ပထမ၌ ဖန်ဆင်းရှင် ဗြဟ္မာကြီး (ပရမတ္တမ)ကို 'သဗ္ဗညု'** ဟု ချီးကျူးကြသည်။ နောက်ပိုင်းကာလကြာလာသောအခါ လူများကိုယ်တိုင်က မိမိကိုယ်ကိုမိမိ အလုံးစုံသိမြင်သည့် 'သဗ္ဗညု' ဟု ဝန်ခံ၍ ဘုရားဖြစ်ကြောင်း ကြေညာခဲ့ကြသည်။ ထို့ကြောင့် ဗုဒ္ဓခေတ်၌ ပူရာဏကဿပ စသော ဘုရားကြီး ၆ ဆူတို့ ထင်ရှားခဲ့ခြင်းဖြစ်သည်။ သို့ရာတွင် အချို့ကား ဘုရားအဖြစ်မခံယူကြဘဲ သာမန်ဝါဒရှင်အဖြစ်သာ ခံယူခဲ့ကြသည်။ ၎င်းတို့သည် မိမိတို့၏အယူဝါဒများကို ဟောကြား၍ နောက်လိုက်တပည့်များ စုဆောင်းမိကြသောအခါ ဂိုဏ်းဖွဲ့၍ ဂိုဏ်းခေါင်းဆောင်အဖြစ် နေရာယူခဲ့ကြသည်။ ၎င်းဘုရားကြီး ၆ ဆူနှင့် ဝါဒရှင်များကို 'သမဏ' ဟူ၍လည်းကောင်း၊ 'ပရိဗ္ဗာဇက' ဟူ၍လည်းကောင်း ခေါ်ကြသည်။

ဤ သမဏ ပရိဗ္ဗာဇက ဂိုဏ်းများသည် ၎င်းတို့ဂိုဏ်းအချင်းချင်း ဝါဒပြိုင်ပွဲများကိုလည်း ပြုလုပ်လေ့ရှိကြသည်။ ဗုဒ္ဓဘုရားပွင့်တော်မူလာသောအခါ၌လည်း ၎င်းတို့အချို့သည် ဗုဒ္ဓဘုရားထံသို့ပင် လာ၍ ဝါဒပြိုင်ကြသည်ကို

တွေ့ရှိရသည်။ သို့ရာတွင် ဗုဒ္ဓဘုရား ပွင့်လာတော်မူသောအခါ ဗြာဟ္မဏဝါဒရော၊ သမဏပရိဗ္ဗာဇကတို့၏ ဝါဒများပါ အကုန်လုံး မှေးမှိန်ခဲ့ရတော့သည်။

**သမဏပရိဗ္ဗာဇကများ**

'သမဏ' ဟူသည်မှာ 'ပင်ပန်းမှုကိုပြုသူ' ဟုအဓိပ္ပာယ်ရသည်။ ဗြာဟ္မဏတို့ကို ဆန့်ကျင်၍ ပထမဦးဆုံး ပေါ်လာသော သမဏများသည် အကျင့်အားဖြင့် အတ္တကိလမထအကျင့်ကို ကျင့်ကြသော်လည်း အသွင်အားဖြင့် ဦးပြည်းခေါင်းတုံးများ ဖြစ်ကြသည်။ နောက်ပေါ် သမဏပရိဗ္ဗာဇကများမှာမူ အသွင်အမျိုးမျိုး ဝတ်ဆင်နေထိုင်လာကြသည်ကို တွေ့ရှိရသည်။ အချို့က တပအကျင့် ကျင့်သူများမှာ အမျိုးအစားအားဖြင့် အတည်တကျ နေထိုင်သူ ရသေ့များနှင့် လှည့်လည်သွားလာသူ ပရိဗိုဇ် ဟူ၍ ၂ မျိုး ရှိသည်ဟု ဆိုသည်။ အမှန်မှာ ရသေ့များသည် ဗြာဟ္မဏကျင့်စဉ်အရ တောထွက်၍ ရသေ့ဝတ်ကျင့်ကြံကြသူများဖြစ်ကြောင်းကို ဗြာဟ္မဏဘာသာရေးအခန်း၌ ပြခဲ့ပြီးဖြစ်သည်။ သို့ရာတွင် ဗြာဟ္မဏကျင့်စဉ်မဟုတ်သော အကျင့်များကို ကျင့်ကြံကြိုးကုတ် အားထုတ်နေသော ရသေ့များလည်း ရှိသေးကြောင်းကို သတိပြုရမည်သာ ဖြစ်သည်။

'ပရိဗ္ဗာဇက' ဟူသည်မှာ 'ကိလေသာကိုပယ်သူ' ။ဝါ။ 'ခြေသလုံးအိမ်တိုင် လှည့်လည်သွားလာ၍ တရားရှာသူ' ။ဝါ။ 'အိမ်ရာတည်ထောင် လူ့ဘောင်ကိုစွန့်ပယ်၍ တောထွက်သူ' ဟုအဓိပ္ပာယ်ရသည်။

**ပရိဗိုဇ် ၂ မျိုး**

၁။ ဆန္နပရိဗ္ဗာဇက = အဝတ်ဝတ်သော ပရိဗိုဇ်၊

၂။ အစ္ဆန္န (နဂ္ဂ) ပရိဗ္ဗာဇက = အဝတ်မဝတ်သော ပရိဗိုဇ် (တက္ကတွန်း)။

အထက်ပါ ၂ မျိုးအနက် ဗုဒ္ဓလက်ထက်တော်ကထင်ရှားခဲ့သော သိဥ္စည်းဆရာကြီး၏ဂိုဏ်းသည် အဝတ်ဝတ်သောပရိဗိုဇ်ဂိုဏ်း ဖြစ်သည်။

အဝတ်မဝတ်သော ပရိဗိုဇ် [အစ္ဆန္န(နဂ္ဂ)ပရိဗ္ဗာဇက]ဂိုဏ်းသည်လည်း -

- အာဇီဝကပရိဗိုဇ်
- အစေလကပရိဗိုဇ် ဟူ၍ ၂ မျိုး ကွဲပြားပြန်သည်။

၎င်း ၂ မျိုး အနက် -

အာဇီဝကပရိဗိုဇ်များသည် အဝတ်တစ်ထည်ကို ခန္ဓာကိုယ်အပေါ်ပိုင်း (ရှေ့ပိုင်း)၌ ဖုံးကာ ဝတ်ဆင်သည်။ ပိတ်ဖြူ သို့မဟုတ် သီလရှင်အရောင်ပိတ်စကို ချိုင်းကြား၌ ညှပ်ထားတတ်သည်။ နောက်ပိုင်းနှင့် ပေါင်ခွအောက်ပိုင်း၌ ဗလာ ဖြစ်သည်။

မက္ခလိဂေါသာလ အဆက်အနွယ်များကို အာဇီဝကဂိုဏ်းဟု ဂျိန်းစာပေ၌ ဖော်ပြထားသည်။

အာဇီဝကဟူသည် ပြင်းထန်သောအကျင့်ဖြင့် အသက်မွေးသူဟူ၍ အဓိပ္ပာယ်ရသည်။

အချို့မှာ ပိတ်စတစ်ခုကိုပင် စလွယ်သိုင်းခြင်း, ကြက်ခြေခတ်ခြင်း စသည်ဖြင့် အမျိုးမျိုးဝတ်ကြသည်။ ထိုသို့ အဝတ်တစ်ထည်သာဝတ်သော ပရိဗိုဇ်များကိုမူ 'ဧကသာဋက ပရိဗိုဇ်' ဟုခေါ်သည်။

အစေလက ပရိဗိုဇ်များမှာမူ အဝတ် လုံးဝမဝတ်ချေ။ သို့ရာတွင် အဝတ်မဝတ်သောအကျင့် (နဂ္ဂစရိယာ)ကို အခိဋ္ဌာန်ပြုကျင့်ခိုက်၌သာ မဝတ်ခြင်းဖြစ်သည်။ ရံခါ အဝတ်ဝတ်သောအကျင့်ကို ကျင့်ရာ၌ အောက်ဖော်ပြပါ အဝတ်အမျိုးမျိုးကို ဝတ်ကြသည်။

ပိုက်ဆံလျှော်အဝတ်၊ လျှော်နှင့် ချည်ရောသောအဝတ်၊ မြေမှုန့်ပေကျံသော အဝတ်စုတ်၊ သစ်ခွံအဝတ်၊ သစ်နက်အဝတ်၊ သမန်းမြက်နှင့် ရက်သောအဝတ်၊ လျှော်တေအဝတ်၊ ပျဉ်ချပ် ၂ ခုကို ရှေ့နောက်ဖုံးကာမှု၊ လူဆံပင်ဖြင့် ရက်သောအဝတ်၊ မြင်းမြီးဖြင့် ရက်သောအဝတ်၊ ဇီးအကွက်တောင်ကို ကြိုးဖြင့်သီထားသောအဝတ်။ ဤသို့အားဖြင့် လူတို့အမြင်၌ အံ့ဖွယ်ထူးဆန်း၍ ထိတ်လန့်ဖွယ်အဝတ်အထည်များကို ဝတ်ဆင်ကြသည်။

## ဝါဒရှင်များ၏ကျင့်စဉ် အချုပ် ၂ မျိုး

ဖော်ပြပါ သမဏပရိဗိုဇ်တို့သည် အများအားဖြင့် အောက်ပါကျင့်စဉ် ၂ မျိုးနှင့်ယှဉ်သော ဝါဒများကို ဖော်ထုတ်ဟောကြားခဲ့သည်။

၁- အတ္တကိလမထာနုယောဂအကျင့်

၂- ကာမသုခလ္လိကာနုယောဂအကျင့် ဟူ၍ ၂ မျိုး ခွဲခြားနိုင်သည်။

အတ္တကိလမထာနုယောဂအကျင့် ဆိုသည်မှာ မိမိကိုယ်ကို ညှဉ်းပန်းနှိပ်စက်မှသာ ဒုက္ခကုန်ဆုံး၍ လွတ်မြောက်မှုကိုရနိုင်မည် ဟုယုံကြည်ယူဆပြီး အစာငတ်ခံမှု, ဆူးပေါ်အိပ်မှု, ဝတ်လစ်စလစ်နေမှု, အေးလျှင် ရေချိုး၍ ပူလျှင်မီးလှုံမှု စသော ပင်ပန်းဆင်းရဲသောအကျင့်များကို ကျင့်ခြင်းဖြစ်သည်။ ပုရာဏကဿပ စသော တိတ္ထိဂိုဏ်းဆရာကြီး ၆ ဦး၊ ပါထိကပုတ္တတက္ကတွန်း, ကောရက္ခတ္တိယတက္ကတွန်း, ပုဏ္ဏနှင့် သေနိယတက္ကတွန်း, ပေါဋ္ဌပါဒပရိဗိုဇ်, သစ္စကပရိဗိုဇ်, ဥရုဝေလကဿပ။ ဤ ဖော်ပြပါဘာသာရေးခေါင်းဆောင်များသည် အတ္တကိလမထာနုယောဂအကျင့်ကို ကျင့်သုံးကြသည်။

ကာမသုခလ္လိကာနုယောဂအကျင့် ဆိုသည်မှာ ကာမဂုဏ် ၅ ပါးကိုခံစားခြင်းဖြင့် အဆုံးစွန်သောချမ်းသာနှင့် လွတ်မြောက်မှုကို ရနိုင်သည်ဟု ယုံကြည်ယူဆ၍ ကာမဂုဏ် ၅ ပါးကို ကြိုးပမ်းအားထုတ် ခံစားသောအကျင့် ဖြစ်သည်။ ကဋ္ဌာရမဋ္ဌကတက္ကတွန်းနှင့် မာဂဏ္ဍိယပရိဗိုဇ်တို့သည် ဤအကျင့်လမ်းစဉ်ကို ဦးဆောင်ကျင့်သုံးသော ခေါင်းဆောင်များဖြစ်ကြသည်။

ထိုမှတစ်ပါး ဗုဒ္ဓပွင့်တော်မမူမီက ပေါ်ထွန်းခဲ့သော အိန္ဒိယအယူဝါဒရှင်များ၏ အယူဝါဒများဖြစ်သော ဒိဋ္ဌိ ၆၂ ပါး, နိယတမိစ္ဆာဒိဋ္ဌိ ၃ မျိုး, သဿတဒိဋ္ဌိနှင့် ဥစ္ဆေဒဒိဋ္ဌိ, ပုဗ္ဗေဟေတုကတဒိဋ္ဌိ, ဣဿရနိမ္မာနဒိဋ္ဌိ, အတ္တဒိဋ္ဌိ ၂၀ စသည်တို့ကိုလည်း မြတ်စွာဘုရား ဟောကြားပြတော်မူခဲ့သည်။

## ဗြာဟ္မဏဂိုဏ်းကို ဆန့်ကျင်သော ပထမဦးဆုံးဂိုဏ်း

ဗြာဟ္မဏဘာသာ၌ ဗြာဟ္မဏဘုန်းကြီးများသည် အမျိုးဇာတ် ၄ မျိုးကို တီထွင်၍၊ 'မိမိတို့ ဗြာဟ္မဏတို့သည်သာ မဟာဗြဟ္မာ၏ခံတွင်းမှ မွေးဖွားလာသူများဖြစ်သောကြောင့် အမြတ်ဆုံး' ဟုဟောပြောခဲ့ကြသည်။ ၎င်းတို့သည်

အိမ်ရာတည်ထောင်၍ ရှာဓလေ့ကဲ့သို့ ဝတ်ဆင်ကြပြီး ပစ္စည်းများကို ရဲတင်းစွာအလှူခံခြင်း, ယဇ်ပူဇော်ခြင်းများဖြင့် ရသမျှသောစည်းစိမ်ဥစ္စာတို့ကိုလည်း စုဆောင်းနိုင်ကြသည်။

ဤသို့နေလာခဲ့ကြရာ ဗုဒ္ဓမြတ်စွာမမွေးဖွားမီ နှစ်ပေါင်း ၃၀၀ နီးပါးခန့် (ဂျိန်းစာပေအရ ဂျိန်းဘုရား မဟာဝီရ မပေါ်မီ နှစ်ပေါင်း ၂၅၀) ၌ ဗြာဟ္မဏဂိုဏ်းကို ဆန့်ကျင်သောဂိုဏ်းတစ်ဂိုဏ်း ပေါ်လာသည်။ ထို ဂိုဏ်းကား သမဏဂိုဏ်း ဖြစ်သည်။ ထိုသမဏဂိုဏ်းကို တည် ထောင်သူမှာ ဗာရာဏသီပြည်သား ပါဿဝ (ပါသနာထ) ဖြစ်သည်။ ပါဿဝ (ပါသနာထ)သည် ဂျိန်းဘာသာအရ တိတ္ထံကရ (အယူဝါဒတီထွင်သူ) ဂျိန်းဘုရား ၂၄ ဆူအနက် ၂၃ ဆူမြောက် တိတ္ထံကရ (ဂျိန်းဘုရား)ဖြစ်သည် ဟုဆိုသည်။

ပါဿဝ (ပါသနာထ)သည် မိမိ၏သမဏဂိုဏ်းဝင်များကို ဗြာဟ္မဏတို့နှင့်ဆန့်ကျင်ဘက်ပြုကာ အိမ်ထောင်မဲ့ ခေါင်းတုံး၍ သစ်ခေါက်ဆိုးအဝတ်ကိုသာ ဝတ်ဆင်စေခဲ့သည်။ ပစ္စည်းစုဆောင်းခြင်းကို ခွင့်မပြုသည့်အပြင် 'အလှူခံလည်း မခံရ' ဟုတားမြစ်ထားသည်။ 'သတ္တဝါကိုလည်း ငဲ့ညှာရမည်' ဟုဆိုသည်။ ပါဿဝ (ပါသနာထ) သည် ၄ ပါးသီလကိုလည်း ဟောကြားခဲ့သည်။

## သမဏဂိုဏ်း၏ (၄)ပါးသီလ

၁- ပါဏာတိပါတာ ဝေရမဏီ- သက်ရှိသတ္တဝါဟူသမျှကို သတ်ဖြတ်ညှဥ်းဆဲခြင်း မပြုရ။ မြေမှုန့်၊ ဖုန်မှုန့်, ရေပေါက်ရေစက်တို့သည် သက်ရှိသတ္တဝါများဖြစ်၍ ၎င်းတို့ကိုလည်း မဖျက်ဆီးရ။

၂- အဒိန္နာဒါနာ ဝေရမဏီ- သူတစ်ပါးပစ္စည်းကို ခိုးယူလုယက်မှုမှ ရှောင်ကြဉ်မှု။

၃- မုသာဝါဒါဝေရမဏီ- မုသားစကားဆိုခြင်းမှ ရှောင်ကြဉ်မှု။

၄- ဗဟိဒ္ဓါဒါနတော ဝေရမဏီ - ဘိက္ခုနှင့်မအပ်စပ်သော ပြင်ပ(ဗဟိဒ္ဓ)ဝတ္ထုများကို ရှောင်ကြဉ်မှု မိန်းမ, ရွှေငွေ စသောပစ္စည်းများကို အလှူမခံရ တို့ ဖြစ်သည်။

ဤသို့အားဖြင့် ထိုအချိန်မှစ၍ 'ဗြာဟ္မဏဂိုဏ်း, သမဏဂိုဏ်း' ဟူ၍ အပြိုင်ပေါ်လာခဲ့တော့သည်။ သမဏ ဂိုဏ်းသားတို့သည် ဝေဒကျမ်းများကို ပစ်ပယ်ကြသည့်အပြင်၊ ယဇ်ပူဇော်မှုများကိုလည်း ရှုတ်ချကြသောကြောင့် ကုန်ကျမှုများသော ယဇ်ပူဇော်မှုကို ငြီးငွေ့နေသောအချိန်ဖြစ်၍ လူတို့သည် ဗြာဟ္မဏတို့အားသွေဖည်ကာ သမဏတို့အား ပို၍ကြည်ညိုလာကြသည်။ ထိုအခါ ဝေဒရွတ်ပွဲနှင့် ယဇ်ပူဇော်ပွဲများကို အမှီပြု၍ အသက်မွေးကြသော ဗြာဟ္မဏတို့သည် လာဘ်လာဘဆုတ်ယုတ်လာကြတော့သည်။

ထို့ကြောင့် ဗြာဟ္မဏတို့သည် သမဏတို့အား လွန်စွာမုန်းတီးလာကြပြီး၊ သမဏတို့အားတွေ့မြင်တိုင်း 'မုဏ္ဍတာ (ကျက်သရေတုံးသော ခေါင်းတုံးများ), သမဏကာ (ကျက်သရေမဲ့သော သမဏများ), ဝသလာ (သူယုတ်မာများ)' ဟု ဆဲရေး ရေရွတ်ခဲ့ကြတော့သည်။

သို့သော် သမဏတို့သည် ၎င်းတို့၏ တပအကျင့်နှင့် ဟောပြောကျွမ်းကျင်မှုများကြောင့် လူအများ၏ ကြည်ညိုကိုးကွယ်မှုကို ခံခဲ့ကြရသည်။

**စာရဝကၡ၏ လောကာယတဂိုဏ်း**

ဤသို့ ဗြာဟ္မဏဂိုဏ်းနှင့် သာမဏဂိုဏ်းတို့ အားပြိုင်နေသည့်အချိန်အတွင်းမှာပင် စာရဝက (စာရ်ဗာက)၏ တတိယမြောက် လောကာယတဂိုဏ်း ပေါ်လာပြန်သည်။ ဤစာရဝက၏ လောကာယတဂိုဏ်းသားများကား ဗြာဟ္မဏဂိုဏ်း၏ဝါဒများကိုရော သမဏဂိုဏ်း၏ဝါဒများကိုပါ ဆန့်ကျင်ပစ်ပယ်သောဂိုဏ်း ဖြစ်သည်။

စာရဝက (စာရ်ဗာက)က -

''သေလျှင် ဘဝပြတ်သည်။ ပေးကမ်းလှူဒါန်းခြင်း စသောလုပ်ရပ်များသည် ပြာသာလျှင် အဆုံးရှိသည်။ ရုပ်တရားတို့ အချိုးတကျပေါင်းမိ၍ သိမှု ပေါ်လာရသည်။ ယင်းရုပ်တရားများ ပျက်က သိမှုတရားလည်း ပျက်ပြားသွားရတော့သည်။'

'နတ်ပြည်' ဟူ၍မရှိ။ 'လွတ်မြောက်ခြင်း' ဟူ၍မရှိ။ 'တမလွန်ဘဝတွင်ဖြစ်သော ဝိညာဉ်' ဟူ၍မရှိ။

'ဗြာဟ္မဏတို့၏ မျိုးဇာတ်ခွဲခြားမှု အကျိုးမရှိ။ လူ့ဘဝကို ၄ ပိုင်း ပိုင်းခြားထားခြင်း (အာသရာဓမ္မ)၌ အဓိပ္ပာယ်မရှိ။

'ယဇ်ပူဇော်ရာ၌ သတ်ဖြတ်ခြင်းခံရသောတိရစ္ဆာန်သည် နတ်ပြည်သို့ ထုတ်ချောက်ရောက်သည် ဟုအဆိုရှိ၏။ သို့ဖြစ်လျှင် ယဇ်ပူဇော်သူသည် သူ၏ဖခင်ကို အဘယ်ကြောင့် သတ်ဖြတ်၍ မပူဇော်သနည်း။

'အသက်ရှင်နေစဉ်ဝယ် ပျော်ပျော်နေပါ။ လူတစ်ယောက်သည် အကြွေးတင်ချင်တင်ပါစေ။ အသက်ရှင်နေစဉ်၌ ထောပတ်ဖြင့် (ကောင်းမွန်သောအရသာဖြင့်) စားသောက်ပါ။ အဘယ်ကြောင့်ဆိုသော် လူ၏ကိုယ်ခန္ဓာသည် ပြာအဖြစ်သို့ ရောက်သွားသည်ရှိသော် ဤဘဝသို့ အဘယ်နည်းဖြင့် ပြန်လာနိုင်တော့ပါမည်နည်း။

'မိမိနေးကိုလည်းကောင်း, မိမိ၏ ငွေကြေးကိုလည်းကောင်း စောင့်ရှောက် ထိန်းသိမ်းသင့်၏။ သို့ရာတွင် မိမိ၏တည်မြဲရေးအတွက် လိုအပ်လာလျှင် ၄င်းတို့ ၂ မျိုးစလုံးကိုပင် စွန့်ပစ်လိုက်ပါ။ အဘယ်ကြောင့်ဟူမူ ငွေနှင့် မိန်းမကို နောင်တွင် ထပ်၍ရနိုင်သော်လည်း လူ့ဘဝမှာမူ သေလျှင် နောက်ထပ် မရနိုင်သောကြောင့် ဖြစ်၏' ဟုဟောပြောခဲ့သည်။

အမှန်မှာ စာရဝက၏ လောကာယတဝါဒသည် 'ဖန်ဆင်းရှင် ထာဝရဘုရား, ကံတရား, နောင်ဘဝရှိမှု' စသည်များကို လုံးဝငြင်းပယ်သော ရုပ်ကြမ်းဝါဒပင် ဖြစ်သည်။

ဗြာဟ္မဏဂိုဏ်းများကို ဆန့်ကျင်သောဂိုဏ်းများသည် ဖော်ပြပါ ပါသျှဝ (ပါသနာထ)၏ သမဏဂိုဏ်းနှင့် စာရဝက၏ လောကာယတဂိုဏ်းများအပြင်၊ ၆ ရာစုဘီစီသို့ ရောက်လာသောအခါ အခြားသော ဝါဒရှင် (တိတ္ထိယ) များလည်း အများအပြားပေါ်လာတော့သည်။ ၄င်းတို့အနက် အထက်၌ဖော်ပြခဲ့သည့်အတိုင်း မိမိတို့ကိုယ်ကို 'ဘုရား' ဟုဝန်ခံသော ဘုရားကြီး ၆ ဆူလည်းပါဝင်သည်။ ယင်းဘုရားကြီး ၆ ဆူနှင့် အခြားဝါဒရှင်များမှာ အောက်ပါအတိုင်းဖြစ်ကြသည်။

**၁- ပုရာဏကဿပ၏ အကိရိယဝါဒ**

'ပုရာဏ'မှာ အမည်ရင်းဖြစ်၍ 'ကဿပ'မှာ အနွယ် ဖြစ်သည်။ သူ၏မျိုးရိုးမှာ ကျွန်မျိုး ဖြစ်သည်။ ကျွန်ပိုင်ရှင်ကြီးတစ်ဦး၏ ကျွန် ၁၀၀ ပြည့်ရန် တစ်ယောက်လိုနေချိန်တွင် ကဿပကို မွေးဖွားလာရာ ကျွန် ၁၀၀ ပြည့်သွားသောကြောင့် ပုရာဏ(ရာပြည့်) ဟုအမည်တွင်လာသည်။ 'ရာပြည့်မင်္ဂလာကျွန်'ဖြစ်၍ အခိုင်းအစေမခံရဘဲ

ချမ်းသာစွာနေရသည်။ သို့သော်လည်း သူသည် ထိုအိမ်၌မနေလို၍ ထွက်ပြေးလာရာ လမ်းခုလတ်၌ ခိုးသားဓားပြများက သူ၏အဝတ်အစားများကို ချွတ်ယူလိုက်ကြသည်။ သူသည် ကိုယ်တုံးလုံးဖြင့်ပင် ရွာတစ်ရွာသို့ ဝင်သွားခဲ့သည်။ ရွာသားတို့က မြင်လျှင်၊ 'ဤသူသည် အခြားသူများနှင့်မတူ။ အလိုနည်းသော ရဟန္တာပင်ဖြစ်မည်' ဟု ထမင်း၊ မုန့် စသည်များကို လှူဒါန်းကြသည်။

ပုရာဏသည် 'အဝတ်မဝတ်၍သာ ဤသို့အပူဇော်ခံရသည်' ဟု အထင်ရှိသွားပြီး နောင်အခါ၌ အဝတ်အစားရသော်လည်း မဝတ်တော့ဘဲ ဝတ်လစ်စလစ်တက္ကတွန်းအဖြစ်ဖြင့် ဆက်လက်နေထိုင်ခဲ့သည်။ သူ့ထံ၌ တပည့်ခံ၍ အဝတ်မဝတ်သောအကျင့်ကိုကျင့်သည့် တက္ကတွန်းပေါင်း ၅၀၀ အထိ ရှိသည်။

သူသည် အကိရိယဝါဒကို တီထွင်ဟောပြော၍ ဘုရား ဟု ဝန်ခံသူဖြစ်သည်။ သူ၏ 'အကိရိယဝါဒ ဟူသည်မှာ ကောင်းမှု၊ မကောင်းမှုပြုသော်လည်း ပြုသည် မမည်။ ပြုရာမရောက်' ဟူသောဝါဒ ဖြစ်သည်။

ဤဝါဒအရ 'သိမ်မွေ့နူးညံ့သည့်သဘောရှိသော ဇီဝကို 'အတ္တ' ဟုယူဆ၍ ယင်းအတ္တကို အထည်၊ ဒြပ်ဝတ္ထု မရှိသောကြောင့် မည်သူမျှ ဖျက်ဆီး၍မရ၊ ထာဝစဉ် တည်မြဲသောသဘောရှိသည်။ ခန္ဓာကိုယ်ကား ထင်းတုံးကဲ့သို့ စိတ်စေတနာ မရှိသောအရာ ဖြစ်သည်။ ကိုယ်ခန္ဓာကြီးကို သတ်ဖြတ်ညှဉ်းဆဲသော်လည်း အတ္တကို တစ်စုံတစ်ရာထိခိုက်မှုမရှိသောကြောင့် ထင်းတုံးကြီးကို ဖျက်ဆီးသကဲ့သို့ မကောင်းမှုတစ်စုံတစ်ရာ မဖြစ်ချေ။ ထို့ကြောင့် ပါဏာတိပါတ စသော အမှုကိုပြုသည် ဟု လူတို့ထင်ကြသော်လည်း အတ္တကိုမထိခိုက်သောကြောင့် ပြုရာမရောက်ချေ။ ပြုလုပ်မှု ဟူသမျှသည် ပတ်ဝန်းကျင်အခြေအနေအရ ဖြစ်ပေါ်ကြရသည်။ တံငါနားနီး တံငါ ဖြစ်ပြီး မုဆိုးနားနီး မုဆိုး ဖြစ်သကဲ့သို့ အခြေအနေပေါ် လိုက်လျောညီထွေ ဖြစ်နေကြရသည်။ ထို့ကြောင့် 'ကောင်းမှု၊မကောင်းမှု'ဟု မခေါ်သင့်ချေ။ 'ကောင်းသောအလုပ်၊ မကောင်းသောအလုပ်' ဟူသည်မှာ အမှန်တကယ်အားဖြင့် မရှိ။ လူတို့၏သတ်မှတ်ချက်အရသာ ခေါ်ဝေါ်နေကြခြင်းဖြစ်သည်' ဟုယူဆဟောပြောသည်။

## ၂- မက္ခလိဂေါသာလ၏ အဟေတုကဝါဒ
## (သံသာရသုဒ္ဓိဝါဒ ဟုလည်းခေါ်)

မက္ခလိဂေါသာလသည်လည်း ကျွန်မျိုး ဖြစ်သည်။ နွားခြံထဲ၌ မွေးဖွားသောကြောင့် 'ဂေါသာလ' ဟု အမည်ရသည်။ သူသည် ရွှံ့နွံရှိသောမြေ၌ ဆီအိုးကိုယူလာရာ အရှင်သခင်ဖြစ်သူက 'မာခလိ' (ချော်မလဲစေနှင့်) ဟု သတိပေးဆဲ၌ပင် ချော်လဲ၍ ဆီအိုးကွဲသွားသည်။ အရှင်သခင်ဖြစ်သူ ရိုက်မည်စိုး၍ ထွက်ပြေးရန်ဟန်ပြင်လိုက်စဉ် သခင်က ပုဆိုးစကိုဆွဲထားသဖြင့် ပုဆိုးကိုချွတ်၍ ထွက်ပြေးသည်။ ပုရာဏကဿပ ကဲ့သို့ပင် ရွာတစ်ရွာသို့ ဝင်ရောက်သွားသောအခါ ရွာသူရွာသားတို့က ရဟန္တာဟု ထင်မှတ်ကိုးကွယ်ခဲ့ကြသည်။

'မာခလိ' (ချော်မလဲစေနှင့်) ဟူသော သခင်စကားကို အစွဲပြု၍ 'မက္ခလိ' ဟုဆိုကြရာမှ အမည်ရင်းနှင့် ပေါင်းလိုက်သောအခါ 'မက္ခလိဂေါသာလ' ဟု အမည်တွင်လာရတော့သည်။ သူ့ထံ၌လည်း တပည့်အာဇီဝက တက္ကတွန်း ၅၀၀ ရှိသည်။ သူလည်း အဟေတုက အယူဝါဒကို တီထွင်ဟောပြော၍ 'ဘုရား' ဟု ဝန်ခံသူ ဖြစ်သည်။

မက္ခလိသည် ဂိုန်း၏တပည့် ဖြစ်ခဲ့ဖူးသည်။ 'ဆရာကို ဆန့်ကျင်ဘက်ပြုပြီး ဂိုဏ်းခွဲသူဖြစ်သည်' ဟု ဂိုန်းဘာသာဝင်တို့က ဆိုကြသည်။ ယနေ့အထိ အိန္ဒိယနိုင်ငံရှိ ဂိုန်းဘာသာဝင်တို့သည် ထော်လော်ကန့်လန့်လုပ်သူကို 'မက္ခလိ'ဟု ကဲ့ရဲ့ရှုတ်ချလေ့ရှိကြသည်။

သူ၏ 'အဟေတုကဝါဒ' ဟူသည်မှာ 'အကြောင်းမရှိ' ဟု ယူသောဝါဒ ဖြစ်သည်။

'သတ္တဝါတို့ စင်ကြယ်မှု, ညစ်နွမ်းမှု, သံသရာဝဋ်ဆင်းရဲမှ လွတ်မြောက်မှုတို့ကား အကြောင်းမရှိ။ အချိန်စေ့က အလိုအလျောက် လွတ်မြောက်နိုင်သည်' ဟုဆိုသည်။

'သံသရာသက်တမ်း ကုန်ဆုံးချိန်၌ ဘာမျှမလုပ်ရဘဲ၊ သဘာဝအတိုင်း အားလုံးအတူတကွ စင်ကြယ်ကြ၊ လွတ်မြောက်ကြမည်' ဟု ယူဆသောကြောင့် 'သံသာရသုဒ္ဓိဝါဒ'လည်း မည်သည်။ ဤဝါဒသည် ဥပပတ္တိသုဒ္ဓိဝါဒ နှင့် ဆင်တူသည်။ သို့သော် ဥပပတ္တိသုဒ္ဓိဝါဒမှာ 'ဘဝမျိုးစုံ အတွေ့အကြုံများမှသာ အတ္တသည် ရင့်ကျက်၍ ကိလေသာကင်းစင်ပြီး သံသရာမှလွတ်မြောက်သည်' ဟူ၏။ သံသာရသုဒ္ဓိဝါဒအရမှာမူ ဘဝမျိုးစုံရန် မလို။ အချိန်စေ့ရန်သာ လိုသည်။ ထို့ကြောင့် 'သံသရာသည် အချိန်ကာလအားဖြင့် မဟာကပ် ၈ သန်း ၄ သိန်းသာရှိ၍' ၎င်းကာလကုန်ဆုံးသောအခါ သံသရာလည်း ကုန်ဆုံးသွားတော့သည်' ဟုဆိုသည်။ ဥပမာ ချည်လုံးကို ဖြည်၍ ပစ်လွှတ်လိုက်လျှင် ချည်လုံး၌ရစ်ပတ်ထားသော ချည်ရှိသလောက်သာပြေးပြီး ချည်ကုန်လျှင်ဆက်မပြေးဘဲ ရပ်သွားသကဲ့သို့ ဖြစ်သည်' ဟုဆိုသည်။

'ထိုကာလအတွင်း မိမိတို့ကျရာဘဝမျိုးစုံ ကျင်လည်ကြရသည်။ မိမိတို့ကိုယ်တိုင်က တစ်စုံတစ်ရာ ပို၍ ကောင်းသွားစေရန်, ပို၍ဆိုးသွားစေရန် ပြုပြင်ဖန်တီးနိုင်စွမ်း မရှိချေ။ ဖြစ်ချိန်တန်လျှင်ဖြစ်၍ ပျက်ချိန်တန်လျှင် ပျက်ကြရသည်။ သတ္တဝါတို့၌ စွမ်းအားသတ္တိ တစ်စုံတစ်ရာမရှိ' ဟုဟောသည်။

လူတို့၏ အသိပညာ, ချမ်းသာ ဆင်းရဲ မတူကွဲပြားနေရခြင်းကို အောက်ပါ အချက် ၃ ချက်ဖြင့် ဖြေရှင်း ပြသည်။

၁- နိယတိပရိဏာတာ (သတ်မှတ်ချက်အရ အထူးထူးအပြားပြား ဖြစ်ရခြင်း)

မဟာဝီရ (နိဂဏ္ဌနာဋပုတ္တ)၏ အယူဝါဒအရ 'ဒုက္ခသည် ကံဟောင်းကြောင့် ဖြစ်ရ၍၊ ကံဟောင်း ကြောင့် ခံစားရမည့်ဒုက္ခများကို တစ်ခါတည်း စုပြုံခံစားပြီး၍ ကံအသစ်ကို မပြုလုပ်ဘဲနေလျှင် ကံကုန်သောကြောင့် ဒုက္ခကုန်ဆုံး၍ သံသရာမှလွတ်မြောက်မည်' ဟုဆိုသည်။

ဤအဆိုကို မက္ခလိ ဂေါသာလဦးဆောင်သော အာဇီဝကဂိုဏ်းက တိုက်ဖျက်သည်။ 'သတ္တဝါတို့ မှာ ဘဝအသီးသီးအတွက် ကြိုတင်သတ်မှတ်ချက်များ ရှိသည်။ သတ္တဝါတစ်ဦးစီအတွက် မိမိတို့ တွေ့ကြုံခံစားရမည့် သုခ ဒုက္ခကို အတိအကျသတ်မှတ်ပြီး ဖြစ်သည်။ ထို ဝေစုရထားသော သုခ ဒုက္ခကို အများတကာထက် ဦး၍, နောက်ကျ၍ ကုန်ဆုံးအောင်မပြုနိုင်ချေ။ သတ္တဝါအားလုံး အတူတကွ တစ်ပြိုင်နက်သာလျှင် ဝေပုံကျရရှိထားသော ဆင်းရဲဒုက္ခကို ခံစားကြရသည်။ လူလိမ္မာ အတွက် သံသရာပိုတိုမှု, လူမိုက်အတွက် သံသရာပိုရှည်မှု ရှိမည်မဟုတ်' ဟုဆိုသည်။

၂- သင်္ဂတိပရိဏာတာ (ပေါင်းဆုံခြင်းဖြင့် အထူးထူးအပြားပြားဖြစ်ခြင်း)

'ချမ်းသာဆင်းရဲ မတူကြခြင်းမှာ သတ္တဝါတို့၏ ကံ,ဉာဏ်,ဝီရိယ ကွာဟမှုကြောင့်မဟုတ်ဘဲ 'သင်္ဂတိ' ခေါ် အဘိဇာတိ ၆ မျိုး၌ ကြုံရဆုံရမှုကြောင့်သာ ဆင်းရဲချမ်းသာ ကွာခြားရခြင်း ဖြစ် သည်' ဟုဆိုသည်။ မက္ခလိဂေါသာလ ဟောကြားသော အဘိဇာတိ ၆ မျိုးမှာ အောက်ပါအတိုင်း ဖြစ်သည် -

၁- ကဏှာဘိဇာတိ (အမည်းမျိုး) = မုဆိုး, တံငါ, ခိုးသားဓားပြနှင့် သားသတ်သမားများ။

၂- နီလာဘိဇာတိ (အညိုမျိုး) = အာဇီဝကတဏ္ဍတွန်း မဟုတ်သော သမဏဂိုဏ်းဝင် ရဟန်းများ၊ အခြား ရသေ့နှင့် ပရိဗိုဇ်များ။

၃- လောဟိတာဘိဇာတိ (အနီမျိုး) = အာဇီဝကတဏ္ဍတွန်းတို့၏ အဝတ်ဖြူဝတ်သော တပည့် သာဝကများ။

၄- ဟလိဒ္ဒါဘိဇာတိ (အဝါမျိုး) = အဝတ်တစ်ထည်ဖြင့် ကိုယ်ရှေ့ပိုင်းကိုသာ ဖုံးလွှမ်းဝတ် သော နိဂဏ္ဌဂိုဏ်းဘုန်းကြီးများ။

၅- သုက္ကာဘိဇာတိ (အဖြူမျိုး) = ဝတ်လစ်စလစ်ကျင့်သော အာဇီဝက တဏ္ဍတွန်းများ။

၆- ပရမသုက္ကာဘိဇာတိ (အလွန်ဖြူစင်သောအမျိုး) = အာဇီဝကခေါင်းဆောင် ဆရာကြီး ၃ ဦး ဖြစ်သော နန္ဒဝစ္ဆ၊ ကိသသံကိစ္စ၊ မက္ခလိ ဂေါသာလ။

'သတ္တဝါတို့သည် ဖော်ပြပါ 'ဇာတိ' ခေါ် အမျိုးဇာတ် ၆ ပါး၌ မိမိတို့ဖြစ်ရာ အမျိုးဇာတ်အလိုက် လိမ္မာမှု၊ မိုက်မဲမှု ဖြစ်ကြသည်။ ဆင်းရဲချမ်းသာ ခံစားကြရသည်။ လူ့အဆင့်အတန်း ကွဲပြားကြရသည်။ လောကဘဝဇာတ်ခုံ ပေါ်တွင် မိမိတို့ ကျရာအခန်းမှ ပါဝင်ကပြရခြင်းသာဖြစ်၍ ကောင်းမှု၊ မကောင်းမှုဟူ၍ မဖြစ်နိုင်။ လွတ်မြောက် အောင် ကြိုးပမ်းရန်မလို' ဟုဆိုသည်။

၃- ဘာဝပရိဏတာ (သဘာဝတရားအတိုင်း အထူးထူးအပြားပြား ဖြစ်ရခြင်း)

'သတ္တဝါတို့သည် သဘာဝအလျောက် သုခ ဒုက္ခကို ခံစားကြရပြန်သည်။ အဆင့်အတန်းမတူဘဲ ကွဲပြားခြားနားကြရပြန်သည်။ ဆူးသည် ဆူးဖြစ်သောကြောင့် ဆူး၏ပင်ကိုသဘာဝအလျောက် အဖျား ချွန်ရသည်။ အချုပ်မှာ သက်ရှိသက်မဲ့၊ အရာအားလုံးသည် သဘာဝတရားကပြဌာန်းပေးထား ချက်အရ ဖြစ်နေကြရ၊ ခံစားနေကြရသည်' ဟုဆိုသည်။

## ၃- အဇိတကေသကမ္ဗလ၏ နတ္ထိကဝါဒ

အဇိတသည် သူ၏အမည်ရင်း ဖြစ်သည်။ သူသည် လောဘအလိုဆန္ဒ နည်းသူဖြစ်ကြောင်းပြရန် ဆံပင် ကမ္ဗလာကို ဝတ်သည်။ ဆံပင်ကမ္ဗလာ (ဆံပင်အဝတ်)ကား လူ့ဆံပင်တို့ဖြင့် ရက်လုပ်ထားသောအဝတ် ဖြစ်သည်။ အဝတ်တကာတွင် အယုတ်ညံ့ဆုံး ဖြစ်သည်။ ပူချိန် အလွန်ပူပြီး၊ အေးချိန် အလွန်အေးသည်။ တန်ဖိုးလည်း မရှိ။ အတွေ့လည်း ကြမ်းသည့်အပြင်၊ အဆင်းမလှ၊ အနံ့ဆိုးလျက် ရှိသည်။ သူသည် ထိုဆံပင်ကမ္ဗလာကို ဝတ်ဆင်သော ကြောင့် ကေသကမ္ဗလဟု ခေါ်ကြရာမှ အမည်ဟောင်းနှင့်ပေါင်းစပ်လိုက်သောအခါ 'အဇိတကေသကမ္ဗလ' အမည်တွင်လာသည်။ သူသည်လည်း နတ္ထိကဝါဒကို တီထွင်ဟောပြော၍ 'ဘုရား' ဟု ဝန်ခံသူဖြစ်သည်။

ထိုအချိန်၌ လောကကိုပြုပြင်ရေး၊ တိုးတက်အောင်ကြံဆောင်ရေးအတွက် အရေးပါသောအချက်ကြီး ၁၀ ချက်ကို 'အရှိတရား၊ အမှန်တရား' ဟု လူတို့ ယုံကြည်လက်ခံနေကြသောအချိန် ဖြစ်သည်။ ထိုအချက် ၁၀ ချက်ကို 'နတ္ထိ' (မရှိ) ဟု ငြင်းပယ်သောဝါဒဖြစ်သည်။ 'မရှိ' ဟု ငြင်းပယ်သောအချက် ၁၀ ချက်မှာ အောက်ပါအတိုင်းဖြစ်သည်။

၁- နတ္ထိ ဒိန္နံ - ပေးလှူသောပေးကမ်းခြင်း အကျိုးမရှိ။

၂- နတ္ထိ ယိဋ္ဌံ - ကြီးကျယ်သောယဇ်ပူဇော်မှု အကျိုးမရှိ။

၃- နတ္ထိ ဟုတံ - အဝေးမှဆောင်ယူခဲ့သောလှူခြင်းသည်လည်း အကျိုးမရှိ။

၄- နတ္ထိ သုကတဒုက္ကတာနံ ကမ္မာနံ ဖလံ ဝိပါကော - ကောင်းမှု၊မကောင်းမှုကံ၏ အကျိုးမရှိ။

၅- နတ္ထိ အယံ လောကော - ပစ္စုပ္ပန်ဤလောကလည်း မရှိ။

၆- နတ္ထိ ပရော လောကော - တမလွန်လောက နတ်ပြည် စသည်လည်း မရှိ။

၇- နတ္ထိ မာတာ - အမိကိုစော်ကားခြင်းကြောင့် အပြစ်မရှိ။ အမိကိုရိုသေခြင်းကြောင့် အကျိုးမရှိ (အမေမရှိ)။

၈- နတ္ထိ ပိတာ - အဖကိုစော်ကားခြင်းကြောင့် အပြစ်မရှိ။ အဖကိုရိုသေခြင်းကြောင့် အကျိုးမရှိ (အဖေမရှိ)။

၉- နတ္ထိ သတ္တာ ဩပပါတိကာ - သေလွန်ပြီး နောက်ဘဝ၌ ပြန်လည်(ပဋိသန္ဓေနေ)ခြင်း မရှိ။

၁၀- နတ္ထိ လောကေ သမဏဗြာဟ္မဏာ - ပစ္စုပ္ပန်လောကနှင့် တမလွန်လောကကို ကိုယ်တိုင်သိမြင်၍ ညွှန်ကြားဟောပြနိုင်သော သမဏ ဗြာဟ္မဏ ဟူ၍ မရှိချေ။ (ဈာန်အဘိညာဉ် တန်ခိုးရှိသော ရဟန်း ဟူ၍ မရှိ။)

အချုပ်အားဖြင့် သူ၏ နတ္ထိကဝါဒမှာ 'ကောင်းမှု၊မကောင်းမှု ကံအကျိုး မရှိ' ဟူသောဝါဒပင် ဖြစ်သည်။ တစ်နည်းအားဖြင့် 'နောက်ဘဝ မရှိ။ သေလျှင် ဘဝသံသရာ ပြတ်စဲသည်' ဟုယူဆသော ဉစ္ဆေဒဝါဒ ဖြစ်သည်။ ရုပ်ကိုသာ အမှန်အရှိတရားအဖြစ် ယူဆသောကြောင့် 'ရုပ်ဝါဒ' ဟူ၍လည်း ခေါ်နိုင်သည်။

အဇိတကေသကမ္ဗလသည် ရုပ်ကိုသာလက်ခံ၍ 'လောကတွင် မြေ၊ ရေ၊ လေ၊ မီး ဓာတ်ကြီး ၄ ပါးသာရှိသည်' ဟုယူသည်။

'မဟာဘုတ် ၄ ပါးတို့ အချိုးအစား အမျိုးမျိုးပေါင်းစပ်မှုကြောင့် အရာဝတ္ထုများ၊ သစ်ပင်နှင့် သတ္တဝါများ ကွဲပြားနေကြခြင်း ဖြစ်သည်။ မူလအခြေခံမှာ ဓာတ်ကြီး ၄ ပါးမျှသာဖြစ်၍ သက်ရှိနှင့်သက်မဲ့ ကွာခြားခြင်း မရှိချေ။

'လူသေသောအခါ လူ၏ကိုယ်မှ မြေ၊ ရေ၊ လေ၊ မီး ဓာတ်တို့သည် ပြင်ပရှိကမ္ဘာက မြေ၊ ရေ၊ လေ၊ မီးဓာတ်ကြီးတို့နှင့် ပေါင်း စည်းသွားကြသည်။

'မျက်စိ အကြည်ဓာတ်၊ နား အကြည်ဓာတ် စသော ဣန္ဒြေရုပ်တို့သည် သိမ်မွေ့သော ရုပ်များဖြစ်ကြ၍ အနန္တအာကာသအတွင်းသို့ ပျံ့တက်သွားကြကုန်သည်။

'အလှူဒါနကို လူမိုက်များက ဟောပြောနေကြသည်။ နောင်ဘဝ ရှိသည်။ ဒါနအကျိုး ခံစားရမည်။ မိဘကျေးဇူး သိတတ်ရမည် ဟူသောဟောပြောခြင်းများသည် လိမ်ညာမှုသာ ဖြစ်သည်။

'လူတစ်ယောက်၏ ကောင်းဂုဏ်သတင်းနှင့် မကောင်းဆိုးသတင်းများသည် သင်္ချိုင်းရောက်က ပျောက်သည်။ အလောင်းကိုမီးရှို့၍ ပြာကျသောအခါ ဘာမျှမကျန်တော့' ဟုဆိုသည်။

ပူရဏကဿပ၏ အကိရိယဝါဒ၊ မက္ခလိဂေါသာလ၏ အဟေတုကဝါဒ၊ အဇိတကေသကမ္ဗလ၏ နတ္ထိကဝါဒ၊ ဤ ၃ မျိုးကို ယုံကြည်သူများသည် 'ကံပယ်ဝါဒများဖြစ်သဖြင့် သေလျှင် ငရဲကျရန် သေချာမလွဲ မြဲသောကြောင့် ထိုဝါဒ ၃ မျိုးကို နိယတမိစ္ဆာဒိဋ္ဌိဝါဒ' ဟု ဗုဒ္ဓမြတ်စွာဘုရားက ဟောကြားတော်မူသည်။

## ၄- ပကုဓကစ္စာယနနှ၏ သတ္တကာယဝါဒ

ပကုဓသည် သူ၏နာမည်ရင်း ဖြစ်သည်။ 'စိတ်ဆိုးလွယ်သူ, ဒေါသကြီးသူ' ဟုအဓိပ္ပာယ်ရသည်။ 'ကစ္စာယန'ကား သူ၏ အမျိုးအနွယ်အမည် ဖြစ်သည်။

ပကုဓကစ္စာယနသည် 'ရေအေးကို အသက်ရှိသည်' ဟုယူဆကာ ရေအေးကို လုံးဝအသုံးမပြု။ အိမ်သာတက်သောအခါ၌ပင် ရေအေးကို အသုံးမပြု။ ရေနွေး၊ သို့မဟုတ် ပအုန်းရည်ကိုရရှိမှသာ သန့်သက် ရေဆေးသည်။ မရလျှင် မဆေးဘဲ နေသည်။

'လမ်း၌ရှိသောရေ, မြစ်ရေ, ချောင်းရေတို့ကို ဖြတ်ကူးမိလျှင် သီလပျက်သည်' ဟုအယူရှိသည်။ ထို့ကြောင့် သူသည် ရေကိုဖြတ်ကူးမိလျှင် သဲပုံစေတီတည်၍ သီလ ပြန်လည်ဆောက်တည်ပြီးမှ သွားသည်။

သူလည်း သတ္တကာယဝါဒကို တီထွင်ဟောပြော၍ 'ဘုရား' ဟု ဝန်ခံနေသူဖြစ်သည်။ အချို့က ၄င်း၏ အယူသည် 'သဿတအယူ ဖြစ်သည်'ဟု ဆိုသည်။

သူ၏ဝါဒကား အတ္တဝါဒပင် ဖြစ်သည်။ အတ္တသည် မလှုပ်မယှက် ငြိမ်သက်နေပြီး အမြဲတည်လျက်ရှိသည်။ သူသည် ထို မြဲသောအတ္တကို 'ကာယ'ဟု အမည်ပေးပြီး၊ ကာယ ၇ မျိုးကို ဖော်ပြသဖြင့် သူ့ဝါဒကို 'သတ္တကာယဝါဒ' ဟုခေါ်ဆိုခြင်း ဖြစ်သည်။

ကာယ ၇ ပါးကား အောက်ပါအတိုင်းဖြစ်သည်။

၁- ပထဝီကာယ (မြေဓာတ်)။ ၂- အာပေါကာယ (ရေဓာတ်)။ ၃- တေဇောကာယ (မီးဓာတ်)။ ၄-ဝါယောကာယ (လေဓာတ်)။ ၅- သုခကာယ (ချမ်းသာခြင်း)။ ၆- ဒုက္ခကာယ (ဆင်းရဲခြင်း)။ ၇- ဇီဝကာယ (အသက်)။

'ထို ကာယ ၇ ပါးအပေါင်း၌ ကိုယ်တိုင်သတ်သူ, နှာကြားသူ, သိသူ, သူတစ်ပါးအားသတ်စေသူ, နှာကြားစေသူ, သိစေသူ မရှိချေ။ တစ်ယောက်ယောက်က ဦးခေါင်းကို ဓားထက်ထက်ဖြင့်ဖြတ်သော်လည်း တစ်စုံတစ်ယောက်သည် တစ်စုံတစ်ယောက်ကိုသတ်သည် မဟုတ်။ ထို ကာယ ၇ ပါးအကြားသို့ ဓားသွား ဖြတ်သန်းသွားခြင်းသာ ဖြစ်သည်။ ကာယ ၇ ပါး၌ပါဝင်သော ဇီဝကာယ (အသက်ဝိညာဉ်)သည် လုံးဝ ထိနိုက်မှု မရှိ၊ သေဆုံးပျက်စီးခြင်း မရှိသောကြောင့် လူသတ်မှု မဖြစ်ပေ။ ဤကာယ ၇ ပါးသည် ဘာကိုမျှ မပြုလုပ်တတ်။ ၄င်းတို့ကိုလည်း မည်သည့်တန်ခိုးရှင်ကမျှ မဖန်ဆင်းဘဲ သူ့အလိုလို တည်ရှိနေကြသည် ဟုဟောသည်။

ဤသတ္တကာယဝါဒသည် ပုရာဏကဿပ၏ အကိရိယဝါဒနှင့် တူသည်။ သို့သော် ပုရာဏကဿပသည် ဇီဝကိုသာ 'အတ္တ' ဟုယူဆသည်။ ပကုဓကား ပထဝီ, အာပေါ, တေဇော, ဝါယော ဟူသော ရုပ်ကိုရော၊ သုခ, ဒုက္ခ, ဇီဝ ဟူသော နာမ်တရားကိုပါ 'အတ္တ' ဟုယူဆသည်။

## ၅- သဉ္စယဗေလဋ္ဌပုတ္တ၏ အမရာဝိက္ခေပဝါဒ

သူ၏နာမည်မှာ သဉ္စယ ဖြစ်၍ 'စုဝေးရာ'ဟု အဓိပ္ပာယ်ထွက်သည်။ 'အတတ်ပညာတို့ စုဝေးရာ ဆရာကြီး' ဟု ဆိုလိုသည်။ ဗေလဋ္ဌ၏သား ဖြစ်သောကြောင့် 'ဗေလဋ္ဌပုတ္တ'ဟု ခေါ်ပြန်သည်။ သဉ္စယမှ သိဉ္စည်း ဟူသော ဝေါဟာရ ဖြစ်လာသည်။ သူသည် အမရာဝိက္ခေပဝါဒကို တီထွင်၍ 'ဘုရား'ဟု ဝန်ခံကာ ရှင်သာရိပုတ္တရာနှင့် ရှင်မဟာမောဂ္ဂလာန်အပါအဝင် တပည့် ၅၀၀ ရှိသူ ဖြစ်သည်။

'အမရာ' ဟူသောငါးသည် ရေအောက်ငုပ်သွားသောအခါ သွားရာလမ်းကို မသိရသကဲ့သို့ သူ၏ဝါဒကို မည်သည့်ဝါဒဟု ညွှန်ပြရန်ခက်ခဲသောကြောင့် 'အမရာဝါဒ'ဟု ခေါ်သည်။ တစ်နည်းအားဖြင့် 'အမရာ' ခေါ် ငါးရှဉ့်သည် အဖမ်းရခက်သည်။ သူ၏ဝါဒသည် ဘာကိုမျှ တိတိပပမဖော်ပြဘဲ ရှောင်တိမ်းတတ်သောကြောင့် သူ၏ဝါဒကို ငါးရှဉ့်ကဲ့သို့ အဖမ်းရခက်သော 'အမရာဝါဒ' ဟု ခေါ်သည်။ မေးသည်ကို တိုက်ရိုက်မဖြေဘဲ မဆိုင်သည့်ဘက်သို့ စကားလိုးလွှဲတတ်သောကြောင့် 'ဝိက္ခေပ'လည်း မည်သည်။ ၂ ခုကို ပေါင်းစပ်လျက် သူ၏ဝါဒကို 'အမရာဝိက္ခေပ' ဟု အမည်ပေးထားသည်။ နောင်အခါ ၎င်းဝါဒကို ဘာမျှမသိ အညာဏဝါဒဟူ၍ လည်းကောင်း၊ (မယုံမှု) သံသယဝါဒ ဟူ၍လည်းကောင်း ခေါ်ကြသည်။

အမှန်စင်စစ်အားဖြင့် သိဉ္စည်းဆရာကြီးသည် အယူဝါဒအားလုံးကို နားလည်တတ်ကျွမ်းသည်။ သို့ရာတွင် မည်သည့်အယူဝါဒမျှ အပြစ်တင်ခံရမည့်ဘေးမှ မလွတ်နိုင်သောကြောင့် အပြစ်တင်ခံရမည်ကိုကြောက်၍ မိမိအယူဝါဒကို မဖော်ပြဘဲ ရှောင်လွှဲဖုံးကွယ်လေ့ရှိသည်။ သိဉ္စည်းဆရာကြီးသည် အောက်ပါနည်း ၅ နည်းဖြင့် ပြဿနာများကို ရှောင်တိမ်းလေ့ရှိသည်။

၁- မေး။ ဧဝံ = သည်လိုလား။
(နောက်ဘဝရှိသလား။)
ဖြေ။ နော = သည်လိုလည်းမဟုတ်။
(နောက်ဘဝရှိသည်ဟု မယူဆပါ။)

၂- မေး။ တထာ = ဟိုလိုလား။
(နောက်ဘဝ မရှိဘူးလား။)
ဖြေ။ နော = ဟိုလိုလည်း မဟုတ်ပါ။
(နောက်ဘဝ မရှိဘူးလို့လည်း မယူဆပါ။)

၃- မေး။ အညထာ = အခြားတစ်မျိုးလား။
(နောက်ဘဝရှိ၊မရှိ အယူမှ အခြားတစ်ပါးသော အယူကို လက်ခံယုံကြည်ပါသလား။)
ဖြေ။ နော = အခြားတစ်မျိုးလည်း မဟုတ်ပါ။
(နောက်ဘဝ ရှိ၊မရှိ အယူမှတစ်ပါးသောအယူကိုလည်း မယုံကြည်ပါ။)

၄- မေး။ နော = ဘာအယူဝါဒမျှ မရှိဘူးလား။
(နောက်ဘဝ ရှိ၊မရှိနှင့် ပတ်သက်၍ ဘာအယူအဆမျှ မရှိ ဟု ဆိုလိုပါသလား ။ဝါ။ နောက်ဘဝ ရှိ၊မရှိ ၂ ပါးစုံကို ပယ်သလား။)
ဖြေ။ နော = ဘာအယူအဆမျှမရှိဆိုတာ မဟုတ်။
(နောက်ဘဝ ရှိ၊မရှိနှင့်ပတ်သက်၍ ဘာအယူအဆမျှမရှိ ဟု ဆိုလိုသည် မဟုတ်ပါ။ ။ဝါ။ နောက်ဘဝ ရှိ၊မရှိ ၂ ပါးစုံကို ပယ်သည်မဟုတ်ပါ။)

၅- မေး။ နော နော = ဘာအယူဝါဒမျှ မရှိ မဟုတ်ပါ ဟု ဆိုလိုပါသလား။
(နောက်ဘဝ ရှိ,မရှိနှင့်ပတ်သက်၍ ဘာအယူအဆမျှ မရှိသည်မဟုတ် ဟု ဆိုလိုသလား ။ ဝါ ။ နောက်ဘဝရှိသည်လည်း ဟုတ်သည်၊ မရှိသည်လည်း ဟုတ်သည်ဟု ထိုဝါဒ ၂ ပါးစုံကို ပူးတွဲလက်ခံပါသလား။)

ဖြေ။ နော = ဘာအယူဝါဒမျှ မရှိသည် မဟုတ်ဟု မဆိုလိုပါ။
(နောက်ဘဝရှိသည်လည်း ဟုတ်သည်၊ မရှိသည်လည်း ဟုတ်သည်ဟု ထိုဝါဒ ၂ ပါးစုံကို ပူးတွဲလက်ခံသည် မဟုတ်ပါ။)

သိဥ္စည်းဆရာကြီးသည် ထိုခေတ်လူများ သိလိုသော အောက်ပါမေးခွန်းပြဿနာများကိုလည်း အထက်ပါနည်း ၅ နည်းဖြင့် ရှောင်တိမ်းဖြေဆိုလေ့ ရှိသည်။

၁- ဥပပါတ်ပဋိသန္ဓေနေသောသတ္တဝါ ရှိသလော။

၂- ကုသိုလ်,အကုသိုလ်ကံတို့၏အကျိုးတရား ရှိသလော။

၃- ဘုရားရဟန္တာ(တထာဂတ)တို့ ပရိနိဗ္ဗာန်စံပြီးနောက် တစ်စုံတစ်ခုသောအခြေအနေဖြင့် ရှိကြသေးသလော။

၄- အတ္တသည် ဒုက္ခကို ကိုယ်တိုင်ပြုသလော။

၅- အတ္တသည် သူတစ်ပါးပြုသောဒုက္ခကို ခံစားသလော။

၆- အသက်နှင့် ကိုယ်ခန္ဓာသည် ထပ်တူလော၊ တခြားစီလော။

ရှင်သာရိပုတ္တရာနှင့် ရှင်မဟာမောဂ္ဂလာန်တို့သည် သစ္စာ ၄ ပါးကိုသိ၍ မြတ်စွာဘုရားထံသွားသောအခါ မိမိတို့၏ဆရာကြီးကို အပါခေါ်ရာ၌ သိဥ္စည်းဆရာကြီးက 'လောကတွင် လူလိမ္မာနှင့်လူမိုက် မည်သည်ကများသနည်း' ဟုမေးရာ၊ 'လူမိုက်များကြောင်း' တပည့် ၂ ပါးက ဖြေကြားသောအခါ 'လိမ္မာသူများသည် ဂေါတမဆီသွားကြပြီး၊ လူမိုက်များ မိမိထံ လာကြလိမ့်မည်' ဟုပြန်ပြောခဲ့သည်။

သို့ဖြင့် ရှင်သာရိပုတ္တရာနှင့် ရှင်မဟာမောဂ္ဂလာန်တို့သည် မြတ်စွာဘုရားထံထွက်ခွာသွားလျှင် လက်ရှိတပည့် ၅၀၀ စလုံးလိုက်သွားကြသဖြင့် သိဥ္စည်းဆရာကြီးလည်း နှလုံးပူပန်ကာ သွေးပင်အန်ခဲ့ရသည်။ ထို့ကြောင့် တပည့် ၂၅၀ တို့က သိဥ္စည်းဆရာကြီးထံပြန်လာပြီး ပြုစုနေထိုင်ကြသဖြင့် ဂိုဏ်းဆရာအဖြစ် ဆက်လက်တည်တံ့ခဲ့ရသည်။

## ၆- မဟာဝီရနှင့် ဂျိန်းဘာသာ

ဂျိန်းဘာသာဘုရား မဟာဝီရ၏ဂိုဏ်းသည် ပိဋကတ်တွင် 'နိဂဏ္ဌဂိုဏ်း' ဟူ၍ ထင်ရှားသည်။ ကိလေသာအနှောင်အဖွဲ့ (ဝါ) 'ကိလေသာအထုံးအဖွဲ့ မရှိ' ဟုအဓိပ္ပာယ်ရသည်။ ထိုဂိုဏ်းဝင်သူတိုင်း 'နိဂဏ္ဌ' အမည်ရကြသည်။

နိဂဏ္ဌဂိုဏ်းဆရာကြီး မဟာဝီရကို ဉာတိကရွာကိုအပိုင်စားသော ဉာဌ၏သားဖြစ်သောကြောင့် 'နိဂဏ္ဌနာဋပုတ္တ' ဟု ပူးတွဲခေါ်ကြသည်။ ၎င်းအပြင်သူ့ကို 'မဟာဝီရ (သူရဲကောင်းကြီး)' ဟူ၍လည်းကောင်း၊ 'ဂျိန်းဘုရား' (ဇိန=ဂျိန=ဂျိန်း) ဟူ၍လည်းကောင်း ခေါ်ဝေါ်ကြသေးသည်။

သမဏဂိုဏ်းများတွင် နိဂဏ္ဌဂိုဏ်းသည် ရှည်လျားသောသမိုင်းကြောင်းရာဇဝင် ရှိသောဂိုဏ်း ဖြစ်သည်။ ဗုဒ္ဓဘာသာ၌ ဘုရား ၂၈ ဆူ ရှိသကဲ့သို့ ဤနိဂဏ္ဌဂိုဏ်း(ဂျိန်း)ဘာသာ၌လည်း 'တိတ္ထံကရ' ခေါ် ဘုရားပေါင်း ၂၄ ဆူရှိကြောင်း လာသည်။ နာဋပုတ္တ (မဟာဝီရ)သည် ၂၄ ဆူမြောက် တိတ္ထံကရဘုရား ဖြစ်သည်။ ၂၃ ဆူမြောက် တိတ္ထံကရဘုရားမှာ လွန်ခဲ့သော နှစ်ပေါင်း ၂၅၀ (၈၀၀ ဘီစီ)ခန့်က ပေါ်ထွန်းခဲ့သော ပါသျှ၀ (ပါသနာထ)ဖြစ်ကြောင်း အထက်၌ ပြခဲ့ပြီးဖြစ်သည်။ နာဋပုတ္တ (မဟာဝီရ)သည် နိဂဏ္ဌဂိုဏ်း (ဂျိန်းဘာသာ)၏ ဓမ္မဟောင်းကို ဖြည့်စွက်ဟောကြားခဲ့သူဖြစ်သည်။ ထူးခြားချက်မှာ နိဂဏ္ဌအများစုက မဟာဝီရကို 'ဂိုဏ်းခေါင်းဆောင်' ဟု အသိအမှတ်ပြုကြသော်လည်း၊ သစ္စကပရိဗိုဇ် စသော အချို့ နိဂဏ္ဌများက မဟာဝီရကို ခေါင်းဆောင်အဖြစ် လက်မခံကြ သည်ကို တွေ့ရှိရသည်။

၂၃ ဆူမြောက် ဂျိန်းဘုရား ပါသနာထသည် ၄ ပါးသီလကို ဟောခဲ့ကြောင်း အထက်၌ ပြခဲ့ပြီးဖြစ်သည်။ မဟာဝီရသည် ၎င်း ၄ ပါးသီလကို ၅ ပါးသီလအဖြစ် ဖြည့်စွက်ဟောကြားခဲ့သည်။ ၎င်းတို့မှာ-

၁- ပါဏာတိပါတာ ဝေရမဏီ (ပြုပြီး)၊

၂- အဒိန္နာဒါနာ ဝေရမဏီ (ပြုပြီး)၊

၃- မုသာဝါဒါ ဝေရမဏီ (ပြုပြီး)၊

'ဗဟိဒ္ဓါဒါနတော ဝေရမဏီ' (ပြုပြီး)ကို မဟာဝီရက အောက်ပါအတိုင်း ၂ မျိုး ထပ်ခွဲခြားလိုက်သဖြင့် ၅ ပါး ဖြစ်သွားသည်။

၄- အဗြဟ္မစရိယာ ဝေရမဏီ = မေထုန်ကာမဂုဏ်ခံစားခြင်းမှ ရှောင်ကြဉ်မှု၊

၅- အပရိဂ္ဂဟော = မသိမ်းဆည်းမှု။

'အမှတ် ၅' သီလအရ 'စားဝတ်နေရေး၊ ကျန်းမာရေးအတွက် မည်သည့်ပစ္စည်းကိုမျှ သိမ်းဆည်းခြင်း မပြုရ။ အားလုံးကို စွန့်လွှတ်ရမည်' ဟုဆိုသည်။ ထို့ကြောင့် မဟာဝီရ၏အဆုံးအမကို အတိအကျလိုက်နာသော နိဂဏ္ဌ ဘုန်းကြီးများသည် အဆောက်အအုံ၌ နေလေ့မရှိ။ အဝတ်မဝတ်ဘဲ လွင်တီးခေါင်၌ နေလေ့ရှိကြသည်။ ၎င်းတို့ အတွက် မဟာပထဝီမြေကြီးသည် အရံသင့်ခင်းပြီးသော အိပ်ရာပင် ဖြစ်သည်။ မိုးကောင်းကင်သည် အမိုးဖြစ်သည်။ အရပ် ၈ မျက်နှာကား အရှက်လုံအောင်ဖုံးပေးသော အဝတ်အထည်များပင် ဖြစ်တော့သည်။ အဝတ်ဝတ်က ထိုအဝတ်ကို သိမ်းပိုက် တွယ်တာကပ်ငြိမှုရှိကြောင်း ဖော်ပြနေသည်။ ထို့ကြောင့် တစ်စုံတစ်ရာမတွယ်ထားကြောင်း ဖော်ပြရန် ဝတ်လစ်စလစ်နေကြရသည်။ သို့သော်လည်း ဂျိန်းဘာသာတွင် အဝတ်မဝတ်ဂိုဏ်း (ဒိဂမ္ဗရ)၊ အဝတ်ဖြူ ဂိုဏ်း (သေတမ္ဗရ) ဟူ၍ ဂိုဏ်း ၂ ဂိုဏ်း ကွဲသွားသည်။

မဟာဝီရသည် လူဝတ်ကြောင်များအတွက်မူ အနည်းငယ်လျှော့ပေါ့၍ အကျင့်လမ်းစဉ်ကို ချမှတ်ပေးသည်။ 'အမှတ် ၄' အဗြဟ္မစရိယသိက္ခာပုဒ်အစား 'သဒါရသန္တောသ = မိမိမယားဖြင့် ကျေနပ်ရောင့်ရဲမှု' သိက္ခာပုဒ်ကို ချပေးခဲ့သည်။ 'အမှတ် ၅' အပရိဂ္ဂဟသိက္ခာပုဒ်အတွက် 'စားဝတ်နေရေးလုံလောက်ရုံထက် ပိုမို၍ ပစ္စည်းဥစ္စာ မထားရှိရ' ဟု ဟောကြားသည်။ လူဝတ်ကြောင်များသည် နိဂဏ္ဌ ၅ ပါးသီလကို ဆောက်တည်ကျင့်သုံးနေစဉ် ကာလအတွင်း၌ 'လက်ရှိ မြေယာ၊ ရွှေငွေ၊ ကျွဲနွား အရေအတွက်ထက် မတိုးပွားစေရ။ စီးပွားရေး တိုးတက်မှု လုံးဝမပြုရ' ဟု ဆိုလိုသည်။ ၎င်းအပြင် ကျွဲ၊နွားများကို အတိုင်းအရှည်ထက်လွန်၍ ကြာရှည်ခရီးဝေး မောင်းနှင်စေခိုင်းမှု၊ မနိုင်ဝန်ခိုင်းစေမှု။ ကောက်ပဲသီးနှံများကိုသိုလှောင်၍ အမြတ်တင်ရောင်းချမှု။ သင့်တော်သောအမြတ်ထက် ပို၍ရယူမှုများကိုလည်း ရှောင်ကြဉ်ရမည် ဟုဆိုသည်။

ဓမ္မပဒ အဋ္ဌကထာ၌ကား 'နိဂဏ္ဌနာဋပုတ္တကိုယ်တိုင် သူ၏ကျင့်စဉ် ၄ ရပ်ကို အဇာတသတ်မင်းကြီးအား ဟောကြားခဲ့ကြောင်း' ဖော်ပြထားသည်။ ၎င်းကျင့်စဉ် ၄ ရပ်မှာ အောက်ပါအတိုင်း ဖြစ်သည် -

၁- အလုံးစုံသောရေအေးကို ပယ်၏။

၂- အလုံးစုံသောမကောင်းမှုကို တားမြစ်ပိတ်ဆို့၏။

၃- အလုံးစုံသောမကောင်းမှုကို ခါတွက်၏။

၄- အလုံးစုံသောမကောင်းမှုကို တားမြစ်ပိတ်ဆို့ခြင်းသဘောမျိုးဖြင့် အမြဲ တွေ့ထိအပ်၏။

၎င်း ၄ မျိုးအနက် ရေအေးကို 'သက်ရှိ' ဟုယူဆ၍ မသုံးခြင်းဖြစ်သည်။ 'မကောင်းမှုကို တားမြစ်၏' ဆိုရာ၌ ဗုဒ္ဓဘာသာ၌ ဥပုသ်စောင့်သူကဲ့သို့ မကောင်းမှုကိုတားမြစ်ခြင်း ဖြစ်သည်။ 'ခါတွက်'ဆိုရာ၌ ဗုဒ္ဓ ရဟန်းတော်များ ဓုတင်ဆောက်တည်၍ မကောင်းမှုကိုလှုပ်ခါချသကဲ့သို့ မကောင်းမှုကို အကြွင်းမဲ့ဆွေးမြည့်သွားအောင် လှုပ်ခါချခြင်းမျိုး ဖြစ်သည်။ 'တားမြစ်ပိတ်ဆို့ခြင်းသဘောဖြင့် တွေ့ထိအပ်၏'ဟု ဆိုရာ၌ ဗုဒ္ဓဘာသာ၌ ကိလေသာကုန်ခန်း၍ ရဟန္တာဖြစ်ခြင်းကဲ့သို့ မကောင်းမှုကံများ ကုန်ခန်းခြင်းမျိုး ဖြစ်သည်။

နာဋပုတ္တ၏ 'မကောင်းမှုကို ဖယ်ရှားတားမြစ်ခြင်း'ဟူသော ဤကျင့်စဉ်သည် မြတ်ဗုဒ္ဓ၏အဆုံးအမ သံဝရသုတ်တော်နှင့် လျော်ညီသကဲ့သို့ ရှိသည်။ သို့ရာတွင် မကောင်းမှုကိုပယ်ရာ၌ အသက်ဇီဝ အတ္တက ပယ်သည် ဟူ၍ လည်းကောင်း၊ ထို ဇီဝအတ္တသည် အချို့ မြဲ၏၊ အချို့ မမြဲ ဟူ၍လည်းကောင်း အယူရှိသောကြောင့် မှားယွင်းသော၊ မစင်ကြယ်သောအယူဝါဒ ဖြစ်သွားရသည်။

ဤကား ဗုဒ္ဓစာပေလာ နိဂဏ္ဌနာဋပုတ္တ၏ ဝါဒအကျဉ်းတည်း။

ဂျိန်းဘာသာ စာပေအရ နိဂဏ္ဌနာဋပုတ္တ၏ဝါဒကို အောက်ပါအတိုင်း လေ့လာသိရှိရသည်။ နာဋပုတ္တ (မဟာဝီရ)သည် သံသရာလည်ပုံနှင့် သံသရာမှလွတ်မြောက်ပုံကို သတ္တ ၇ ပါးဖြင့် ရှင်းပြလေ့ရှိသည်။ 'သတ္တ' ဟူသည် 'အခြေခံအမာခံတရား = ထိုအဖြစ်၊ ထိုအတိုင်းဖြစ်သောသဘော = အရှိကို အရှိအတိုင်း ထားရသော သဘော = မပြောင်းလဲမှုသဘော' ဟုအဓိပ္ပာယ်ရသည်။

**သတ္တဝါ ၇ ပါးကား -**

၁။ ဇီဝ = အတ္တ = အသက် = ဝိညာဉ် + လိပ်ပြာ၊

၂။ အဇီဝ = ဓမ္မ၊အဓမ္မ စသော ၅ ပါး၊

၃။ အာသဝ = ဇီဝထဲသို့ 'ကံ'ရုပ်များ စီးဝင်ခြင်း၊

၄။ ဗန္ဓ = ကံတရားက ဇီဝကို ချုပ်နှောင်မှု (ဝါ) ဇီဝနှင့် သရီရ 'ခန္ဓာကိုယ်'ကို ပေါင်းစပ်မှု။

၅။ သံဝရ = ဇီဝအတွင်းသို့ ကံရုပ်များ စီးဝင်မှုကိုပိတ်ဆို့ခြင်း၊

၆။ နိဇ္ဇရ = ဇီဝအတွင်းသို့ ဝင်ရောက်ပြီးဖြစ်နေသောကံဟောင်းများကို ကုန်ခန်းအောင် တပအကျင့်ဖြင့် အပူတိုက်ခြင်း = အပြင်းအထန် ဒုက္ခခံစားခြင်း၊

၇။ မောက္ခ = ကံသစ်လည်းမဖြစ် ကံဟောင်းလည်းကုန်၍ ရုပ်အနှောင်အဖွဲ့မှ ဇီဝသည် လွတ်မြောက်ခြင်း တို့ ဖြစ်သည်။

ဥပမာအားဖြင့် ဇီဝသည် အိုင်တစ်ခုနှင့် တူသည်။ ရေအိုင်ထဲသို့ ဝင်ပေါက်ရေမြောင်းမှ ရေ စီးဝင်လာမှုကြောင့် ရွှံ့ဗွက်အိုင်ကြီး ဖြစ်လာသည်။ ၎င်းရေဝင်ပေါက်ကို ပိတ်ထားပါက နောက်ထပ် ရေမတိုးနိုင်တော့ချေ။ ရှိပြီးရေကို နေပူခံပေး၊ ရေထုတ်မြောင်း တူးပေးပါက ၎င်းရွှံ့ဗွက်အိုင်ကြီးသည် ရေကုန်ခန်းသန့်ရှင်း၍ ညစ်ပေမှုများ အနံ့ဆိုးများ မထွက်တော့ချေ။

ယင်းဥပမာနည်းတူ ဇီဝအတွင်းသို့ ရုပ်တရားများစီးဝင်လာ၍ 'ကံ' အဖြစ်သို့ ပြောင်းလဲသွားခြင်းသည် ရေအိုင်ထဲသို့ ရေဝင်သည်နှင့် တူသည် (အာသဝ)။

ထိုကံများသည် ဇီဝကို ချုပ်နှောင်၍ သုခ၊ ဒုက္ခ ခံစားရခြင်းသည် ရေအိုင်ညစ်ပေ၍ ရွှံ့ပုပ်နံ့ထွက်သည်နှင့် တူသည် (ဗန္ဓ)။

ပြင်ပရုပ်ဝတ္ထုများနှင့် မဆက်နွယ်ဘဲ ဇီဝကို ရုပ်နှင့်ခွဲခြား၍ သီးသန့်ထားသဖြင့် ကံသစ် မဖြစ်ခြင်းသည် ရေဝင်လမ်းပိတ်သည်နှင့် တူသည်(သံဝရ)။

အစာငတ်ခံ၍, ဆူးပေါ်အိပ်၍, အချမ်းအပူဖြင့် နှိပ်စက်၍ ဒုက္ခခံစားခြင်းသည် ရှိပြီးသောကံဟောင်းများကို ကုန်စေသည်မည်သည်။ ဒုက္ခဝေဒနာ ဖြစ်ရခြင်းသည် ကံဟောင်းကြောင့်သာ ဖြစ်သည်။ ဒုက္ခများများခံစားလျှင် အကြောင်းကံဟောင်း များများလည်းကုန်သည်။ နောက်ထပ်ငွေမရှာဘဲ စုဆောင်းထားသော လက်ကျန်ငွေကို ပြောင်အောင်သုံးစွဲလိုက်ပါက ငွေလုံးဝ မရှိအောင်ကုန်သွားမည်။ ဤအတူ အကျိုးပေးမည့်ကံများကို မြန်မြန်ရင့်ကျက်၍ မြန်မြန်အသီးသီးအောင် ပြုလုပ်ပေးရမည်။ ဒုက္ခများများဖြစ်အောင် ပြုလုပ်ပေးရမည်။ ဒုက္ခပေါင်း ၁၀၀၀ ခံစားပါက ကံ ၁၀၀၀ ကုန်မည်။ ဒုက္ခများများဖြစ်အောင် ပြုလုပ်သော တပအကျင့်သည် ရေအိုင်မှရေများကို ဖောက်ထုတ်ခြင်း၊ နေလှန်းခြင်းနှင့် တူသည် (နိဇ္ဇရ)။

ရုပ်တရား 'ကံ'တည်းဟူသောအညစ်အကြေး ကင်းလွတ်၍ စိတ်, ဝိညာဉ် (ဇီဝ) သက်သက်သာလျှင် တည်နေမှု, စိတ် စိတ်အတိုင်း ရှိနေမှုသည် ရေအိုင်ကြီးခန်းခြောက်၍ သန့်ရှင်းစင်ကြယ်သွားသည်နှင့် တူသည် (မောက္ခ)။

မောက္ခရပြီးသော ဇီဝသည် ဤလောက၏ အမြင့်ဆုံးအထွတ်အထိပ်သို့ ရောက်ရှိသွားသည်။ ထိုဘုံ၌ လွတ်မြောက်ပြီးသော အခြားဇီဝများနှင့် ရောနှောပေါင်းစပ်သွားတော့သည် ဟုဆိုသည်။

## အခြားဝါဒများ

အထက်ဖော်ပြပါ တိတ္ထိဆရာကြီး(ဘုရားကြီး) ၆ ဦး၏ဝါဒများအပြင် အခြားသောဝါဒများလည်း ရှိသေးသည်။ ၎င်းတို့မှာ အောက်ပါအတိုင်းဖြစ်ပါသည် -

### ၁ - ဆဒွါရဝုဓိဝါဒ

'မျက်စိ, နား, နှာခေါင်း, လျှာ, ကိုယ်, စိတ် ဟူသော ဒွါရ ၆ ပါး ကြီးပွားစည်ပင် တိုးတက်အောင် ပြုလုပ်ပေးရမည်' ဟူသော ဝါဒဖြစ်သည်။

'မျက်စိ ကြီးပွားတိုးတက်ရန်အတွက် ကောင်းမွန်လှပသော ရှုကွင်းရှုကွက် မှန်သမျှကို ကြည့်ပေးရမည်။ နားအတွက် သာယာသောတေးဂီတများကို နားထောင်ပေးရမည်။ နှာခေါင်းအတွက် မွှေးကြိုင်သောအနံ့များကို

နမ်းရှုပေးရမည်။ လျှာအတွက် ကောင်းမွန်သော အစာအာဟာရ အရသာများကို စားသောက်ပေးရမည်။ ကိုယ်ကာယအတွက် နူးညံ့သော အတွေ့အထိရှိသော ပိုးဖဲကတ္တီပါတို့၏ အတွေ့အထိ၊ မိန်းမယောက်ျားတို့၏ အတွေ့အထိ၊ ခေါင်းအုံးမွေ့ရာတို့၏ အတွေ့အထိတို့ကို ခံစားရမည်။ စိတ်ကြီးပွားတိုးတက်ရေးအတွက် (ကာမသုခ) ကာမဂုဏ်ချမ်းသာခံစားရန် ကြံစည်စဉ်းစားမှုများကို ပြုလုပ်ပေးရမည်' ဟုဆိုသည်။

ဗုဒ္ဓမြတ်စွာလက်ထက်တော်က ဤအယူရှိသော အချို့သောရသေ့ပရိဗိုဇ်တို့သည် ကာမဂုဏ်ကို မစွန့်လွှတ်ဘဲလျှင် ရသေ့မ၊ ပရိဗိုဇ်မများနှင့် ပေါင်းသင်းနေထိုင်လျက် ရှိကြသည်။ ၎င်းတို့က 'အရှင်သမဏ ဗြာဟ္မဏတို့သည် အဘယ့်ကြောင့် ကာမဂုဏ်ကိုပယ်ရန် ဟောကြားကြပါသနည်း။ ကာမဂုဏ်ခံစားခြင်းကြောင့် မည်သို့သော ဘေးရန် ဖြစ်လာနိုင်ပါသနည်း။ နုပျိုသောပရိဗိုဇ်မ၏ အမွေးနုများ ဖုံးနေသောလက်မောင်းဖြင့် ပွေ့ဖက်သော အတွေ့အထိသည် ချမ်းသာပါပေစွ။ ကာမဂုဏ်တို့၌ အပြစ်မရှိ'ဟု ဆိုကြပြီး ကာမဂုဏ်၌ ဖောက်ပြန်နေကြကြောင်း၊ မဇ္ဈိမနိကာယ်လာ သုတ်အချို့၌ ဖော်ပြထားပေသည်။ ဤဝါဒမှာ ကာမဂုဏ်စည်းစိမ်ခံစားရေး (ကာမသုခလ္လိကာနုယောဂ)ဝါဒဖြစ်သည်။

ဤကာမသုခလ္လိကာနုယောဂမှုကို 'ဤလောကတွင် ချက်ချင်းလက်ငင်း နိဗ္ဗာန်ရောက်၏' ဟု ယူသောကြောင့် ပစ္စုပ္ပန်လောကကိုပင် နိဗ္ဗာန် ဟုယူဆသည်။ ဤဝါဒကို ဗြဟ္မဇာလသုတ်၌ 'ဒိဋ္ဌဓမ္မနိဗ္ဗာနဝါဒ' ဟု ဖော်ပြထားသည်။

## ၂ - အာဟာရသုဒ္ဓိဝါဒ

'အာဟာရကို စင်ကြယ်စေခြင်းဖြင့် မောက္ခကို ရနိုင်သည်'ဟု ယူဆသောဝါဒ ဖြစ်သည်။ 'အာဟာရတစ်ခုတည်းကို ကာလကြာမြင့်စွာ နေ့စဉ်ရက်ဆက် စားသုံးပါက ကိလေသာအာသဝေါ ကုန်ခန်း၍ မောက္ခကို ရနိုင်သည်' ဟု ယုံကြည်ကြသည်။ ဤအာဟာရသုဒ္ဓိဝါဒီတို့ စားလေ့ရှိသော အစာများမှာ -

၁- ဟင်းသီးဟင်းရွက်စိမ်း၊ ၂- ဆန်ဖြင့်ပြုလုပ်သော အစားအစာ၊ ၃- ပြောင်းဆန်၊ ၄- ကျိတ်သီးဆန်၊ ၅- မြက်သီးဆန်၊ ၆- ကုလားပဲ၊ ပဲနောက်၊ ၇- ရေမှော်ရေညှိ၊ ၈- မြက်စိမ်း၊ ၉- ထမင်းချိုး၊ ၁၀- နှမ်းမှုန့်ညက်၊ ၁၁- တောသစ်မြစ်သစ်သီး၊ ၁၂- အလိုလိုကြွေကျသော သစ်သီး၊ ၁၃- သားရေဖတ်၊ ၁၄- နွားကလေးချေး၊ ၁၅- မိမိမစင်။

ဤအစာတစ်ခုခုကို အမြဲစားက ကိလေသာစင်ကြယ်သည် ဟုယူဆကြောင်း ဆိုသည်။ (မ၊ ၌၊ ၁၊ ၃၅၄)။

အလောင်းတော်သည်လည်း ၆ နှစ်ပတ်လုံး ဒုက္ကရစရိယာကျင့်ရာ၌ ဤအာဟာရသုဒ္ဓိကျင့်စဉ် အချို့လည်း ပါ ဝင်သည်။ သက်သတ်လွတ်စားခြင်းမှာ သတ္တဝါများအပေါ် မေတ္တာကရုဏာထား၍စားလျှင် ကုသိုလ်ဖြစ်နိုင်သော်လည်း၊ ရိုးရိုး သက်သတ်လွတ်စားရုံသက်သက်ဖြင့် မကောင်းမှုကိုပယ်နိုင်သည် ဟု မယူဆသင့်။ ယူဆက အာဇီဝကတို့၏ အာဟာရသုဒ္ဓိဝါဒနှင့် အတူတူဖြစ်မည်။

## ၃ - ဒုက္ကရကာရိကာ သုဒ္ဓိဝါဒ

'ခက်ခဲသောအကျင့်ကို ကျင့်၍ ကိလေသာကိုစင်ကြယ်စေသော အကျင့်' ဟု အဓိပ္ပာယ်ရသည်။

၎င်းအကျင့်သည် အောက်ပါအတိုင်း အင်္ဂါ ၄ ပါးရှိသည်။

၁- တပဿိတာ = ပြင်းထန်စွာကျင့်ခြင်း၊
၂- လူခ = ခေါင်းပါးခြင်း၊
၃- ဇေဂုစ္ဆိ = မကောင်းမှုမှ စက်ဆုပ်ခြင်း၊
၄- ပဝိဝိတ္တ = လူတွေ့မခံခြင်း။

၁- တပဿိတာ (ပြင်းထန်စွာကျင့်ခြင်း)

ဤတပအကျင့်ကား ခန္ဓာကိုယ်ကို ပူပန်ဆင်းရဲစေရန် ညှင်းပန်းနှိပ်စက်သော အတ္တကိလမထာနုယောဂ အကျင့်ပင် ဖြစ်သည်။

အစာဖြင့်ညှဉ်းပန်းပုံ။ ။ တင်းကျပ်သောစည်းကမ်းချက် သတ်မှတ်၍ ဆွမ်းခံရသည်။ ဆွမ်းမရက မစားရ။ ကြိုတင်အစီအစဉ်ထားသည့်အတိုင်း ၇ အိမ်သာ ဆွမ်းခံခြင်း, ၇ ဇွန်းသာ စားခြင်း, ၁ ရက်ခြား- ၇ ရက်ခြား- ၁၅ ရက်ခြားစားခြင်းများကို ပြုလုပ်ရသည်။ ရံခါ အာဟာရသုဒ္ဓိ၌ပြခဲ့သော အစာများကို စားရသည်။

အတွေ့အထိဖြင့် ညှဉ်းပန်းပုံ။ ။ အတွေ့အထိ ကြမ်းတမ်းသော သစ်ခွံ,သျှော်တေအဝတ် စသည်ကို ဝတ် ခြင်း၊ သံချွန်, ဝါးချွန်များပေါ်အိပ်ခြင်း၊ ဆံပင်,မုတ်ဆိတ်တို့ကို တစ်ပင်ချင်း, တစ်ချောင်းချင်းနုတ်ခြင်း၊ အေးသောအခါ ရေချိုးခြင်း၊ ပူသောအခါ မီးလှုံခြင်း၊ နှင်းကျသောအခါ ကွင်းပြင်၌ ရပ်ခြင်း၊ နေမွန်းတည့်ချိန်တွင် မီးပုံကြီး ၄ ခုအလယ်၌ ရပ်၍ နေကိုကြည့်ခြင်းများကို ပြုလုပ်ရသည်။

အနေအထိုင်ဖြင့် ညှဉ်းပန်းပုံ။ ။ ခြေတစ်ဖက်တည်းဖြင့် ရပ်ခြင်း၊ ခြေတစ်ချောင်းထောက် သွားခြင်း၊ အုန်းပင်စိုက်နေခြင်း၊ လင်းနို့ကဲ့သို့ ဇောက်ထိုးဆွဲနေခြင်းစသော ဣရိယာပထသုဒ္ဓိဝါဒ၌ ဖော်ပြခဲ့သော သွား, ထိုင်, ရပ်, အိပ်နည်းများအတိုင်း နေထိုင်ခြင်းများကို ပြုလုပ်ရသည်။ ဤနည်းဖြင့် ခန္ဓာကိုယ် ဆင်းရဲဒုက္ခ ရောက်စေနိုင်ရန် ကြံဆောင်ကြိုးစားရသည်။

၂- လူခ (ခေါင်းပါးခြင်း)

လူခဆိုသည်မှာ လောဘအလိုဆန္ဒ နည်းပါးခြင်း၊ တဏှာရာဂအစေးမရှိဘဲ ခြောက်ခန်းခြင်းကို ဆိုလိုသည်။ အထက်၌ဖော်ပြခဲ့သည့် အစားအသောက်များကိုစားသောက်၍ အစာ၌ ခေါင်းပါးစွာကျင့်ပြီး ကိုယ်နှင့်ပတ်သက်၍ ရဇောဇလ္လကဝတအကျင့်ကို ကျင့်ရသည်။

ရဇောဇလ္လကဝတအကျင့် ဟူသည်မှာ ချေးနှင့် မြူမှုန်ရော၍ တစ်ကိုယ်လုံး ချေး(ကျီး)ထူအောင် နှစ်,လ ကြာရှည်စွာ နေထိုင်ခြင်းကို ဆိုလိုသည်။ ဤသို့ကျင့်ရာ၌ ရေ လုံးဝမချိုးရ။ ခန္ဓာကိုယ်ကို အဝတ် မဖုံးရ။ လက်ဖြင့် ကုတ်ခြစ်ပွတ်တိုက်ခြင်းလည်း မပြုရ။ နေ့အချိန်၌ ကပ်ငြိပေကျံနေသော ဖုန်မှုန့်များကိုသာ အသားသေစေရန် ညအချိန်၌ နှင်းခံပေးရသည်။ ကာလတာရှည်လာသောအခါ ခန္ဓာကိုယ်အရေပြားသည် မည်းနက်ကွဲအက် ထော်လန်ပြီး ချေးထူနေ၍ တည်ပင်ငုတ်တို၏ အခွံ, အခေါက်, အပွေးများကဲ့သို့ နေလေတော့သည်။

၃- ဇေဂုစ္ဆိ (မကောင်းမှုမှ စက်ဆုပ်ခြင်း)

ဤကျင့်စဉ်အရ ပရိဗိုဇ်ရဟန်းများသည် မကောင်းမှု ကျူးလွန်ရမည်ကို အလွန်စက်ဆုပ်ကြသည်။ အထူးသဖြင့် သူတစ်ပါးအသက်သတ်ခြင်းကို စက်ဆုပ်ကြသည်။ ထို ပရိဗိုဇ်တို့၏အယူဝါဒ၌ မြင်သမျှ ရုပ်ဝတ္ထုတို့၌ အသက်ရှိသည်ဟု ယုံကြည်ကြသည်။ ဖုန်မှုန့်၊ မြူမှုန့်၊ ရေစက်ရေပေါက်များသည်ပင် အသက်ရှိသည် ဟု ယုံကြည်ကြသည်။ ထို့ကြောင့် ၎င်းတို့သည် ရေအေးကိုမသုံးဘဲ ကျိုချက်ပြီး ရေများကိုသာ သုံးသည်။ ရေစက်ရေပေါက်ကိုပင် မနင်းမိရန် ရှောင်ရှားကြသည်။ သက်ရှိသတ္တဝါငယ်များကို မရှူရှိုက်မိစေရန် ပါးစပ်နှင့် နှာခေါင်းကိုလည်း အဝတ်ပိတ်၍ အသက်ရှူကြရသည်။

၄- ပဝိဝိတ္တ (လူတွေ့မခံခြင်း)

ဒုက္ကရကာရိကာအကျင့် ကျင့်သူသည် နောက်ဆုံး၌ မိမိကလည်း သူတစ်ပါးကို မတွေ့၊ မမြင်၊ မကြားစေရ။ သူတစ်ပါးကလည်း မိမိကို မတွေ့၊ မမြင်၊ မကြားစေရ။ လူသူကင်းဝေးသောတောအုပ်အတွင်း၌ လျှိုမြောင်ချောက်ကြား တောင်လိုဏ်ခေါင်းများ၌ ပုန်းအောင်းနေရသည်။ မြင်တွေ့သွားခြင်းဖြစ်က အခြားတစ်နေရာသို့ ပြောင်းရွှေ့ရသည်။ ဤအင်္ဂါ ၄ ချက်နှင့် ပြည့်စုံသောအကျင့်ကို 'ဒုက္ကရကာရိကာအကျင့်' ဟုခေါ်သည်။

ဤ 'ဒုက္ကရကာရိကာ' ခေါ်သော တပအကျင့်ကိုကျင့်လျှင် အတ္တသည် ကိလေသာအညစ်အကြေးမှ စင်ကြယ်၍ ဤလောကသံသရာမှ လွတ်မြောက်သည် ဟုယူဆကြသည်။ (မဇ္ဈိမနိကာယ် ၂-၂၂၇ တေဝိဇ္ဇဝစ္ဆဂေါတ္တ သုတ်)

ဤ ဒုက္ကရအကျင့်ကို ဗုဒ္ဓလောင်းလျာသည် ၆ နှစ်တိုင်တိုင် တစ်မျိုးပြီးတစ်မျိုး လက်တွေ့စမ်းသပ်ကျင့်တော်မူသည်။ ခန္ဓာကိုယ် ပင်ပန်းရုံမှတစ်ပါး အခြားတစ်စုံတစ်ရာ အကျိုးထူး မရရှိသဖြင့်၊ 'ဒုက္ခမှလွတ်မြောက်မှု၊ ဒုက္ခချုပ်ငြိမ်းမှုကို ဤနည်းဖြင့် မရနိုင်'ဟု ထုတ်ဖော်ကြေညာ၍ မဇ္ဈိမပဋိပဒါလမ်းစဉ်အတိုင်း ကျင့်ကြံအားထုတ်သော အခါမှသာလျှင် ကိလေသာကုန်ခန်းပြီး ဒုက္ခချုပ်ငြိမ်းရာ နိဗ္ဗာန်သို့ ရောက်ရှိတော်မူသည်။

ဤ ဒုက္ကရကာရိကာအကျင့်ကို နိဂဏ္ဌနာဋပုတ္တ (ဂိုဏ်းဘုရား)လည်း ကျင့်သည်။ အာဇီဝကတက္ကတွန်းတို့လည်း ကျင့်ကြသည်။ ဗြာဟ္မဏအနွယ်ဝင်တို့သည်လည်း တစ်စိတ်တစ်ပိုင်းအားဖြင့် ကျင့်ကြသည်။

၄ - ဥပပတ္တိသုဒ္ဓိဝါဒ (ဘဝသစ်သို့ကပ်ရောက်မှု စင်ကြယ်ခြင်း)

ဤဝါဒကား 'သံသရာတစ်ခွင် ကျင်လည်ရာ၌ ဘဝပေါင်းစုံစွာ အတွေ့အကြုံမျိုးစုံသောအခါ တစ်ဆင့်ထက်တစ်ဆင့် ရင့်ကျက်၍ ကိလေသာများ စင်ကြယ်သွားသည်'ဟု ယူဆသောဝါဒ ဖြစ်သည်။

လူ့ဘဝတစ်ခုတည်း၌ ပင်လျှင် ငယ်စဉ်၌ အမိနို့ကို၊ ထိုထက်ကြီးသောအခါ မုန့်ပဲသရေစာကို၊ ထိုထက်ကြီးရင့်သောအခါ အစားအစာကို၊ ထိုထက် ကြီးရင့်သောအခါ လိင်မတူသူကို၊ ထိုထက်ကြီးရင့်သောအခါ သားသမီးတို့ကို နှစ်သက်ပြီး၊ ထိုထက် ကြီးရင့်သောအခါ ဘုရားသွား၊ကျောင်းတက်၊တရားနာ၊ကမ္မဋ္ဌာန်းဘာဝနာဖြင့် ပျော်မွေ့တော့သည်။

ထိုနည်းတူ သံသရာနယ်တစ်ခွင် ကျင်လည်ရာ၌ သေးငယ်သောပိုးမွှားဘဝမှ တစ်ဆင့်တက်၍ ပုရွက်ဆိတ်စသော ပိုးရွှာဘဝသို့ ရောက်သည်။ ပိုးရွှာဘဝမှ ခြင်၊ယင် စသော သတ္တဝါများ၊ ထိုမှတစ်ဆင့်မြင့်သော ငှက်ငယ်များ၊

ထိုမှတစ်ဆင့် ခြေ ၄ ချောင်းသတ္တဝါ၊ ထိုမှတစ်ဆင့်မြင့်သော လူ၊ နတ်၊ ဗြဟ္မာဘဝသို့ အသီးသီး၌ စုံစေအောင်ကျင်လည်ပြီးသောအခါ အတ္တသည် ရင့်ကျက်၍ ကိလေသာ ကင်းစင်သွားရတော့သည်' ဟုဆိုသည်။
(မ၊ ၄ ၁၊ ၃၅၆)

## ၅ - အာဝါသသုဒ္ဓိဝါဒ

ဤဝါဒကား 'ဘုံ ဘဝအပိုင်းအခြားကုန်ဆုံးခြင်းဖြင့် ကိလေသာမှစင်ကြယ်သည်' ဟု ယူဆသော အယူဝါဒဖြစ်သည်။ မက္ခလိဂေါသာလ၏ အဟေတုကဝါဒ၊ သို့မဟုတ် သံသာရသုဒ္ဓိဝါဒနှင့် ဆင်တူသည်။

## ၆ - ယညသုဒ္ဓိဝါဒ

ဤဝါဒကား 'ယဇ်ပူဇော်ခြင်းဖြင့် ကိလေသာမှ စင်ကြယ်သည်'ဟု ယူဆသောဝါဒ ဖြစ်သည်။ ဗြာဟ္မဏဝါဒနှင့် ဆင်တူသည်။

## ၇ - အဂ္ဂိသုဒ္ဓိဝါဒ

ဤဝါဒကား 'မီးကို လုပ်ကျွေးခြင်းအားဖြင့် ဖြစ်စေ၊ မီးလှုံခြင်းအားဖြင့် ဖြစ်စေ ကိလေသာမှ စင်ကြယ်သည်'ဟု ယူဆသော အယူဝါဒ ဖြစ်သည်။ ဗြာဟ္မဏဝါဒ ဉရုဝေလကဿပ ရသေ့ညီနောင်တို့၏အကျင့်များနှင့် ဆင်တူသည်။

## ၈ - ကာဠီဒေဝီအကျင့်

ဗြာဟ္မဏဝါဒနှင့် ရောစပ် ယှက်နွယ်နေသောအကျင့်ကို ကျင့်ကြံကြသော တိတ္ထိယတို့တွင် ကာဠီဒေဝီအကျင့်ကို ကျင့်သောသူများလည်း ပါဝင်သည်။

ကာဠီဒေဝီနတ်သမီးကို ကိုးကွယ်ဆည်းကပ်သူတို့သည် ကာဠီနတ်သမီး၏ ကယ်မ စောင့်ရှောက်မှုကို ခံယူရန်အတွက်လည်းကောင်း၊ လောကီတန်ခိုးများရရန်အတွက် လည်းကောင်း အောက်ပါအတိုင်း နေထိုင်ကျင့်သုံးကြရသည်။

တစ်ကိုယ်လုံးကို အိုးမည်း သုတ်လိမ်းရသည်။ ကျိုးကန်းအတောင်တို့ကို ကိုင်စွဲရသည်။ ပျဉ်ချပ်ပေါ်၌ ကာဠီဒေဝီနတ်သမီးအရုပ်ကို ရေး၍ ထမ်းပိုးစွန်း၌ချိတ်လျက် လှည့်လည်သယ်ဆောင် သွားလာရသည်။ ရေပုပ်မြောင်း၊ အမှိုက်ပုံ၊ အိမ်သာအကြိုအကြားများကို လှည့်လည်သွားလာပြီး၊ "အရှင်မကာဠီသည် ကိုယ်ကျင့်သီလ ကင်းမဲ့ပါပေ၏။ အရှင်မကာဠီသည် ကိုယ်ကျင့်တရား ဆိတ်သုဉ်းပါပေ၏" စသည်ဖြင့် ကာဠီဒေဝီ၏ဂုဏ်ပုဒ်တို့ကို ထုတ်ဖော်အော်ဟစ် ချီးကျူးရသည်။

ဟိန္ဒူဘာသာအယူဝါဒအရ 'ကာဠီဒေဝီသည် 'သီဝ' ခေါ် အသရေနတ်သမီး၏အစ်မကြီး ဖြစ်သည်' ဟုဆိုသည်။ ထို့ကြောင့် ကာဠီဒေဝီနတ်သမီးနှစ်သက်အောင် ကျင့်သောအကျင့်လမ်းစဉ်ကို 'ဇေဋ္ဌဝတ' (ဇေဋ္ဌ= အစ်မကြီး + ဝတ = ကျင့်စဉ်။ အစ်မကြီး၏ကျင့်စဉ်) ဟုခေါ်ကြသည်။ ကြမ်းတမ်းသောကြောင့် 'စဏ္ဍီ' ဟုလည်း ခေါ်ကြသည်။

ဓာတကပါဠိတော်၌မူ ကာဠီနတ်သမီးသည် ဝိရူပက္ခနတ်မင်းကြီး၏သမီး ဖြစ်၍၊ အပြာရောင်ရှိသဖြင့် အပြာရောင် အဝတ်တန်ဆာတို့ကို ဝတ်သည်။

'ကျေးဖူးကန်းသူ၊ နှမြောစေးနဲသူ၊ မနာလိုဝန်တိုသူ၊ ငြူစူစောင်း မြောင်းတတ်သူ၊ လိမ်ညာသူ၊ သေသောက်ကြူးသူ၊ မိန်းမလိုက်စားသူ၊ လောင်းကစားသူ၊ နှုတ်အာကြမ်းသူ၊ ကုန်းတိုက်သူ၊ အကျိုးအကြောင်းမသိသူ၊ အပျော်အပါးမက်သူတို့ကို ကာဠီနတ်သမီးက နှစ်သက်မြတ်နိုး စောင့်ရှောက်လေ့ရှိသည်' ဟုဆိုသည်။

## အခြားဝါဒရှင်များ

အထက်ဖော်ပြပါ တိတ္ထိယနှင့် ဘုရားကြီး ၆ ဦးအပြင် နာမည်ကျော်ကြားထင်ရှားနေသော အခြားဝါဒရှင်များလည်း ရှိသေးသည်။ ၎င်းတို့မှာ အောက်ပါအတိုင်းဖြစ်သည်။

### ၁- ပါထိကပုတ္တ တက္ကတွန်း

မြတ်စွာဘုရားရှင်လက်ထက်က 'ပါထိကပုတ္တ' အမည်ရှိသော ဝတ်လစ်စလစ်တက္ကတွန်းသည် ဝေသာလီပြည်၌နေ၍ လိစ္ဆဝီမင်းတို့၏ကြည်ညိုကိုးကွယ်မှုကို ခံယူရရှိလေသည်။ တပအကျင့်ကို ကျင့်၍ 'အလုံးစုံကိုသိမြင်သူ' (သဗ္ဗညု)ဟူ၍ ဝန်ခံသည်။ မြတ်စွာဘုရားနှင့် တန်ခိုးပြိုင်လိုကြောင်း ပြောဆိုကြုံးဝါးနေသဖြင့် ပါထိကပုတ္တ တက္ကတွန်း၏ကျောင်းဝင်းသို့ မြတ်စွာဘုရားကြွတော်မူရာ ထိုတက္ကတွန်းသည် မြတ်စွာဘုရားနှင့် မျက်နှာချင်းမဆိုင်ဝံ့ဘဲ ထွက်ပြေးခဲ့လေသည်။

ထိုတက္ကတွန်း၏အယူဝါဒမှာ 'အစာငတ်ခံခြင်း၊ ခန္ဓာကိုယ်ညှဉ်းပန်းခြင်း စသော တပအကျင့်များကိုကျင့်လျှင်အတ္တသည် သန့်ရှင်းစင်ကြယ်၍ သဗ္ဗညုအဖြစ်သို့ ရောက်သည်' ဟုယူဆသောဝါဒ ဖြစ်သည်။

### ၂- ကဠာရမဋ္ဋက တက္ကတွန်း

ဤတက္ကတွန်းသည် ဝေသာလီပြည်၌နေ၍ လိစ္ဆဝီမင်းတို့၏ ကြည်ညိုကိုးကွယ်မှုကို ခံယူရရှိသည်။ သူသည် လူအများ ကြည်ညိုစေရန် ထူးဆန်းဖွယ်ရာ ကျင့်ဝတ် ၇ ပါးကို ဆောက်တည်ကျင့်သုံးသည်။ သို့ရာတွင် မိမိအကျင့်ကို ဆက်လက်မထိန်းသိမ်းနိုင်ဘဲ လူထွက် အိမ်ထောင်ပြု၍ ဆင်းဆင်းရဲရဲဖြင့်သေဆုံးရလေသည်။

၎င်း၏ ကျင့်ဝတ် ၇ ပါးမှာ အောက်ပါအတိုင်းဖြစ်သည်။

၁- အသက်ထက်ဆုံး အဝတ်မဝတ်အံ့။ အဝတ်မဝတ်သူ ဖြစ်အံ့။

၂- အသက်ထက်ဆုံး အဗြဟ္မစရိယအကျင့်ကိုကျင့်သူ ဖြစ်အံ့။ မေထုန်အကျင့်ကို မမှီဝဲအံ့။

၃- အသက်ထက်ဆုံး သေရည်သေရက်နှင့် အသားကိုသာ စားသုံးအံ့။ ထမင်း၊မုန့်တို့ကို မစားအံ့။

၄- ဝေသာလီပြည်၏အရှေ့အရပ်၌ ဥဒေနနတ်ကွန်းကို လွန်၍မသွားအံ့။

၅- ဝေသာလီပြည်၏အနောက်အရပ်၌ သတ္တမ္ဗနတ်ကွန်းကို လွန်၍မသွားအံ့။

၆- ဝေသာလီပြည်၏တောင်အရပ်၌ ဂေါတမနတ်ကွန်းကို လွန်၍မသွားအံ့။

၇- ဝေသာလီ၏မြောက်အရပ်၌ ဗဟုပုတ္တနတ်ကွန်းကို လွန်၍မသွားအံ့။

### ၃- ကောရခတ္တိယ တက္ကတွန်း

မြတ်စွာဘုရားလက်ထက်တော်က ဝေသာလီပြည်တွင် 'ကောရခတ္တိယ' အမည်ရှိသော တက္ကတွန်းသည် 'ကုက္ကုရဝတ' ခေါ်သော ခွေးအကျင့်ကို ကျင့်သည်။ ခွေးကဲ့သို့ အမြီးတစ်ခုတပ်ဆင်ထား၍ ၄ ဖက်ထောက်သွား

သည်။ အဝတ် လုံးဝမဝတ်ဘဲ ဝတ်လစ်စလစ်အကျင့်ကို ကျင့်သည်။ ကျင်ငယ်စွန့်သောအခါ ခွေးကဲ့သို့ ပေါင်တစ်ဖက်ကိုမြှောက်၍ တိုင်ငုတ်,ချုံပုတ်များကို ကျင်ငယ်နှင့်ပန်းသည်။ အစာအာဟာရကို ပန်းကန်ဖြင့် ထည့်ကျွေးပါက စားသောက်ခြင်းမပြု။ မြေ၌ပုံကျွေးမှ ပါးစပ်ဖြင့်ဟပ်၍ စားသောက်လေ့ရှိသည်။ ၁ ရက်ခြား-၂ ရက်ခြား စသည်ဖြင့် ၁၅ ရက်ခြားအထိ အစာမစားဘဲ နေလေ့ရှိသည်။ ပြာပုံ, အမှိုက်ပုံ၌ ခွေးကဲ့သို့ မအိပ်မီ ၃ ပတ်လှည့်ပြီးမှ ခွေအိပ်လေ့ ရှိသည်။ မည်သည့်ပစ္စည်းကိုမျှ ပိုင်ဆိုင်လိုမှု, တွယ်တာငြိကပ်မှု မရှိကြောင်းကို ပြရန်အတွက် အဝတ်မဝတ်ခြင်း, မြေ၌ ပုံထားသောအစာကို ကုန်းဟပ်ခြင်း, ပြာပုံအမှိုက်ပုံတို့၌ ဝပ်ခြင်းတို့ကို ပြုလုပ်လေသည်။

ထိုကဲ့သို့ ခွေးအကျင့်ကိုကျင့်သောသူကို 'ရာဂကင်းပြီးသူ, လောဘခေါင်းပါးသူ, ရဟန္တာပုဂ္ဂိုလ်' ဟူ၍ အသိဉာဏ်နည်းသူတို့ ကြည်ညိုကိုးကွယ်ကြလေသည်။

မြတ်စွာဘုရားရှင်၏ နောက်တော်မှလိုက်၍ မြတ်စွာဘုရား၏သပိတ်တော်ကိုကိုင်လျက် မြတ်စွာဘုရားရှင်အား အလုပ်အကျွေးပြုနေသော ဝေသာလီပြည် လိစ္ဆဝီမင်းသား သုနက္ခတ္တရဟန်းသည် ကောရခတ္တိယကို ကြည်ညိုသဖြင့် ဘုရားသာသနာတော်မှလူထွက်၍ သာသနာပ တိတ္ထိအဖြစ်သို့ ကူးပြောင်းခဲ့ဖူးလေသည်။ ကောလိယပြည်သား သေနိယသည်လည်း အလားတူ ခွေးအကျင့်ကို ကျင့်လေသည်။

## ၄- နွားအကျင့်ကျင့်သော ပုဏ္ဏတက္ကတွန်း

ကောလိယပြည်၌ 'ပုဏ္ဏ' မည်သောတက္ကတွန်းသည် နွားအကျင့်ကို ကျင့်သည်။ နွားချို ၂ ခုကို ခေါင်း၌ တပ်ဆင်ထားသည်။ အမြီးတစ်ခုကိုလည်း တပ်ဆင်ထားသည်။ ၄ ဖက်ထောက်သွား၍ မြက်ကိုစားသည်။ နွားကဲ့သို့ ၄ ဖက်ထောက်လျက် ကျင်ကြီးကျင်ငယ် စွန့်သည်။ နွားကဲ့သို့ တွန်သည်။ ဝတ်လစ်စလစ် နေသည်။

မြတ်စွာဘုရားနှင့်တွေ့သောအခါ ပုဏ္ဏသည် နွားအကျင့်၏အကျိုးတရားကို မေးမြန်းလျှောက်ထားသည်။ ထိုအခါ မြတ်စွာဘုရားက ပုဏ္ဏတက္ကတွန်းအား နွားနှင့် တစ်သဝေမတိမ်းတူညီအောင် ကျင့်နိုင်ပါက သေလျှင် နွားဘဝရောက်ရန် သေချာကြောင်း၊ နွားနှင့် ထပ်တူညီအောင် မကျင့်နိုင်ပါက သေလျှင် အပါယ်ငရဲကျမည် ဖြစ်ကြောင်း ဟောကြားတော်မူရာ၊ ပုဏ္ဏသည် မိမိအယူဝါဒကိုစွန့်လွှတ်၍ ဥပါသကာအဖြစ်သို့ ကူးပြောင်းခဲ့သည်။

## ၅- ပေါဋ္ဌပါဒပရိဗိုဇ်

ပေါဋ္ဌပါဒပရိဗိုဇ်သည် ပုဏ္ဏားအမျိုးသား ဖြစ်သည်။ အရွယ်ရောက်သောအခါ ကာမဂုဏ်၏အပြစ်ကို မြင်၍၊ ကုဋေ ၄၀ သောဥစ္စာပစ္စည်းတို့ကို ပယ်စွန့်၍ ပရိဗိုဇ်ရဟန်း ပြုသည်။ တိတ္ထိတို့၏ ဂိုဏ်းဆရာကြီး တစ်ဆူအဖြစ် ထင်ရှားကျော်ကြားသည်။

မြတ်စွာဗုဒ္ဓနှင့် မတွေ့မီက ပေါဋ္ဌပါဒသည် အတ္တဝါဒကို ယုံကြည်လက်ခံခဲ့သည်။ သတ္တဝါတို့၏ ကိုယ်ခန္ဓာဖွဲ့စည်းပုံကို ဤသို့ ၃ မျိုး ခွဲခြားသည်။ အစာအာဟာရကို စားသောက်၍ ကြီးထွားရသော ရုပ်ရှိသော ခန္ဓာကိုယ်, အစာအာဟာရကို မစားမသောက်ဘဲ စိတ်စွမ်းအင်ဖြင့်တည်နေသော ရုပ်ရှိသော ခန္ဓာကိုယ်, လုံးဝ ရုပ်မရှိသော နာမ်သက်သက်သာရှိသော ခန္ဓာကိုယ် ဟူ၍ ၃ မျိုးခွဲခြားထားသည်။ ထိုခန္ဓာကိုယ် ၃ မျိုးလုံး၌ ဝိညာဉ်နှင့် အတ္တ ပါဝင်နေသည်။

'ဝိညာဉ်နှင့် အတ္တ သီးခြားစီလော၊ တစ်ခုတည်းလော' ဟူသော ပြဿနာမှာ ထိုခေတ်က ပရိဗိုဇ်တို့ မဆုံးဖြတ်နိုင်သော ပြဿနာဖြစ်သည်။

'ဝိညာဉ်နှင့် အတ္တသည် သီးခြားစီ' ဟုဆိုပါက ဝိညာဉ်သည် သိတတ်သောသဘော ရှိ၍ အတ္တသည် မသိတတ် ဟုဆိုရာ ရောက်လေသည်။ ထိုအခါ အတ္တသည် ဘာမျှမသိတတ်ပါက အလွန် အဆင့်အတန်းနိမ့်၍ ရုပ်နှင့် တူညီနေပေလိမ့်မည်။

'ဝိညာဉ်နှင့် အတ္တသည် တစ်ခုတည်းဖြစ်သည်' ဟု ဆိုပြန်ပါက ဝိညာဉ်သည် အမျိုးမျိုးပြောင်းလဲ သိနေသည်။ သိပြီးနောက် မေ့ပျောက်သွားသည်လည်း ရှိသည်။ ထို့ကြောင့် ဝိညာဉ်သည် မမြဲခြင်း(အနိစ္စ)ဖြစ်လျက် ရှိသည်။ 'ဝိညာဉ်နှင့် အတ္တသည် တစ်ခုတည်း'ဆိုပါက အတ္တသည်လည်း မမြဲခြင်း(အနိစ္စ)သဘောရှိ၏ ဟု ဆိုရာရောက်သည်။

ထို့ကြောင့် ပေါဋ္ဌပါဒနှင့် တကွ ထိုခေတ်က သမဏဗြာဟ္မဏတို့သည် ဝိညာဉ်နှင့် အတ္တကို သီးခြားစီ ဟု ယူဆကြလေသည်။

'ဝိညာဉ်သည် အရာရာကို တစ်ခုပြီးတစ်ခု မနားတမ်းသိနေသည်။ ထိုသို့သိနေခြင်းကြောင့် ဆင်းရဲဒုက္ခ ခံစားကြရသည်။ ဝိညာဉ် ချုပ်ပျောက်နေပါက ဆင်းရဲဒုက္ခကိုလည်း သိရှိခံစားနေရတော့မည် မဟုတ်ချေ။' ထို့ကြောင့် ဝိညာဉ်ချုပ်ငြိမ်းမှုကို အမျိုးမျိုး ကြံဆပြောဆိုကြသည်။

အချို့က 'ဝိညာဉ်သည် အကြောင်းမဲ့ဖြစ်ပေါ်၍ အကြောင်းမဲ့ ချုပ်ငြိမ်းသည်။ ထို့ကြောင့် ဝိညာဉ်ချုပ်ငြိမ်း အောင် ကြိုးပမ်းအားထုတ်ရန်မလို' ဟုဆိုကြသည်။

အချို့သော သမဏဗြာဟ္မဏတို့က ဝိညာဉ်နှင့် အတ္တကို တစ်ခုတည်းအဖြစ် ယူဆ၍ 'ပျက်စီးခြင်း မရှိ။ အမြဲတည်၏'ဟု ယူဆကြလေသည်။ ထို့ကြောင့် 'ဝိညာဉ်' ခေါ် အတ္တသည် ချုပ်ငြိမ်းခြင်း မရှိ။ အချို့ပုဂ္ဂိုလ်များ သတိလစ်မေ့မြောသွားရာ၌ ဘာကိုမျှမသိဘဲ ပြန်လည်သတိရလာသောအခါ သိမှုဖြစ်ပေါ်လာသည်။ ထိုသို့ သတိလစ် မေ့မြောနေခြင်းမှာ ဝိညာဉ် (အတ္တ) ဤခန္ဓာကိုယ်မှခွာ၍ ပြင်ပသို့ ခေတ္တထွက်ခွာသွားခြင်း ဖြစ်သည်။ ထိုဝိညာဉ် (အတ္တ) ပြန်ဝင်လာသောအခါမှ သိမှု ပြန်လည်ဖြစ်ပေါ်သည် ဟုယူဆကြသည်။

အချို့သော သမဏဗြာဟ္မဏတို့က တန်ခိုးကြီးသော ရသေ့ရဟန်းများ၊ ပယောဂဆရာများက သတ္တဝါတို့၏ ဝိညာဉ်(အတ္တ)ကို ပြင်ပသို့ ခေါ်ယူခွဲထုတ်လေ့ ရှိသည်။ ထိုအခါ ထိုလူသည် သတိမေ့မြောနေ၍၊ ဝိညာဉ်(အတ္တ)ကို ပြန်ထည့်ပေးသောအခါ အသိစိတ်ပြန်လည်ဖြစ်ပေါ်လာသည်ဟု ယူဆကြသည်။

အချို့သော သမဏဗြာဟ္မဏတို့ကမူ နတ်ကတော်များ၊ ဖော်ဂနီများ၊ နတ်ကပ်နတ်ပူး၊ စုန်းပူး၊ သရဲပူးသောအခါ ကိုယ်ပိုင်အသိစိတ် ဝိညာဉ်ကို နတ်များက ခွဲထုတ်ထားသောကြောင့် ထိုအခိုက်၌ နတ်ကတော်မှာ ကိုယ်ပိုင်အသိ မရှိ။ ပူးဝင်နေသော နတ်၏အလိုအတိုင်း ပြောဆိုလှုပ်ရှားနေရသည်။ ထို နတ် စသည်တို့က နတ်ကတော်၏ဝိညာဉ် (အတ္တ)ကို ပြန်လည်ထည့်သွင်းပေးလိုက်သောအခါ၌ တစ်ဖန်ပြန်လည်၍ သိမှုဖြစ်ပေါ်လာသည် ဟု ဆိုကြသည်။

ပေါဋ္ဌပါဒပရိဗိုဇ်သည် အတ္တဝါဒကို လက်ခံထားသော်လည်း အထက်ဖော်ပြပါ အငြင်းပွားမှုပြဿနာများကို ဖြေရှင်းနိုင်စွမ်း မရှိသဖြင့် မြတ်စွာဘုရားထံလျှောက်ထားရာ၊ နောက်ဆုံး၌ အတ္တဝါဒကိုစွန့်လွှတ်၍ ရတနာ ၃ ပါး ကိုကိုးကွယ်ဆည်းကပ်သူ ဥပါသကာအဖြစ်သို့ ကူးပြောင်းခဲ့သည်။

## ၆- သစ္စကပရိဗိုဇ်

သစ္စကပရိဗိုဇ်သည် ဝေသာလီပြည် မင်းသား ၅၀၀ တို့၏ဆရာ ဖြစ်သည်။ သစ္စက၏ ဆွေမျိုးဆက်မှာ အောက်ပါအတိုင်း ဖြစ်သည်။

ဝေသာလီပြည် လိစ္ဆဝီမင်းသားများသည် အယူဝါဒကိုလေ့လာ၍ ပြဿနာမေးလေ့ ရှိကြသည်။ ဝါဒ ၅၀၀ ကိုတတ်မြောက်သော နိဂဏ္ဌပရိဗိုဇ်တစ်ယောက်သည် ဝေသာလီပြည်သို့ရောက်လာ၍ မင်းသားတို့က ကိုးကွယ်ဆည်းကပ်ကြသည်။ အလားတူ ဝါဒ ၅၀၀ တတ်ကျွမ်းသော နိဂဏ္ဌိဂိုဏ်းဝင် ပရိဗိုဇ်မတစ်ယောက်သည်လည်း ဝေသာလီပြည်သို့ရောက်လာ၍ မင်းသားတို့က ပူဇော်ကိုးကွယ်ထားကြသည်။

ထို နိဂဏ္ဌပရိဗိုဇ် ၂ ဦးတို့ အိမ်ထောင်ကျသောအခါ 'သစ္စာ၊ လောလာ၊ အဝဒါရိကာ၊ ပဋိစ္ဆာဒါ' ဟူသော သမီး ၄ ယောက်နှင့် 'သစ္စက' ဟူသော သားငယ်တစ်ယောက်ကို ဖွားမြင်သည်။ ထိုသားသမီးများသည် အဖဘက်မှ ဝါဒ ၅၀၀။ အမိဘက်မှ ဝါဒ ၅၀၀၊ စုစုပေါင်း ဝါဒ ၁၀၀၀ ပြု၍ ဇမ္ဗူဒိပ်ကျွန်းကို လှည့်လည်လျက် ဝါဒပြိုင်ပွဲ၊ ဝါဒစစ်ထိုးပွဲများ ပြုလုပ်သည်။ အစဉ်အတိုင်းလှည့်လည်၍ သာဝတ္ထိပြည်သို့ရောက်သောအခါ အရှင်သာရိပုတ္တရာမထေရ်နှင့် တွေ့ဆုံ၍ ဝါဒပြိုင်ပွဲ ကျင်းပရာ ပရိဗိုဇ်မများ ရှုံးနိမ့်၍ အရှင်သာရိပုတ္တရာထံ၌ ဘိက္ခုနီမ ပြုလုပ်ကြသည်။

အငယ်ဆုံးဖြစ်သော သစ္စကပရိဗိုဇ်မူကား ဝါဒ ၁၀၀၀ ကို တတ်မြောက်ပြီးနောက် ဝေသာလီပြည်၌ပင်လျှင် လိစ္ဆဝီမင်းသား ၅၀၀တို့ အပေါ် ဆရာပြုလုပ်ပြီး ပညာသင်ကြားလျက် အသက်မွေးမြူနေသည်။ ဝေသာလီပြည်သို့ မြတ်စွာဘုရားရှင် ကြွရောက်တော်မူလာသောအခါ သစ္စကသည် အတ္တဝါဒကိုကိုင်စွဲ၍ မြတ်စွာဘုရားရှင်၏ အနတ္တဝါဒကို ယှဉ်ပြိုင်လျက် ၂ ကြိမ်တိုင်တိုင် စကားစစ်ထိုးသည်။ သစ္စကပရိဗိုဇ် ရှုံးနိမ့်သော်လည်း မိမိအယူဝါဒကို မစွန့်ဘဲ ဝါဒ ၁၀၀၀ ဆရာကြီးအဖြစ် ဆက်လက်ရပ်တည်နေလေသည်။ သို့ရာတွင် မြတ်စွာဘုရားကိုမူကား နောက်ထပ်တစ်ဖန် ယှဉ်ပြိုင် မပြောဝံ့တော့ချေ။

## ၇- မာဂဏ္ဍိယပရိဗိုဇ်

မာဂဏ္ဍိယပရိဗိုဇ်ကား အိမ်ထောင်ပြုသောပရိဗိုဇ်ဂိုဏ်းဝင် ဖြစ်လေသည်။ ထိုပရိဗိုဇ်များ၏ အယူဝါဒမှာ 'ကာမဂုဏ်အာရုံခံစားမှုကို မပယ်စွန့်ရ။ မျက်စိ (စက္ခုန္ဒြေ)အင်အားရှိ၍ ကြီးပွားစေရန်အတွက် မျက်စိအကြိုက် အာရုံများကို ကြည့်ရှုရမည်။ နား (သောတိန္ဒြေ) အင်အားရှိ၍ ကြီးပွားစေရန်အတွက် နားအကြိုက်အာရုံများကို နားထောင်ပေးရမည်။ နှာခေါင်း (ဃာနိန္ဒြေ)အင်အားရှိ၍ ကြီးပွားစေရန်အတွက် နှာခေါင်းအကြိုက် ပန်းရနံ့များကို ရှူရှိုက်နမ်းရှုပ်ရမည်။ လျှာ (ဇိဝှိန္ဒြေ)အင်အားရှိ၍ ကြီးပွားစေရန်အတွက် လျှာအကြိုက်အရသာများကို စားသုံးမှီဝဲရမည်။ ကိုယ်(ကာယိန္ဒြေ) အင်အားရှိ၍ ကြီးပွားစေရန်အတွက် ကာယအကြိုက်အတွေ့အထိ ဖောဋ္ဌဗ္ဗာရုံများကို ခံစားပေးရမည်။ စိတ်ကို ကြီးပွားတိုးတက်စေရန်အတွက် စိတ်ကြိုက်အာရုံများကို ပွားများ၍ စိတ်ကို အစာကျွေးပေးရမည်ဟု ဆိုသည်။

ယင်းဝါဒကို 'ဆဒွါရဝုဍ္ဎိဝါဒ' (ဆဒွါရ = ဒွါရ ၆ ပါး၊ ဝုဍ္ဎိ = ကြီးပွားရေး။ ဒွါရ ၆ ပါး ကြီးပွားရေးဝါဒ) ဟုခေါ်၍၊ ဗြာဟ္မဏလသုတ်၌ 'ဒိဋ္ဌဓမ္မနိဗ္ဗာနဝါဒ' (မျက်မြင်လက်တွေ့ လောကနိဗ္ဗာန်ဝါဒ) ဟု ဟောကြားတော်မူသည်။ ဓမ္မစကြာဒေသနာတော်၌ 'ကာမသုခလ္လိကာနုယောဂအကျင့်' ဟုဟောကြားတော်မူသည်။

## ၈- ဥရုဝေလကဿပညီနောင် ရှင် ၁၀၀၀

မာဂဓတိုင်းအတွင်း၌ ဂယာမြစ်သည် မြင့်မြတ်သည် ဟု ဗြာဟ္မဏပုဏ္ဏားတို့နှင့် ရသေ့များက ယူဆယုံကြည်ကြသည်။ ကဿပမျိုးနွယ် ညီနောင် ၃ ယောက်တို့သည် ရသေ့ဝတ်၍တရားကျင့်ရာ အစ်ကိုအကြီးဆုံးသည်

ဂယာမြစ်ညာရှိ ဥရုဝေလ(သဲကမ်းပါး)အရပ်၌ နေသောကြောင့် 'ဥရုဝေလကဿပ'ဟု အမည်တွင်သည်။ တပည့် ၅၀၀ ရှိသည်။ အစ်ကိုလတ်သည် ဂယာမြစ်ကမ်းနား၌နေ၍ တရားကျင့်သောကြောင့် 'ဂယာကဿပ' ဟု အမည်တွင်သည်။ တပည့်အခြံအရံ ၃၀၀ ရှိသည်။ ညီအငယ်ဆုံးသည်ကား ဂယာမြစ်အောက်ပိုင်းတွင်နေ၍ တရားကျင့်ရာ 'နဒီကဿပ'ဟု အမည်တွင်သည်။ တပည့်အခြံအရံ ၂၀၀ ရှိသည်။

ဖော်ပြပါ ကဿပညီနောင် ဦးဆောင်သော ရသေ့ ၁၀၀၀ တို့၏အယူဝါဒနှင့်အကျင့်မှာ 'ဂယာမြစ်ရေကို ချိုးလျှင် မကောင်းမှုအကုသိုလ် စင်ကြယ်သည်' ဟုယူဆ၍ နေ့စဉ် တစ်နေ့ အနည်းဆုံး ၃ ကြိမ် ရေဆင်းချိုးကြရ သည်။ ရေငုပ်ကြရသည်။ နံနက်စောစော အလွန်ချမ်းအေးချိန်၌ ရေချိုး၊ ရေငုပ်ကြရ၍ ခိုက်ခိုက်တုန်ချမ်းလာ သောအခါ မီးဖိုကြီးများဖို၍ မီးလှုံကြရသည်။ နေမွန်းတည့်ချိန်၌ မီးပုံ ၄ ပုံအလယ်တွင်ရပ်၍ နေကိုကြည့်ရသော ပဉ္စတပအကျင့်ကိုလည်း ကျင့်ကြသည်။ ဤသို့အားဖြင့် ထိုရသေ့များမှာ ရေငုပ်ခြင်း၊ မီးလှုံခြင်း၊ နေပူခံခြင်း၊ အအေးဒဏ်ခံခြင်း စသည်ဖြင့် ခန္ဓာကိုယ် ပင်ပန်းဆင်းရဲအောင် ညှဉ်းပန်းနှိပ်စက်ခြင်းဖြင့် ကိလေသာကုန်ခန်းနိုင် သည်။ ကိလေသာ စင်ကြယ်နိုင်သည် ဟုယူဆကြသည်။

ယင်းအကျင့်လမ်းစဉ်ကို ဓမ္မစကြာဒေသနာတော်၌ 'အတ္တကိလ မထာနုယောဂအကျင့်' ဟု ဟောကြားထား တော်မူသည်။ နောက်ပိုင်း၌ ဗုဒ္ဓမြတ်စွာဘုရားနှင့် တွေ့ကြုံသောအခါ ထိုရသေ့များသည် မိမိတို့အယူကို စွန့်၍ ရဟန်းပြုခဲ့ကြသည်။

## ၉- ကာဠဒေဝိလရသေ့၊ အာဠာရရသေ့၊ ဥဒကရသေ့

ကာဠဒေဝိလရသေ့ကြီးသည် ဈာန်လမ်းစဉ်ကို လိုက်နာကျင့်သုံးသည်။ 'ဈာန်တန်ခိုးဖြင့် အမြင့်ဆုံးဖြစ်သော အရူပဗြဟ္မာ့ပြည်သို့ရောက်ကြောင်းကို အမြင့်မြတ်ဆုံး နောက်ဆုံးပန်းတိုင်' ဟုယူဆလေသည်။ ယင်း ဈာန်လမ်းစဉ် မှာ မြတ်စွာဘုရား ပွင့်တော်မမူမီက အမြတ်ဆုံးလမ်းစဉ် ဟု မဇ္ဈိမဒေသ၌ လက်ခံထားကြသည်။

အာဠာရရသေ့နှင့် ဥဒကရသေ့တို့သည်လည်း ဈာန်လမ်းစဉ်ကို လိုက်နာကျင့်သုံးကြ၍ အရူပဗြဟ္မာဘုံကို အမြင့်မြတ်ဆုံးနောက်ဆုံးပန်းတိုင် ဟုယူဆကြသည်။ အာဠာရရသေ့ကြီးသည် 'အာကိဉ္စညာယတနဈာန်' ဟုဆို အပ်သော အရူပ တတိယအဆင့်ဈာန်ကို ရလေသည်။ ဥဒကရသေ့ကြီးသည် အရူပတတိယဈာန်ကို ရပြီးဖြစ်သည့် အပြင်၊ နေဝသညာနာသညာယတနဈာန် ဟုဆိုအပ်သော အမြင့်ဆုံးအဆင့် အရူပစတုတ္ထဈာန်ရရန် ကျင့်နည်းကိုလည်း အဖဆရာကြီး ရာမ ထံမှ ရရှိခဲ့သည်။ မိမိကိုယ်တိုင်ကား ထိုဈာန်ကို မရခဲ့ပေ။ ကျင့်နည်းကိုသာ ဘုရားလောင်းအား ပြောပြခဲ့သည်။

ဘုရားအလောင်းတော်သည် တောထွက်ပြီးနောက် တရားရှာဖွေစဉ် အာဠာရနှင့် ဥဒကရသေ့ကြီးတို့ထံ နည်းခံကာ ဈာန်လမ်းစဉ်ကို အမြင့်ဆုံးအဆင့်ရောက်အောင် လက်တွေ့ကျင့်ကြံအားထုတ်၍ လေ့လာစူးစမ်းခဲ့သည်။ သို့ရာတွင် 'သံသရာမှ ထွက်မြောက်ကြောင်းမဟုတ်' ဟု သိမြင်တော်မူ၍ ယင်းဈာန်လမ်းစဉ်ကို စွန့်လွှတ်ခဲ့သည်။

## မာဂဓတိုင်း ဘာသာရေးအချုပ်

အချုပ်အားဖြင့် ထိုအချိန်က မာဂဓတိုင်းတွင်ရှိနေသော အယူဝါဒ၊ သို့မဟုတ် ဘာသာရေးမှာ အကျဉ်းအားဖြင့် 'ကြိယဘာသာ၊ အကြိယဘာသာ' ဟူ၍ ၂ ပါး ရှိသည်။ ထိုတွင် 'ကြိယဘာသာကား ကောင်းမှုပြုလုပ်လျှင် တမလွန်၌ ကောင်းကျိုး၊မကောင်းမှုပြုလျှင် တမလွန်၌ မကောင်းကျိုး ခံစားရသည်' ဟုယူသောဘာသာ ဖြစ်သည်။

အကြိယဘာသာကား ဣဿရနိမ္မာနဘာသာနှင့် အဟေတုကဘာသာဟူ၍ ၂မျိုး ပြားပြန်သည်။ 'ကောင်းကျိုး, မကောင်းကျိုး ဟူသမျှ ထာဝရဘုရားကသာ ပြုလုပ်နိုင်သည်။ ပေးစွမ်းနိုင်သည်။ ကုသိုလ်ကံ, အကုသိုလ်ကံက ယင်းအကျိုးများကို မပေးနိုင်' ဟု ယူသောဘာသာသည် ဣဿရနိမ္မာနဘာသာ ဖြစ်သည်။ အဟေတုကဘာသာကား 'ကောင်းကျိုး,မကောင်းကျိုးသည် ကုသိုလ်ကံ,အကုသိုလ်ကံကြောင့် ဖြစ်ရသည် မဟုတ်သည့်အပြင်၊ ထာဝရဘုရားကြောင့် ဖြစ်လာရသည်လည်း မဟုတ်ဘဲ၊ တိုက်ဆိုင်မှုအရ ဖြစ်ပေါ်လာရသည်' ဟု ယူသောဘာသာ ဖြစ်သည်။

အကျဉ်းအားဖြင့် ဖော်ပြပါ ဘာသာ ၂ ပါးအပြင် အလတ်အားဖြင့် ဗြာဟ္မဏဘာသာနှင့် ပုရဏဘာသာ၊ မက္ခလိဘာသာ စသော တိတ္ထိဆရာကြီး ၆ ဦးတို့၏ဘာသာအားဖြင့် ၇ ပါးရှိပြီး၊ အကျယ်အားဖြင့် ၉၉ ပါးရှိသည်ဟု ဆိုသည်။

## အိန္ဒိယဝါဒရှင်များ၏ ဒဿနအချုပ်

ဖော်ပြခဲ့ပြီးသော 'အိန္ဒိယတိတ္ထိယ' ခေါ် ဝါဒရှင်များ၏ အယူအဆများကို လေ့လာသုံးသပ်လျှင် အချုပ်အားဖြင့် ဒဿနဆိုင်ရာ အတွေးအမြင် ၄ မျိုး ရှိသည်ကို တွေ့ရသည်။ ယင်း ၄ မျိုးကား -

၁- အတ္တရှိဝါဒကို ကိုင်စွဲသည့် ဒဿနဂိုဏ်း၊

၂- အတ္တမရှိဝါဒကို ကိုင်စွဲသည့် ဒဿနဂိုဏ်း၊

၃- အတ္တ ရှိ,မရှိ ၂ မျိုးလုံးကို တပေါင်းတည်းပြု၍ ကိုင်စွဲသည့် ဒဿနဂိုဏ်း၊

၄- အတ္တ ရှိ,မရှိ ၂ မျိုးလုံး တပေါင်းတည်းပြုထားသည်ကို ငြင်းပယ်သည့် ဒဿနဂိုဏ်း တို့ဖြစ်သည်။

ယင်း ၄ ဂိုဏ်းအနက်

- ထင်ရှားသော အရှိဝါဒရှင်များကား ဘုရားအလောင်းတော် ဒုက္ကရစရိယာကျင့်စဉ်က ပထမဦးဆုံးနည်းခံခဲ့သော အာဠာရကာလာမရသေ့နှင့် ဥဒကရာမပုတ္တရသေ့တို့ ဖြစ်သည်။ ဤရသေ့တို့သည် အလွန်ရှေးကျပြီး အရှိဝါဒကိုစွဲကိုင်သော သချာၤဒဿနဂိုဏ်းရှင်များ ဖြစ်သည် ဟုဆိုသည်။
- မရှိဝါဒကိုစွဲကိုင်သော ထင်ရှားသည့်ဝါဒရှင်မှာ အဇိတကေသကမ္ဗလ ဖြစ်သည်။
- ရှိ,မရှိ ၂ မျိုးကို တပေါင်းတည်းပြု၍စွဲကိုင်သော ထင်ရှားသည့်ဝါဒရှင်မှာ နိဂဏ္ဌနာဋပုတ္တ ဖြစ်သည်။
- ရှိ,မရှိ ဝါဒ ၂ မျိုးလုံးကို တပေါင်းတည်းပြုထားသည်ကို ငြင်းပယ်သော ထင်ရှားသည့်ဝါဒရှင်ကား သဉ္စယဗေလဋ္ဌပုတ္တ ဖြစ်သည်ကို တွေ့ရှိရသည်။

ယင်း အယူဝါဒ ၄ရပ်ကို အကျယ်ချဲ့လျှင် ၆၂ ပါးသောအယူဝါဒဖြစ်လာကြောင်း ဒီဃနိကာယ် ဗြဟ္မဇာလသုတ်၌ မြတ်စွာဗုဒ္ဓ ဟောထားသည်ကို တွေ့ရှိနိုင်သည်။

## မိစ္ဆာဒိဋ္ဌိ ၆၂ ပါး အကျဉ်း

၁- သဿတဒိဋ္ဌိ = ရုပ်, ဝေဒနာ, သညာ, သင်္ခါရ, ဝိညာဉ် ၅ မျိုးတို့တွင် တစ်ပါးပါးကို အတ္တ ဟုလည်းကောင်း၊ လောက ဟုလည်းကောင်း ယူပြီး၊ ထိုအတ္တနှင့် လောကကို မြဲ၏ ဟုယူခြင်း ၄ ပါး။

| | | |
|---|---|---|
| ၂- ကေစွသသတဒိဋ္ဌိ | = | အတ္တနှင့် သခ်ါရကို အချို့မြဲ၊ အချို့မမြဲ ဟုယူခြင်း ၄ ပါး။ |
| ၃- အန္တာနန္တဒိဋ္ဌိ | = | ပဋိဘာဂနိမိတ်ကို စကြဝဠာအဆုံးတိုင်အောင် မပွားမူ၍ ထို ပဋိဘာဂ နိမိတ်ကို 'လောက' ဟုယူကာ၊ လောကသည် အဆုံးရှိ၏ ဟုယူပြီး၊ ပဋိဘာဂနိမိတ်ကို စကြဝဠာအဆုံးတိုင်အောင် ပွားများ၍ လောကသည် အဆုံးမရှိ ဟုယူခြင်း ၄ ပါး။ |
| ၄- အမရာဝိက္ခေပဒိဋ္ဌိ | = | ဧဝန္တိပိ မေ နော စသောနည်းဖြင့် အဆုံးအပိုင်းအခြားကင်းသော အယူစကားဖြင့် ပစ်ချခြင်း၊ တစ်နည်း 'အမရာ'မည်သော ငါးသည် ငုပ်ခြင်းပေါ်ခြင်းအစွမ်းဖြင့် ရှေ့ပြေးသွား၍ ဖမ်းရန်မတတ်နိုင်သကဲ့သို့၊ ဤ အမရာဝိက္ခေပဝါဒသည်လည်း ထိုမှဤမှပြေးသွား၍ ဖမ်းယူရန် မလွယ်၍ 'အမရာဝိက္ခေပ' ဟုခေါ်သော အယူ ၄ ပါး။ |
| ၅- အဓိစ္စသမုပ္ပန္နဒိဋ္ဌိ | = | အကြောင်းကင်း၍ ဖြစ်၏ ဟု ယူသောအယူ ၂ ပါး။ |
| ၆- ဥဒ္ဓမာဃာတနသညီ ဒိဋ္ဌိ | = | သေသည်မှအထက်၌ သညာရှိ၏ ဟုယူသောအယူ ၁၆ ပါး။ |
| ၇- ဥဒ္ဓမာဃာတနအသညီ ဒိဋ္ဌိ | = | သေသည်မှအထက်၌ သညာမရှိ ဟုယူသောအယူ ၈ ပါး။ |
| ၈- ဥဒ္ဓမာဃာတန နေဝသညီနာသညီဒိဋ္ဌိ | = | သေသည်မှ အထက်၌ သညာ ရှိသည်လည်းမဟုတ်၊ သညာ မရှိသည် လည်းမဟုတ် ဟုယူသော အယူ ၈ ပါး။ |
| ၉- ဥစ္ဆေဒဒိဋ္ဌိ | = | သတ္တဝါသေလျှင် ပြတ်၏ ဟုယူသောအယူ ၇ ပါး။ |
| ၁၀- ဒိဋ္ဌဓမ္မနိဗ္ဗာနဒိဋ္ဌိ | = | မျက်မှောက် ဤအတ္တဘော၌ပင် ဒုက္ခငြိမ်း၏ ဟုယူသော အယူ ၅ ပါး။စုစုပေါင်း မိစ္ဆာဒိဋ္ဌိ ၆၂ ပါး ဖြစ်သည်။ |

# အခန်း ၉

## ဗုဒ္ဓဘာသာနှင့် ဗုဒ္ဓဘုရား

### မွေးဖွားတော်မူခြင်း

ထိုခေတ် ထိုအခါက မဇ္ဈိမဒေသတွင် တိုင်းကြီး ၁၆ တိုင်း, ပြည်နယ်ကြီး ၂၀ ရှိသည့်အနက်၊ မာဂဓတိုင်း ကပိလဝတ်ပြည်ကြီး၌ ကမ္ဘာဦးအစ မဟာသမ္မတမင်းမှစ၍ လူတို့ရေတွက်လာသော သက္ကရာဇ် ၁၁၄၉၇၈၇သို့ ရောက်သောအခါ အာကာရဇ္ဇမင်းက နှစ်ပေါင်း ၁၁၄၉၇၈၅ ခုနှစ်ကို ဖြို၍ ၂ ခုကြွင်းထားသည်။

ထို ၂ ခု ကြွင်းမှစ၍ ရေတွက်လာပြန်ရာ ပပဝတီ၏မြောက်သားတော် ကုသမင်းကြီး၏ခမည်းတော် မဟာကုသမင်း လက်ထက်သို့ရောက်သောအခါ သက္ကရာဇ် ၁၄၉၃၈၅၆၂ ခုနှစ်သို့ တိုင်ခဲ့လေသည်။

ထိုအခါ မဟာကုသမင်းကြီးသည် နှစ်ပေါင်း ၁၄၉၃၈၅၆၀ ခုနှစ်ကိုဖြို၍ ၂ ခုကြွင်း ထားပြန်သည်။ ယင်း ၂ ခုကြွင်းကို ရေတွက်လာပြန်ရာ သက္ကရာဇ် ၈၆၄၇ သို့ ရောက်သောအခါ ဘုရားလောင်း သိဒ္ဓတ္ထမင်းသား၏ ဘိုးတော်များဖြစ်သော သီဟနုမင်းကြီးနှင့် အဉ္စနမင်းကြီးတို့တိုင်ပင်၍ ၈၆၄၅ ခုနှစ်ကိုဖြို၍ အကြွင်း ၂ ခုကို ထားပြန်သည်။ ထိုသက္ကရာဇ် ၂ ခုကို 'မဟာသက္ကရာဇ်' ခေါ်သည် ဟုအဆိုရှိသည်။

ယင်း မဟာသက္ကရာဇ် ၆၈ ခုနှစ် (၆၂၃ ဘီစီ၊ အချို့အဆို ၅၆၃ ဘီစီ) ကဆုန်လပြည့် သောကြာနေ့ နေထွက် ၁ ဗဟိုအချိန် သိဟ်လင်ဗြိစ္ဆာစန်း ဝိသာခါနက္ခတ်နှင့် စန်းယှဉ်ခိုက်၌ ဘုရားလောင်း သိဒ္ဓတ္ထမင်းသားကို သုဒ္ဓေါဒနဘုရင်မင်းမြတ်၏ တောင်ညာစံမဟေသီ မာယာဒေဝီမိဖုရားမှ ဖွားမြင်တော်မူခဲ့သည်။ ဖွားမြင်ပြီး ၇ ရက်မြောက်၌ မယ်တော်မာယာနတ်ရွာစံခဲ့သော်လည်း မိထွေးတော်ဂေါတမီ၏ သားရင်းတမျှ ပြုစုယုယမှုကို ခံယူတော်မူခဲ့သည်။ ဖခင် ဘုရင်သုဒ္ဓေါဒနသည် သားတော်၏ ကြန်အင်လက္ခဏာကိုသိရှိရန် နန်းတွင်းရှိ မင်းဆရာ ဗြာဟ္မဏ(ပုဏ္ဏား) ၁၀၈ ယောက်ရှိသည့်အနက် အတော်ဆုံး ဝေဒပါရဂူ ပုဏ္ဏား ၈ ယောက်တို့အား တွက်ချက် ကြည့်ရှုစေခဲ့သည်။

ပုဏ္ဏား ၇ ယောက်က လက် ၂ ချောင်းထောင်၍၊ 'ဘုရားသော်လည်းကောင်း, ကျွန်းကြီး ၄ ကျွန်းပိုင် စကြဝတေးမင်းသော်လည်းကောင်း ဖြစ်မည်' ဟုဟောခဲ့သော်လည်း၊ အငယ်ဆုံး ကောဏ္ဍညပုဏ္ဏားကမူ လက်ညှိုး တစ်ချောင်းသာထောင်ပြီး 'ဘုရားသာ ဧကန်အစစ် ဖြစ်မည်' ဟုဟောကိန်းထုတ်ခဲ့သည်။ ထိုအခါ ငယ်ရွယ်သော 'ဝပ္ပ, ဘဒ္ဒိယ, မဟာနာမ်, အဿဇိ'အမည်ရှိ ပုဏ္ဏား ၄ ဦးတို့သည် ကောဏ္ဍညနှင့်အတူ ရသေ့ပြု၍ ဘုရားလောင်း တော် တောထွက်မည့်အချိန်ကို စောင့်မျှော်ခဲ့ကြသည်။ ။ ဤကား မူလပဏ္ဏာသအဋ္ဌကထာနှင့် သာရတ္ထဒီပနီဋီကာ တို့၏ အဆိုဖြစ်သည်။

အပဒါန ဗုဒ္ဓဝံသ ဇာတကအဋ္ဌ ကထာများနှင့် ဇိနာလင်္ကာရဋီကာတို့၌ကား 'အလောင်းတော် တောထွက် ချိန်၌ ဝေဒပါရဂူ ပုဏ္ဏား ၇ ယောက်မှာ ကွယ်လွန်သွားကြပြီး ဖြစ်ကြောင်း၊ ထိုအချိန် ကျန်နေသော ကောဏ္ဍည ပုဏ္ဏားကသာ အဆိုပါ ပုဏ္ဏား ၇ ယောက်၏ သား ၇ ယောက်ထံသွားကာ မိမိနှင့်အတူ ရသေ့ဝတ်၍

အလောင်းတော်မင်းသား ကေန်စင်စစ် ဘုရားဖြစ်မည့်အချိန်ကို စောင့်ကြိုရန် တိုက်တွန်းခဲ့ကြောင်း၊ သို့ရာတွင် ပုဏ္ဏားသား ၇ ယောက်အနက် ဖော်ပြပါ ၄ ယောက်သာ ကောဏ္ဍညပုဏ္ဏားနှင့်အတူလိုက်၍ ရသေ့ပြုခဲ့ကြောင်း ပြဆိုထားသည်။

## တောထွက်တော်မူခြင်း

အလောင်းတော်သိဒ္ဓတ္ထမင်းသားလေးသည် တစ်ဦးတည်းသောနန်းလျာဖြစ်၍ ခမည်းတော်သုဒ္ဓေါဒန မင်းကြီးအနေဖြင့် မိမိ၏အရိုက်အရာကို ဆက်ခံရေးအတွက် အထူးအလေးထား ခံနေရသည့်အားလျော်စွာ လောကီ အာရုံ ကာမဂုဏ်အဖုံဖုံကို အပြည့်စုံဆုံးခံစားလျက် ကြီးပြင်းခဲ့ရသည်။ မင်းကြီးက သားတော်အတွက် 'ရမ္မ၊ သုဘ၊ သုရမ္မ' ဟူသော နန်းမပြာသာဒ် ၃ ဆောင်တွင် နွေ၊ မိုး၊ ဆောင်း ဥတုပြောင်းတိုင်း အလဲအလှယ် နေထိုင်လျက်၊ ဖွားဖက်တော်ရံခြွေများဖြင့် အပျော်မွေ့ဆုံး ဖြစ်နိုင်ရေးအတွက် စီမံဖန်တီးပေးထားခဲ့သည်။

၄င်းအပြင် ကောဏ္ဍညပုဏ္ဏား ဟောကိန်းထုတ်ခဲ့စဉ်က 'အလောင်းတော်မင်းသားသည် လူအို၊ လူနာ၊ သူသေ၊ ရဟန်း ဟူသော နိမိတ်ကြီး ၄ ပါးကိုမြင်၍ တောထွက်မည်' ဟုဟောခဲ့သည်ကို အခြေပြု၍၊ ဖခင် သုဒ္ဓေါဒနမင်းကြီးသည် အဆိုပါ နိမိတ်ကြီး ၄ ပါးဝင် လူများကို အလောင်းတော်မင်းသား မမြင်နိုင်လောက်အောင် လည်း စီခံခဲ့ပါသေးသည်။ တစ်ဖန် ရန်ဖက်ဒေဝဒဟပြည်မှ အလှထိပ်ခေါင်တင် ရွှေခင်ဗိမ္ဗာ ယသောဓရာ သမီးကညာကိုပင် ကြိုးပမ်း ဆောင်နှင်း၍ လက်ထပ်ထိမ်းမြား ပေးထားပါသေးသည်။ သို့သော် အလောင်းတော် သည် သက်တော် ၂၉ နှစ်ရှိသော နေ့တစ်နေ့တွင် ဥယျာဉ်ကစားထွက်ရာမှ ခမည်းတော်သုဒ္ဓေါဒနမင်းကြီးက သားတော်မမြင်နိုင်ရန် စီစဉ်ထားခဲ့သော 'သူအို၊ သူနာ၊ သူသေ၊ ရဟန်း' ဟူသော နိမိတ် ၄ ပါးကိုမှ ပက်ပင်းမြင်တွေ့လျက်သား ဖြစ်ခဲ့လေတော့သည်။ အလောင်းတော်မင်းသား ရှေ့နိမိတ် ၃ မျိုးကိုတွေ့စဉ်က တွေ့ရာအရပ်မှ လှည့်ပြန်ခဲ့သည်။ မင်းသားသည် ပျော်ပါးရန် ဥယျာဉ်သို့ထွက်လာသော်လည်း မပျော်ပါးနိုင်တော့ဘဲ၊ မြင်တွေ့ခဲ့ရသော သူအို၊ သူနာ၊ သူသေကဲ့သို့ မိမိလည်း အိုနာသေဘေးမှ မလွတ်နိုင်ရေးကိုမျှော်တွေးကာ စိတ်လက်မအေးသဖြင့် မှိုင်ငေးလျက်သာနေခဲ့လေသည်။

၄င်းနောက် နေ့တစ်နေ့တွင် ဥယျာဉ်သို့ ထပ်မံသွားသောအခါ ရဟန်းနိမိတ်ကို မြင်၍ ဥယျာဉ်အရောက်သွား ခဲ့သည်။ မြင်တွေ့ခဲ့ရသော ရဟန်းကဲ့သို့ ရဟန်းဝတ်၍ အို၊နာ၊သေဘေးမှ လွတ်ရာလွတ်ကြောင်း တရားကောင်းကို ရှာဖွေရန် ဆန္ဒအလင်းရောင်လည်း တဖွားဖွားဖြစ်ပေါ်လာသဖြင့် ကြည်လင်မှုကို ပြန်လည်ရရှိခဲ့သည်။

ထိုအခိုက် ယသောဓရာ ဖနီးကလျာမှ သားတော်တစ်ပါးဖွားမြင်ကြောင်း အထောက်တော်တစ်ယောက်၏ သံတော်ဦးတင်မှုကို ကြားလိုက်ရသောအခါ အလောင်းတော်မင်းသားသည် အခြား ဘာမျှမပြောနိုင်တော့ဘဲ၊ မိမိ၏ဆန္ဒအလင်းရောင်ကို 'သားတော်'တည်းဟူသော သံယောဇဉ်ကြိုး ရစ်ပတ်ပိတ်ကာလိုက်မှုကို ရည်ရွယ်၍ 'စန်းငွေယုန်လမင်းကို ရာဟုဖမ်းသကဲ့သို့ ဖြစ်ရချေပြီတကား' ဟူ၍သာ ညည်းတွားပြောလိုက်နိုင်ရှာတော့သည်။

အလောင်းတော်မင်းသား၏ ညည်းတွားမှုကိုအစွဲပြု၍ သုဒ္ဓေါဒနမင်းကြီးသည် မိမိမြေးကလေးကို 'ရာဟုလာ' ဟု အမည်ပေးခဲ့လေသည်။

သို့ရာတွင် အလောင်းတော်၏ တရားကောင်းရှာရန် ဆန္ဒအလင်းရောင်ကို 'ရာဟုလာ' ဟူသောအမိုက်မှောင် ကလေးက မဖုံးလွှမ်းနိုင်ခဲ့ပေ။ ထို့ကြောင့် အလောင်းတော်သည် ထိုနေ့ မဟာသက္ကရာဇ် ၉၇ (၅၉၅ ဘီစီ)ခုနှစ် ဝါဆိုလပြည့်ည သန်းခေါင်ယံအချိန်၌ သားရာဟုလာကို တစ်နေ့ တိတ်တခိုးကြည့်ပြီး ဖွားဖက်တော် အမတ် မောင်ဆန်နှင့်အတူ ကဏ္ဍကမြင်းကိုစီး၍၊ အနောမာမြစ်ကမ်းတစ်ဘက်ရှိ ဥရုဝေလတောသို့ ဝင်၍ ဆံပင်ပယ်ကာ ရဟန်းဝတ်ပြီး တရားကောင်း ရှာတော်မူခဲ့လေတော့သည်။

## ဘုရားအဖြစ်သို့ ရောက်တော်မူခြင်း

အလောင်းတော်သည် တရားကောင်းရရှိရေးအတွက် အာဠာရနှင့် ဥဒက ရသေ့တို့ထံ ပထမ သွားရောက်၍ နည်းခံခဲ့သည်။ အာဠာရနှင့် ဥဒကရသေ့တို့ထံမှ လောကီဈာန်အဆင့်မျှကိုသာ ရနိုင်ပြီး မိမိလိုအပ်သော တရားထူးကို မရရှိနိုင်ကြောင်း သိတော်မူ၍ ၄င်းရသေ့ ၂ ပါးထံမှ ဖယ်ခွာခဲ့သည်။ ၄င်းနောက် အလောင်းတော်သည် ဆရာမမှီး တစ်ကိုယ်တည်းဖြင့် ခက်ခဲပင်ပန်းသောအကျင့်ကို ပဉ္စဝဂ္ဂီ ၅ ဦးတို့၏စောင်မမှု (ဒုက္ကရစရိယာ) အကျင့်ကို ၆ နှစ်ပတ်လုံး အရိုးပေါ် အရေဖုံးလောက်သည်အထိ မလျှော့သောဇွဲလုံ့လဖြင့် အပြင်းအထန်ကျင့်ကြံကြိုးကုတ် အားထုတ်ခဲ့သည်။ သို့ရာတွင် ဤအကျင့်သည်လည်း မိမိကိုယ် ဆင်းရဲပင်ပန်းမှုကို ဖြစ်စေရုံမျှလွဲ၍ တရားထူး ရရှိနိုင်သောနည်းမဟုတ်ကြောင်း သိရှိပြန်သဖြင့် ယင်းကျင့်ကြံနည်းကိုလည်း လက်လွှတ်ခဲ့ပြန်သည်။ ၄င်းနောက် ဆွမ်းခံဝင်၍ မဇ္ဈိမပဋိပဒါနည်းလမ်းဖြင့် ကျင့်ကြံကြိုးကုတ် အားထုတ်ခဲ့သည်။ ဆွမ်းကို ပြန်လည်ခံယူသဖြင့် ပဉ္စဝဂ္ဂီ ၅ ဦးတို့က စွန့်ခွာထွက်သွားကြသောအခါ ဆိတ်ငြိမ်မှုကို ပို၍ရရှိခဲ့သည်။

'မဇ္ဈိမပဋိပဒါလမ်းစဉ်' ဟူသည်မှာ ကာမဂုဏ်အာရုံ ခံစားမှု (ကာမသုခလ္လိက)နှင့် ကိုယ်ကို ပင်ပန်းနွမ်းနယ်စေမှု (အတ္တကိလမထ) အစွန်း ၂ ဘက်သို့ မရောက်စေဘဲ၊ ယင်း အစွန်းလမ်းစဉ်တို့၏ အလယ်အလတ်လမ်းစဉ်အကျင့် ဖြစ်သည်။ အလောင်းတော်သည် ဤသို့ မဇ္ဈိမပဋိပဒါ(မဂ္ဂင်)လမ်းစဉ်ဖြင့် ဆက်လက် ကျင့်ကြံအားထုတ်တော်မူရာ တစ်နေ့သ၌ 'သုဇာတာ'မည်သော သူဌေးသမီးတစ်ဦးက ရက္ခစိုးထင်၍လှူဒါန်းသော ဃနာနို့ဆွမ်းကို ဘုဉ်းပေးတော်မူပြီးနောက် ဗောဓိပင်ရှိရာသို့ ကြွတော်မူရာ၊ လမ်းတွင် 'သုဒ္ဓိယ'မည်သော မြက်ရိတ်သမားပုဏ္ဏားလုလင် လှူဒါန်းသော မြက် ၈ ဆုပ်ကိုယူ၍ ဗောဓိပင်သို့ရောက်သောအခါ ပင်အရင်း၌ ကြဲတော်မူလိုက်သည်။ ထိုအခါ ရွှေပလ္လင်ပေါက်လာသဖြင့် ၄င်းပလ္လင်ထက်၌ ထက်ဝယ်ဖွဲ့ခွေထိုင်နေတော်မူလျက် 'တရားထူးမရက မထ' ဟု အဓိဋ္ဌာန်ပြုပြီး ဆက်လက်အားထုတ်ပြန်ရာ ၄ အသင်္ချေနှင့် ကမ္ဘာ ၁ သိန်း ကာလပတ်လုံး ဖြည့်ဆည်းတော်မူခဲ့သော ပါရမီ ၁၀ ပါး အပြား ၃၀ အဟုန်၏ အကျိုးပေးရာ အချိန်အခါရောက်၍၊ ထိုနေ့ သက်တော် ၃၅ နှစ် မဟာသက္ကရာဇ် ၁၀၃ (၅၈၉ ဘီစီ) ကဆုန်လပြည့်နေ့ည ပထမယံ၌ ရှေးဘဝများကို ပြန်လည် အောက်မေ့နိုင်သော ပုဗ္ဗေနိဝါသာနုဿတိဉာဏ်။ ဒုတိယယံ၌ နတ်မျက်စိကဲ့သို့ သေးငယ်လျှို့ဝှက်နှင့် အဝေးကိုမြင်နိုင်သော ဒိဗ္ဗစက္ခုဉာဏ်။ ပစ္ဆိမယံ၌ 'ကာမာသဝ, ဘဝါသဝ, ဒိဋ္ဌာသဝ, အဝိဇ္ဇာသဝ' ဟူသော အာသဝ ၄ ပါး၊ တရားကိုယ်အားဖြင့် 'လောဘ, ဒိဋ္ဌိ, မောဟ' ၃ ပါး တရားညစ်များကုန်ခန်းသော အာသဝက္ခယဉာဏ်။ ဤသို့ 'ပု-ဒိ-အာ' ဟူသော ဝိဇ္ဇာ ၃ ပါးကိုရတော်မူလျက် ဘုရားအဖြစ်သို့ ရောက်တော်မူခဲ့သည်။



## ပါရမီ ၁၀ ပါး အပြား ၃၀

ဗုဒ္ဓလောင်းလျာများသည် အလုံးစုံကိုသိမြင်နိုင်သော 'သဗ္ဗညု' ဘုရားဖြစ်နိုင်ရန် ပါရမီ ၁၀ ပါး အပြား ၃၀ ကို ဘဝပေါင်းများစွာ ဖြည့်ဆည်းတော်မူကြရလေသည်။ ပါရမီ ၁၀ ပါးကား အောက်ပါအတိုင်း ဖြစ်သည်။

၁။ ဒါန = လှူဒါန်းပေးကမ်းစွန့်ကြဲမှု။

၂။ သီလ = ကြီးသူကိုရိုသေခြင်းစသော စာရိတ္တသီလ၊ စောင့်ထိန်းရန် သတ်မှတ်ထားသော ၅ ပါး, ၈ ပါး စသောသီလများကို စောင့်ထိန်းခြင်း ဟူသော ဝါရိတ္တသီလ ၂ မျိုးကို ပြုကျင့်မှု။

၃။ နိက္ခမ = တောထွက်မှု, မကောင်းမှု ဟူသမျှမှ ရှောင်ကြဉ်မှု။

၄။ ပညာ = ပညာအသိဉာဏ် ဗဟုသုတဖြင့် အများအကျိုး သယ်ပိုးမှု၊ ပညာသင်ပြမှု။
၅။ ဝီရိယ = ထကြွနိုးကြား ကြိုးစားမှု။
၆။ ခန္တီ = သည်းခံမှု။
၇။ သစ္စာ = မှန်ကန်စွာ ပြောဆို၊လုပ်ကိုင်၊ကြံစည်မှု။
၈။ အဓိဋ္ဌာန် = စိတ်ဓာတ်ခိုင်မြဲရန် ဆောက်တည်မှု။
၉။ မေတ္တာ = မေတ္တာတရား ပွားများမှု။
၁၀။ ဥပေက္ခာ = မျှတစွာကျင့်မှု၊ လျစ်လျူရှုမှု။

အထက်ပါ ပါရမီ ၁၀ မျိုးကို -

၁။ ရိုးရိုးသာမန် ကျင့်ကြံဖြည့်ဆည်းမှုအဖြစ် ၁၀ မျိုး

၂။ ခြေ၊လက်အင်္ဂါ အနစ်နာခံခြင်းနှင့်ပတ်သက်၍ ကျင့်ကြံဖြည့်ဆည်းမှုအဖြစ် ၁၀ မျိုး။ ဥပမာ- ဒါနအရာ၌ အလှူခံသူရှိက မိမိ၏ကိုယ်အင်္ဂါအစိတ်အပိုင်းကိုပင် ပေးလှူခြင်း။ ကျန်သီလ စသော ၉မျိုးကိုလည်း ကိုယ်အင်္ဂါအစိတ်အပိုင်းများကို ဖြတ်ယူပါစေ၊ ကိုယ်အင်္ဂါအစိတ်အပိုင်းများ ပျက်စီးယိုယွင်းသွားပါစေ။ ကျင့်ကြံမှုကို မပျက်စီးစေခြင်းမျိုး။

၃။ အသက်ကိုစွန့်ခြင်းနှင့်ပတ်သက်၍ ဖြည့်ဆည်းကျင့်ကြံခြင်း အဖြစ် ၁၀ မျိုး။ ဥပမာ- ဒါနအရာ၌ အလှူခံသူရှိက မိမိအသက်ကိုလှူခြင်း။ ကျန် သီလစသော ၉ မျိုးကို အသက်ပင် သေပါစေ။ ကျင့်ကြံမှုကို မပျက်စီးစေခြင်းမျိုး။ ဖော်ပြပါ ၁၀ မျိုး ၃ လီ စုစုပေါင်း ၃၀ သည် ပါရမီအပြား ၃၀ ဖြစ်သည်။

ယင်းပါရမီ ၁၀ ပါး အပြား ၃၀ ကို ဗုဒ္ဓကဲ့သို့ဖြည့်ကျင့်နိုင်ကြပါမှ မည်သူမဆို ဗုဒ္ဓကဲ့သို့ သဗ္ဗညုဘုရား ဖြစ်နိုင်သည်။

## သတ္တသတ္တာဟ စံတော်မူခြင်း

ဗုဒ္ဓရှင်တော်သည် ဘုရားအဖြစ်သို့ ရောက်ရှိတော်မူပြီးနောက် ယင်း ဘုရားဖြစ်ရာဗောဓိပင်နှင့် ရွှေပလ္လင်၌ ဖလသမာပတ်ဝင်စားလျက် ၇ ရက် စံနေတော်မူသည်။ ၎င်းကို ပထမ 'ပလ္လင်္ကသတ္တာဟ' ဟုခေါ်သည်။

၎င်းနောက် ဗောဓိပင်နှင့်ရွှေပလ္လင်၏ အရှေ့မြောက်ထောင့် မနီးမဝေးသောအရပ်၌ ရပ်တော်မူလျက် ပလ္လင်ကို ၇ ရက်ပတ်လုံး မျက်တောင်မခတ်ဘဲကြည့်ရှုလျက် စံနေတော်မူသည်။ ၎င်းကို ဒုတိယ 'အနိမိသသတ္တာဟ' ဟုခေါ်သည်။

တစ်ဖန် ပလ္လင်နှင့် အနိမိသဌာနအကြား၌ အရှေ့၊အနောက် ရတနာစင်္ကြံကိုဖန်ဆင်း၍ ၇ ရက်ပတ်လုံး စင်္ကြံကြွလျက် နေတော်မူသည်။ ယင်းကို တတိယ 'ရတနာစင်္ကမသတ္တာဟ' ဟုခေါ်သည်။

၎င်းနောက် မဟာဗောဓိပင်၏အနောက်မြောက်အရပ်၌ နတ်တို့ဖန်ဆင်းထားသော 'ရတနာဃရ' ခေါ် ရွှေအိမ်၌ ၇ ရက် စံနေတော်မူသည်။ ယင်းကို စတုတ္ထ 'ရတနာဃရသတ္တာဟ' ဟုခေါ်သည်။ ဤ ရတနာဃရ သတ္တာဟ၌စံနေတော်မူစဉ် 'ဓမ္မသင်္ဂဏီ၊ ဝိဘင်္ဂ၊ ဓာတုကထာ၊ ပုဂ္ဂလပညတ်၊ ကထာဝတ္ထု၊ ယမိုက်၊ ပဋ္ဌာန်း' ဟူသော အဘိဓမ္မာ ၇ ကျမ်းကိုဆင်ခြင်တော်မူခဲ့ရာ၊ ပဋ္ဌာန်းကျမ်းကိုဆင်ခြင်သောအခါ၌ နီလ (ညိုပြာ)၊

ပီတ(ဝါရွှေ)၊ လောဟိတ(နီ)၊ ဩဒါတ(ဖြူ)၊ မဉ္ဇိဋ္ဌ(မောင်းနက်)၊ ပဘဿရ(ပြိုးပြိုးပြက်ပြက် တစ်ခဲနက်သောအရောင်) ဟူသော ရောင်ခြည်တော် ၆ သွယ်တို့လည်း ကိုယ်တော်မှကွန့်မြူး၍ အဆုံးမရှိသောအနန္တ အာကာသကြီးထဲသို့ ပျံ့နှံ့သွားခဲ့သည်။

ငှင်းနောက် ဗောဓိပင်၏အရှေ့အရပ်၌ရှိသော၊ 'အဇပါလ' ခေါ်သော ဆိတ်ကျောင်းသားတို့နားခိုရာ ညောင်ပင်သို့ကြွ၍၊ ၇ ရက်ပတ်လုံး တရားတော်ကိုဆင်ခြင်၍ အရဟတ္တဖိုလ်ချမ်းသာကို ခံစားနေတော်မူသည်။ ၎င်းကို ပဥ္စမ 'အဇပါလသတ္တာဟ' ဟုခေါ်သည်။

၎င်းနောက် မဟာဗောဓိပင်၏အရှေ့တောင်ဘက် မုစလိန္ဒာအိုင်ရှိ ကျည်းပင်ရင်း၌ ၇ ရက်တိုင်တိုင် ဖလသမာပတ်ဝင်စားလျက် စံနေတော်မူသည်။ ထိုအခါ မိုးလေသည်းထန်သဖြင့် မုစလိန္ဒာနဂါးမင်းက မြတ်စွာဘုရားအား ၇ ပတ်ရစ်၍ ပါးပျဉ်းဖြင့် မိုးလေကို အကာအကွယ်ပေးခဲ့သည်။ ၎င်းကို ဆဋ္ဌမ 'မုစလိန္ဒသတ္တာဟ' ဟုခေါ်သည်။

၎င်းနောက် ဗောဓိပင်၏တောင်ဘက်အရပ်၌ရှိသော လင်းလွန်းပင်သို့ကြွ၍ ဖလသမာပတ်ဖြင့် ၇ ရက်စံနေတော်မူသည်။ ထိုအခါ မြန်မာနိုင်ငံ ဥက္ကလာပဇနပုဒ်မှ တဖုဿ၊ ဘလ္လိကကုန်သည်ညီနောင်တို့ ရောက်ရှိလာပြီး၊ မုန့်ကြွက်ကျစ်နှင့် ပျားဆုပ်မုန့်လှူဒါန်းခြင်းကို အလှူခံတော်မူသည်။ ၎င်းနောက် လူတို့တွင် ပထမဦးဆုံး ဒွေဝါစိက သရဏဂုံ တည်သူများအဖြစ် 'ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ၊ ဓမ္မံ သရဏံ ဂစ္ဆာမိ' ဟူသော သရဏဂုံ ၂ ပါးကို ချီးမြှင့်တော်မူသည့်အပြင်၊ ဆံတော် ၈ ဆူကိုလည်း ပေးသနားတော်မူခဲ့သည်။ ၎င်းကို သတ္တမ 'ရာဇာယတနသတ္တာဟ' ဟုခေါ်သည်။

## တရားတော်ကို ဟောတော်မူခြင်းနှင့် ပရိနိဗ္ဗာန် စံတော်မူခြင်း

ဗုဒ္ဓမြတ်စွာဘုရားရှင်သည် သတ္တသတ္တာဟဖြင့် ၄၉ ရက်တိုင်တိုင် စံနေတော်မူပြီးနောက်၊ မိမိ ရရှိသိမြင်ထားတော်မူသော တရားတော်ကို ပထမဦးဆုံးအဖြစ် ဟောကြားရန်အတွက် တရားနာပုဂ္ဂိုလ်များအား ကြည့်ရှုဆင်ခြင်ရတော်မူသောအခါ၊ မိမိဆရာဖြစ်ခဲ့ဖူးသော အာဠာရနှင့် ဥဒကရသေ့တို့အား ရှေးဦးစွာဟောကြားရန် ဆင်ခြင်ဉာဏ်အမြင်၌ ထင်လာတော်မူသည်။ သို့ရာတွင် ယင်းရသေ့ ၂ ပါးမှာ မကြာမီကမှ ကွယ်လွန်ခဲ့ကြောင်း ထပ်မံသိရှိတော်မူသောအခါ၊ ဒုက္ကရစရိယာအကျင့် ကျင့်စဉ်က လုပ်ကျွေးသမှုပြုခဲ့ကြသော ပဥ္စဝဂ္ဂီ ၅ ဦးတို့အား ရှေးဦးစွာ တရားဟောရန် ဆင်ခြင်ဉာဏ်အမြင်၌ ထင်တော်မူလာပြန်သည်။

ထို့ကြောင့် ဗုဒ္ဓမြတ်စွာဘုရားသည် ပဥ္စဝဂ္ဂီ ၅ ဦးရှိရာ မဟာဗောဓိပင်မှ ၁၈ ယူဇနာဝေးသော၊ သားသမင်တို့ကို ဘေးမဲ့ပေးရာ မိဂဒါဝုန်တောသို့ ကြွရောက်တော်မူလျက်၊ မဟာသက္ကရာဇ် ၁၀၃ ခုနှစ် ဝါဆိုလပြည့်နေ့ညနေအခင် လအထွက်၌ ပဥ္စဝဂ္ဂီ ၅ ဦးတို့အား ဓမ္မစကြာတရားတော်ကို ဟောကြားတော်မူသည်။

ဒေသနာတော်အဆုံး၌ ကောဏ္ဍညသည် အလျင်အဦးဆုံး သောတာပန်အဖြစ်သို့ ရောက်ရှိခဲ့သည်။ နောက်ပိုင်း၌ ကျန် ၄ ပါးတို့လည်း တစ်ရက် တစ်ပါးကျ သောတာပန်ဖြစ်ခဲ့ပြီးနောက်၊ ၅ ရက်မြောက် ဝါဆိုလဆုတ် ၅ ရက်၌ မြတ်စွာဗုဒ္ဓက အနတ္တလက္ခဏသုတ်ကို ထပ်မံဟောကြားတော်မူသောအခါ ပဥ္စဝဂ္ဂီ ၅ ပါးစလုံး 'ကာမ၊ ဘဝ၊ ဒိဋ္ဌိ၊ အဝိဇ္ဇာ' ဟူသော အာသဝေါတရား ၄ ပါး၊ ကိလေသာအားဖြင့် 'လောဘ၊ ဒေါသ၊ မောဟ၊ မာန၊ ဒိဋ္ဌိ၊ ဝိစိကိစ္ဆာ၊ ထိန၊ ဥဒ္ဓစ္စ၊ အဟိရိက၊ အနောတ္တပ္ပ' ဟူသော အပူဓာတ်ကိလေသာ ၁၀ ပါးတို့ အကြွင်းမဲ့ (သမုစ္ဆေဒပဟာန်ဖြင့်)ပြုတ်၍ ရဟန္တာအဖြစ်သို့ ရောက်ရှိတော်မူခဲ့သဖြင့်၊ မြတ်စွာဘုရားထံ ရဟန်းအဖြစ်ကို ခံယူတော်မူခဲ့ရာ သာသနာတော်၌ ပထမဦးဆုံး 'သံဃာရတနာ' ပေါ်လာရတော့သည်။

ဗုဒ္ဓမြတ်စွာဘုရားသည် ထိုအချိန်မှစ၍ ၄၅ ဝါပတ်လုံး သတ္တဝါတို့၏အလို အဇ္ဈာသယစရိုက်နှင့် လျော်သော တရားဒေသနာတော်အမျိုးမျိုးကို ဟောကြားတော်မူပြီးနောက် သက်တော် ၈၀ မဟာသက္ကရာဇ် ၁၄၈ ခုနှစ် ကဆုန်လပြည့်နေ့ (၅၄၄ ဘီစီ)၌ မလ္လာတိုင်း ကုသိနာရုံပြည်တွင် ပရိနိဗ္ဗာန်ပြုတော်မူခဲ့သည်။

ရုပ်ကလာပ်ပူဇော်ပွဲ, တေဇောဓာတ်ပူဇော်ပွဲနှင့် တေဇောဓာတ်လောင်ကျွမ်းရာ၌ ကြွင်းကျန်ရစ်သော ဓာတ်တော်ပူဇော်ပွဲများကို ပူဇော်ကြပြီးနောက်၊ 'ဒေါဏ'မည်သော ဆရာပုဏ္ဏားက ၈ ပြည်ထောင်မင်းတို့အား ဓာတ်တော်များကို ကိုးကွယ်ရန် အညီအမျှ ခွဲဝေပေးခဲ့သည်။ သို့ရာတွင် ရှင်မဟာကဿပထေရ်မြတ်က ယင်း ၈ ပြည်ထောင်မင်းများထံ ကိုးကွယ်ရန် အနည်းငယ်မျှချန်၍ ကျန်အားလုံးကို တန်ခိုးတော်ဖြင့်သိမ်းယူပြီး၊ အဇာတသတ် မင်းအား တစ်နေရာတည်း၌ လုံခြုံစွာ မြေအောက်ဌာပနာတိုက်၌ သိုဝှက်ထားစေတော်မူခဲ့သည်။ နောင်တွင် သီရိဓမ္မာသောကမင်းက ဓာတ်တော်အချို့ကို တူးဖော်ရရှိသဖြင့် ၎င်းဓာတ်တော်များကို စေတီပေါင်း ၈ သောင်း ၄ ထောင်တွင် ဌာပနာခဲ့သည်။

## ဗုဒ္ဓမြတ်စွာဟောတော်မူခဲ့သော တရားတော်များ

ဗုဒ္ဓမြတ်စွာဘုရားသည် မဟာသက္ကရာဇ် ၁၀၃ ခုနှစ် ကဆုန်လပြည့်နေ့၌ ဘုရားအဖြစ်သို့ ရောက်ရှိပြီးစ အချိန်တွင် ဝမ်းမြောက်တော်မူသည့်အနေဖြင့် ဖြစ်ပေါ်လာသော 'အနေကဇာတိ သံသာရံ' အစရှိသော ဥဒါန်းဂါထာ သည် မြတ်စွာဘုရားစိတ်တော်၌ဖြစ်ပေါ်လာသော ပထမဆုံးစကားဖြစ်၍၊ 'ပထမဝစန' (အစဦးဆုံးစကား) မည်သည်။

မဟာသက္ကရာဇ် ၁၄၈ ခုနှစ် ကဆုန်လပြည့် နံနက်အရုဏ်တက်ချိန် (၅၄၄ ဘီစီ)၌ ကုသိနာရုံပြည် မလ္လာမင်းတို့၏ ဥယျာဉ်တွင် ပရိနိဗ္ဗာန်စံတော်မူခါနီးအချိန် မြွက်ကြားသော 'ဟန္ဒဒါနိဘိက္ခဝေ' အစရှိသော စကားသည် မြတ်စွာဘုရား နောက်ဆုံးမြွက်ကြားသော စကားဖြစ်၍ 'ပစ္ဆိမဝစန' (နောက်ဆုံးစကား)မည်သည်။

ယင်းစကား ၂ ရပ်မှ လွဲ၍ ၄၅ ဝါကာလပတ်လုံး ဓမ္မစကြာတရားမှစ၍ ဟောကြားခဲ့သမျှ တရားတော်များ သည် 'မဇ္ဈိမဝစန' (အလယ်စကား) မည်သည်။

ဤသို့ အစ, အလယ်, အဆုံးအားဖြင့် မြတ်စွာဘုရားဟောကြားခဲ့သမျှ တရားအလုံးစုံကား ရသ (အနှစ်သာရ)အားဖြင့် ဝိမုတ္တိရသ (သံသရာမှလွတ်မြောက်ရေး အနှစ်သာရတစ်ပါးသာ ရှိသည်။) အဘိဓမ္မာနှင့် သုတ်တရားများသည် 'ဓမ္မ'ဖြစ်ပြီး၊ ဝိနည်းသည် 'ဝိနယ'မည်၍၊ ဓမ္မဝိနယ(တရားတော်ကျင့်ဝတ်)အားဖြင့် ၂ ပါး သာ ရှိသည်။

ပိဋက (စုစည်းမှုစာခြင်း, စာပုံးတောင်း)အားဖြင့် 'သုတ်,ဝိနည်း,အဘိဓမ္မာ' ဟူ၍ ၃ ပါးသာ ရှိသည်။

နိကာယ် (သဘောတူရာအစု)အားဖြင့် 'အင်္ဂုတ္တရ, သံယုတ္တ, မဇ္ဈိမ, ဒီဃ, ခုဒ္ဒက' ဟူ၍ ၅ ပါးရှိသည်။

အင်္ဂါ (အစိတ်အပိုင်း)အားဖြင့် 'သုတ်, ဂေယျ, ဝေယျာ ကရဏ, ဂါထာ, ဥဒါန်း, ဇာတ်, ဣတိဝုတ်, အဗ္ဘုတဓမ္မ, ဝေဒလ္လ'အားဖြင့် ၉ ပါး ရှိသည်။

ဓမ္မက္ခန္ဓာ (ဟောစဉ်အစု)အားဖြင့် 'အနုသန္ဓေတစ်ခုရှိသောသုတ်သည် ဓမ္မက္ခန္ဓာတစ်ခု၊ ဂါထာဗန္ဓတွင် အမေးပြဿနာတစ်ခုလျှင် ဓမ္မက္ခန္ဓာတစ်ခု၊ အဖြေဝိဿဇ္ဇနာတစ်ခုလျှင် ဓမ္မက္ခန္ဓာ တစ်ခု၊ အဘိဓမ္မာပိဋကတွင် တစ်ခုသောတိက်ဒုက်ကို ဝေဖန်ခြင်း၊ တစ်ခုသော စိတ္တဝါရကို ဝေဖန်ခြင်းသည် ဓမ္မက္ခန္ဓာတစ်ခု, ဝိနည်းပိဋကတွင် ဝတ္ထု, မာတိကာ, ပဒဘာဇနီ, အန္တရာပတ္တိ, အနာပတ္တိ, တိကစ္ဆေဒ တစ်ခုစီ သည် ဓမ္မက္ခန္ဓာတစ်ခုစီ' ဟူ၍ သတ်မှတ်ထားသော ဓမ္မက္ခန္ဓာပေါင်း ၈ သောင်း ၄ ထောင် ရှိသည်။

## ဗုဒ္ဓတရား အနှစ်ချုပ်

၁။ ဗုဒ္ဓမြတ်စွာ၏ ဦးတည်ချက်ပန်းတိုင်ကား 'သံသရာမှလွတ်မြောက်ပြီး နိဗ္ဗာန်ကို မျက်မှောက်ပြုနိုင်ရေး' ဖြစ်သည်။

၂။ 'သတ္တဝါတို့သည် ယင်းနိဗ္ဗာန်သို့ မရောက်ရှိသေးသမျှ အပါယ် ၄ ဘုံ၊ လူ့ဘုံ၊ နတ် ၆ ဘုံ၊ ရူပဗြဟ္မာ ၁၆ ဘုံ၊ အရူပဗြဟ္မာ ၄ ဘုံ၊ စုစုပေါင်း ၃၁ ဘုံ။ 'စကြဝဠာအနန္တ' ဟူသော သံသရာအတွင်း၌ ပြုအပ်သောကံအားလျော်စွာ ဘဝသစ် ပြန်ဖြစ်သောအားဖြင့် တပြောင်းပြန်ပြန် လူးလာစုန်ဆန် ပြေးသွားကျင်လည်နေရသည်' ဟုဟောတော်မူသည်။

၃။ 'သံသရာလည်ရာ၌ ပဋိစ္စသမုပ္ပါဒ် စက်ရဟတ်ဖြင့် လည်ပတ်နေကြခြင်း ဖြစ်သည်။ သတ္တဝါများ အာသဝေါတရားကြောင့် တွေဝေမှု 'မောဟ' ဟူသော အဝိဇ္ဇာဖြစ်၊ အဝိဇ္ဇာကြောင့် သင်္ခါရဖြစ်၊ သင်္ခါရကြောင့် ဝိညာဏ်ဖြစ်၊ ဝိညာဏ်ကြောင့် နာမ်,ရုပ်ဖြစ်၊ နာမ်,ရုပ်ကြောင့် အာယတနဖြစ်၊ အာယတနကြောင့် ဖဿဖြစ်၊ ဖဿကြောင့် ဝေဒနာဖြစ်၊ ဝေဒနာကြောင့် တဏှာဖြစ်၊ တဏှာကြောင့် ဥပါဒါန်ဖြစ်၊ ဥပါဒါန်ကြောင့် ကမ္မဘဝဖြစ်၊ ကမ္မဘဝကြောင့် ဥပပတ္တိဘဝနှင့် ဇာတိဖြစ်၊ ဇာတိကြောင့် ဇရာ၊ မရဏ၊ သောက၊ ပရိဒေဝ၊ ဒုက္ခ၊ ဒေါမနဿ၊ ဥပါယာသ တို့ဖြစ်၊ ၄င်းတို့ဖြစ်ခြင်းကြောင့် အာသဝေါတရားပြန်ဖြစ်၍ ပဋိစ္စသမုပ္ပါဒ် သံသရာစက်ရဟတ် လည်ပတ်နေကြသည်' ဟုဟောတော်မူသည်။

၄။ လောကသည် - သက်ရှိများသည် 'သတ္တလောက' မည်သည်။
- သက်ရှိတို့နေရာ သက်မဲ့အရာများသည် 'ဩကာသလောက' မည်သည်။
- ယင်း သက်ရှိ,သက်မဲ့လောက ၂ မျိုးစလုံး တည်မြဲမှုမရှိဘဲ ဖြစ်ပြီး ပျက်စီးယိုယွင်းရခြင်းသည် 'သင်္ခါရလောက'မည်သည်။

တစ်နည်းအားဖြင့် သက်ရှိသက်မဲ့အားလုံးကို ဖျစ်ညှစ်စုစည်း၍ ရေတွက်ကြည့်လျှင် ပရမတ္ထ(အမှန်သဘော) အရ 'စိတ်၊ စေတသိက်၊ ရုပ်၊ နိဗ္ဗာန်' ဟူ၍ ၄ မျိုးသာ ရှိသည်။

ဤသို့ သင်္ခါရလောကအဖြစ်ဖြင့် ဖြစ်ပြီးပျက်စီးခံရသော သတ္တလောက၊ ဩကာသလောက ၂ မျိုးလုံးသည် တစ်နည်းအားဖြင့် 'စိတ်၊ စေတသိက်၊ ရုပ်' ဟူသော ပရမတ္ထတရား ၃ ပါးသည် မမြဲခြင်း၊ ဆင်းရဲခြင်း၊ ပြုပြင်အပ် ပြုပြင်ခြင်းခံရသော တရားများဖြစ်၍ 'သင်္ခတ'မည်ကုန်သည်။ ယင်း လောက ၃ မျိုးမှ အလွတ်ဖြစ်သော၊ တစ်နည်းအားဖြင့် ကျန် ပရမတ္ထ တစ်ပါးဖြစ်သော နိဗ္ဗာန်ကား မပြုပြင်အပ်၊ ပြုပြင်မခံရသော တရားဖြစ်၍ 'အသင်္ခတ' မည်သည်။

ဖော်ပြပါ သင်္ခတ၊ အသင်္ခတတရား ၂ ပါးအနက် သင်္ခတတရားအားလုံးသည် တည်မြဲမှုမရှိဘဲ၊ ဥပါဒ်၊ ဌီ၊ ဘင် (ဖြစ်၊ တည်၊ ပျက်) အစဉ်တွင် ခဏမပြတ် တရစပ်လည်ပတ်နေရသည်။ ဤသို့ တည်မြဲမှုမရှိခြင်းကြောင့် နိစ္စမဟုတ်ဘဲ၊ အနိစ္စတရားသာ ဖြစ်သည်။ တစ်ဖန် 'ဟောင်းနွမ်းဆွေးမြည့် ပျက်စီးခြင်း၊ အိုခြင်း၊ နာခြင်း၊ သေခြင်း စသော ဆင်းရဲမှုများဖြစ်ခြင်းကြောင့် သုခ မဟုတ်။ ဒုက္ခ မည်သည်။ သင်္ခတ၊ အသင်္ခတ တရား ၂ ပါးလုံး၊ တစ်နည်းအားဖြင့် ပရမတ္ထတရား ၄ ပါးစလုံးသည် အတ္တ မဟုတ်။ အနှစ်သာရ မရှိ။ မိမိအလိုသို့မလိုက်ဘဲ သူ့အလိုအတိုင်း သူ ဖြစ်နေခြင်း၊ သူ့သဘော သူ ဆောင်နေခြင်းကြောင့် 'အနတ္တ'မည်သည်' ဟုဟောတော်မူသည်။

၅။ သတ္တဝါတို့သည် အနိစ္စကို နိစ္စထင်၍ မာနဝင်နေကြသည်။ ဒုက္ခကို သုခထင်၍ တဏှာလောဘ ဖြစ်နေကြသည်။ အနတ္တကို အတ္တထင်နေကြ၍ ဒိဋ္ဌိ ဝင်နေကြသည်။ 'တဏှာ,မာန,ဒိဋ္ဌိ' ဟူသော ပပဉ္စ (သံသရာချဲ့ထွင်ရေး) တရား ၃ ပါးကြောင့်သာ သတ္တဝါတို့သံသရာလည်မှု ရှည်လျားနေကြရသည် ဟု ဟောတော်မူသည်။

ပပဉ္စ (သံသရာနယ်ချဲ့) တရား ၃ ပါးတွင်သာမက အာသဝ, ဩဃ, ယောဂ, နီဝရဏ, ဥပါဒါန်, သံယောဇဉ်, ကိလေသာ စသည်တို့တွင်လည်း တဏှာလောဘသည် အဓိကဖြစ်သည်။

တစ်ဖန် လောဘနောက်တွင် အရိပ်ပမာ ကပ်လျက်ပါနေသော မောဟ (အဝိဇ္ဇာ)ကလည်း ပုလင်းမည်းအရောင်ကြောင့် ပိုမှောင်သည့်သဘာဝအတိုင်း လောဘအရောင်ကြောင့် ပို၍ ပိတ်မှောင်လောက်အောင် ဖုံးကွယ်ပေးနေပြန်သည်။

ထို့ကြောင့် အဝိဇ္ဇာ (မောဟ)နှင့် တဏှာ(လောဘ) တရား ၂ ပါးသည် သံသရာနယ်ချဲ့ရာ၌ အရင်းခံမူလတရား ၂ ပါး ဖြစ်လာရတော့ သည်။ ယင်း ၂ ပါးအနက် အဝိဇ္ဇာ(မောဟ)တရားသည် အရိပ်ပမာ တရားဖြစ်၍ မထင်ရှားဘဲ တဏှာ(လောဘ)သာ မားမားမားမားနှင့် ထင်ရှားနေရတော့သည်။ ထို့ကြောင့် မကောင်းတရားများ၏ အခေါင်အချုပ်ကား လောဘပင် ဖြစ်တော့သည်။

ပုဂ္ဂိုလ်အဆင့် ၁၂ ပါးအနက် နိဗ္ဗာန်လမ်းပွင့်တော်မူကြသော ဘုရားရဟန္တာအဆင့်ရောက်မှသာ ယင်းလောဘကို အကြွင်းမဲ့ ပယ်သတ်နိုင်သည်။ ကျန်ပုဂ္ဂိုလ်အဆင့်များကား ယင်းလောဘကို အကြွင်းမဲ့ မပယ်သတ်နိုင်ကြသေးပါ။ ဤသို့ လောဘကိုမသတ်နိုင်သေးသော ပုဂ္ဂိုလ်များသည် သံသရာတွင် အထိုက်အလျောက် လည်ရပြီး၊ အို, နာ, သေဘေး စသောဒုက္ခများနှင့်လည်း ကြုံတွေ့ရပါတော့သည်။

ထို့ကြောင့် ဗုဒ္ဓမြတ်စွာဘုရားက သတ္တလောကတွင် တဏှာ(လောဘ)သည် သတ္တဝါတို့ဒုက္ခဖြစ်ခြင်း၏ အကြောင်းမှန် 'သမုဒယသစ္စာ'မည်ကြောင်း။

ယင်း သမုဒယသစ္စာ တဏှာ(လောဘ)ကြောင့် သတ္တဝါတို့ ဒုက္ခဖြစ်နေရခြင်းအမှန်ဖြစ်၍ 'ဒုက္ခသစ္စာ' မည်ကြောင်း။

သို့ရာတွင် ဗောဓိပက္ခိယတရား ၃၇ ပါးတွင်ပါဝင်သော 'သမ္မာဒိဋ္ဌိ (မှန်သောအမြင်), သမ္မာသင်္ကပ္ပ (မှန်သောအကြံ), သမ္မာဝါစာ (မှန်သောစကား), သမ္မာကမ္မန္တ (မှန်သောအလုပ်), သမ္မာအာဇီဝ (မှန်သောအသက်မွေးမှု), သမ္မာဝါယာမ (မှန်သောအားထုတ်မှု), သမ္မာသတိ (မှန်သောအောက်မေ့မှု), သမ္မာသမာဓိ (မှန်သော စိတ်၏တည်ကြည်မှု)' ဟူသော ဒုက္ခငြိမ်းရာ(နိဗ္ဗာန်)သို့ ရောက်ရှိရန် မဂ်(လမ်းကြောင်း), မဂ္ဂင်(မဂ်၏အင်္ဂါ) တရား ၈ ပါးသည် 'မဂ္ဂသစ္စာ'မည်ကြောင်း။

ယင်း မဂ္ဂသစ္စာတရားဖြင့် လမ်းကြောင်းမှန် (မဂ်)သို့ ဆိုက်ရောက်သွားသူသည် ဒုက္ခချုပ်ရာ နိဗ္ဗာန်ကို မျက်မှောက်ပြုနိုင်သောကြောင့် 'နိရောဓသစ္စာ'မည်ကြောင်း။ သစ္စာ ၄ ပါးတရားကို ဟောကြားတော်မူခဲ့သည်။

၆။ အနတ္တဖြစ်သော ခန္ဓာကိုယ်ကို ငါ၏အတ္တ (အသက်, လိပ်ပြာ, ဝိညာဉ်ကောင်)ဟူ၍ စွဲလမ်းခြင်း (ငါစွဲဝါဒ)သည် 'သက္ကာယဒိဋ္ဌိ'မည်ကြောင်း။

ယင်းကို အမြဲတည်သော နိစ္စတရားအဖြစ်ယူ၍ လူသေ သော်လည်း ၎င်းအတ္တ မသေဘဲ တစ်ဘဝမှ တစ်ဘဝသို့ ကူးပြောင်းနေရသော ထာဝရဝိညာဉ်အဖြစ် ယူခြင်း (ဝိညာဏဝါဒ)သည် 'သဿတဒိဋ္ဌိ' မည်ကြောင်း။

တစ်ဖန် လူသေက ဘာမျှမကျန်။ ဘဝကူးမှု မရှိ။ ဘဝပြတ်၏။ သေလျှင် မြေကြီးသာဖြစ်သည် ဟု ယူခြင်း ရုပ်ဝါဒသည် 'ဥစ္ဆေဒဒိဋ္ဌိ'မည်ကြောင်း။

အလားတူ 'ကောင်းမှု၊မကောင်းမှု၊ကံအကျိုး မရှိ' ဟူသော ကံအကျိုးတရားပယ် 'နတ္ထိကဒိဋ္ဌိ'။ 'ကောင်းမှု၊ မကောင်းမှုပြုသော်လည်း ပြုသည်မမည်' ဟုဟူသော ကံအကြောင်းတရားပယ် 'အကိရိယဒိဋ္ဌိ'။ 'ကောင်းမှု၊ မကောင်းမှု မရှိ' ဟုယူသော ကံအကြောင်းအကျိုးပယ် 'အဟေတုကဒိဋ္ဌိ' ဟူသော ကံပယ် အယူ ၃ ပါးသည် မုချမလွဲ အပါယ်ငရဲသို့ကျရောက်စေသောကြောင့် 'နိယတမိစ္ဆာဒိဋ္ဌိ'မည်ကြောင်း ဟောတော်မူသည်။

၇။ အမှန်မှာ သတ္တဝါတို့၏ခန္ဓာကိုယ်တွင် ရုပ်ပိုင်းဆိုင်ရာအစု (ရူပက္ခန္ဓာ)၊ ခံစားမှုဆိုင်ရာအစု (ဝေဒနာက္ခန္ဓာ)၊ မှတ်သားမှုဆိုင်ရာအစု (သညာက္ခန္ဓာ)၊ ပြုပြင်မှုဆိုင်ရာအစု (သင်္ခါရက္ခန္ဓာ)၊ သိမှုဆိုင်ရာအစု (ဝိညာဏက္ခန္ဓာ) ဟူသော ခန္ဓာ ၅ ပါးသာရှိကြောင်း ဟောတော်မူသည်။

၈။ သတ္တဝါတို့ သံသရာလည်ကြရာ၌ ကောင်းသောဘဝဖြင့် လည်ရခြင်း၊ မကောင်းသောဘဝဖြင့် လည်ရခြင်း၊ သံသရာစက်မှ လွတ်မြောက်ခြင်းတို့အတွက် မည်သည့်တန်ခိုးရှင်၏ဆောင်ရွက်ချက်များကြောင့်မျှ မဟုတ်ဘဲ၊ ဘဝါဘဝက မိမိတို့စေတနာနှင့်တကွ ပြုခဲ့သမျှသော အလုပ်(ကံ)များအလျောက် လည်ပတ်နေကြရခြင်း ဖြစ်ကြောင်း။ ကံသာလျှင် သတ္တဝါတို့ကို ဝေဖန်နေ၊ အကွဲကွဲအပြားပြားဖြစ်နေအောင် ဖန်တီးနေကြောင်း။ သတ္တဝါတို့သည် မိမိတို့ပြုလိုက်သော ကံသာလျှင် အမိ၊ ကံသာလျှင်အဖ၊ ကံသာလျှင် ကိုးကွယ် လဲလျောင်းရာဖြစ်ကြောင်း။ သတ္တဝါများသည် မိမိတို့ဘဝ မြင့်မားရေးအတွက် မိမိတို့ကိုယ်ကို မိမိတို့ အားကိုးရမည်ဖြစ်ကြောင်း ဟောတော်မူသည်။

ဤ၌ ကံနှင့် ကြမ္မာ ဝါဒ ၂ ရပ်ကို ခွဲခြားသိရန် လိုအပ်သည်။ ကံဝါဒကား အတိတ်၊ ပစ္စုပ္ပန်၊ အနာဂတ် ကာလ ၃ ပါးစလုံး၌ပြုသော ကံများကို ယူသော်လည်း၊ ကြမ္မာဝါဒကား အတိတ်ကံဟောင်းတစ်ခုကိုသာ ယူသည်။ ဗုဒ္ဓမပွင့်မီက မိမိကိုယ်ကို 'ဘုရား' ဟုဝန်ခံနေကြသော ဘုရားကြီး ၆ ဦးအနက် 'နိဂဏ္ဌနာဋပုတ္တ' ခေါ် မဟာဝီရ၏ 'ဇိန' ခေါ် ဂျိန်းဘာသာအယူဝါဒသည် ကြမ္မာဝါဒ ဖြစ်သည်။ ထို့ကြောင့် ဂျိန်းရဟန်းများသည် ကံ ဟောင်းကုန်ရေးအတွက် အတ္တကိလမထအကျင့်ကို အလေးအနက်ထား၍ဆောင်ရွက်ကြခြင်း ဖြစ်သည်။

ဗုဒ္ဓ၏ကံဝါဒကား အတိတ်၊ ပစ္စုပ္ပန်၊ အနာဂတ် အလုပ် ၃ ပါးစလုံးကို အဓိကထားသည့်အားလျော်စွာ သတ္တဝါတို့သည် အတိတ်ကံကြောင့် ယခုပစ္စုပ္ပန်ဘဝ၌ လူချင်းတူသော်လည်း အသက်ရှူ ကွဲပြားနေကြရသည်ဟု ယူပြီး၊ ပစ္စုပ္ပန်ဘဝနှင့် အနာဂတ်ဘဝကောင်းမြတ်ရေး၊ အထက်တန်းကျနိုင်ရေး၊ အတိတ်မှ မကောင်းကံများကို လွှမ်းမိုးနိုင်ရေးများအတွက် ပစ္စုပ္ပန်ဘဝ၌ ကောင်းသောလုပ်ငန်း (ကံ)များကို ဉာဏ်နှင့် ဝီရိယ တွဲဖက်၍ ဦးစားပေး ဆောင်ရွက်ရန် သင်ကြားသည်။

အထူးမှာ သတ္တဝါတို့ နိဗ္ဗာန်မရမီ သံသရာလည်ရာ၌ ဗြာဟ္မဏနှင့် သမဏပရိဗ္ဗာဇကအချို့တို့ ယူဆသကဲ့သို့ အတ္တ (အသက်၊ လိပ်ပြာ၊ ဝိညာဉ်ကောင်)က မသေဘဲ၊ တစ်ဘဝမှတစ်ဘဝသို့ ကူးသွားနေရသည် မဟုတ်ဘဲ၊ မိမိတို့ပြုလုပ်လိုက်သော အလုပ်(ကံ)က စွမ်းအင်အဖြစ်ဆောင်ရွက်ချက်ကြောင့်သာ နောက်ဘဝါဘဝတို့၌ ယင်း ကံအားလျော်စွာ ဖြစ်ရသည်ဖြစ်၍ ပစ္စုပ္ပန်ကံသည် အထူးအရေးကြီးကြောင်း သင်ကြားသည်။

ပစ္စုပ္ပန်ကံကို ပြုရာ၌လည်း ကံ၏အကျိုးပေးရာ ကာလအားဖြင့် ၄ မျိုးရှိသောကြောင့် အချို့ကံများသည် ဒိဋ္ဌဓမ္မ ဝေဒနီယကံအဖြစ် မျက်မှောက်ဘဝတွင်ပင် အကျိုးပေးကြသည်။ အချို့ကံများသည် ဥပပဇ္ဇ ဝေဒနီယကံအဖြစ် ဒုတိယဘဝ၌ အကျိုးပေးကြသည်။ အချို့ကံများသည် အပရာပရိယ ဝေဒနီယကံအဖြစ် တတိယဘဝမှစ၍ နိဗ္ဗာန်မရမီ တစ်ဘဝတစ်ဘဝ တစ်ချိန်ချိန်တွင် အကျိုးပေးကြသည်။ အချို့ကံများသည် ကာလ၊ ဒေသ၊ ပယောဂ အခြေအနေများကြောင့် အဟောသိကံအဖြစ် အကျိုးမပေးဘဲ ပျက်ပြယ်သွားကြသည်လည်း ရှိသည်။ ထို့ကြောင့် ပစ္စုပ္ပန်ကံသည် အထူးအရေးကြီးကြောင်း သင်ကြားခြင်း ဖြစ်သည်။

၉။ ဖြစ်,ပျက်မှု ဟူသမျှတို့သည် ပဋိစ္စသမုပ္ပါဒ်ကြောင်းကျိုးဆက်အရ၊ ပဋ္ဌာန်းကြောင်းကျိုးဆက်အရ ဖြစ်, တည်, ပျက် (ဥပါဒ်, ဌီ, ဘင်) သဘောအရ ဖြစ်, ပျက်နေကြသည် ဟု ဟောတော်မူသည်။ ဥပါဒ်, ဌီ, ဘင် ဆိုသော်လည်း ခဲတစ်လုံးကို မိုးပေါ်ပစ်တင်လိုက်လျှင် အတက်နှင့် အကျသာ ထင်ရှားသကဲ့သို့၊ စိတ်တစ်ခု၏ ဥပါဒ်, ဌီ, ဘင် ဟု ဆိုသော်လည်း ဥပါဒ်နှင့် ဘင်သာ ထင်ရှားသည်။ အတက်နှင့် အကျ, အဖြစ်နှင့် အပျက်ကို ပိုင်းခြားပေးသော အခိုက်အတန့်မျှကိုသာ 'ဌီ' ဟုဆိုရသည်။

၁၀။ လောကရှိ ရုပ်နာမ်တရား ဟူသမျှ၊ အရာဟူသမျှသည် အောက်ပါနိယာမ ၅ ပါးအရ သွယ်သော သူဆောင်၍ ဖြစ်ပျက်နေကြသည်ဟု ဟောတော်မူသည်။

* ဗီဇနိယာမ ။ ။ မျိုးစေ့ကိုစွဲ၍ ဖြစ်နေကြရသည်။ မျိုးစပ်ပေးကလည်း မျိုးစေ့ ၂ မျိုးပါသော ကပြားမျိုး ဖြစ်ပေါ်လာရသည်။
* ဥတုနိယာမ ။ ။ ဥတုကိုစွဲ၍ ပူခြင်း, အေးခြင်း စသည်တို့သည် လည်းကောင်း၊ သစ်ပင်စသည်တို့ သူ့အချိန်နှင့် သူ သီးပွင့်နေကြခြင်းတို့သည် လည်းကောင်း ဖြစ်နေကြရသည်။
* ကမ္မနိယာမ ။ ။ စေတနာနှင့်တကွ ပြုလုပ်သောအလုပ် (ကံ)ကိုစွဲ၍ ပစ္စုပ္ပန်,သံသရာ ၂ ဖြာ၌ သတ္တဝါတို့သည် ကောင်းသောကံ အကျိုးပေးသန်က ကောင်းကျိုးချမ်းသာကို, မကောင်းသောကံ အကျိုးပေးသန်က မကောင်းကျိုးဒုက္ခကို ခံစားနေကြရသည်။
* ဓမ္မနိယာမ ။ ။ ဘုရားလောင်းတို့ ပဋိသန္ဓေနေချိန်, ဖွားချိန်, ဘုရားဖြစ်ချိန်တို့၌ မြေလှုပ်ခြင်း နိမိတ်ကောင်းများ၊ လူသားနှင့်ကမ္ဘာကြီး အတိတ်နိမိတ်အတွက် ရောင်နီလွှတ်ခြင်း, ဥက္ကာပျံခြင်း စသောအတိတ်နိမိတ်များသည် 'ဓမ္မနိယာမ' ခေါ် ဓမ္မတာ သဘောအရ ဖြစ်နေကြရသည်။
* စိတ္တနိယာမ ။ ။ သတ္တဝါတို့၏စိတ်အစဉ်သည်လည်း ပြုပြင်သူမရှိဘဲ အာရုံကျရာအလျောက် ဖြစ်ပေါ်နေကြရသည်။ ဤနိယာမကို နားလည်ရန် စိတ်အစဉ် (ဝီထိ)ဖြစ်နေပုံကို အနည်းငယ် ရှင်းပြပါမည်။

လူတစ်ယောက်သန္တာန်၌ ဒေါသစိတ် ဖြစ်ပေါ်ပုံမှာ ပထမ၌ စိတ်သည် ဘဝင်ကျနေသည့်အနေဖြင့် ကြည်လင် ငြိမ်ဝပ်လျက်ရှိသည်။ သို့ရာတွင် -

၁- ပြင်ပအသံ (သဒ္ဒါရုံ)
၂- မိမိ၌ နားအကြည်ဓာတ်ရှိခြင်း (သောတဒွါရ)
၃- ၎င်းအသံကို ကြားနိုင်လောက်ခြင်း (အာကာသ)
၄- ၎င်းအသံကို အာရုံပြုမိခြင်း (မနသိကာရ) ဟူသော အင်္ဂါ ၄ ချက်နှင့်အညီ ပြင်ပ ဆဲဆိုသံတစ်ရပ်ကို ကြားလိုက်ရသောအခါ -

- စိတ်သည် ဘဝင်ကျနေရာမှ လှုပ်လာသည် (ဘဝင်္ဂစလန)။ တစ်ဖန် ၎င်းဘဝင်လှုပ်မှုကို ဖြတ်ခြင်း (ဘဝင်္ဂုပစ္ဆေဒ) ဖြစ်လာသည်။ ဤသို့ ဘဝင် ၂ ကြိမ် လှုပ်၍ ချုပ်ပြီးနောက်-
- ယင်းဆဲဆိုသံကိုဆင်ခြင်သော ပဉ္စဒွါရာဝဇ္ဇန်းစိတ် ပေါ်သည်။
- ၎င်းနောက် 'ဒါ ဆဲဆိုသံပဲ'ဟုသိသော သောတဝိညာဏ်စိတ် ပေါ်သည်။

- ၄င်းနောက် ယင်းဆဲဆိုသံကိုခံယူသော သမ္ပဋိစ္ဆိုင်းစိတ် ပေါ်သည်။
- ၄င်းနောက် ယင်းဆဲဆိုသံသည် မိမိအားဆဲဆိုခြင်း ဟုတ်,မဟုတ် စုံစမ်းသော သန္တီရဏစိတ် ပေါ်သည်။
- ၄င်းနောက် ဤဆဲဆိုသံသည် မိမိအား ဆဲဆိုနေသောအသံဖြစ်ကြောင်း ပိုင်းခြားသိသော ဝုဋ္ဌောစိတ် ပေါ်သည်။
- ထို့နောက် မိမိတွင် 'ဒေါသ' ဟူသော ဇောစိတ် ၇ ကြိမ်ခန့် ဖြစ်ပေါ်လာသည်။
- ထို့နောက် ဘဝင်ဖြစ်ထိုက်သော်လည်း ပြင်းထန်သောဇောအဟုန်ကို ရပ်တန့်စေရန် ဇောနောက်သို့ လိုက်ပါမှု တဒါရုံ ၂ ကြိမ်ခန့် ဖြစ်ပေါ်လာသည်။
- ထို့နောက် ဘဝင် ဖြစ်ထိုက်သရွေ့ ပြန်ဖြစ်သွားသည်။

အထက်ပါ သောတဒွါရ ဝီထိစိတ်အစဉ်ဖြစ်ပုံကို ထင်ရှားစေရန် ဥပမာဖြင့် ပြဆိုပါဦးမည်။

လူတစ်ယောက်သည် ခေါင်းမြီးခြုံ၍ သရက်ပင်အောက်၌ အိပ်ပျော်နေသည် (ဘဝင်ကျ)။ သရက်သီးကြွေသံကို ကြားလိုက်သည် (အာရုံဒွါရထိ)၊ ၄င်းအသံကြောင့် နိုးလာသည် (ဘဝင်လှုပ်)။ 'ဘာသံပါလိမ့်' ဟုဆင်ခြင်သည် (ပဉ္စဒွါရာဝဇ္ဇန်းစိတ်)။ ခေါင်းကိုဖွင့်၍ လှမ်းကြည့်သည် (စက္ခုဝိညာဏ်စိတ်)။ သရက်သီးကို လှမ်းယူသည် (သမ္ပဋိစ္ဆိုင်စိတ်)။ သရက်သီး မှည့် မမှည့်, ကောင်း မကောင်း စူးစမ်းသည် (သန္တီရဏစိတ်)။ မှည့်ကြောင်း, ကောင်းကြောင်း ပိုင်းခြားသိသည် (ဝုဋ္ဌောစိတ်)။ စား၍ အရသာခံသည် (ဇောစိတ်)။ မျိုချသည် (တဒါရုံ)။ ထို့နောက် ပြန်အိပ်ပျော်သည် (ဘဝင်ပြန်ကျသွားသည်)။

အထူးမှာ ဤကဲ့သို့သော ဝီထိစိတ်အစဉ် ဖြစ်စဉ်ကြီးတစ်ရပ်တွင်ပါဝင်သော စိတ်အစဉ်များသည် ဥပါဒ်, ဌီ, ဘင် (ဖြစ်, တည်, ပျက်) ဖြစ်စဉ်ငယ်များအရ ဖြစ်ပျက်မှုမြန်ဆန်သောသောကြောင့် ဤကဲ့သို့ စိတ်တစ်ခု နောက်ဆုံးအဆင့်ရောက်ရှိရန် အဆင့်ဆင့်ဖြစ်ပျက်ခဲ့ရမှုများကို မသိတော့ဘဲ စိတ်တစ်ခုတည်းသာ ဖြစ်ပေါ်နေရသည်ဟု ထင်မြင်ကြရခြင်းဖြစ်သည်။ ဥပမာ လျှပ်စစ်မီးလုံးတွင် နောက်ဆုံးအဆင့် မီးလင်းနေစေရန် လျှပ်စစ်ဝါယာကြိုးများတွင် မီးအစက်ပေါင်း ကုဋေကုဋာချီ၍ လွှတ်ခဲ့ရသည်ကိုမမြင်ဘဲ၊ ဘတ်သီးတွင် မီးတစ်ဆက်တည်း လင်းနေသည်ဟု မြင်သကဲ့သို့၊ ရုပ်ရှင်ပိတ်ကားပေါ်တွင် လူတစ်ဦး ခြေလှမ်းတစ်လှမ်းလှမ်းရန် ဖလင်တွင် ရုပ်ပုံပေါင်း ရာချီ၍ထုတ်လွှတ်ပေးရသည်ကို မသိဘဲ တစ်ပုံတည်းအဖြစ် မြင်နေသကဲ့သို့ပင် ဖြစ်သည်။

ဖော်ပြပါ နိယာမ ၅ မျိုးအပြင် အချို့ ခြေမရှိ, အချို့ အင်္ဂါမစုံ, အချို့ ခန္ဓာကြီး, အချို့ ခန္ဓာငယ် စသည်ဖြင့် ဖြစ်လာသည်ကို ယောနိ နိယာမအဖြစ် သတ်မှတ်သေးသည်။ သို့ရာတွင် အင်္ဂါချွတ်ယွင်းအဖြစ်များသည် ကမ္မနိယာမ၌ အကျုံးဝင်နေပြီးဖြစ်၍ ယောနိ နိယာမကို သီးခြားမဖော်ပြတော့ဘဲ၊ နိယာမ ၅ ပါးကိုသာ ဖော်ပြခြင်း ဖြစ်သည်။ အလားတူ သတ္တဝါအချို့ ကြီး၍၊ အချို့ သေးငယ်ကြရခြင်းမှာလည်း ဗီဇနိယာမတွင် အကျုံးဝင်ပြီး ဖြစ်သည်။

၁၁။ 'ဝိနည်းပိဋကတ်အချုပ်ကား အဓိသီလသိက္ခာ၊ သုတ္တန်ပိဋကတ်အချုပ်ကား အဓိစိတ္တသိက္ခာ၊ အဘိဓမ္မာပိဋကတ် အချုပ်ကား အဓိပညာသိက္ခာ' ဟူ၍ အချုပ်အားဖြင့် သိက္ခာ ၃ ပါးသာ ရှိကြောင်း။ ဒုစရိုက် ၁၀ ပါး အနက် ပါဏာတိပါတာ, အဒိန္နာဒါန, ကာမေသုမိစ္ဆာစာရ ဟူသော ကာယကံ ၃ ပါး၊ မုသာဝါဒ,

ဝိသုဓာဝါစာ၊ ဖရုသဝါစာ၊ သမ္ဗပ္ပလာပ ဟူသော ဝစီဒုစရိုက် ၄ ပါးကို သီလတရားများဖြင့် ကင်းအောင်ပြု နိုင်လျှင် အဓိသီလသိက္ခာဖြစ်၍ ကာမသုဂတိ ၇ ဘုံ၊ လူဘုံ၊ နတ် ၆ ဘုံကို မတောင့်တဘဲ ရရှိနိုင်ကြောင်း။ အဘိဇ္ဈာ၊ ဗျာပါဒ၊ မိစ္ဆာဒိဋ္ဌိ ဟူသော မနောကံဒုစရိုက် ၃ ပါးကို ဘာဝနာတရား ၂ ပါးဖြင့် စင်ကြယ် စေနိုင်သည်။ ဘာဝနာ ၂ ပါးအနက် သမထ (ကမ္မဋ္ဌာန်း ၄၀)ဖြင့် စိတ်ကိုစင်ကြယ်စေပြီး သမာဓိတရားကို ထူထောင်နိုင်လျှင် အဓိစိတ္တသိက္ခာဖြစ်၍ အရူပ ၄ ဘုံအထိ အကျိုးပေးနိုင်ကြောင်း။ ဝိပဿနာတရားဖြင့် ရုပ်၊နာမ် အဖြစ်အပျက် ပညာစခန်းကို ဆုံးခန်းတိုင်တက်လှမ်းနိုင်လျှင် အဓိပညာသိက္ခာဖြစ်၍ နိဗ္ဗာန်ကို မျက်မှောက်ပြုနိုင်ကြောင်း ဟောတော်မူသည်။

ဤသို့ စသည်ဖြင့် အကြောင်းအရာများစွာဖြင့် ဟောတော်မူသည်။

## သဗ္ဗညုဘုရားရှင် ဗုဒ္ဓ

ဗုဒ္ဓမြတ်စွာသည် အထက်၌ ပြခဲ့ပြီးသည့်အတိုင်း ဓမ္မက္ခန္ဓာပေါင်း ၈ သောင်း ၄ ထောင်အထိ များပြားလှသော တရားတော်များကို ဟောကြားတော်မူခဲ့ကြောင်း ကျွန်ုပ်တို့ သိရှိရပေပြီ။ တစ်ဖန် အထက်၌ပြခဲ့ပြီးသော တရားအနှစ် ချုပ်မျှကို ကြည့်ခြင်းဖြင့်လည်း ဗုဒ္ဓမြတ်စွာဟောကြားတော်မူခဲ့သော တရားတော်များသည် တိကျမှန်ကန်ပြီး အလွန် သိမ်မွေ့ခက်ခဲ နက်နဲကြောင်း သိရှိနိုင်ပြန်သည်။ ဗုဒ္ဓမြတ်စွာမပေါ်မီနှင့် ပေါ်ပြီးယနေ့တိုင် ဗုဒ္ဓကဲ့သို့ သိမြင်ဟောပြောနိုင်သော ခေတ်ဟောင်းခေတ်သစ် ပညာရှင်များ၊ အတွေးအခေါ်ရှင်များလည်း တစ်ဦးတစ်ယောက် မျှ မပေါ်ခဲ့၊ မပေါ်သေးပေ။ ဗုဒ္ဓမြတ်စွာကဲ့သို့ တွေးခေါ်ဟောပြောနိုင်သောပုဂ္ဂိုလ်ကား ဗုဒ္ဓမြတ်စွာတစ်ပါးသာရှိ သည်ဟုဆိုက မှားမည် မဟုတ်ပေ။ သို့ရာတွင် ဗုဒ္ဓမြတ်စွာသည် ခေတ်ဟောင်းခေတ်သစ်လူများ ယုံကြည်နေသော နတ်ဘုရား၊ ကောင်းကင်ဘုံဘုရား မဟုတ်ပါ။ လူသားမှ တရားကျင့်ရင်း သမ္မာသမ္ဗောဓိဉာဏ်အလင်းကိုရ၍ မဟာလူသားဘုရား ဖြစ်တော်မူခဲ့ခြင်းသာ ဖြစ်သည်။ တစ်ဖန် ထိုခေတ်က အိန္ဒိယတွင် ပွဲတင်ထပ် ဖြစ်ပေါ်နေသော ကောလာဟလစကားအရ အလုံးစုံကိုအကုန်သိမြင်သော 'သဗ္ဗညုဘုရားရှင်'လည်း အမှန်ပင် ဖြစ်သည်။

ဤ၌ အချို့က ဗုဒ္ဓမြတ်စွာကို 'ဘုရား' ဟုမသတ်မှတ်ဘဲ ပညာရှိအတွေးအခေါ်ရှင်တစ်ဦးအနေဖြင့်သာ လက်ခံ အသိအမှတ်ပြုကြသည်။ ၎င်းတို့သည် 'ဘုရား' ဟူသောအဓိပ္ပာယ်ကို မသိသည့်ပြင်၊ ယုံကြည်မှုဖြင့်သာ ကိုးကွယ်ရသော ကောင်းကင်ဘုံရှင်ထာဝရဘုရားသခင်ကိုသာ ဘုရားအဖြစ် ထင်မှတ်နေကြသောကြောင့် ဗုဒ္ဓမြတ်စွာ အား ဘုရားအဖြစ် လက်မခံခြင်းအတွက် မည်သို့မျှ မဆန်းပြားလှပါချေ။ တစ်ဖန် ၎င်းတို့အနက် အချို့က ဗုဒ္ဓမြတ်စွာ ကို ဘုရားအဖြစ်လက်ခံသော်လည်း၊ အလုံးစုံကိုသိမြင်သော သဗ္ဗညုဘုရားအဖြစ် လက်မခံလိုကြဘဲ ရှိနေပြန်သည်။

ကာလာမအမျိုးသားတို့မေးသော မေးခွန်းအချို့ကို လောကီ၊လောကုတ္တရာ အကျိုးမရှိ၍၊ မဂ်ဖိုလ်နိဗ္ဗာန် ရောက်ကြောင်း အကျင့်ကောင်းနှင့်မဆက်စပ်သော အမေးများဖြစ်၍ မဖြေကြားခြင်းကိုပင် 'မသိ၍ မဖြေကြားခြင်း ဖြစ်သည်' ဟူ၍လည်းကောင်း၊ ဆုံးစမထင် လူတို့ဉာဏ်အမြင်၌ အမှန်ထင်ရန် ခက်ခဲလှသောကြောင့် မကြံစည်အပ် သောတရားအဖြစ် ဟောတော်မူသော အစိန္တေယျတရား ၄ ပါးကိုပင် 'အမှန်မသိ၍ အစိန္တေယျတရားအဖြစ် တားမြစ်ခဲ့ခြင်းသာဖြစ်သည်' ဟူ၍လည်းကောင်း မိုက်မဲစွာထင်မြင်ချက်ပေးပြီး ဗုဒ္ဓမြတ်စွာ၌ သဗ္ဗညုတဉာဏ် မရှိနိုင်ကြောင်း ဆင်ခြေပေးကြပြန်သည်။

အစိန္တေယျတရား ၄ ပါး ဟူသည်မှာ -

၁- လောကဝိသယ အစိန္တေယျ (လောကအရာကို မကြံစည်အပ်)၊

၂- ကမ္မဝိသယ အစိန္တေယျ (သတ္တဝါတို့၏ကံအရာကို မကြံစည်အပ်)၊

၃- ဗုဒ္ဓဝိသယ အစိန္တေယျ (ဘုရားအရာကို မကြံစည်အပ်)၊

၄- ဈာနဝိသယ အစိန္တေယျ (တန်ခိုးအရာကို မကြံစည်အပ်) ဟု ဟောကြားတော်မူသည်။

ယင်း အစိန္တေယျတရား ၄ ပါးတို့အနက် လောကဝိသယနှင့်ပတ်သက်၍ ယနေ့လူတို့သည် သတ္တလောက ခေါ် သတ္တဝါ၏အစ, လူသား၏အစနှင့် ဩကာသလောက ခေါ် စကြဝဠာနှင့် ကမ္ဘာ၏အစ, စကြဝဠာ၏သဘာဝ များကို အတိုးတက်ဆုံးသော သိပ္ပံကရိယာများနှင့် စူးစမ်းလေ့လာလျက်နေကြရာ ရာစုနှစ်များစွာပင် ကြာညောင်းခဲ့ ပါပြီ။ သို့ရာတွင် ယနေ့တိုင် 'အဖြေမှန်ကို ရကြပြီလော'ဟုမေးလျှင် 'မရသေး' ဟု ဖြေရမည် ဖြစ်သည်။

သိပ္ပံပညာဆိုင်ရာလေ့လာမှုဖြင့် ယနေ့ 'မှန်ကန်သည်' ဟုယူဆကြသော်လည်း နက်ဖြန်ရောက်သောအခါ 'မှားနေသည်'ကို တွေ့ရှိရပြန်သည်။ ဤနည်းဖြင့် ၁၉ ရာစု၌ 'မှန်ကန်သည်' ဟုလက်ခံထားသော, 'ခွဲစိတ်မရ'ဟု ထင်သော အဏုမြူဝါဒသည် ၂၀ ရာစုရောက်သောအခါ ခွဲစိတ်ရလာသဖြင့် မှားခဲ့ရပြန်သည်။ ဤကဲ့သို့ လောကရေးရာနှင့်ပတ်သက်သော ကြံစည်မှုများသည် နောင်လည်း ဘယ်သောအခါမျှ တိကျသောအဖြေမှန် ရကြမည်မဟုတ် ဟုယူဆက 'မှားသည်' ဟု မဆိုနိုင်ရာ။

ဤသို့ မျက်မြင်ရှိနေသော လောကအကြောင်းကိုပင် နှစ်ပေါင်းရာချီ၍ကြံစည်သော်လည်း အမှန်မရနိုင် သေးလျှင်၊ မမြင်ရသော လောကုတ္တရာအရာ, မြတ်စွာဘုရား၏ သဗ္ဗညုတဉာဏ်အရာနှင့် တန်ခိုးအရာများကိုမူကား ဘယ်မှာလျှင် ကြံစည်နိုင်မည်နည်း။ ကြံစည်သော်လည်း အမှန်တရား မရနိုင်သည့်အပြင် ရူးသွပ်သွားရန်အခြေပင် ဆိုက်ရောက်သွားနိုင်သည်။ ထို့ကြောင့် ၎င်း ၄ ပါးကို 'မကြံစည်အပ်' ဟူ၍ ဟောတော်မူခဲ့ခြင်းဖြစ်သည်။ သို့ရာတွင် 'မကြံစည်ရ'ဟူ၍ကား တားမြစ်တော်မမူခဲ့သဖြင့် ကြံစည်နိုင်ပါသည်။

အမှန်မှာ ဗုဒ္ဓမြတ်စွာဘုရားသည် ဉာဏ်တော်ကွန်ရက်ကို ဖြန့်ကျက်တော်မူလိုက်က, အာရုံပြု ဆင်ခြင်တော်မူ လိုက်က ပိုက်ကွန်မိသောငါးများကဲ့သို့ တရား ဟူသမျှအကုန်လုံး ဉာဏ်ကွန်ရက်အတွင်းသို့ ဝင်လျက်သား ဖြစ်ပါ တော့သည်။ ထိုအခါ မသိသောအရာ ဟူ၍ မရှိပြီ။ ဉာဏ်ကွန်ရက်အတွင်းဝင်သမျှ တရားအားလုံးကို သိမြင်တော် မူပြီးဖြစ်သည်။ ထို့ကြောင့် ဗုဒ္ဓမြတ်စွာဘုရားကို 'သဗ္ဗညုတဉာဏ်ရှင်, ဘုရားရှင်' ဟု ဆိုရခြင်း ဖြစ်သည်။

ဗုဒ္ဓမြတ်စွာဘုရားသည် သဗ္ဗညုတဉာဏ်ရှင် ဟုတ်, မဟုတ်ကို ရှင်တော်မြတ်ကိုယ်တော်တိုင် ဟောတော်မူခဲ့ သောတရားတော်များကို ကြည့်ခြင်းအားဖြင့် သိရှိနိုင်သည်။ ထို့ကြောင့် ကမ္ဘာကျော် လန်ဒန်ပါဠိအသင်း ဥက္ကဋ္ဌ တစ်ဦးဖြစ်ခဲ့သူ မစ္စက်အော်နာက "ဗုဒ္ဓဘုရားရှင်သည် ဤမျှ သိမ်မွေ့နက်နဲ၍ အလွန်များပြားလှသော တရားတော် များကို ဟောကြားနိုင်ခြင်း၊ ယင်းတရားများကို ရှေ့နောက် ကွဲလွဲမှုမရှိဘဲ အစီအစဉ်တကျဖြစ်အောင် ဟောတော်မူနိုင် ခြင်းများကို ကြည့်ခြင်းဖြင့် ဗုဒ္ဓမြတ်စွာသည် သဗ္ဗညုတဉာဏ်သခင် ဘုရားရှင်ဖြစ်ကြောင်း သိသာနိုင်ပါသည်" ဟု ရဲရဲတောက်ပြောခဲ့ခြင်း ဖြစ်သည်။

ဗုဒ္ဓမြတ်စွာဟောတော်မူခဲ့သော တရားတော်များသည် သိမ်မွေ့နက်နဲကြောင်းနှင့် တိကျမှန်ကန်ကြောင်းကို လေ့လာသင်ကြား၍ လက်တွေ့ကျင့်သုံးကြည့်ခြင်းဖြင့် သိရှိရသကဲ့သို့ များပြားကြီးကျယ်ကြောင်းကိုလည်း အောက် ဖော်ပြပါစာပေများကို ကြည့်ခြင်းဖြင့် သိရှိနိုင်သည်။

## ဗုဒ္ဓမြတ်စွာဟောကြားတော်မူခဲ့သော ပါဠိတော်များ

ဗုဒ္ဓဘာသာ စာပေတွင် ဗုဒ္ဓမြတ်စွာကိုယ်တော်တိုင် သတ္တဝါတို့၏ ဣန္ဒြေ အနုအရင့်, စရိုက်, ဝါသနာ,ဓိဇ များကိုလိုက်၍ နည်းအမျိုးမျိုးဖြင့် ဟောတော်မူခဲ့သည့် အထက်၌ဖော်ပြခဲ့သော ဓမ္မက္ခန္ဓာပေါင်း ၈ သောင်း ၄ ထောင်ကို 'ပါဠိတော်'ဟု ခေါ်သည်။ ထေရဝါဒသင်္ဂါယနာ ၆ တန်တင်ပြီးဖြစ်သော ပါဠိတော်များမှာ အောက်ပါ အတိုင်း ဖြစ်သည်။

| စဉ် | ပိဋကတ်အမည် | ကျမ်းအရေအတွက် | ဆဋ္ဌမူစာအုပ်အရေအတွက် |
|---|---|---|---|
| ၁ | ဝိနယပိဋက | ၅ | ၅ |
| ၂ | အဘိဓမ္မပိဋက | ၇ | ၁၂ |
| ၃ | သုတ္တန္တပိဋက | | |
| | - ဒီဃနိကာယ် | ၃ | ၃ |
| | - မဇ္ဈိမနိကာယ် | ၃ | ၃ |
| | - သံယုတ္တနိကာယ် | ၅ | ၃ |
| | - အင်္ဂုတ္တရနိကာယ် | ၁၁ | ၃ |
| | - ခုဒ္ဒကနိကာယ် | ၂၀ | ၁၁ |
| | စုစုပေါင်း | ၅၄ | ၄၀ |

အထူးမှာ - ပါဠိတော်တွင် ရှင်မဟာမောဂ္ဂလိပုတ္တတိဿ မထေရ်မြတ် ဟောကြားတော်မူသော ကထာဝတ္ထုများနှင့် ဝိနယပိဋကတွင် သင်္ဂါယနာအကြောင်းအရာများ စသည်ကဲ့သို့ ပါဝင်ပါသည်။ ယင်းတို့ကို ဘုရားဟောနည်း၌ ထည့်၍ဟောကြားထားသောကြောင့် ဘုရားဟောပါဠိတော်အဖြစ် သတ်မှတ်ရခြင်းဖြစ်သည်။

## ပါဠိတော်အဖွင့် အဋ္ဌကထာများ

အထက်ဖော်ပြပါ ဗုဒ္ဓရှင်တော်မြတ်ကိုယ်တော်တိုင် ဟောထားတော်မူသော တရားတော်များကို ဗုဒ္ဓရှင်တော်ဘုရား၏ ဆိုလိုချက် အနက်အဓိပ္ပာယ် အတိအကျကိုသိရှိနိုင်ရန် ပါဠိတော်၏အဖွင့်ကျမ်းများကို လိုအပ်သည်။ ယင်း ပါဠိတော်အဖွင့်ကျမ်းများကို 'အဋ္ဌကထာ'ဟု ခေါ်သည်။ ယင်း အဋ္ဌကထာကျမ်းများကို ဗုဒ္ဓကိုယ်တော်တိုင်နှင့် ဘုရားအလိုတော် (ဗုဒ္ဓမတညှ)ကို သိတော်မူကြသော ရဟန္တာအရှင်ကြီးများ ပြုစုတော်မူခဲ့ကြသည်။ ထို့ကြောင့် ဗုဒ္ဓစာပေတွင် အဋ္ဌကထာသည် အထူးရေးကြီးသောကဏ္ဍတွင် ပါဝင်နေရသည်။ ယင်းအဋ္ဌကထာများကား အောက်ပါအတိုင်း ဖြစ်သည်။

က- မူလအဋ္ဌအထာ (မဟာအဋ္ဌကထာ)

၁- မူလအဋ္ဌကထာကြီး (ပကိဏ္ဏကဒေသနာများ) - ရှင်တော်မြတ်ဘုရားကိုယ်တိုင် ဟောကြားတော်မူသည်။

၂- ဝိနယ မဟာအဋ္ဌကထာကြီး - ရှင်ဥပါလိ၏တပည့် ရဟန္တာကြီးများ ပြုစုတော်မူသည်။

၃- ဒီဃနိကာယ မဟာအဋ္ဌကထာကြီး - ရှင်အာနန္ဒာ၏တပည့် ရဟန္တာကြီးများ ပြုစုတော်မူသည်။

၄- မဇ္ဈိမနိကာယ မဟာအဋ္ဌကထာကြီး - ရှင်သာရိပုတ္တရာ၏တပည့် ရဟန္တာကြီးများ ပြုစုတော်မူသည်။

၅- သံယုတ္တနိကာယ မဟာအဋ္ဌကထာကြီး - အရှင်မဟာကဿပ၏တပည့် ရဟန္တာကြီးများ ပြုစုတော်မူသည်။

၆- အင်္ဂုတ္တရနိကာယ မဟာအဋ္ဌကထာကြီး - အရှင်အနုရုဒ္ဓါ၏တပည့် ရဟန္တာကြီးများ ပြုစုတော်မူသည်။
၇- ခုဒ္ဒကနိကာယ မဟာအဋ္ဌကထာကြီး - ရဟန္တာကြီးများ စုပေါင်းပြုစုတော်မူသည်။
အချုပ်အားဖြင့် မူလအဋ္ဌကထာ (မဟာအဋ္ဌကထာ)ဖြစ်ပြီး၊ အိန္ဒိယ သင်္ဂါယနာ ၃ တန် တင်ခဲ့သော အဋ္ဌကထာများ ဖြစ်သည်။

ခ- သီဟိုဠ်အဋ္ဌကထာများ

အထက်ဖော်ပြပါ မူလအဋ္ဌကထာ (မဟာအဋ္ဌကထာ)ပါ အကြောင်းအရာများကို အခြေပြုယူငင်ပြီး သီဟိုဠ်မထေရ်များ ပြန်လည်ပြုစုသော သီဟိုဠ်အဋ္ဌကထာများမှာ အောက်ပါအတိုင်းဖြစ်သည်။

၁- မဟာအဋ္ဌကထာ - သီဟိုဠ်အရိယာမထေရ်မြတ်များ ပြုစုတော်မူသည်။
၂- မဟာပစ္စရီအဋ္ဌကထာ - ဖောင်ပေါ်၌ သီဟိုဠ်ထေရ်များ ပြုစုသည်။
၃- စူဠပစ္စရီအဋ္ဌကထာ - မဟာပစ္စရီအဋ္ဌကထာအကျဉ်း။
၄- သင်္ခေပအဋ္ဌကထာ - မဟာအဋ္ဌကထာအကျဉ်း။
၅- ကုရုန္ဒီအဋ္ဌကထာ - 'ကုရုန္ဒီဝလ္လိ' မည်သောကျောင်း၌ပြုစုသော အဋ္ဌကထာ။
၆- အန္ဓကအဋ္ဌကထာ - အန္ဓကတိုင်း၌ တေလဂူဘာသာဖြင့် ပြုစုသော အဋ္ဌကထာ။
၇- အရိယအဋ္ဌကထာ - အရိယာပိဋကတ် အရှင်မြတ်တို့ ပြုစုသော အဋ္ဌကထာ။

အချို့က ၄င်း အဋ္ဌကထာ ၇ မျိုးနှင့် 'စူဠအဋ္ဌကထာ' ဟူ၍ ၈ မျိုး ပြသည်။ အချုပ်အားဖြင့် မဟာအဋ္ဌကထာ, မဟာပစ္စရီအဋ္ဌကထာ, ကုရုန္ဒီအဋ္ဌကထာ, အန္ဓကအဋ္ဌကထာတို့ ဖြစ်သည်။

တစ်ဖန် ရှင်မဟာဗုဒ္ဓဃောသနှင့် အခြားအဋ္ဌကထာဆရာများက သီဟိုဠ်အဋ္ဌကထာပါ အကြောင်းအရာများကို အခြေပြုယူငင်၍ အသစ်ပြန်လည်ပြုစုသော အဋ္ဌကထာသစ်များမှာ အောက်ပါအတိုင်း ဖြစ်သည်။

ဂ- ရှင်မဟာဗုဒ္ဓဃောသ အဋ္ဌကထာများ

၁- ဝိသုဒ္ဓိမဂ္ဂအဋ္ဌကထာ - နိကာယ် ၄ ရပ် သုတ္တန်ပိဋကတ်အဖွင့်
၂- သမန္တပါသာဒိကာ အဋ္ဌကထာ - ဝိနည်း ၅ ကျမ်းအဖွင့်
၃- သုမင်္ဂလ ဝိလာသိနီအဋ္ဌကထာ - ဒီဃနိကာယ်ပါဠိတော် ၃ ကျမ်းအဖွင့်
၄- ပပဉ္စသူဒနီအဋ္ဌကထာ - မဇ္ဈိမနိကာယ်ပါဠိတော် ၃ ကျမ်းအဖွင့်
၅- သာရတ္ထပကာသနီအဋ္ဌကထာ - သံယုတ္တနိကာယ်ပါဠိတော် ၅ ကျမ်းအဖွင့်
၆- မနောရထပူရဏီအဋ္ဌကထာ - အင်္ဂုတ္တရပါဠိတော် ၁၁ ကျမ်းအဖွင့်
၇- အဋ္ဌသာလိနီအဋ္ဌကထာ - အဘိဓမ္မာ ဓမ္မသင်္ဂဏီပါဠိတော်အဖွင့်
၈- သမ္မောဟဝိနောဒနီအဋ္ဌကထာ - အဘိဓမ္မာဝိဘင်းအဖွင့်
၉- ပဉ္စပကာရဏ အဋ္ဌကထာ - ကျန်အဘိဓမ္မာ ၅ ကျမ်းအဖွင့်

၁၀- ကင်္ခါဝိတရဏီအဋ္ဌကထာ - ဝိနယပိဋကဒွေမာတိကာအဖွင့်
၁၁- ဓမ္မပဒအဋ္ဌကထာ - ခုဒ္ဒကနိကာယ ဓမ္မပဒပါဠိတော်အဖွင့်
၁၂- ပရမတ္ထဇောတိကာအဋ္ဌကထာ - ခုဒ္ဒကပါဠိနှင့် သုတ္တနိပါတ်ပါဠိအဖွင့်
၁၃- ဇာတကအဋ္ဌကထာ - ၅၅၀ နိပါတ်အဖွင့်

ကျမ်းအရေအတွက်အားဖြင့် ၆၇ ကျမ်းရှိပြီး၊ ဆဋ္ဌမူ စာအုပ်အရေအတွက်အားဖြင့် ၃၇ အုပ် ရှိသည်။

အဆိုတစ်ရပ်တွင်မူ ပိဋကသမိုင်းလာ အဋ္ဌကထာ ၈၅ ကျမ်းရှိသည့်အနက် ဒီ-၌ ၃၊ မ-၌ ၃၊ သံ-၌ ၅၊ အံ-၌ ၁၁ ၊ ခုဒ္ဒကနိကာယ် အဝင်အပါ ပါဠဇာတ်အဋ္ဌကထာ ၃၁၊ အဘိ-၌ ၇၊ ဝိ-၌ ၅ နှင့် ခုဒ္ဒကပါဌ, ဓမ္မပဒ, သုတ္တနိပါတ်, ကင်္ခါဝိတရဏီ, ဝိသုဒ္ဓိမဂ်အဋ္ဌကထာ ဟူ၍ အဋ္ဌကထာကျမ်းပေါင်း ၇၁ ကျမ်းကို ရှင်မဟာဗုဒ္ဓဃောသ စီရင်တော်မူခဲ့သည် ဟု ပြဆိုထားသည်။

### ဃ- ရှင်ဓမ္မပါလ အဋ္ဌကထာသစ်များ

ရှင်မဟာဗုဒ္ဓဃောသနောက်ပေါ်ပြီး အောက်ပါပါဠိတော်အဖွင့် အဋ္ဌကထာများကို ပြုစုသည်။

၁- ဥဒါန၊ ၂- ဣတိဝုတ္တ၊ ၃- ဝိမာနဝတ္ထု၊ ၄- ပေတဝတ္ထု၊
၅- ထေရဂါထာ၊ ၆- ထေရီဂါထာ၊ ၇- စရိယာပိဋက၊ ၈- နေတ္တိ။

၄င်းအားလုံးကို 'ပရမတ္ထဒီပနီ' ခေါ်သည်။ ကျမ်းအားဖြင့် ၈ ကျမ်း၊ အုပ်ရေ ၇ အုပ် ဖြစ်သည်။

### င- ရှင်ဗုဒ္ဓဒတ္တ အဋ္ဌကထာသစ်များ

ရှင်ဗုဒ္ဓဒတ္တကား ရှင်မဟာဗုဒ္ဓဃောသနှင့် ခေတ်ပြိုင် ဟုဆိုသည်။

ပြုစုခဲ့သော အဋ္ဌကထာများမှာ အောက်ပါအတိုင်း ဖြစ်သည်။

၁- ပဓုရတ္ထဝိလာသိနီ အဋ္ဌကထာ - ဗုဒ္ဓဝင်ပါဠိတော်အဖွင့်
၂- ဝိနယဝိနိစ္ဆယအဋ္ဌကထာ - ဝိနည်းဆိုင်ရာ အဆုံးအဖြတ်အဖွင့်၁
၃- ဥတ္တရဝိနိစ္ဆယအဋ္ဌကထာ - ၄င်းအဖွင့်
၄- အဘိဓမ္မာဝတာရအဋ္ဌကထာ - အဘိဓမ္မာ ၇ ကျမ်းအကျဉ်း
၅- ရူပါရူပဝိဘာဂအဋ္ဌကထာ - ရုပ်,နာမ် ၂ ပါးကို ဝေဖန်ပြသောကျမ်း

ကျမ်းအားဖြင့် ၅၊ အုပ်ရေ ၁ ဖြစ်သည်။ အဆိုတစ်ရပ်ကမူ ဤအရှင်သည် ခုဒ္ဒကနိကာယ်အဝင်အပါ ဗုဒ္ဓဝင်အဋ္ဌကထာနှင့် သာရတ္ထသင်္ဂဟအဋ္ဌကထာကိုလည်း စီရင်ခဲ့သည် ဟုဆိုသည်။

### စ- အခြားအဋ္ဌကထာသစ်များ

၁- သဒ္ဓမ္မပကာသနီအဋ္ဌကထာ - ပဋိသမ္ဘိဒါမဂ်ပါဠိတော်အဖွင့်။ ရှင်မဟာနာမ ပြုစုသည်။
ကျမ်း ၁၊ အုပ်ရေ ၂ ဖြစ်သည်။

၂- သဒ္ဓမ္မပဇ္ဇောတအဋ္ဌကထာ - စူဠနိဒ္ဒေသ မဟာနိဒ္ဒေသပါဠိတော်အဖွင့်။ ရှင်ဥပသေန ပြုစုသည်။ ကျမ်း ၂၊ အုပ် ၁ မပြည့်။

၃- ဝိသုဒ္ဓဇနဝိလာသိနီအဋ္ဌကထာ - အပဒါန်ပါဠိတော်အဖွင့်။ ကျမ်းပြုအရှင် မသိ။ သို့ရာတွင် အဘိဓမ္မာမူလဋီကာကျမ်းပြု အရှင်အာနန္ဒာ မထေရ်၏တပည့်ပြုစုသည် ဟု ဆိုသည်။ ကျမ်း ၁၊ အုပ်ရေ ၂ ဖြစ်သည်။

စုစုပေါင်း အဋ္ဌကထာကျမ်းအရေအတွက် ၈၀ ဖြစ်ပြီး၊ ဆဋ္ဌမူအုပ်ရေမှာ ၅၁ အုပ် ဖြစ်သည်။

## 'အဋ္ဌကထာအဖွင့်ဋီကာ' ဟူသည်

အထက်ဖော်ပြပါ အဋ္ဌကထာများပါအဆိုအမိန့်များ၏ တိမ်မြုပ်နေသောအနက်အဓိပ္ပာယ်ကို ထပ်မံ ဖွင့်ပြသော ကျမ်းများကို 'ဋီကာကျမ်းများ' ဟုခေါ်သည်။ ဋီကာဖွင့်ပြီးဖြစ်သော်လည်း ထပ်မံ၍ ဖွင့်ပြသော ကျမ်းစာများတွင် 'အချို့ကို အနုဋီကာ။ အချို့ကို မဓုဋီကာ၊ အချို့ကို ဂဏ္ဌိ၊ အချို့ကို ယောဇနာ' ဟုခေါ်သည်။ ဤ ဋီကာစသောကျမ်းများကား အများအပြားရှိသည်။

## ဗုဒ္ဓတရားတော်စာပေများကို ထိန်းသိမ်းထားပုံ

ဘုရားဟောတရားတော် ပါဠိတော်များနှင့် အဋ္ဌကထာ စသော ဗုဒ္ဓစာပေများသည် နှစ်ပေါင်း ၂၅၀၀ ကျော်လွန်ခဲ့ပြီးသော်လည်း ဗုဒ္ဓတပည့်သား သာဝကများက ယင်းဗုဒ္ဓစာပေများကို သင်္ဂါယနာတင်ခြင်းဖြင့် ယနေ့တိုင် မပျောက်မပျက် မချွတ်မယွင်းစေရန် ထိန်းသိမ်းထားခဲ့ကြသည်။ 'သင်္ဂါယနာတင်ခြင်း' ဟူသည်မှာလည်း တစ်နေရာရာမှ၊ တိုင်းပြည်တစ်ပြည်ပြည်မှ ဗုဒ္ဓတပည့်သား သာဝကများသည် ဗုဒ္ဓဘုရားရှင်၏ မူလဟောကြားခဲ့သော နှုတ်ကပါဠိတော်များကို မိမိတို့လိုသလို ပယ်ဖျက်ဖြည့်စွက် ပြင်ဆင်မှု ရှိ,မရှိ၊ ညီညွတ်မှု ရှိ,မရှိ သိရလေအောင် စုပေါင်း၍ တိုက်ဆိုင်ညှိနှိုင်းဆောင်ရွက်ကြခြင်းပင် ဖြစ်သည်။ ထို့ကြောင့် သာသနာသက္ကရာဇ် ၁ ၌ ပထမသင်္ဂါယနာတင်ခဲ့သော ဗုဒ္ဓနှုတ်ကပါဠ်တော် ပုဒ်၊ ပါဌ်၊ ဗျည်း၊ သရ၊ အက္ခရာများနှင့် သာသနာသက္ကရာဇ် ၂၅၀၀ ပြည့်ချိန်၌ ဆဋ္ဌသင်္ဂါယနာတင်ခဲ့သော ဗုဒ္ဓနှုတ်ကပါဌ်တော် ပုဒ်၊ ပါဌ်၊ ဗျည်း၊ သရ၊ အက္ခရာများသည် တစ်လုံးတစ်ပါဒမျှ ပျောက်ပျက်မှု၊ ချွတ်ယွင်းမှုမရှိဘဲ ညီညွတ်မှုရှိခဲ့ခြင်း ဖြစ်သည်။

## ပထမသင်္ဂါယနာ

ဗုဒ္ဓမြတ်စွာ ပရိနိဗ္ဗာန်စံတော်မူသည်ကို ကြားရသဖြင့် ရှင်မဟာကဿပထေရ်၏တပည့်များမှ ပုထုဇဉ် ရဟန်းအချို့ ငိုကြွေးကြသည်ကို တွေ့ရသောအခါ 'သုဘဒ်'အမည်ရှိသောရဟန်းကြီးက "မငိုကြနှင့်။ ရဟန်းကြီး ဂေါတမသည် ငါတို့ကို အရာရာ၌ ချုပ်ချယ်လှ၏။ ယခု ငါတို့ ရဟန်းကြီးဂေါတမလက်အောက်မှ လွတ်မြောက်ပြီ" ဟုပြောသည်ကို အကြောင်းပြု၍ သံဝေဂဖြစ်မိသော အရှင်မဟာကဿပသည် အဓမ္မဝါဒီတို့ အားမကောင်းမီ သင်္ဂါယနာတင်ရန် အကြံဖြစ်တော်မူသည်။

ထို့နောက် ရှင်မဟာကဿပသည် ဗုဒ္ဓမြတ်စွာဘုရား၏ သာဓုကီဠနပွဲသဘင်ကျင်းပရာ ကုသိနာရုံပြည်သို့ နောက်ပါတပည့်ရဟန်း ၅၀၀ နှင့်အတူ ဆက်လက်ကြွတော်မူခဲ့ရာ၊ ဗုဒ္ဓ၏သရီရဓာတ်တော်ကို မီးပူဇော်မှု

(မီးသင်္ဂြိုဟ်မှု) မပြုမီအချိန်ကလေး၌ ရောက်ရှိပြီး နောက်ဆုံးဖူးမြော်ခြင်းကို ပြုတော်မူခဲ့သည်။ အမှန်မှာ အရှင်မဟာကဿပ မရောက်မီကပင် မီးသင်္ဂြိုဟ်ကြသော်လည်း မီးစွဲလောင်မှုမရှိဘဲ ရှင်မဟာကဿပရောက်ရှိ ဖူးမြော်ပြီးမှ နံ့သာထင်းမီးပုံကြီး အံဖွယ်ရာ မီးစွဲလောင်ခြင်း ဖြစ်သည်။ ဤသို့အားဖြင့် ဗုဒ္ဓသရီရဓာတ်တော် ၇ ရက်တိုင်တိုင် ပူဇော်ခဲ့ကြသည်။ နောက် ၇ ရက်တိုင်တိုင် ဈာပနကိစ္စမီးသင်္ဂြိုဟ်မှုကို ပြုခဲ့ကြသည်။ နောက် ၇ ရက်တိုင်တိုင် ကြွင်းကျန်ရစ်သောဓာတ်တော် အိန္ဒိယအခြင်အတွယ် ၈ စိတ် [မြန်မာအခြင်အတွယ် ၄ စိတ် (၁ တင်း)]ကို ပူဇော်ပွဲကျင်းပပြီး ၈ပြည်ထောင်မင်းတို့အား ဒေါဏပုဏ္ဏားက ဓာတ်တော်များကို အညီအမျှဝေငှခဲ့သည်။

ဤသို့အားဖြင့် ဗုဒ္ဓမြတ်စွာ ပရိနိဗ္ဗာန်စံသည်နေ့မှ ဓာတ်တော်များဝေပြီးသည်နေ့အထိ ၂၁ ရက်မြောက် နယုန်လဆန်း၅ ရက်နေ့တွင် ရှင်မဟာကဿပက အကြီးအကဲရဟန်းတော်များကို ပင့်ဆောင်စုဝေးစေပြီး၊ သုဘဒ်ရဟန်းမိုက် ဆိုလိုက်သောစကားများကို မိန့်ကြားတော်မူ၍၊ အဓမ္မဝါဒီတို့ အားမကောင်းမီ သင်္ဂါယနာတင်ရန် အကြံအစည်ရှိတော်မူသည်ကို လျှောက်ကြားရာ သံဃာတော်များ၏ သဘောတူညီမှုကို ရရှိတော်မူခဲ့သည်။

သံဃာ့ဆန္ဒကိုရရှိသောအခါ ရှင်မဟာကဿပသည် သင်္ဂါယနာတင်ရန်အတွက် ပုထုဇဉ်ရဟန်းများ၊ သောတာပန်၊ သကဒါဂါမ်၊ အနာဂါမ် ရဟန်းများနှင့် (သုက္ခဝိပဿက) ရိုးရိုးရဟန္တာများကိုမပါစေဘဲ ဗုဒ္ဓ၏ နှုတ်ကပါဠိတော် ပိဋကတ် ၃ ပုံဆောင် ဆဠာဘိည ပဋိသမ္ဘိဒါပတ္တရဟန္တာများသာပါဝင်သော ရဟန္တာ ၄၉၉ ပါးကို ရွေးချယ်တော်မူသည်။ ၅၀၀ ပြည့်ရန်လိုအပ်သော ၁ ပါးကိုမူ မပါမဖြစ်သော ရဟန္တာမဖြစ်သေးသည့် ရှင်အာနန္ဒာအားရည်၍ ချန်လှပ်ထားတော်မူခဲ့ခြင်း ဖြစ်သည်။ ရှင်အာနန္ဒာလည်း တရားအားထုတ်ရာ မကြာမီ ရဟန္တာဖြစ်တော်မူသဖြင့် သင်္ဂါယနာတင်ပွဲတွင် ပါဝင်ခွင့်ရခဲ့သည်။

'ဆဠာဘိညရဟန္တာ' ဟူသည်မှာ အဘိညာဉ် ၆ ပါး ရရှိတော်မူသော ရဟန္တာကို ဆိုလိုသည်။ အဘိညာဉ် ၆ ပါးကား -

၁။ ဣဒ္ဓိဝိဓ = တန်ခိုးအမျိုးမျိုး (ဣဒ္ဓိ ၁၀ ပါးတန်ခိုးများ) ဖန်ဆင်းနိုင်စွမ်း
၂။ ဒိဗ္ဗသောတ = နတ်ကဲ့သို့ အဝေးမှအသံကို ကြားနိုင်စွမ်း
၃။ ပုဗ္ဗေနိဝါသာနုဿတိ = ရှေးရှေးဘဝများကို အောက်မေ့နိုင်စွမ်း
၄။ ပရစိတ္တဝိဇာနန = သူတစ်ပါးစိတ်အကြံကို သိနိုင်စွမ်း
၅။ ဒိဗ္ဗစက္ခု = နတ်ကဲ့သို့ အဝေးကရူပါရုံကို မြင်နိုင်စွမ်း
၆။ ယထာကမ္မူပဂ = (စုတုပပါတ) သတ္တဝါတို့ ထိုထိုဘဝ၌ကျရောက်မှုကို သိနိုင်စွမ်း
၇။ အနာဂတံသ = အနာဂတ်ကိုသိနိုင်စွမ်း အဘိညာဉ် ၇ ပါး ဖြစ်သည်။
၈။ အာသဝက္ခယ = အာသဝေါတရား ၄ ပါးတို့ ကုန်ခန်းခြင်း။

အမှန်မှာ အမှတ် ၅၊ ၆၊ ၇ တို့သည် အတူတူပင်ဖြစ်၍၊ အမှတ် ၅ ဟု ပေါင်းယူကြပါသေးသည်။

'ပဋိသမ္ဘိဒါပတ္တရဟန္တာ' ဟူသည်မှာ ပဋိသမ္ဘိဒါ ၄ ပါးကို ရရှိတော်မူသော ရဟန္တာကို ဆိုလိုသည်။ ပဋိသမ္ဘိဒါ ၄ ပါးကား အောက်ပါအတိုင်းဖြစ်သည်။

၁။ အတ္ထပဋိသမ္ဘိဒါ = အကျိုးတရားကို ခွဲခွဲခြားခြားသိသည့်ဉာဏ်
၂။ ဓမ္မပဋိသမ္ဘိဒါ = အကြောင်းတရားကို ခွဲခွဲခြားခြားသိသည့်ဉာဏ်

၃။ နိရုတ္တိပဋိသမ္ဘိဒါ = မိမိသိသော အကျိုးတရား၊ အကြောင်းအရာဆိုင်ရာသဘာဝ 'နိရုတ္တိ' ခေါ်သော အရိယာတို့၏ ပါဠိ(မာဂဓ)ဘာသာကို ခွဲခွဲခြားခြားသိသောဉာဏ်

၄။ ပဋိဘာနပဋိသမ္ဘိဒါ = ဖော်ပြခဲ့ပြီးသော ဉာဏ် ၃ ပါးကိုပင် 'ဤကား အတ္ထ၊ ဤကား ဓမ္မ၊ ဤကား နိရုတ္တိပဋိသမ္ဘိဒါဉာဏ် ဖြစ်သည်' ဟု တစ်ဖန်ထပ်မံ၍ ခွဲခွဲခြားခြားသိသောဉာဏ်

**ဣန္ဒြေ ၁၀ ပါး**

၁- အဓိဋ္ဌာနိန္ဒြိ = နည်းသည်အဖြစ်၊ များသည်အဖြစ်ကို အဓိဋ္ဌာန်နိုင်သောတန်ခိုး
၂- ဝိကုဗ္ဗနိန္ဒြိ = ရုပ်ပြောင်းရုပ်လွှဲအမျိုးမျိုးကို ဖန်ဆင်းနိုင်သောတန်ခိုး
၃- မနောမယိဒ္ဓိ = ပကတိကိုယ်အတွင်း၌ အလားတူကိုယ်တစ်မျိုးကို ဖန်ဆင်းနိုင်သောတန်ခိုး
၄- ဉာဏဝိပ္ဖါရိဒ္ဓိ = အရဟတ္တမဂ်ဉာဏ်၏ ပျံ့ခြင်းအဟုန်ရှိသောတန်ခိုး
၅- သမာဓိဝိပ္ဖာရိဒ္ဓိ = သမာဓိ၏ ပျံ့ခြင်းအဟုန်ရှိသောတန်ခိုး
၆- အရိယိဒ္ဓိ = အရိယာတို့၏ကိုယ်ပိုင်ဖြစ်သော တန်ခိုး
၇- ကမ္မဝိပါကဇိဒ္ဓိ = အမှတ်မထင်သောကံ၏အကျိုးကြောင့် ဖြစ်သော တန်ခိုး
၈- ပုညဝိပါကဇိဒ္ဓိ = လွန်ကဲသောဘုန်းကံပါရမီရှိသူတို့၏အဖြစ် ဟူသောတန်ခိုး
၉- ဝိဇ္ဇာမယိဒ္ဓိ = အာတဗ္ဗဏကျမ်းအတတ်ကြောင့်ဖြစ်သော တန်ခိုး
၁၀- သမာပယောဂပစ္စယိဒ္ဓိ = ထိုထိုကိစ္စကြီးငယ်တို့၌ သင့်လျော်သောဥပါယ်တစ်မျိုးဖြင့် အားထုတ်ခြင်းကြောင့် ပြီးပြည့်စုံသောတန်ခိုး

ယင်း ၁၀ ပါးအနက် အမှတ် ၁-၂-၃ သာလျှင် ဣဒ္ဓိဝိဓအဘိညာဉ်နှင့် သက်ဆိုင်သည်။

**ကျောင်းတော် ၁၈ ရပ်**

သင်္ဂါယနာတင်ရန် ရွေးချယ်ခံရသော ပိဋကတ် ၃ ပုံဆောင် ဆဋ္ဌာဘိညာ ပဋိသမ္ဘိဒါပတ္တ ရဟန္တာ ၅၀၀ တို့သည် သင်္ဂါယနာတင်ရာနေရာကို ရွေးချယ်တော်မူကြပြန်ရာ ရာဇဂြိုဟ်ပြည်ကို သင့်တော်သောနေရာအဖြစ် သတ်မှတ်တော်မူခဲ့ကြသည်။

ထို့ကြောင့် ရှင်မဟာကဿပက 'ရာဇဂြိုဟ်ပြည်တွင် သင်္ဂါယနာတင်မည့် ရဟန္တာထေရ်မြတ် ၅၀၀ မှ လွဲ၍ မည်သည့်ရဟန်းမျှ ဝါမဆိုရ'ဟု ကံပြု၍ ကြေညာတော်မူခဲ့သည်။ ထို့နောက် သင်္ဂါယနာတင် ရဟန္တာထေရ်ရှင် ၅၀၀ တို့သည် ဝါဆိုအမီ ၂ သုတ်ခွဲ၍ ရာဇဂြိုဟ်ပြည်သို့ ကြွတော်မူခဲ့ကြသည်။

ရာဇဂြိုဟ်ပြည့်ရှင် ဘုရင်အဇာတသတ်ကိုလည်း ကျောင်းတော်ပြုပြင်ရေး၊ သင်္ဂါယနာတင်ဖြစ်မြောက်ရေး အတွက် လိုအပ်သောအကူအညီများကို တောင်းခံခဲ့ရာ၊ အဇာတသတ်မင်းက အာဏာစက်ဆိုင်ရာ ကိစ္စအဝဝတို့ကို တာဝန်ယူခဲ့သည်။ ရဟန္တာအရှင်သူမြတ်တို့သည် ပထမ တစ်လခန့်၌ ရာဇဂြိုဟ်တွင်ရှိသော ကျောင်းတော် ၁၈ ရပ်ကို ပြင်ဆင်တော်မူခဲ့ကြသည်။ ဗုဒ္ဓမြတ်စွာ ပရိနိဗ္ဗာန်စံလွန်တော်မူသည်ကိုကြားရသော ရဟန်းရှင်အားလုံး ကုသိနာရုံသို့ ကြွသွားကြကုန်သဖြင့် ကျောင်းတော် ၁၈ ရပ်မှာ အထိန်းအကွပ်မဲ့ပြီး ဖုန်အလိမ်းလိမ်းကပ်လျက် ရှိခဲ့သောကြောင့် သုတ်သင်ပြင်ဆင်ရခြင်း ဖြစ်သည်။ ကျောင်းတော် ၁၈ ရပ်မှာ အောက်ပါအတိုင်း ဖြစ်သည်။

| | | |
|---|---|---|
| ၁။ | ဝေဠုဝန်ကျောင်းတော် | ။ ဝေဘာရတောင်၏ မြောက်ဘက်တွင်ရှိ၏။ |
| ၂။ | သပ္ပသောဏ္ဍိကကျောင်း | ။ ဝေဘာရတောင် အရှေ့ဘက်ဆင်ခြေလျှောတွင် ရှိသည်။ |
| ၃။ | ပဗ္ဘာရယကျောင်း | ။ ။ ။ ။ |
| ၄။ | ဂေါတမကန္ဒရကကျောင်း | ။ ။ ။ ။ |
| ၅။ | တိန္ဒုကဂုဟာကျောင်း | ။ ။ ။ ။ |
| ၆။ | တပေါဒါကန္ဒရကကျောင်း | ။ ။ ။ ။ |
| ၇။ | တပေါဒါရာမကျောင်း | ။ ။ ။ ။ |
| ၈။ | ဣန္ဒသာလဂုဟာကျောင်း | ။ ။ ။ ။ |
| ၉။ | ဝိပ္ပလိဂုဟာကျောင်း | ။ ဝေဘာရတောင်အရှေ့ဘက်ဆင်ခြေလျှောတွင် ရှိသည်။ |
| ၁၀။ | ကာဠသိလာကျောင်း | ။ ဣသိဂိလိတောင်နံရံ၌ ရှိသည်။ |
| ၁၁။ | ဂိဇ္ဈကုဋ်တောင်ထိပ်ကျောင်း | ။ ဂိဇ္ဈကုဋ်တောင်၌ ရှိသည်။ |
| ၁၂။ | စောရပပါတကျောင်း | ။ ဂိဇ္ဈကုဋ်တောင်နံရံ၌ ရှိသည်။ |
| ၁၃။ | တာလဝနုယျာနကျောင်း | ။ ဂိဇ္ဈကုဋ်တောင်ခြေ၌ ရှိသည်။ |
| ၁၄။ | မဒ္ဒကုစ္ဆိမိဂဒါယကျောင်း | ။ ။ ။ ။ |
| ၁၅။ | ဇီဝကမ္ဗဝနကျောင်း | ။ ။ ။ ။ |
| ၁၆။ | မောရနိဝါပကျောင်း | ။ ။ ။ ။ |
| ၁၇။ | လဋ္ဌိဝနုယျာနကျောင်း | ။ ။ ။ ။ |
| ၁၈။ | အန္ဓကဝိန္ဒကတောကျောင်း | ။ ဂိဇ္ဈကုဋ်တောင်၏ အရှေ့မြောက်ဘက်၌ရှိ၍ သိပ္ပိနီချောင်းငယ် ခြားသည်။ |

## သင်္ဂါယနာတင်တော်မူခြင်း

ငင်းနောက် ရှင်မဟာကဿပဦးဆောင်သော ရဟန္တာထေရ်ရှင် ၅၀၀ တို့သည် ဝေဘာရတောင်နံရံရှိ စရည်းပင်ပေါက်ရာ သတ္တပဏ္ဏိလိုဏ်ဂူအနီး (မဟာယာနမှတ်တမ်းအရ ဂိဇ္ဈကုဋ်တောင် ဣန္ဒသာလလိုဏ်ဂူဝ)၌ ဆောက်လုပ်အပ်သောမဏ္ဍပ်တွင် ဝါခေါင်လဆုတ် ၅ ရက်မှစ၍ တပေါင်းလဆုတ် ၅ ရက်အထိ ၇ လတိုင်တိုင် သင်္ဂါယနာတင်တော်မူခဲ့ကြသည်။

သင်္ဂါယနာတင်ပြီးနောက် ရှင်မဟာကဿပသည် အဇာတသတ်မင်းနှင့် တိုင်ပင်ကာ မဟာသက္ကရာဇ် ၁၄၈ ကိုအကုန်ဖြတ်၍၊ မြတ်စွာဘုရား ပရိနိဗ္ဗာန်ပြုပြီးသည့်အချိန်ဖြစ်သော ဤနှစ်ကို သာသနာသက္ကရာဇ် ၁ နှစ် (၅၄၄ ဘီစီ) ဟု သတ်မှတ်၍ ရေတွက်တော်မူခဲ့ကြသည်။ ပထမသင်္ဂါယနာတင် ပိဋကတ်တော်များကိုလည်း ဆရာစဉ်ဆက်, တပည့်စဉ်ဆက်သင်ယူ၍ နှုတ်ငုံအာဂုံဆောင်တော်မူခဲ့ကြသည်။

ဤ မထေရ်မြတ်များကို အစွဲပြု၍ ပထမသင်္ဂါယနာအဖြစ် တင်ထားခဲ့သော ပိဋကတ်တော်များကို 'ထေရဝါဒ' ဟုခေါ်ခဲ့ကြသည်။

**ပထမသင်္ဂါယနာ၌ သံဃာကွဲပြားမှု ရှိ၊မရှိ**

ပထမသင်္ဂါယနာတင်ခြင်း ပြီးဆုံးခါနီးအချိန်အခါ၌ ရှင်ပုရာဏမထေရ်သည် နောက်ပါသံဃာ ၅၀၀ နှင့်တကွ ရာဇဂြိုဟ်ပြည်သို့ ရောက်တော်မူလာသည်။ မထေရ်မြတ်သည် 'သင်္ဂါယနာတင်ပွဲ ပြီးဆုံးပြီ' ဟူသောအမှတ်ဖြင့် ရာဇဂြိုဟ်သို့ ကြွရောက်တော်မူလာခြင်း ဖြစ်သည်။ သို့ရာတွင် သင်္ဂါယနာတင်ခြင်း မပြီးဆုံးသေးသောအချိန်နှင့် ကြုံကြိုက်ခဲ့သည်။ ထို့ကြောင့် သံဂါယနာတင်ထေရ်ရှင်မြတ်များက ရှင်ပုရာဏထေရ်အား သင်္ဂါယနာတင်ရန် ပင့်ဖိတ်တော်မူခဲ့ကြသည်။ ဤတွင် ရှင်ပုရာဏထေရ်က "သင်္ဂါယနာတင်ခြင်းမှာ ကောင်းသောတင်ခြင်း ဖြစ်သည်။ ဒါပေသိ မိမိသည် ဗုဒ္ဓမြတ်စွာမှ ကြားနာခဲ့ရသည့်အတိုင်း တရားတော်ကို ဆက်လက်ဆောင်ရွက်မည်" ဟု လျှောက်ထားပြီး၊ ပင့်ဖိတ်ခြင်းကို လက်ခံတော်မမူခဲ့ပါ။ ဤသို့ လက်မခံခြင်းအတွက် သင်္ဂါယနာတင်ခြင်းကို သဘောမတူသောကြောင့် မဟုတ်။ 'သင်္ဂါယနာတင်ခြင်းအတွက် ပြီးပြည့်စုံသောအခြေအနေများ ရှိနေပြီဖြစ်၍ မိမိပါဝင်ရန် မလိုအပ်ပြီ' ဟု ယူဆတော်မူသောကြောင့် ပင့်ဖိတ်ခြင်းကိုပယ်တော်မူခဲ့ခြင်း ဖြစ်သည်။ အမှန်မှာ ရှင်ပုရာဏသည် သင်္ဂါယနာတင်ရန်အတွက် သံဃာများ ဆန္ဒပေးစဉ်ကပင် သဘောတူခဲ့ပြီးဖြစ်သည်။ ထို့ကြောင့် ပထမသင်္ဂါယနာ၌ သံဃာကွဲပြားမှုမရှိကြောင်း ထင်ရှားသည်။

တစ်ဖန် သာသနာနှစ် ၁၁၇၃ (အေဒီ ၆၂၉)တွင် အိန္ဒိယသို့ရောက်၍ အေဒီ ၆၄၅ အထိ ၁၇ နှစ်မျှ နေသွားသော တရုတ်ရဟန်းတော် ဟီယန်ဆိုင်က-

'ပထမသင်္ဂါယနာတင်ပွဲ၌ ရှင်မဟာကဿပအမှူးပြုသော သံဃာတော်များကိုမကျေနပ်၍ ဂိုဏ်းခွဲထွက်ကာ ရှင်မဟာကဿပတို့ သင်္ဂါယနာတင်သော သတ္တပဏ္ဏိလိုဏ်ဂူ၏ အနောက် ၇ မိုင်ခန့်အကွာအရပ်တွင် စင်ပြိုင်သင်္ဂါယနာတင်ခဲ့ကြောင်း။ ဤ စင်ပြိုင်သင်္ဂါယနာ၌ ပိဋကတ်တော်များကို 'သုတ္တ၊ ဝိနယ၊ အဘိဓမ္မ၊ ပကိဏ္ဏက၊ ဓာရဏီ' ဟူ၍ ပိဋကတ် ၅ ပုံ သတ်မှတ်ခဲ့ကြောင်း။ ယင်း သင်္ဂါယနာတင်သောနေရာတွင် အာသောကမင်းကြီးက စေတီငယ်တစ်ဆူတည်ခဲ့ကြောင်း' မှတ်တမ်းရေးသားခဲ့သည်။ ဤ၌ ဟီယန်ဆိုင်၏မှတ်တမ်း မှန်-မမှန်စိစစ်ရန် လိုအပ်သည်။

ဤ ဟီယန်ဆိုင်ထက် နှစ် ၂၀၀ ခန့်စော၍ အေဒီ ၄၀၄ တွင် အိန္ဒိယသို့ ရောက်ရှိခဲ့သော တရုတ်ရဟန်းတော် ဖာဟီယန် (ဖာစီယန်) မှတ်တမ်းတွင်မူ ထိုသို့ စင်ပြိုင်သင်္ဂါယနာတင်ကြောင်း မပါရှိပါ။ 'ဖာဟီယန်၏မှတ်တမ်းသည် ရေးကျ၍ ပြည့်စုံမှန်ကန်သော မှတ်တမ်းဖြစ်ကြောင်း' ပညာရှင်တို့ လက်ခံထားကြသည်။

ဟီယန်ဆိုင်နောက် နှစ် ၅၀ မျှအကြာတွင် အိန္ဒိယသို့ရောက်သော ထင်ရှားသည့် တရုတ်ရဟန်းတော် အိုင်ဆင်၏မှတ်တမ်းတွင် လည်းကောင်း၊ အေဒီ ၆၃၁ တွင် အိန္ဒိယသို့ရောက်ရှိခဲ့သော တရုတ်ရဟန်းတော် ဆွန်ချန်၏မှတ်တမ်းတွင် လည်းကောင်း 'စင်ပြိုင်သင်္ဂါယနာတင်ကြောင်း' ဖော်ပြထားခြင်းမရှိခဲ့ပေ။

၄င်းအပြင် ဟီယန်ဆိုင်က 'ရှင်မဟာကဿပအမှူးပြုသော သံဃာ ၁၀၀၀ တို့ ပထမသင်္ဂါယနာတင်ပြီးနောက် ပိဋကတ်တော်များကို ပေထက်အက္ခရာတင်၍ ဖြန့်ဝေခဲ့သည်' ဟုဆိုပြန်သည်။ ဤအဆိုသည်လည်း ကျမ်းဂန်အရပ်ရပ်တို့၏အဆိုအမိန့်များနှင့် ဆန့်ကျင်နေသဖြင့် အလွန့်အလွန် မှားယွင်းနေကြောင်း တွေ့ရှိရပြန်သည်။ ထို့ကြောင့် ဟီယန်ဆိုင်၏မှတ်တမ်းကို အမှန်ဟု မယူဆနိုင်ပြန်သဖြင့် ပထမသင်္ဂါယနာတင်ပွဲတွင် သံဃာကွဲပြားမှု မရှိကြောင်း ထင်ရှားလှပါသည်။

## ဒုတိယသင်္ဂါယနာနှင့် ဝိနည်းပြင်ဆင်ချက် ၁၀ချက်

သာသနာသက္ကရာဇ် ၁၀၀ (၄၄၄ ဘီစီ) ရောက်သောအခါ သုသုနာဂမင်း၏သား ကာလာသောကမင်း လက်ထက်၌ ဝေသာလီပြည်တွင် ဝဇ္ဇီတိုင်းသားရဟန်းများက ဝိနည်းပညတ်တော်များကို ပြင်ဆင်လာကြသည်။ သုသုနာဂမင်းသည် ဝေသာလီမျိုးဖြစ်၍ ဝေသာလီပြည်သားရဟန်းတော်များကို လည်းကောင်း၊ ဂိုဏ်းရဟန်းတော်များကို လည်းကောင်း ထောက်ပံ့ခဲ့သည်။ အလားတူ သားဖြစ်သူ ကာလာသောကမင်းသားကလည်း ယင်း ဝေသာလီပြည်သား ဝဇ္ဇီပုတ္တကရဟန်းတို့အား ထောက်ပံ့အားပေးခဲ့သည်။ ထို့ကြောင့် ၄င်းရဟန်းတို့သည် ဝိနည်းပညတ် ပြင်ဆင်ချက် ၁၀ ချက်ကို အတိအလင်းပြင်ဆင်လာကြတော့သည်။ ၄င်းတို့ ပြင်ဆင်ထားသော ဝိနည်းတော် ပညတ်ချက် ၁၀ ချက်မှာ အောက်ပါအတိုင်းဖြစ်သည်။

၁။ 'အကပ်ခံပြီးစားဖွယ်များကို သိုမှီး၍မစားရ' ဟူသောပညတ်ချက်ကို ပြင်ဆင်၍၊
သားချို၌ထည့်ထားသော ဆားကို နေ့စဉ် စားသုံးနိုင်သည်' ဟုဆိုသည်။

၂။ 'နေမွန်းတည့်ပြီးနောက်ပိုင်း၌ ခဲဖွယ်စားဖွယ်များကို မစားရ' ဟူသောပညတ်ချက်ကို ပြင်ဆင်၍၊
'နေမွန်းလွဲပြီး အရိပ်လက် ၂ သစ်အထိ စားနိုင်သည်' ဟုဆိုသည်။

၃။ 'သိမ်တစ်ခုတည်း၌ ၂ ထောင့်ထွာဟတ္ထပါသ်အတွင်းနေ၍ သံဃာ့ကံ ပြုရမည်' ဟူသော ပညတ်ချက်ကို ပြင်ဆင်၍၊
'တစ်ကျောင်းစီ၌နေ၍ သံဃာ့ကံပြုလျှင်လည်း ရသည်' ဟုဆိုသည်။

၄။ 'သံဃာ့ကံပြုရန် သံဃာ့အစည်းအဝေးသို့ မတက်ရောက်နိုင်သောရဟန်းသည် ကြိုတင်ဆန္ဒပေးရမည်' ဟူသော ပညတ်ချက်ကို ပြင်ဆင်၍၊
'နောက်မှဆန္ဒပေးလျှင်လည်း ရသည်' ဟုဆိုသည်။

၅။ 'ရဟန်းသည် ဝိနည်းနှင့်မညီသောအလုပ်ကို ပြုလုပ်က ထိုက်သည့်အားလျော်စွာ အာပတ်သင့်သည်' ဟူသော ပညတ်ချက်ကို ပြင်ဆင်၍၊
'ဆရာသမားကို အကာအကွယ်ယူသည့်သဘောဖြင့် ဆရာသမားတို့ ပြုလုပ်ခဲ့သော အစဉ်အလာကိုပြုလုပ်က အာပတ်မသင့်' ဟုဆိုသည်။

၆။ 'ရဟန်းတော်သည် ဆွမ်းစားနေစဉ် 'တော်ပြီ၊ တန်ပြီ' ဟုတားမြစ်မိက ပဝါရိတ်သင့်သည်။ ထပ်မံ၍ မစားရတော့ချေ။ စားလိုက အခြားရဟန်းတစ်ပါးအား စားဖွယ်များကို ပေးစွန့်ရသည်။ ထိုရဟန်းက 'အပိုအလျှံ ဖြစ်သည်' ဟုဆိုပြီးပြန်ပေးခြင်း ဟူသော အတိရိတ်ဝိနည်းကံပြုလျှင် စားနိုင်သည်' ဟူသော ပညတ်ချက်ကို ပြင်ဆင်၍၊
အခြားရွာသို့ သွားရန်ကိစ္စရှိပါက ပဝါရိတ်သင့်သောဆွမ်းကို အတိရိတ်ဝိနည်းကံ မပြုဘဲ စားနိုင်သည်' ဟုဆိုသည်။

၇။ 'ပဝါရိတ်သင့်သော ရဟန်းသည် အတိရိတ်ဝိနည်းကံမပြုဘဲ မည်သည့်အစာကိုမျှ မစားရ' ဟူသော ပညတ်ချက်ကို ပြင်ဆင်၍၊
'နို့မှ ဒိန်ချဉ်မရောက်ခင်စပ်ကြား နို့ချဉ်ကို စားသုံးနိုင်သည်' ဟုဆိုသည်။

၈။ 'သေရည်သေရက် စသောမူးယစ်ဆေးဝါးများကို မသောက်သုံးရ' ဟူသော ပညတ်ချက်ကို ပြင်ဆင်၍၊ 'သေရည်အနုစား၊ စိမ်ရည်အနုစားကို သောက်သုံးနိုင်သည်' ဟုဆိုသည်။

၉။ 'အမြိတ်အဆာမပါသောနေရာထိုင်ခင်း (နိသီဒိုင်)ကို မသုံးအပ်' ဟူသော ပညတ်ချက်ကို ပြင်ဆင်၍၊ 'အပ်၏' ဟုဆိုသည်။

၁၀။ 'ရွှေ၊ ငွေ အသပြာကို အလှူမခံရ၊ မကိုင်ရ' ဟူသော ပညတ်ချက်ကို ပြင်ဆင်၍၊ 'အလှူခံနိုင်သည်၊ ကိုင်နိုင်သည်' ဟုဆိုသည်။

## ရှင်မဟာယသထေရ်နှင့် ဝဇ္ဇီပုတ္တကရဟန်းများ

ထိုအကြောင်းကို ကြားသိသော အရှင်မဟာယသထေရ်သည် ဝေသာလီပြည် မဟာဝုန်ကျောင်းတိုက်သို့ ကြွရောက်တော်မူလာသည်။ ထိုအချိန် သံဃာများ ဥပုသ်ပြုနေသောနေ့တွင် သံဃာ့အလယ်၌ ရေပြည့်သော ရွှေဖလားကိုချထားပြီး ဥပုသ်တရားနာလာကြသော ဒါယကာ၊ ဒါယိကာမတို့ထံမှ 'ပရိက္ခရာအတွက်' ဟုဆိုပြီး ငွေ အလှူခံနေကြသည်။ ထိုအခါ ရှင်မဟာယသထေရ်ကြီးက ဒါယကာတို့အား 'ရွှေ၊ ငွေအသပြာကို မလှူရကြောင်း 'ရဟန်းတို့နှင့် မအပ်စပ်ကြောင်း' ဟောပြောသည်။ သို့ရာတွင် ဒါယကာတို့က ဓလေ့ထုံးစံတစ်ခု ဖြစ်နေသောကြောင့် လှူမြဲလှူဒါန်းကြသည်။ ဥပုသ်နေ့ တစ်ညလုံး အလှူခံရသမျှငွေကို နံနက်မိုးလင်းသောအခါ ရဟန်းတော်များ အညီအမျှ ခွဲဝေယူကြသည်။ အရှင်မဟာယသထေရ်အားလည်း ဝေစုငွေအသပြာကိုပေးရာ လက်မခံဘဲ ငြင်းပယ်လိုက်သည်။ ထို့ကြောင့် ဝဇ္ဇီတိုင်းသားရဟန်းများက အရှင်မဟာယသအား ဒါယကာတို့အား တောင်းပန်ရန် ကံဖြင့်ကြဉ်ပယ်မှုကို ပြုကြလေသည်။ ထိုအခါ အရှင်မဟာယသက အဘိညာဏ်တန်ခိုးဖြင့် ကောင်းကင်သို့ပျံတက်၍ ကောသမ္ဗီပြည်သို့ ပြန်ကြွသွားသည်။

ထို့နောက် အရှင်မဟာယသသည် 'အဓမ္မဝါဒီရဟန်းဆိုးများ အင်အားမကြီးထွားမီ ဝိုင်းဝန်းဆုံးမ နှိမ်နင်းကြပါရန်' ဥဇ္ဇေနီပြည်၊ ရာဇဂြိုဟ်ပြည်၊ သာဝတ္ထိပြည်၊ ကုသိနာရုံပြည် စသောတိုင်းပြည်များသို့ တမန်စေလွှတ်၍ အကြောင်းကြား လျှောက်ထားလေသည်။ အရှင်မဟာယသထေရ်ကိုယ်တိုင်ကလည်း အဟောဂင်္ဂါတောင်၌ သီတင်းသုံးနေထိုင်သော အရှင်သမ္ဘူတထံသို့ကြွရောက်၍၊ 'ဝဇ္ဇီတိုင်းသားရဟန်းများ၏ ပြင်ဆင်ချက် ၁၀ ချက်သည် ဝိနည်းတရားတော်နှင့် ညီ၊မညီ' မေးမြန်းလျှောက်ထားသည်။ 'ဝိနည်းတရားနှင့် မညီကြောင်း'ကို အရှင်သမ္ဘူတထေရ်က မိန့်ကြားသည်။

ထိုအချိန်၌ အနောက်ဘက်တိုင်းပြည်များမှ ကြွရောက်လာသော ဓုတင်ဆောင် ရဟန္တာမထေရ်ကြီး ၆၀ နှင့် ဥဇ္ဇေနီ စသော တောင်ဘက်တိုင်းပြည်များမှကြွရောက်လာသော ဓုတင်ဆောင် ရဟန္တာထေရ်ကြီး ၈၀ တို့သည်လည်း အဟောဂင်္ဂါတောင်သို့ ရောက်ရှိ၍ စည်းဝေးခဲ့ကြသည်။

ထိုအစည်းအဝေး ဆုံးဖြတ်ချက်အရ သောရေယျမြို့မှ ပိဋကက ၃ ပုံဆောင် အရှင်ရေဝတထေရ်ထံသို့ ကြွရောက်ခဲ့ကြသည်။ အရှင်မဟာယသသည် အရှင်ရေဝတထံချဉ်းကပ်၍၊ 'ဝဇ္ဇီတိုင်းသားရဟန်းတို့၏ အချက် ၁၀ ချက်ကို ဝိနည်းတရားတော်နှင့် ညီ၊မညီ' မေးမြန်းလျှောက်ထားရာ၊ 'မညီကြောင်း' မိန့်တော်မူသဖြင့်၊ 'အဓမ္မဝါဒီ ရဟန်းဆိုးများ အားမကောင်းမီ ဤအဓိကရုဏ်းကို ဖြေရှင်းပေးပါရန်' အရှင်မဟာယသ၏ လျှောက်ထားချက်ကို သဘောတူ လက်ခံတော်မူလိုက်သည်။

ဝေသာလီပြည်မှ ဝဇ္ဇီတိုင်းသားရဟန်းများသည်လည်း အရှင်မဟာယသ အင်အားစုနေကြောင်းကို ကြားသိကြ၍ မိမိတို့ဘက်မှရပ်တည်မည့် သက်တော်၊ ဝါတော်ကြီး မဟာထေရ်ကြီးများကိုရှာဖွေ၍ အင်အားစုဆောင်းခဲ့ကြသည်။

ထို့နောက် အရှင်မဟာယသ အမှူးပြုသော ရဟန္တာမထေရ်ကြီးများသည် ဝေသာလီပြည် မဟာဝုန်ကျောင်းသို့ ကြွတော်မူလာကြကုန်သည်။ ထိုအခါ နမတော် 'နန္ဒ' မည်သောရဟန္တာထေရ်မ၏ ဆုံးမချက်အရ ကာလာသောကမင်းလည်း အမြင်မှန်ရလာသဖြင့် အရှင်မဟာယသ အမှူးပြုသော ရဟန်းကောင်းများအား စောင့်ရှောက်ခဲ့သည်။

## ဝိနည်းဓိုရ်တင်မြှောက်ခြင်း

ယင်းအဓိကရဏ်းကို ဖြေရှင်းရန်အတွက် ဝေသာလီပြည် သံဃာတော် ၁၂ သိန်း အစည်းအဝေးက အောက်ဖော်ပြပါဝိနည်းဓိုရ်များကို ရွေးကောက်တင်မြှောက်တော်မူခဲ့ကြသည်။

ဝေသာလီပြည် အစရှိသော အရှေ့ပိုင်းတိုင်းပြည်များဘက်မှ -

၁။ အရှင်သဗ္ဗကာမီမဟာထေရ်၊ ဝါတော် ၁၂၀၊ သက်တော် ၁၄၀

၂။ အရှင်သာဠှမဟာထေရ်၊ သက်တော် ၁၂၀ ကျော်

၃။ အရှင်ခုဇ္ဇသောဘိတမဟာထေရ်၊ သက်တော် ၁၂၀ ကျော်

၄။ အရှင်ဝါသဘဂါမိ မဟာထေရ်၊ သက်တော် ၁၂၀ ကျော်

ဤ ပဋိသမ္ဘိဒါပတ္တ ဆဠာဘိညတိပိဋကဓရရဟန္တာထေရ်ကြီး ၄ပါးကို ဝိနည်းဓိုရ်ပုဂ္ဂိုလ်အဖြစ် ရွေးကောက်တင်မြှောက်လေသည်။

ဥဇ္ဇေနီ၊ ရာဇဂြိုဟ်၊ သာဝတ္ထိ စသော အနောက်ပိုင်းတိုင်းပြည်များဘက်မှ -

၁။ အရှင်ရေဝတမဟာထေရ်၊ သက်တော် ၁၂၀ ကျော်

၂။ အရှင်သမ္ဘူတမဟာထေရ်၊ သက်တော် ၁၂၀ ကျော်

၃။ အရှင်မဟာယသမဟာထေရ်၊ သက်တော် ၁၂၀ ကျော်

၄။ အရှင်သုမနမဟာထေရ်၊ သက်တော် ၁၂၀ ကျော်

ဤ ပဋိသမ္ဘိဒါပတ္တ ဆဠာဘိညတိပိဋကဓရရဟန္တာထေရ်ကြီး ၄ ပါးကို ဝိနည်းဓိုရ်ပုဂ္ဂိုလ်အဖြစ် ရွေးကောက်တင်မြှောက်ကြလေသည်။

'အဇိတ'မည်သော ၁၀ ဝါရ ရဟန်းတော်တစ်ပါးကို ဝိနည်းဓိုရ်များအတွက် နေရာထိုင်ခင်းပြင်ဆင်ရန် သမ္မုတိပေး ရွေးချယ်ကြသည်။

ဝိနည်းဓိုရ် ၈ ပါးတို့သည် အဓိကရဏ်းကိုဆုံးဖြတ်ရန် ဝါလိကာရုံကျောင်းတိုက်၌ အစည်းအဝေးလုပ်ခဲ့ကြသည်။ ထို့နောက် 'ဝဇ္ဇီတိုင်းသားတို့၏ ပြင်ဆင်ချက် ၁၀ ချက်သည် ဝိနည်းတရားတော်နှင့်မညီကြောင်း' ဆုံးဖြတ်တော်မူခဲ့ကြသည်။ ထိုဆုံးဖြတ်ချက်ကို မဟာဝုန်ကျောင်းတိုက်သို့ရောက်ရှိနေသော သံဃာထုအစည်းအဝေးက တစ်ဖန်ထပ်၍ အတည်ပြုတော်မူခဲ့ကြသည်။

## ဒုတိယသင်္ဂါယနာတင်ခြင်း

အဓိကရဏ်းငြိမ်းပြီးသောအခါ အစည်းအဝေးကြွရောက်လာကြသော သံဃာတော် ၁၂ သိန်းမှ တိပိဋကဓရ ပဋိသမ္ဘိဒါပတ္တ ဆဠာဘိည ရဟန္တာမထေရ်ကြီး ၇၀၀ ကို ရွေးကောက်၍ သာသနာသက္ကရာဇ် ၁၀၀ (၄၄၄ဘီစီ)

တွင် ဝေသာလီပြည် ဝါဠုကာရုံကျောင်း၌ ဒုတိယအကြိမ် သင်္ဂါယနာတင်ရာ ၈ လတိုင်ကြာမှ ပြီးဆုံးခြင်းသို့ ရောက်သည်။

ထိုသံဂါယနာတင်ပွဲ၌ ပါဋလိပုတ်ပြည် ကာလာသောကမင်းကြီးသည် အာဏာစက်ဖြင့် ထောက်ပံ့ကူညီ၍ သာသနာ့ဒါယကာ ခံယူလေသည်။

ထို ဒုတိယသင်္ဂါယနာတင်ပွဲ၌ သံဃာ့ဦးဆောင်နာယကမထေရ် ၈ ပါးစလုံးသည် မြတ်စွာဘုရားကို ဖူးမြင်ဖူးကြကုန်သည်။

အရှင်သဗ္ဗကာမီထေရ်, အရှင်သာဠှထေရ်, အရှင်ရေဝတထေရ်, အရှင်ခုဇ္ဇသောဘိတထေရ်, အရှင်သမ္ဘူတထေရ်, အရှင်မဟာယသထေရ်၊ ဤ ၆ ပါးသောမထေရ်မြတ်တို့ကား အရှင်အာနန္ဒာထေရ်၏ အတူနေတပည့်ကြီးများ ဖြစ်ကြကုန်သည်။

အရှင်သုမနထေရ်, အရှင်ဝါသဘဂါမိထေရ်တို့ကား အရှင်အနုရုဒ္ဓါ၏ အတူနေတပည့်ကြီးများ ဖြစ်ကြကုန်သည်။

## ဂိုဏ်းကွဲနှင့် စင်ပြိုင်သင်္ဂါယနာ

ဝဇ္ဇီပုတ္တက ရဟန်းတို့သည် သံဃာ့ထေရ်ကြီးများ၏ အဆုံးအဖြတ်ကို မနာခံသဖြင့် ကံပြု၍ နှင်ထုတ်ခဲ့ရလေသည်။ ထို့ကြောင့် ဝဇ္ဇီပုတ္တကရဟန်းများသည် ဝေသာလီမှထွက်ခွာ၍ အနယ်နယ်အရပ်ရပ်တွင် မိမိတို့နှင့် သဘောတူသော အဓမ္မဝါဒီရဟန်းများကိုစည်းရုံး၍၊ ရဟန်းပရိသတ် ၁ သောင်းရရှိသောအခါ ကောသမ္ဘီပြည်၌ စင်ပြိုင်သင်္ဂါယနာတင်ကြကုန်သည်။ ၎င်းတို့အား အချို့သော နယ်စား, မြို့စားများနှင့် ဘုရင်များက အားပေးထောက်ခံကြသည်။ ၎င်းတို့သည် အသာစီးရရန် မိမိတို့၏သင်္ဂါယနာကို 'မဟာသံဂီတိ' ဟု မဟာတပ်၍၊ မိမိတို့ဂိုဏ်းကိုလည်း 'မဟာသံဂီတိဂိုဏ်း' ဟူ၍လည်းကောင်း, 'မဟာသံဃိကဂိုဏ်း' ဟူ၍လည်းကောင်း အမည်ပေးကြကုန်သည်။

၎င်းစင်ပြိုင်သင်္ဂါယနာတွင် ရှိရင်းပိဋကတ်တော်များကို ကပြောင်းကပြန်ထားခြင်း, ပယ်နုတ်ခြင်း, ဖြည့်စွက်ခြင်း, လိုရာအဓိပ္ပာယ်ဖွင့်ခြင်း, အဘိဓမ္မာအသစ်ရေးခြင်းများကို ပြုလုပ်ကြသည့်အပြင်၊ ရဟန်းပရိက္ခရာများကိုလည်း ပြုပြင်၍ တစ်မျိုးတစ်မည်တီထွင်ခဲ့ကြသည်။

## ဗုဒ္ဓဝါဒ ဂိုဏ်းကွဲများ

ဘုရားရှင် ပရိနိဗ္ဗာန်စံတော်မူပြီးနောက် သာသနာသက္ကရာဇ် ၁၀၀ (၄၄၄ ဘီစီ)ရောက်၍ ဒုတိယသင်္ဂါယနာတင်ပြီးသောအချိန်တွင် ဝဇ္ဇီတိုင်းသားရဟန်းများကလည်း စင်ပြိုင်သင်္ဂါယနာတင်ခဲ့ကြရာမှ မူလပင်မ ထေရဝါဒဂိုဏ်းနှင့် မဟာသံဃိကဂိုဏ်း ဟူ၍ ၂ ဂိုဏ်း စတင်ကွဲပြားလာသည်။

ထိုအချိန်မှစ၍ တတိယသင်္ဂါယနာမတင်မီ နှစ်ပေါင်း ၁၃၅ နှစ်အတွင်း အောက်ပါအတိုင်း ဂိုဏ်းကွဲများ ထပ်မံကွဲပြားလာသည်။




ဤသို့အားဖြင့် 'မူလပင်မ ထေရဝါဒမှ ပထမအကြိမ် ခွဲထွက်သော ဂိုဏ်းကွဲများ ၆ ဂိုဏ်း။ ဒုတိယအကြိမ် ခွဲထွက်သောဂိုဏ်းကွဲများ ၁၁ ဂိုဏ်း။ စုစုပေါင်း ၁၈ ဂိုဏ်း ဖြစ်သည်' ဟု ဒီပဝင်တွင် ဖော်ပြထားသည်။

အထူးမှာ အဆိုပါ ၁၈ ဂိုဏ်းတွင် သုတ်နှင့် ဝိနည်း အနည်းအများ တူညီကြသည်။ အဘိဓမ္မာတွင်မူ အယူအဆလည်းကွဲသည့်အပြင် ကျမ်းများပါ ကွဲခဲ့သည်။ ထေရဝါဒီတို့သည် ကထာဝတ္ထုတွင် မဟာသံဃိက, ဂေါကုလိက, ဘဒြယာနိက, မဟိသာသက, ဝဇ္ဇိပုတ္တက, သဗ္ဗတ္ထိက, ကဿပိက, သမ္မိတိယဂိုဏ်း စသော ၈ ဂိုဏ်းအား ချေပထားသည်ကို တွေ့ရှိရသည်။

သက္ကတဘာသာဖြင့်ရေးခဲ့သော ဝသုမိတြ၏မှတ်တမ်းအရ ဆိုပါမူ တတိယသင်္ဂါယနာခေတ်၌ ထေရဝါဒ, ပဏ္ဍာ, နာဂ, ဗဟုသုတိယ သံဃာအုပ်စု ၄ စု ဝါဒရေးရာငြင်းခုံကြရာမှ ထေရဝါဒနှင့် မဟာသံဃိကဂိုဏ်း ၂ ဂိုဏ်းကွဲပြားပြီး၊ ၄င်းဂိုဏ်း ၂ ဂိုဏ်းမှ အောက်ပါအတိုင်း ဂိုဏ်း ၂၀ ကွဲပြားသည်ဟု ဆိုသည်။

**တတိယသင်္ဂါယနာ (သာသနာသက္ကရာဇ် ၂၃၅၊ ဘီစီ ၃၀၉)**

| | |
|---|---|
| ထေရဝါဒ (သဗ္ဗတ္တိဝါဒ) | မဟာသံဃိက |
| ဝဇ္ဇီပုတ္တက | ကေဗျောဟာရိက |
| ဓမ္မုတ္တရိယ | လောကုတ္တရဝါဒီ |
| ဘဒြယာနိက | ကုက္ကုလိက |
| သမ္မတ္တိယ | ဥတ္တရသေလ |
| ဆန္နဂါရိယ | အပရသေလ |
| ဟေမာဝတ | စေတိက |
| ဓမ္မဂုတ္တိက | ပညတ္တိဝါဒီ |
| မဟိသာသက | ဗဟုသုတိယ |
| ကဿပိက | |
| သင်္ကန္တိက (သုတ္တဝါဒီ) | |

ဝသုမိတြ၏အဆိုကား ထေရဝါဒသင်္ဂါယနာသမိုင်းနှင့် မညီညွတ်သည့်အပြင် သဗ္ဗတ္တိဝါဒကိုပင် 'ထေရဝါဒ' ဟု လွဲမှားစွာဖော်ပြထားသောကြောင့် မသင့်သောအဆို ဖြစ်သည်။ ဂိုဏ်းကွဲဗုဒ္ဓဝါဒ အဘိဓမ္မာဂိုဏ်း ၄ ဂိုဏ်းကိုပင် သံဃာ့အုပ်စု ၄ စု ဟု ဆိုလိုဟန်ရှိသည်။ အမှန်မှာ ဝသုမိတြမှတ်တမ်းသည် အဘိဓမ္မာအုပ်စု ၄ စုမှ ဖြာထွက်လာသော ဂိုဏ်းကွဲများကို ရေးမှတ်ထားသောမှတ်တမ်းဖြစ်ကြောင်း ယူဆရပေသည်။ အဘယ့်ကြောင့်ဆိုသော် ၄င်းဖော်ပြသောဂိုဏ်းကွဲများတွင် အသောကမင်းနောက်ပိုင်း၌ ပေါ်ပေါက်ခဲ့သော 'အပရသေလ, ပုဗ္ဗသေလ' စသည် ကဲ့သို့သောဂိုဏ်းများ ပါဝင်သောကြောင့်ဖြစ်သည်။ ဤအချက်များကိုထောက်ဆ၍ ပညာရှင်များက 'ဝသုမိတြ ဆရာကြီးမှတ်တမ်းရေးချိန်တွင် အိန္ဒိယ၌ ထေရဝါဒသာသနာ ကွယ်ပနေပြီဖြစ်ကြောင်း အဘိဓမ္မာဆိုင်ရာ ငြင်းခုံကြရင်း 'မဟာယာန, ဟီနယာန' ဟူသောဝေါဟာရ ပေါ်ပေါက်လာရပြီး၊ သဗ္ဗတ္တိဝါဒမှာ ဟီနယာနအဖြစ် သတ်မှတ်ခံခဲ့ရကြောင်း' မှတ်ချက်ပြုကြသည်။

သက္ကတစာရေးဆရာကြီး ဘဗျ၏ အဆိုအရမူ 'ထေရဝါဒနှင့် မဟာသံဃိကဂိုဏ်း' ကွဲပြီးနောက် အောက်ပါ အတိုင်း ဂိုဏ်း ၂၀ ဂိုဏ်း ကွဲလာသည်' ဟု ဆိုသည်။

ထေရဝါဒ

- ထေရဝါဒ (ဟေမဝတ)
  - သဗ္ဗတ္ထိဝါဒီ
  - သက်န္တိက
  - ဝိဘဇ္ဇဝါဒီ
  - ဟေတုဝိဇ္ဇာ
  - ဝစ္ဆိပုတ္တိယ
  - ဓမ္မုတ္တရိယ
  - ဘဒြယာနိက
  - သမ္မတ္တ
  - မဟိသာသက
  - ဓမ္မဂုတ္တိက
  - ကဿပိက (သဒ္ဓမ္မဝဿက)
- မဟာသံဃိက
  - ကေဗျောဟာရိက
  - လောကုတ္တရဝါဒီ
  - ဗဟုသုတိယ
  - ပညတ္တိဝါဒီ
  - စေတိယ
  - ပုဗ္ဗသေလ
  - အပရသေလ

ဤ သတ္တတဆရာကြီး ဘဗျသည်လည်း ဟေမာဝတဂိုဏ်းကို 'ထေရဝါဒဂိုဏ်း'ဟူ၍ လွဲမှားစွာဖော်ပြထားပြန်သည်။ ၎င်းအပြင် ဝသုမိတြဆရာကြီးနည်းတူ အသောကနောက်ပိုင်း၌ပေါ်သော ဂိုဏ်းများကိုလည်း ထည့်သွင်းဖော်ပြထားသည်ကို တွေ့ရှိရပြန်သည်။ ထို့ကြောင့် ဘဗျ၏ မှတ်တမ်းပါဂိုဏ်းများကိုလည်း အတည်ယူရန် မဖြစ်နိုင်ချေ။

## တတိယသင်္ဂါယနာနိဒါန်း

တတိယသင်္ဂါယနာမတင်မီကာလတွင် အိန္ဒိယ၌ အထက်ဖော်ပြပါအတိုင်း ထေရဝါဒဗုဒ္ဓဝါဒမှ ခွဲထွက်ခဲ့ကြသော ဂိုဏ်းကွဲဝင်ရဟန်းများ ရှိနေကြသကဲ့သို့၊ ဂိုဏ်းရဟန်း စသော တိတ္ထိဂိုဏ်းများလည်း ရှိခဲ့ကြသည်။ သီရိဓမ္မာသောကမင်း၏ ဖခင် ဗိန္ဒုသာရမင်းသည် ဂိုဏ်းဘာသာဒါယကာဖြစ်၍ ဂိုဏ်းဘာသာ တိတ္ထိ ၆ သောင်းကို နေ့စဉ် ဆွမ်းလုပ်ကျွေးခဲ့သည်။ သာသနာသက္ကရာဇ် ၂၁၈ (၃၂၆ ဘီစီ)တွင် အာသောကမင်း အဘိသိက်ခံပြီးသော

အခါ၌လည်း ဖခင်၏အရိုက်အရာဖြစ်သော တိတ္တိ ၆ သောင်းကို ၃ နှစ်တိုင်တိုင် နေ့စဉ် ဆွမ်းလုပ်ကျွေးခဲ့သည်။ သို့ရာတွင် တစ်နေ့သ၌ တူတော်ဖြစ်သော နိဂြောဓသာမဏေ၏ သတိပဋ္ဌာန်ဣန္ဒြေကိုတွေ့မြင်ရ၍ ကြည်ညိုပြီး နန်းတော်သို့ပင့်ကာ သတိပဋ္ဌာန်တရားကိုကြားနာခဲ့ရရာမှ မင်းကြီးလည်း ဗုဒ္ဓဘာသာ ဖြစ်လာခဲ့ရတော့သည်။ သမိုင်းဆရာအချို့ကမူ 'ကလိင်္ဂစစ်ပွဲအနိဋ္ဌာရုံကြောင့် ဗုဒ္ဓဘာသာဖြစ်လာသည်' ဟုဆိုသည်။ ကလိင်္ဂစစ်ပွဲတွင် မင်းညီမင်းသားအများအပြားကို သတ်ခဲ့သောကြောင့် 'စဏ္ဍာသောက' ဟူ၍လည်း အမည်ရခဲ့သည်။

မည်သို့ပင်ဖြစ်စေ၊ အာသောကမင်းကြီးသည် ဗုဒ္ဓဘာသာဖြစ်ပြီးနောက် နေ့စဉ်နေ့တိုင်း မြတ်စွာဘုရားအား ၃ သိန်း၊ တရားတော်အား ၃ သိန်း၊ သံဃာတော်အား ၁ သိန်း၊ ဆရာဖြစ်သော နိဂြောဓ သာမဏေအား ၁ သိန်း၊ ရဟန်းသံဃာတော်များဆေးပစ္စည်းအတွက် မြို့တော်တံခါး ၄ ရပ်တွင် ၃ သိန်း အားဖြင့် စုစုပေါင်း ၅ သိန်း လှူဒါန်းပူဇော်လေ့ရှိသည်။

ထို့အပြင် ဓမ္မက္ခန္ဓာပေါင်း ၈ သောင်း ၄ ထောင်ကိုအထိမ်းအမှတ်ပြု၍ ဇမ္ဗူဒိပ်ကျွန်း၌ ရေတွင်းပေါင်း ၈ သောင်း ၄ ထောင်၊ ရေကန်ပေါင်း ၈ သောင်း ၄ ထောင်၊ ကျောင်းတိုက်ပေါင်း ၈ သောင်း ၄ ထောင်၊ စေတီပုထိုးပေါင်း ၈ သောင်း ၄ ထောင်ကို လှူဒါန်းတော်မူသည်။ အာသောကမင်းကြီးကား ဗုဒ္ဓဘာသာ သာသနာတော်သမိုင်းတစ်လျှောက်တွင် ပြိုင်ဘက်ကင်းသော သာသနာ့ဒါယကာ သာသနာပြုမင်း ဖြစ်လေသည်။

ဗြာဟ္မဏများ၊ ဂိုဏ်းရဟန်းများ၊ အာဇီဝကတက္ကတွန်းများသည် လာဘ်လာဘပါးရှား၍ စားရေးသောက်ရေး ခက်ခဲလာရကား ဗုဒ္ဓသာသနာတော်အတွင်းသို့ နည်းအမျိုးမျိုးဖြင့် ဝင်ရောက်လာကြတော့သည်။ အချို့သောတိတ္ထိများ သည် ဗုဒ္ဓတရားတော်ကို ယုံကြည်ဟန်ဆောင်၍ ရဟန်းကောင်းများထံ၌ ရဟန်းပြုလုပ်ကြပြီးလျှင် နောင်သောအခါ မိမိတို့တိတ္ထိအယူဝါဒများကို ဟောပြောကြသည်။ အချို့သောတိတ္ထိများသည် မိမိတို့ဘာသာ ရရာသင်္ကန်းဝတ်၍ ရဟန်းအသွင်ကိုယူပြီးလျှင် ရဟန်းကောင်းတို့နှင့် ရောနှောနေထိုင်ကြသည်။ ထို ရဟန်းတုရဟန်းယောင်များသည် နေရာတကာ ရောနှောပါဝင်နေကြသဖြင့် ရဟန်းကောင်းများမှာ ဥပုသ်ပဝါရဏာ မပြုနိုင်ကြတော့ချေ။ အာသောကာ ရုံကျောင်းတော်ကြီး၌ ဥပုသ်ပဝါရဏာ မပြုနိုင်သည်မှာ ၇ နှစ် ကြာလေသည်။

ဤအကြောင်းကို အာသောကမင်းကြီးကြားသိသောအခါ ယင်းကိစ္စကိုဖြေရှင်းရန် အမတ်တစ်ယောက်ကို စေလွှတ်ခဲ့သည်။ ယင်းအမတ်ကား ရဟန်းကောင်းများကို သတ်ဖြတ်ခဲ့သည့်အတွက် မင်းကြီးမှာ ယူကြုံးမရဖြစ်ကာ၊ ထိုပြဿနာတို့ကိုဖြေရှင်းနိုင်မည့်ပုဂ္ဂိုလ်ကို ရှာရာ အဟောဂင်္ဂါတောင်၌ သီတင်းသုံးနေသော အရှင် မဟာမောဂ္ဂလိ ပုတ္တတိဿထေရ်ကို တွေ့ရှိသဖြင့် နေပြည်တော်သို့ပင့်၍ ဩဝါဒကို ခံယူခဲ့သည်။

၄င်းနောက် အာသောကမင်းကြီးသည် ရှင်မဟာမောဂ္ဂလိပုတ္တတိဿမထေရ်ထံမှ ဗုဒ္ဓအယူဝါဒ စစ်စစ်များကို ၇ ရက်တိုင်တိုင် သင်ယူခဲ့သည်။ သံဃာတော်အားလုံးကို အာသောကာရုံကျောင်းတော်သို့ပင့်ဆောင်ပြီး ကိုယ် တော်တိုင် ဗုဒ္ဓအယူဝါဒနှင့်ပတ်သက်သော မေးခွန်းများကို မေးခဲ့သည်။ အဖြေမှားသောရဟန်းများကို သာသနာ့ ဘောင်မှ နှင်ထုတ်တော်မူခဲ့သည်။

တစ်ဖန် ရှင်မဟာမောဂ္ဂလိပုတ္တတိဿ မထေရ်ကိုယ်တော်တိုင်ကလည်း တိတ္ထိဘောင်မှ ကူးပြောင်းလာ၍ ဘုရားဟောတရားတော်၌ တတ်သိကျွမ်းကျင်သော ရဟန်းတုရဟန်းယောင်များကို လည်းကောင်း၊ ထေရဝါဒမှ တစ်ပါးသော မဟာသံဃိကဂိုဏ်း အစရှိသော ၁၇ ဂိုဏ်းသားတို့ကို လည်းကောင်း စိစစ်ထုတ်ပယ်၍ ထေရဝါဒီ စစ်စစ်များကိုသာ ရွေးချယ်လက်ခံတော်မူလေသည်။

## တတိယသင်္ဂါယနာတင်ခြင်း

ရှင်မဟာမောဂ္ဂလိပုတ္တတိဿ မထေရ်သည် ထေရဝါဒမှတစ်ပါး အခြားအယူဝါဒရှိသော ရဟန်းများအား ၄င်းတို့၏ အယူဝါဒများယွင်းပုံကို အပြန်အလှန် အမေးအဖြေ အချေအတင်ပြုလုပ်၍၊ ဝါဒတစ်ခုချင်းကို အနုစိတ်၍ စိစစ်ဖယ်ထုတ်တော်မူခဲ့သည်။ ယင်း အမေးအဖြေပြုလုပ်ခဲ့သောကျမ်းကို 'ကထာဝတ္ထုကျမ်း' ဟုခေါ်သည်။

ရှင်မဟာမောဂ္ဂလိပုတ္တတိဿမထေရ်သည် ယင်း ကထာဝတ္ထုကျမ်းကို ဟောတော်မူပြီးနောက် ဗုဒ္ဓဘာသာ အမည်ခံ ဂိုဏ်းကွဲ ၃၀ ကိုလည်း ထေရဝါဒ ပင်မသာသနာတော်မှ ဖယ်ရှားတော်မူခဲ့သည်။ ထို့နောက် ရှင်မဟာ မောဂ္ဂလိပုတ္တတိဿ မထေရ်သည် ရဟန်း ၆ သန်းအနက် ပဋိသမ္ဘိဒါပတ္တ ပိဋကတ် ၃ ပုံဆောင် ရဟန္တာထေရ်ကြီး ၁၀၀၀ ကို ရွေးချယ်တော်မူ၍ သာသနာသက္ကရာဇ် ၂၃၅ (၃၀၉ ဘီစီ)တွင် ပါတလိပုတ်ပြည် အာသောကာရုံ ကျောင်းတိုက်၌ ၉ လပတ်လုံး တတိယသင်္ဂါယနာတင်တော်မူကြသည်။

## ၉ တိုင်း ၉ ဌာနသို့ သာသနာပြုစေလွှတ်တော်မူခြင်း

တတိယသင်္ဂါယနာတင်ထေရ်မြတ်တို့သည် 'ဇမ္ဗူဒိပ်ဌာနတွင် ဗုဒ္ဓသာသနာ မကြာမတင်ကွယ်ပမည်'ကို သိမြင်တော်မူကြ၍၊ အောက်ပါအတိုင်း ၉ တိုင်း ၉ ဌာနသို့ သာသနာပြုစေလွှတ်တော်မူခဲ့ကြသည်။

၁။ ကသ္မီရနှင့် ဂန္ဓာရတိုင်း (ယခုအခေါ် ကတ်ရှမီးယားနှင့် အနောက်ပါကစ္စတန်၊ အချို့အဆို အာဖဂန်နစ္စတန်)သို့ မဇ္ဈန္တိကထေရ်။

၂။ မဟိသကတိုင်း (ယခုအခေါ် မိုက်ဆိုးနှင့် ကနာရနယ်)သို့ မဟာဒေဝထေရ်။

၃။ ဝနဝါသီတိုင်း (ယခုအခေါ် ကန္နဒတမီးလ်၊ တေလဂူ၊ မလဘာနယ်)သို့ ရက္ခိတထေရ်။

၄။ အပရန္တတိုင်း (ယခုအခေါ် နောက်ပိုင်း ဆင်းနယ်၊ ဘလူချီစတန်၊ ဆော်ရပ်ရှီတရာနယ်)သို့ ယောနက ဓမ္မရက္ခိတထေရ်။

၅။ မဟာရဋ္ဌတိုင်း (ယခုအခေါ် မဟာရပ်ရှီတရာနယ်)သို့ မဟာဓမ္မရက္ခိတထေရ်။

၆။ ယောနကတိုင်း (ယခုအခေါ် ဂရိ၊ ဥရောပ၊ ဆီးရီးယား၊ အီဂျစ်နယ်များ၊ အချို့အဆို အာဖဂန်နစ္စတန်)သို့ မဟာရက္ခိတထေရ်။

၇။ ဟိမဝန္တာဒေသ (ယခုအခေါ် နီပေါလ်၊ တိဗက်၊ ဘူတန်၊ ဆစ်ကင်း စသောပြည်များ)သို့ မဇ္ဈိမထေရ်။

၈။ သုဝဏ္ဏဘူမိ (ယခုအခေါ် မြန်မာနိုင်ငံ သထုံ)သို့ သောဏထေရ်နှင့် ဥတ္တရထေရ်။

၉။ သီဟိုဠ်ကျွန်း (ယခုအခေါ် သီရိလင်္ကာနိုင်ငံ)သို့ ရှင်မဟိန္ဒထေရ်။

## ကထာဝတ္ထုကျမ်း

အဘိဓမ္မာကျမ်း ၇ ကျမ်းတွင် ကထာဝတ္ထုကျမ်းကို ၁ ကျမ်း အပါအဝင်အဖြစ် ဖော်ပြထားသည်။ ဤ ကထာဝတ္ထုကျမ်းကို ဗုဒ္ဓမြတ်စွာဘုရားကိုယ်တော်တိုင် အကျဉ်းမာတိကာမျှ ဟောတော်မူခဲ့သည်ကို ယခုအခါ ရှင်မဟာမောဂ္ဂလိပုတ္တတိဿမထေရ်က အကျယ်ချဲ့၍ဟောခဲ့ခြင်း ဖြစ်သည်။ ထို့ကြောင့် အဘိဓမ္မာ ၇ ကျမ်းတွင် ထည့်သွင်းဖော်ပြခြင်း ဖြစ်သည်။

ဤကထာဝတ္ထုကျမ်းကား သစ်ပင်၌ကပ်၍ပေါက်သော ကျီးပေါင်းများကို ခွာချပစ်သကဲ့သို့ မူရင်းဗုဒ္ဓဘာသာ ဖြစ်သော ထေရဝါဒပင်မကြီးအားတွယ်ကပ်လာသော ဆင်တူရိုးမှား တရားတုများကို ပယ်လှန်ခွာချသောကျမ်းကြီး ဖြစ်သည်။ ၎င်းကျမ်းတွင်ဖွင့်ဆိုထားသော ၂၁၄ ပါးသော ကထာဝတ္ထု (ဝါဒရေးရာ)များအနက် ၇၃ ပါးသောကထာ ဝတ္ထုများသည် ရှေး၌ဖော်ပြခဲ့သော ဂိုဏ်း ၁၈ ဂိုဏ်းနှင့် ဆက်စပ်သည်။ ယင်း ၇၃ ပါးသော ကထာဝတ္ထုများသာ ရှင်မဟာမောဂ္ဂလိပုတ္တတိဿထေရ်လက်ထက်တွင် ရှိသည်။ ကျန် ကထာဝတ္ထုများသည် အသောကမင်းနောက်ပိုင်း၌ အောက်ဖော်ပြပါ ဂိုဏ်း ၈ ဂိုဏ်းနှင့် ဆက်စပ်နေသည် ဟုဆိုသည်။ ၁။ အန္ဓက၊ ၂။ အပရသေလိယ၊ ၃။ ပုဗ္ဗသေလိယ၊ ၄။ ရာဇဂီရိက၊ ၅။ သိဒ္ဓတ္ထိက၊ ၆။ ဝေပုလ္လ၊ ၇။ ဥတ္တရာပထက၊ ၈။ ဟေတုဝါဒ။

ဤကား အဆိုတစ်ရပ်ဖြစ်သည်။ အခြားအဆိုတစ်ရပ်ကား အယူဝါဒရေးရာ ကွဲပြားမှုအရ ဖြစ်ပေါ်လာသော ဂိုဏ်း ၁၈ ဂိုဏ်းနှင့်မပတ်သက်သော 'သန္ဓက' စသောဂိုဏ်းများသည်လည်း အသောကမင်းလက်ထက်က ဖြစ်ပေါ်လာသောဂိုဏ်းများ ဖြစ်သည် ဟုဆိုသည်။

အသောကမင်းကြီး နန်းတွင်းမှနှင်ထုတ်လိုက်၍ လာဘ်လာဘ ခေါင်းပါးသောပြာဟ္မဏများ၊ ဂျိန်းများ၊ အာဇီဝကတက္ကတွန်းများသည် နာလန္ဒာမြို့၌ စုဝေးတိုင်ပင်ကြပြီး သာသနာတော်အားပူးသတ်ရန် ဆုံးဖြတ်ခဲ့ကြသည်။ ထို့ကြောင့် သာသနာ့ဘောင်သို့ဝင်နိုင်ရန် ၁၈ ဂိုဏ်း သံဃာများသို့ ချဉ်းကပ်ခဲ့ကြသည်။ ထေရဝါဒသံဃာတော်များက ၎င်းတို့အား ရှင်ရဟန်း မပြုပေးဘဲ ၄ လတိတိ အနီးကပ်နေစေ၍ အကဲခတ်တော်မူခဲ့ကြရာ၊ ရတနာ ၃ ပါးကို တကယ်ယုံကြည်သူများမဟုတ်သဖြင့် ရဟန်းပြုမပေးကြကုန်။

သို့ရာတွင် 'မဟာသံဃိက' စသော အခြားသောဂိုဏ်းသံဃာများကမူ အင်အားများမှုကိုသာ ရှေးရှုကြသဖြင့် အလွယ်တကူ ရဟန်းပြုပေးခဲ့ကြကုန်၏။ ၎င်းတို့သည် ပိဋကတ်တော်များကို သင်ယူကြပြီးသောအခါ ကောသမ္ဗီပြည် (ယခု အလာဟာဗဒ်)၌ စုဝေးကြပြီး၊ ဂိုဏ်း ၉ ဂိုဏ်းမှ တစ်ကျမ်းကျစီ ကျမ်း ၉ ကျမ်းကိုရေး၍ ဗုဒ္ဓဝါဒ မဟုတ်သည်ကို ဗုဒ္ဓဝါဒပြုလုပ်ကာ ဟောပြောခဲ့ကြသည်။ ယင်း ဂိုဏ်း ၉ ဂိုဏ်းတို့ ပြုစုခဲ့သော ကျမ်းများကား-

၁။ အန္ဓကဂိုဏ်းက ရတနာကူဋကျမ်း၊

၂။ အပရသေလိယဂိုဏ်းက အာဠာဝကဂန္ဓိတကျမ်း၊

၃။ ပုဗ္ဗသေလိယဂိုဏ်းက ရဋ္ဌပါလဂန္ဓိတကျမ်း၊

၄။ သိဒ္ဓတ္ထိကဂိုဏ်းက ဂုဠ္ဌဝေဿန္တရာကျမ်း၊

၅။ ရာဇဂီရိကဂိုဏ်းက အင်္ဂုလိမာလပိဋကကျမ်း၊

၆။ ဝေတုလ္လ (ဝါ) ဝေပုလ္လဂိုဏ်းက ဝေတုလ္လပိဋကကျမ်း၊

၇။ ဟေမာဝတိကဂိုဏ်းက ဝဏ္ဏပိဋကကျမ်း၊

၈။ ဝါဇိရိယဂိုဏ်းက ဂုဠ္ဌဝိနယကျမ်း၊

၉။ အညမဟာသံဃိကဂိုဏ်းက အက္ခရသာရိယကျမ်း။

၎င်းအပြင် ဖော်ပြပါဂိုဏ်းများသည် ဓာတုကထာ၊ မဂ္ဂကထာ၊ အာရမ္မဏကထာ၊ ဂဏ္ဍဝတ္ထုကထာ၊ ဗုဒ္ဓိ(ဝိဇ္ဇာ) ကရဏ္ဍကထာကျမ်းများကိုလည်း ရေးသားခဲ့ကြသေးသည်။

တတိယသင်္ဂါယနာတင်သောအခါ ဂိုဏ်းကွဲ ပေါင်း ၃၀ တို့၏သမိုင်းကြောင်းနှင့် အယူဝါဒများကိုစုဆောင်း တင်ပြပြီး မှားယွင်းသောအယူဝါဒအဖြစ် ပယ်ခဲ့သည်။ 'တန္တရ မန္တရ' ခေါ် ပန်းဦးလွှတ်ဝါဒနှင့် အရည်းကြီး သာသနာမှာ ထိုဂိုဏ်းကွဲများ၏အဆက်အနွယ်များ ဖြစ်သည်။

ကထာဝတ္ထုသည် ပုဗ္ဗသေလိယ၊ အပရသေလိယ၊ ရာဇဂိရိက၊ သိဒ္ဓတ္ထိက ၄ ဂိုဏ်းကို 'အန္ဓရာပြည်နယ်၌ ထွန်းကားသောကြောင့် အန္ဓကဂိုဏ်း မည်၏' ဟု ဖော်ပြထားသည်။

ဝသုမိတြနှင့် ဘဗျတို့၏မှတ်တမ်းအရ ပုဗ္ဗသေလိယ၊ အပရသေလိယ ၂ ဂိုဏ်းကို 'အန္ဓကဂိုဏ်း' ဟု ဆိုသည်။

## ဒုတိယအကြိမ် စင်ပြိုင်သင်္ဂါယနာ

ထေရဝါဒမှခွဲထွက်သွားသော မဟာသံဃိကဂိုဏ်းသည် ဒုတိယသင်္ဂါယနာတင်ချိန်၌ ပထမအကြိမ်အဖြစ် စင်ပြိုင်သင်္ဂါယနာတင်ခဲ့သည်။ ယခု တတိယသင်္ဂါယနာတင်ချိန်၌လည်း တတိယသင်္ဂါယနာမှ ထုတ်ပယ်ခြင်းခံရသော သဗ္ဗတ္ထိဝါဒဂိုဏ်း စသော ဂိုဏ်းကွဲဗုဒ္ဓဘာသာများသည် မိမိတို့သဘောတူရာ စုရုံးကြ၍ ရာဇဂြိုဟ်အနီး နာလန္ဒမြို့၌ စင်ပြိုင်သင်္ဂါယနာ တင်ကြလေသည်။ ၎င်း သင်္ဂါယနာ၌ ဂိုဏ်း ၁၁ ဂိုဏ်း ပါဝင်သည်ဟု ဆိုသည်။ ထိုအချိန်မှစ၍ ဝေသာလီ၊ ကောသမ္ဗီ၊ ရာဇဂြိုဟ်၊ နာလန္ဒာ၊ သာဝတ္ထိ စသော မဇ္ဈိမဒေသတစ်ဝန်း၌ မဟာသံဃိက ဂိုဏ်း၊ သဗ္ဗတ္ထိဝါဒဂိုဏ်း စသည်တို့သည် အရေအတွက်အားဖြင့်သာလွန်ရန် ကြိုးစားလျက်ရှိကြသည်။

၎င်းအပြင် ဤ တတိယသင်္ဂါယနာမှထုတ်ပယ်ခံရသော ဂိုဏ်းကွဲရဟန်းများသည် ဗြာဟ္မဏပုဏ္ဏားဘာသာ၊ ဂျိန်းဘာသာတို့နှင့်ပူးပေါင်း၍ ထေရဝါဒကို လိုက်လံနှောင့်ယှက်ခဲ့သည်။ ထို့ကြောင့် မဟာသံဃိကဂိုဏ်း၊ သမ္မိတိယဂိုဏ်း၊ ဝေတုလ္လဂိုဏ်း၊ သဗ္ဗတ္ထိဝါဒဂိုဏ်းတို့သည် ထေရဝါဒသာသနာနောက်သို့ အစဉ်တစိုက်လိုက်ကာ နှောင့်ယှက်ဖျက်ဆီးခဲ့ကြသည်။ ထေရဝါဒသာသနာအစစ်အမှန် ပွင့်လင်းစေရန် အသောကမင်းကြီး၏ အားထားစက်အကူအညီဖြင့် ၉ တိုင်း ၉ ဌာနသို့ သာသနာပြုစေလွှတ်ခဲ့သော်လည်း၊ သီဟိုဠ်ကျွန်းနှင့် သုဝဏ္ဏဘူမိ သထုံပြည်မှ တစ်ပါး ကျန်သာသနာပြုဌာနအားလုံးမှာ မဟာသံဃိကဂိုဏ်း စသောဂိုဏ်းကွဲများ လွှမ်းမိုးဝါးမျိုခြင်းကို ခံခဲ့ကြရသည်။

သုဝဏ္ဏဘူမိ သထုံပြည် ထေရဝါဒသာသနာသည် သမ္မိတိယဂိုဏ်း၏နှောင့်ယှက်မှုကို ခံခဲ့ရသည့်နည်းတူ၊ သီဟိုဠ်ကျွန်း ထေရဝါဒသာသနာသည်လည်း ဝေတုလ္လဂိုဏ်း၊ ဝဇ္ဇိပုတ္တကဂိုဏ်း၊ မဟာသံဃိကဂိုဏ်းတို့၏ နှောင့်ယှက်မှုကို ခံခဲ့ရသည်။ သို့ရာတွင် ယင်း သုဝဏ္ဏဘူမိနှင့် သီဟိုဠ်ထေရဝါဒသာသနာသည် အခြားဌာနရှိ ထေရဝါဒသာသနာများကဲ့သို့ ယင်းဂိုဏ်းတို့၏ဝါးမျိုခြင်းကို မခံခဲ့ရချေ။

## အသောကမင်းနောက်ပိုင်း ဗုဒ္ဓသာသနာအခြေအနေ

အသောကမင်းသည် သာသနာသက္ကရာဇ် ၂၁၄ နှစ် (၃၃၀ ဘီစီ)၊ အိန္ဒိယရာဇဝင်အရ သာသနာသက္ကရာဇ် ၂၇၁ နှစ် (၂၇၃ ဘီစီ)၌ နန်းတက်ပြီး သာသနာသက္ကရာဇ် ၂၁၈ နှစ် (၃၂၆ ဘီစီ)၊ အိန္ဒိယရာဇဝင်အရ သာသနာသက္ကရာဇ် ၂၇၅ နှစ် (၂၆၉ ဘီစီ)တွင် အဘိသိက်ခံခဲ့သည်။ နန်းစံနှစ် ၄၁ နှစ်ဖြစ်ပြီး၊ သာသနာသက္ကရာဇ် ၂၅၅ နှစ် (၂၈၉ ဘီစီ)၊ အိန္ဒိယရာဇဝင်အရ သာသနာနှစ် ၃၁၂ (၂၃၂ ဘီစီ)တွင် နတ်ရွာစံသည်။

တတိယသင်္ဂါယနာကို သာသနာနှစ် ၂၃၅ (၃၀၉ ဘီစီ)၌ တင်ခဲ့ကြောင်း သာသနာဝင်မှတ်တမ်းများ၌ ဆိုထားသည်။ ပါမောက္ခ ဆမစ်ကမူ 'သာသနာနှစ် ၃၀၄ (၂၄၀ ဘီစီ)တွင် သင်္ဂါယနာတင်ကြောင်း' ရှေးဟောင်း အိန္ဒိယရာဇဝင်၌ ဖော်ပြထားသည်ကို တွေ့ရသည်ဟု ဆိုသည်။ သို့ရာတွင် သမိုင်းဆရာများကမူ အသောကမင်း၏ သက်တမ်းကာလကို (၂၆၄-၂၇၇ ဘီစီ)ဟု ဖော်ပြထားသဖြင့် သာသနာဝင်မှတ်တမ်း အိန္ဒိယရာဇဝင်များနှင့် နှိုင်းယှဉ်လျှင် လျော့နည်းနေသည်ကို တွေ့ရှိရသည်။

မည်သို့ပင်ဖြစ်စေ၊ ဤမှနောက်၌ သမိုင်းဆရာတို့၏ သက္ကရာဇ်ကို အဓိကထား ဖော်ပြသွားမည်။ အသောက မင်းတရားကြီးသည် ထေရဝါဒဗုဒ္ဓသာသနာကို အကြီးအကျယ် ချီးမြှောက်ခဲ့သော်လည်း ၄င်း နတ်ရွာစံပြီးနောက် ဗုဒ္ဓသာသနာတော်အားချီးမြှောက်မှုလည်း ၄င်းနှင့်အတူ ပျောက်ကွယ်ခဲ့ရတော့သည်။ အကြောင်းကား အသောကမင်း ကိုဆက်ခံသော မြေးတော် သမ္ပဒိမင်းသားသည် ဂျိန်းဘာသာဝင် ဖြစ်သောကြောင့် ဖြစ်သည်။

## မိလိန္ဒမင်းနှင့် ရှင်နာဂသိန်

အိန္ဒိယတွင် မောရိယမင်းဆက်အုပ်စိုးနေချိန် (၁၅၅ ဘီစီ)၌ ဒေမိန်ထရီအော့အနွယ် မေနန္ဒာမင်းသည် ဂင်္ဂါမြစ်ဝှမ်းရှိ ပါတလိပုတ်မင်း နေပြည်တော်အထိ ချီတက်လာသည်။ မာဂဓမင်း တိုက်ခိုက်တွန်းလှန်သဖြင့် ပန်ဂျပ်သို့ ဆုတ်ခွာသွားခဲ့ရသည်။ ဤမင်းသည် မိလိန္ဒမင်းဖြစ်ပြီး ဗုဒ္ဓသာသနာကို ချီးမြှောက်ခဲ့သည်ဟု သမိုင်း ဆရာတို့က ဆိုသည်။

'ဗုဒ္ဓသာသနာ ၂၅၀၀ခရီးသမိုင်း'အရ အာသောကမင်းလက်ထက်က သာသနာပြု စေလွှတ်ခဲ့သော ကသ္မီရတိုင်း (ယခုအခေါ် ကက်ရှမီးယား), ဂန္ဓာရတိုင်း (ယခုအခေါ် အနောက်ပါကစ္စတန်)နှင့် ယောနကတိုင်း (ယခုအခေါ် အာဖဂန်နစ္စတန်) တိုင်း ၃ ခုကို ဗြာဟ္မဏမျိုးသုင်္ဂမင်းများ မအုပ်စိုးနိုင်ဘဲ ဂရိတ်ဘုရင်များကသာ အုပ်စိုးခဲ့ပြီး ၄င်းတို့သည် ဗုဒ္ဓဘာသာကိုပင် ကိုးကွယ်ခဲ့ကြသည်ဟု ဆိုသည်။ ယင်း တိုင်း ၃ တိုင်းကို ဆက်လက် အုပ်စိုးသော ဂရိတ်မင်းဆက်ကား ၃၀ မျှရှိသည်။ ၄င်းတို့အနက် သာသနာသက္ကရာဇ် ၅၀၀ နှစ် (၄၄ ဘီစီခန့်)၌ ပေါ်ထွန်းခဲ့သော ပညာရှင်မင်းကြီးကား မိလိန္ဒမင်းပင် ဖြစ်သည် ဟုဆိုသည်။

အခြား အဆိုတစ်ရပ်မှာ 'သုင်္ဂခေတ် သာသနာသက္ကရာဇ် ၃၆၉ နှစ် (၁၇၅ ဘီစီ)တွင် ပန်ဂျပ်နှင့် ကဗူးလ်တိုင်းပြည်တွင် ဂရိတ်လူမျိုး အဆက်အနွယ်မင်းတစ်ပါးသည် အိန္ဒိယပြည်မြောက်ပိုင်းနှင့် အနောက်ပိုင်းတို့ကို တိုက်ခိုက်သိမ်းယူခဲ့သည်။ ထိုမင်းကား မိလိန္ဒမင်း ဖြစ်သည်' ဟုဆိုသည်။

ထိုမင်းသည် မိမိကိုယ်တိုင် မရှင်းမလင်းသောအချက်များကို 'အရှင်နာဂသေန' အမည်ရှိသော ရဟန္တာ မထေရ်မြတ်အား မေးမြန်းလျှောက်ထားသည်။ မထေရ်မြတ်သည် မင်းကြီး၏သံသယများကို အချက်ကျကျပင် ပယ်ရှားလျက် မေးခွန်းတိုင်းကို တိကျပြတ်သားစွာဖြေဆိုတော်မူခဲ့သည်။ ထို ပညာရှိ မိလိန္ဒမင်းနှင့် အရှင်နာဂသေနတို့၏ အမေးအဖြေကို မှတ်တမ်းတင်ထားသောကျမ်းသည် 'မိလိန္ဒပဉှာကျမ်း' မည်သည်။ ထို မိလိန္ဒပဉှာကျမ်းကို ထေရဝါဒသာသနာတော်၌ ပါဠိတော်စာရင်းဝင်ဖြစ်၍ ဘုရားဟောပါဠိတော်ကျမ်းနှင့် တန်းတူထားကာ အဋ္ဌကထာ ဆရာကြီးတို့က လေးစားခဲ့ကြသည်။

ယောနကတိုင်း၌ မိလိန္ဒမင်းကြီးနောက် နှစ်ပေါင်း ၁၀၀ ကျော်ကြာသောအခါ သဗ္ဗတ္ထိဝါဒဂိုဏ်း, မဟာ သံဃိကဂိုဏ်း စသည်တို့၏ ထွန်းကားရာဌာနအဖြစ်သို့ ပြောင်းလဲသွားသည်။

## သုင်္ဂခေတ် ဗုဒ္ဓသာသနာရေးအခြေအနေ

မောရိယမင်းဆက်နောက်ဆုံးမင်းကို စစ်သူကြီး သုင်္ဂပုရှာမိတြကလုပ်ကြံ၍ သုင်္ဂမင်းဆက်ကို စတင် တည်ထောင်ခဲ့သည်။ မောရိယမင်းဆက်သက်တမ်းသည် သမိုင်းမှတ်တမ်းအရ (၃၂၂ ဘီစီမှ ၁၈၇ ဘီစီ)ဖြစ်သဖြင့်၊ သုင်္ဂမင်းသည် (၁၈၇ ဘီစီ)၌ နန်းတက်ခဲ့သည်ဟု ယူဆအပ်သည်။ သာသနာမှတ်တမ်းအရ သုင်္ဂမင်းသည် သာသနာသက္ကရာဇ် ၃၅၉ နှစ် (၁၈၅ ဘီစီ)တွင် နန်းတက်ခဲ့ပြီး၊ ယင်းမင်းဆက်၏သက်တမ်းမှာ သာသနာသက္ကရာဇ် ၄၇၁ နှစ် (၇၃ ဘီစီ) အထိ ၁၁၂ နှစ်မျှ ကြာခဲ့သည် ဟုဆိုသည်။

သုဂ်မင်းလက်ထက်၌ ဗြာဟ္မဏများ၏ဩဇာအာဏာ လွှမ်းမိုးချိန်ဖြစ်၍ ၁ နံပါတ် ရန်သူဖြစ်သော ဗုဒ္ဓဘာသာကို ဖိနှိပ်ခဲ့လေတော့သည်။ 'ဘုန်းကြီးခေါင်းတစ်လုံး ဖြတ်ယူဆက်သပါက ဆုတော်ငွေ ၁၀၀၀ ကျပ်ပေးမည်' ဟုကြေညာလေရာ၊ ဗုဒ္ဓဘာသာရဟန်းမှန်သမျှသည် မာဂဓတိုင်း၊ ကောသလတိုင်း အစရှိသော မဇ္ဈိမဒေသ၌ မနေဝံ့သဖြင့် တိုင်းစွန်ပြည်ဖျားသို့ ထွက်ပြေးပုန်းရှောင်ကြရသည်။

ထေရဝါဒသံဃာတော်များသည် ဝိဒိသာမြို့အနီးရှိ ဆံချီစေတီတော်တည်ရှိရာ စေတိယပဗ္ဗတသို့ ရွှေ့ပြောင်းခဲ့ရသည်။ သဗ္ဗတ္ထိဝါဒီတို့ကား မထုရာမြို့အနီးရှိ ဥရုမုဏ္ဍ (ဂေါဝဒ္ဓန)တောင်သို့ ရွှေ့ပြောင်းခဲ့ကြသည်။ အခြားသော ဂိုဏ်းသံဃာများသည်လည်း အလားတူပင် သုဂ်မင်း၏အာဏာစက် လွတ်ကင်းရာသို့ ပြေးခဲ့ကြရသည်။

## ပါဠိတော်ကို သက္ကတပြောင်းခြင်း

သဗ္ဗတ္ထိဝါဒဂိုဏ်းနှင့် မဟာသံဃိကဂိုဏ်း စသည်တို့သည် ဗြာဟ္မဏပုဏ္ဏားဘုရင်တို့ သဘောကျကျေနပ်မှုရှိစေရန် ပါဠိတော်၏အနက်အဓိပ္ပာယ်တို့ကို ပြင်ဆင်ရုံသာမက သက္ကတဘာသာဖြင့်ပင် သင်ယူပို့ချ ဟောပြောလေတော့သည်။ ထို့ကြောင့် 'မြောက်ပိုင်းဗုဒ္ဓဘာသာ' ခေါ် မဟာယာန ဟိနယာန၏ပါဠိတော်ကို ဗုဒ္ဓမြတ်စွာတားမြစ်ထားသော သက္ကတဘာသာဖြင့် ရေးကြသည်။ တောင်ပိုင်းဗုဒ္ဓဘာသာ ခေါ် ထေရဝါဒ၏ပါဠိတော်မှာ မူလအတိုင်း မာဂဓဘာသာ (ပါဠိဘာသာ)ဖြင့် ဆက်လက် တည်ရှိလေသည်။

သာသနာသက္ကရာဇ် ၁၃ ရာစု၌ ရေးသားခဲ့သော ဝိနိတဒေဝ၏မှတ်တမ်း၌ သဗ္ဗတ္ထိဝါဒဂိုဏ်းသည် ပါဠိတော်ကို သက္ကတဘာသာဖြင့် ရေးသည်။ မဟာသံဃိကဂိုဏ်းသည် ပြာကရစ်ဘာသာ၊ အဒ္ဓမာဂဓ (မာဂဓဘာသာ ထက်ဝက်)ဖြင့် ရေးသည်။ သမ္မိတိယဂိုဏ်းကား အပဗ္ဘံသဘာသာဖြင့်ရေးသည် ဟု မှတ်တမ်းတင်ခဲ့သည်။

## အိန္ဒိယတွင် ထေရဝါဒဗုဒ္ဓသာသနာကွယ်ခြင်း

ထေရဝါဒဗုဒ္ဓသာသနာသည် 'အသောကမင်းလက်ထက်ကပင် အင်အားကောင်းလှသောဗြာဟ္မဏ (ပုဏ္ဏား)ဘာသာနှင့် ဂျိန်းဘာသာတို့၏ လုံးဝဝါးမျိုမှုကို မခံရသေးစေကာမူ ၎င်းတို့၏ခံတွင်းဝသို့ ရောက်ရှိနေပြီဖြစ်ကြောင်း' သမိုင်းမှတ်တမ်းများအရ သိသာထင်ရှားလှသည်။ ထို့ကြောင့် တတိယသင်္ဂါယနာတင် ထေရ်ရှင်များက မကြာမီ မဇ္ဈိမဒေသတွင် ထေရဝါဒသာသနာကွယ်ပမည့်အရေးကို မြော်တွေးသိမြင်တော်မူ၍ ၉ တိုင်း ၉ ဌာန သို့ သာသနာပြုစေလွှတ်တော်မူခဲ့ရခြင်း ဖြစ်သည်။

နောက်ပိုင်းတွင် ယင်း ၉ တိုင်း ၉ ဌာနအပါအဝင်ဖြစ်သော ကသ္မီရနှင့် ဂန္ဓာရတိုင်းတို့၌ သမိုင်းအဆိုအရ ၁၅၅ ဘီစီ၊ သာသနာမှတ်တမ်းအဆိုအရ သာသနာသက္ကရာဇ် ၅၀၀ နှစ် (၄၄ ဘီစီ)၊ နောက်အဆိုတစ်ရပ်အရ သာသနာသက္ကရာဇ် ၃၆၉ နှစ် (၁၇၅ ဘီစီ)၌ အုပ်စိုးသော မိလိန္ဒမင်းနှင့် ရှင်နာဂသိန်တို့၏အမေးအဖြေသည် ထေရဝါဒဖြစ်ကြောင်း တွေ့ရှိရသည်။ သို့ရာတွင် ထေရဝါဒသာသနာ ရောက်ရှိရာအရပ်၌ ဂိုဏ်းကွဲ ဗုဒ္ဓဝါဒီများ၏ လိုက်လံနှောင့်ယှက်မှုကို ခံခဲ့ကြရပြန်သည်။ ထို့ကြောင့် အင်အားကောင်းလှသော အတ္တဝါဒ ဗြာဟ္မဏဘာသာ၊ ဂျိန်းဘာသာနှင့် အင်အားကြီးမားလှသော အတ္တဝါဒအကြိုက်ပြုပြင်ရေး ဂိုဏ်းကွဲဗုဒ္ဓဝါဒတို့၏အကြားတွင် အနတ္တဝါဒဖြစ်သော ထေရဝါဒဗုဒ္ဓဘာသနာမှာ ရှေ့တိုးထမ်းပိုး နောက်ဆုတ်လည်းတုတ်ဖြင့် အလှန် ဘေးကျပ်နံကျပ်သော အခြေအနေနှင့် ကြုံတွေ့နေခဲ့ရတော့သည်။

ဤအတွင်း သုဂ်မင်း၏လက်စွမ်းကလည်း မသေးငယ်လှပါ။ ၎င်း၏လက်ထက်တွင် ဗုဒ္ဓဝါဒီရဟန်းတော်များသည် ဗဟိုဌာန မာဂဓတိုင်း (ဝါ) ဂင်္ဂါမြစ်ဝှမ်းဒေသမှ အိန္ဒိယအလယ်ပိုင်း တောင်ဘက် ဝိဒိသာပြည်အနီး

စေတိယပဗ္ဗတတောင် (ယခု ဗိုပေါလ်)နယ်ရှိ 'ဆန်ချီ' ခေါ် တောင်သို့ ထွက်ပြေးခဲ့ရသည်ဟု ဆိုသော်လည်း၊ ထေရဝါဒသာသနာသည် အင်အား အလွန်ချည့်နဲ့နေပြီဖြစ်ကြောင်း သိသာနိုင်သည်။ တစ်ဖန် သမိုင်းမှတ်တမ်းများအရ သုင်္ဂမင်းဆက်ကိုဆက်ခံသည့် ကန်ဝမင်းဆက်ကို ၂၈ ဘီစီ တွင် အန္ဓမင်းဆက်က တိုက်ခိုက်အောင်မြင်ခဲ့ပြန်သဖြင့် ဗြာဟ္မဏဘာသာဝင် ဒရားဗီးဒီးယန်းအနွယ် အန္ဓမင်းဆက်များသည် အေဒီ ၃ ရာစုအထိ အိန္ဒိယအလယ်ပိုင်းနှင့် မြောက်ပိုင်းတို့တွင် တန်ခိုးကြီးခဲ့ကြပြန်သည်။

ထိုအချိန်၌ ဂရိတွင် ဘက်ထရီယန်နိုင်ငံကိုတည်ထောင်ခဲ့သော ကူသျှမ်မင်းများက အန္ဓမင်းများနှင့်အပြိုင် အိန္ဒိယတွင် ဝင်ရောက်စိုးမိုးလျက်ရှိသည်။ ကူသျှမ်မင်းများသည် ဗုဒ္ဓဘာသာကို အားပေးခဲ့ကြသည်။ သို့ရာတွင် 'ဗုဒ္ဓဘာသာအယူအဆများနှင့် ဘက်ထရီယန် ဂရိအယူအဆများကို ရောနှောခဲ့သည်ဟု ယုံကြည်ရကြောင်း။ ထို့ကြောင့် မဟာယာနဗုဒ္ဓဘာသာတွင် ဂရိအယူအဆများရောနှောနေရကြောင်း။ ကူသျှမ်တို့ပိုင်နက်သည် အလယ်ပိုင်းအာရှနှင့် တရုတ်နယ်စပ် တာကစ္စတန်အထိကျယ်ပြန့်သဖြင့် ထိုဒေသများနှင့်တကွ တရုတ်နိုင်ငံသို့ ဗုဒ္ဓသာသနာ ရောက်ရှိသွားခဲ့ရကြောင်း'ဖြင့် သမိုင်းပညာရှင်များက ခန့်မှန်းကြသည်။

အချုပ်အားဖြင့် ကူသျှမ်မင်းဆက်များသည် ဗုဒ္ဓဘာသာကိုအားပေးသည်ဆိုရာ၌ ထေရဝါဒဗုဒ္ဓဘာသာ မဟုတ်ဘဲ၊ ဂိုဏ်းကွဲဗုဒ္ဓဘာသာများသာဖြစ်ကြောင်း ထင်ရှားလှသည်။ ထို့ကြောင့် ကူသျှမ်မင်းဆက်ဝင်ဖြစ်သော ကနစ်ရှကမင်း အေဒီ ၁၂၀-၁၆၂ (သာသနာသက္ကရာဇ် ၆၆၄-၇၀၆)လက်ထက် သင်္ဂါယနာတင်ရာ၌ 'ဂန္ဓာရဂိုဏ်း၊ ကသ္မီရဂိုဏ်း' ဟုကွဲနေသော ဂိုဏ်းကွဲဗုဒ္ဓဘာသာဂိုဏ်းတစ်ဂိုဏ်းဖြစ်သော သဗ္ဗတ္ထိဂိုဏ်းသံဃာများကို စုစည်း၍ သင်္ဂါယနာတင်ခဲ့ရခြင်း ဖြစ်သည်။ အမှန်မှာ ထေရဝါဒဗုဒ္ဓသာသနာနှင့် ထေရဝါဒီရဟန်းတော်များသည် သုင်္ဂမင်းဆက်ထက်ထက်ကပင် အားနည်းနေပြီဖြစ်၍၊ အတ္တဝါဒကို ပုံစံအမျိုးမျိုးဖြင့်သွတ်သွင်းကာ ပိဋကတ်တော်များကို သက္ကတဘာသာဖြင့် ဗြာဟ္မဏမင်းများအကြိုက် လိုသလို ပြင်ဆင်ရေးသားခဲ့ကြသော အင်အားကြီးဂိုဏ်းကွဲ ဗုဒ္ဓဘာသာအယူဝါဒများ၏ ဝါးမျိုခြင်းကို ခံခဲ့ရပြီးဖြစ်ကြောင်း သိသာထင်ရှားသည်။ ထို့ကြောင့် ထေရဝါဒဗုဒ္ဓသာသနာသည် ၁ ရာစု ဘီစီအတွင်းလောက်ကပင်၊ သို့မဟုတ် အေဒီ ၁ ရာစုအတွင်းလောက်ကပင်၊ သို့မဟုတ် အိန္ဒိယသို့ ကူသျှမ်မင်း ကနစ်ရှကမင်းဆက်များမရောက်မီလောက်ကပင် ကွယ်ပျောက်နေပြီ ဟုယူဆနိုင်သည်။

အေဒီ ၁ ရာစု (သာသနာသက္ကရာဇ် ၆၀၀) အတွင်း၌ အိန္ဒိယတွင် ထေရဝါဒဗုဒ္ဓသာသနာ ကွယ်ပခဲ့ပြီးဖြစ်ကြောင်းကို ဆရာအံ့မောင်ကလည်း သူ၏ 'ဗုဒ္ဓသာသနာ ၂၅၀၀ ခရီး'စာအုပ်တွင် အောက်ပါအတိုင်း ရေးသားထားသည်ကို တွေ့ရှိရသည်။

'ထိုသို့ နှင်ထုတ်ခံရသော ရဟန်းဆိုးများမှာ အင်အားကောင်းလာ၍ သာသနာနှစ် ၆၀၀ ခန့်တွင် ထေရဝါဒ ရဟန်းများသည် အိန္ဒိယတောင်ပိုင်း ပင်လယ်ကမ်းရိုးတန်းတစ်လျှောက်၌သာ အနည်းငယ် ကြွင်းကျန်တော့၏။ အိန္ဒိယတစ်ပြည်လုံးကို အထက်၌ နှင်ထုတ်ခံခဲ့ရသောရဟန်းဆိုး အများစုက လွှမ်းမိုးသွားလေပြီ။ မဟာယာန အတွေးအခေါ် အယူအဆများသည် သာသနာနှစ် ၆၀၀ ခန့်မှစ၍ တဖြည်းဖြည်းပေါ်ပေါက်လာ၏။ ထိုအချိန်မှစ၍ မဟာယာနနှင့် ဟီနယာန ဝါဒအချင်းချင်း ငြင်းခုံဆွေးနွေးမှုများမှာ အထက်ပါနှင်ထုတ်ခံရဟန်းများအချင်းချင်း ဖြစ်ကြသည်။ ထေရဝါဒ ပင်မဗုဒ္ဓသာသနာတော်ကြီးနှင့် တစ်စုံတစ်ရာဆွေးနွေးငြင်းခုံမှု မရှိတော့ချေ။ မဟာယာနနှင့် ဟီနယာန ဂိုဏ်းကွဲချိန်၌ ထေရဝါဒမှာ အိန္ဒိယပြည်တွင် မရှိတော့ပြီ။ သီဟိုဠ်နှင့် သုဝဏ္ဏဘူမိ သထုံပြည်တို့၌သာ ကျန်ရှိတော့၏။'

သို့ရာတွင် ယင်း 'ဗုဒ္ဓသာသနာတော် ၂၅၀၀ ခရီး' စာအုပ်တွင်ပင် ဒါဋ္ဌာဓာတုဝင်နှင့် မေဃဝတီ ဦးနာရဒ၏ဗုဒ္ဓသမိုင်းကိုကိုးကားလျက် အောက်ပါအတိုင်း ရေးသားဖော်ပြထားသည်ကို တွေ့ရှိပြန်သည်။

'သာသနာနှစ် ၈၅၀ ခန့်တွင် ကလိင်္ဂတိုင်းကို ဟိန္ဒူဗြာဟ္မဏဘာသာဝင် ဘုရင်တို့က တိုက်ခိုက်သဖြင့် ဗုဒ္ဓဘာသာဝင် ဂုဟာသီဟမင်း စစ်ရှုံး၏။ သမီးတော် ဟေမမာလာနှင့် တူတော် ဒန္တမင်းသားတို့သည် ဗုဒ္ဓစွယ်တော်ကို ဖက်၍သယ်ယူကာ သီဟိုဠ်သို့ ထွက်ပြေးတိမ်းရှောင်ကြရ၏။ ထိုအချိန်တွင် ဗုဒ္ဓဂယာရှိ မဟာဗောဓိပင်ကို ဟိန္ဒူဘာသာဝင်မင်းများက အကြိမ်ကြိမ်ခုတ်ထစ်တူးဖြို မီးရှို့ပစ်ကြ၏။ ဗုဒ္ဓဘာသာဝင်ဘုရင်များက ဗောဓိပင် အစားပြန်စိုက်ကြပြန်၏။ ဗြာဟ္မဏဘုရင်တို့က ဗောဓိပင်ကို ခုတ်ထစ်နုတ်ပစ်ကြပြန်၏။ နောက်ဆုံးတွင် နေရာပါ ကွယ်ပျောက်စေရန် မြေများဖြင့် ဖို့ပစ်ကြ၏။ ယခုလက်ရှိ ဗုဒ္ဓဂယာဗောဓိပင်မှာ လွန်ခဲ့သော အနှစ် ၁၀၀ ကျော်က စိုက်ပျိုးထားသောအပင် ဖြစ်၏။'

အထက်ပါ စကားရပ်တွင် ဖော်ပြထားသော သာသနာသက္ကရာဇ်ကိုစိစစ်ကြည့်လျှင် အေဒီ ၃၀၆ ဖြစ်၍၊ အထက်အပိုဒ်များ၌ဖော်ပြခဲ့သော စကားရပ်များကိုထောက်ဆက ဂုဟာသီဟမင်းသည် ထေရဝါဒဗုဒ္ဓဘာသာဝင် ဟုတ်,မဟုတ် သံသယဖြစ်ဖွယ် ရှိလာပြန်သည်။ ဂိုဏ်းကွဲဗုဒ္ဓဘာသာဝင်မင်း ဟု ယူဆနိုင်သကဲ့သို့၊ ထေရဝါဒဗုဒ္ဓဘာသာဝင်မင်း ဟူ၍ ယူဆလိုကလည်း ယူဆနိုင်သည်။ အဘယ်ကြောင့်ဆိုသော် ထေရဝါဒနှင့် ထေရဝါဒီရဟန်းများသည် ၁ ရာစု ဘီစီ၊ သို့မဟုတ် အေဒီ ၁ ရာစုခန့်ကပင် အိန္ဒိယတွင် ကွယ်ပခဲ့ပြီးဖြစ်သော်လည်း ထေရဝါဒီ ဒါယကာများ အကြွင်းအကျန်အနေဖြင့် အိန္ဒိယတွင် ရှိနေသေးသည် ဟုယူဆနိုင်သောကြောင့် ဖြစ်သည်။

သို့ရာတွင် ဂုဟာသီဟမင်းသည် ထေရဝါဒီမင်းဖြစ်သည်မှန်လျှင် ထေရဝါဒီဒါယကာအဖြစ် အိန္ဒိယတွင် နောက်ဆုံးနေသွားသောမင်းပင်ဖြစ်ပြီး၊ ၎င်းနောက် အိန္ဒိယတွင် ထေရဝါဒီဒါယကာများ လုံးဝမရှိတော့ကြောင်း ယုံကြည်ရပေသည်။ အဘယ့်ကြောင့်ဆိုသော် ၎င်းမင်းနောက် သမိုင်းမှတ်တမ်းများတွင် ထေရဝါဒဗုဒ္ဓဘာသာအဖြစ် ယူဆဖွယ် အရိပ်အငွေ့ အမြွက်မျှပင် မတွေ့ရှိရသောကြောင့် ဖြစ်သည်။

ထို့ကြောင့် ထိုကာလတစ်ဝိုက်၌ အိန္ဒိယသို့ရောက်ရှိခဲ့ကြသော တရုတ်ရဟန်းတော်များသည် ဂိုဏ်းကွဲဗုဒ္ဓဘာသာများ၏ ပိဋကတ်တော်များကိုသာ ကူးယူရရှိခဲ့ကြခြင်း ဖြစ်သည်။

## ကနစ်ရှကမင်းနှင့် ဂိုဏ်းကွဲဗုဒ္ဓဘာသာသင်္ဂါယနာ

သမိုင်းမှတ်တမ်းများအရ ဂရိဘက်ထရီယန်မှ ကူသျှမ်မင်းဆက်ဝင်တစ်ဦးဖြစ်သော ကနစ်ရှကမင်း (အေဒီ ၁၂၀-၁၆၂)သည် မြို့တော်ကို ဘက်ထရီယန်မှ ပက်ရှဝါသို့ပြောင်းရွှေ့ပြီးနောက်၊ သဗ္ဗတ္ထိဝါဒဂိုဏ်းမှ ရှင်အသဃောသကို မင်းတိုင်ပင်ပြု၍ ဗုဒ္ဓဘာသာရဟန်းတော်များကိုစည်းဝေးစေကာ သင်္ဂါယနာတင်ခဲ့သည် ဟုဆိုသည်။

မဟာယာန စာအုပ်တွင် ဖော်ပြထားချက်များအရ ထိုမင်းသည် တရုတ်ပြည်အနောက်ပိုင်းမှ ယူ-အီ-ချီ လူမျိုးအဆက်အနွယ်တစ်မျိုးဖြစ်သော ကူသျှမ်လူမျိုးဖြစ်ပြီး၊ ကသ္မီရနှင့် ဂန္ဓာရပြည်တစ်ခွင်၌ ဘုရင်ဖြစ်၍ ပက်ရှဝါမြို့တွင် ထီးနန်းစိုက်လေသည်။ သကလူမျိုးနှင့်လည်း ဆက်စပ်သဖြင့် 'သကသာကရာဇာ၊ သာကမင်း' ဟူ၍လည်း ခေါ်သည်။ မြန်မာပြည်ရှိ ဗေဒင်ကျမ်းများတွင် 'သာလီဝါဟနသာကမင်း' ဟူ၍ခေါ်သည်။ ဘွဲ့ကား 'ဒေဝမိတ္တ' ဖြစ်သည်။

ထိုမင်းသည် သဗ္ဗတ္ထိဝါဒဂိုဏ်း၌ ဂန္ဓာရဆရာ ကသ္မီရဆရာတို့ အချင်းချင်းကွဲပြားနေမှုကို ချေစပ်ရန်အတွက်လည်းကောင်း၊ ဗုဒ္ဓသာသနာတော်ကို ချီးမြှောက်ရန်အတွက်လည်းကောင်း၊ သာသနာသက္ကရာဇ် ၆၅၀ ခန့်၊ သို့

မဟုတ် ၇၀၀ အတွင်း၌ သင်္ဂါယနာတင်ခဲ့သည်။ ၄င်းမင်း နန်းတက်နှစ်မှာ သာသနာတော်နှစ် ၆၂၂၊ သို့မဟုတ် ၆၄၄ (အေဒီ ၇၈၊ သို့မဟုတ် ၁၂၀)ဟု မသေမချာဆိုကြသည်။

ယင်းသင်္ဂါယနာကို ရှင်ဝသုမိတြနှင့် ရှင်အဿဃောသတို့ ကြီးမှူး၍ သံဃာ ၅၀၀ ဖြင့် သုတ်, ဝိနည်း, အဘိဓမ္မာ ၃ ရပ်စလုံးအတွက် 'ဝိဘာသ'မည်သော ဋီကာကျမ်းကြီးများကို သက္ကတဘာသာဖြင့် ကြေးပြားပေါ်ရေး၍ ကျောက်သေတ္တာ၌ထည့်ကာ သင်္ဂါယနာတင်ရာ ပဏ်ရှဝါမြို့ရှိ စေတီတွင် မြှုပ်နှံထားခဲ့သည်၊ နောက်ပိုင်း၌ တရုတ်တို့ ရရှိသွားပြီး၊ ၄င်းတို့ကို တရုတ်ဘာသာ ပြန်ဆိုထားသည် ဟုဆိုသည်။ ဝိဘာသာ ရေးသည်ကိုအစွဲပြု၍ ၄င်းဂိုဏ်းကို 'ဝိဘာသိက'(ဝေဘာသိက)ဂိုဏ်း ဟူ၍လည်း ခေါ်သည် ဟုဆိုသည်။

'သာသနာတော် ၂၅၀၀ ခရီး'စာအုပ်တွင် ဖော်ပြထားချက်များအရ သာသနာနှစ် ၆၀၀ ခန့်တွင် 'သက'ခေါ် ကုရှုရှကအနွယ်ဝင် ဘုရင်တို့သည် အာဖဂန်နစ္စတန်, ဖလူချီစတန်, ဂန္ဓာရ, ကသ္မီရ စသော အိန္ဒိယ အနောက်မြောက်ပိုင်းမှစ၍ အိန္ဒိယအလယ်ပိုင်း မထုရာ တိုင်အောင် ဝင်ရောက်လွှမ်းမိုး အုပ်စိုးကြကုန်သည်။ ထိုမင်းဆက်ကို 'သကမင်းဆက်' ဟူ၍လည်းကောင်း, 'ကုရှာနမင်းဆက်' ဟူ၍လည်းကောင်း ခေါ်သည်။

ကုရှာနမင်းဆက်တွင် သာသနာနှစ် ၆၅၀ ခန့်၌ ကနစ်ရှကဘုရင်သည် သဗ္ဗတ္ထိဝါဒဂိုဏ်း၏ ပိဋကတ်တော်ကို သင်္ဂါယနာတင်ခဲ့သည်။

သင်္ဂါယနာတင်ရခြင်းအကြောင်းမှာ ကနစ်ရှကမင်းကြီးသည် ပိဋကတ်စာပေကိုသင်ယူရာ ဂိုဏ်းကွဲတစ်ခုစီ, ဝါဒတစ်ခုစီ ဂန္ဓာရဂိုဏ်း, ကသ္မီရဂိုဏ်း ကွဲပြားနေသည်ကို တွေ့ရှိရလေသည်။ ထို့ကြောင့် ထိုဂိုဏ်းကွဲ, ဝါဒကွဲများကို ညှိနှိုင်း၍ တညီတညွတ် တစ်မူတည်းဖြစ်စေရန် ဂိုဏ်းပေါင်းစုံသံဃာတော်များကို စည်းဝေးစေသည်။ ထိုအစည်းအဝေး၌ သဗ္ဗတ္ထိဝါဒဂိုဏ်းမှ ဝသုမိတြထေရ်ကို အကြီးအမှူးပြု၍ သင်္ဂါယနာ တင်တော်မူခဲ့ကြကုန်၏။ ထိုသင်္ဂါယနာတင်ပွဲ၌ ပိဋကတ်စာပေ ပရိယတ်ကျမ်းကျင်သော သံဃာတော် ၅၀၀ တို့သည် စုဝေးညှိနှိုင်း၍ သုတ်, ဝိနည်း, အဘိဓမ္မာတို့၏အဖွင့် ဝိဘာသာကျမ်းများကို ပြုစုကြကုန်သည်။

သင်္ဂါယနာတင်ရာဌာနကို အချို့က ဂန္ဓာရတိုင်း ဇလန္ဓရမြို့၌၊ အချို့က ကသ္မီရတိုင်း ကုဏ္ဍလဝနမြို့၌ ပြုလုပ်သည် ဟုဆိုသည်။

## ဂိုဏ်းကွဲဗုဒ္ဓဘာသာ အဘိဓမ္မာဂိုဏ်း ၄ ဂိုဏ်း

အိန္ဒိယတွင် ထေရဝါဒဗုဒ္ဓသာသနာ ကွယ်ပပြီး နောက်ပိုင်း ဂိုဏ်းကွဲဗုဒ္ဓဘာသာများအတွင်း၌ အဘိဓမ္မာအယူအဆနှင့်စပ်လျဉ်း၍ ငြင်းခုံခဲ့ကြရာမှ အဘိဓမ္မာဂိုဏ်း ၄ ဂိုဏ်း ပေါ်ပေါက်လာခဲ့သည်။ ဤ အဘိဓမ္မာဂိုဏ်းများသည် သာသနာသက္ကရာဇ် ၉၀၀ ခန့်၌ ပို၍ထွန်းတောက်လာကြသည်။

၄င်းအဘိဓမ္မာဂိုဏ်း ၄ ဂိုဏ်းမှာ -

၁- ဝေဘာသိက (သဗ္ဗတ္ထိဝါဒ) ဂိုဏ်း

၂- သုတ္တန္တိက (ဗာဟျအတ္ထဝါဒ) ဂိုဏ်း

၃- ယောဂါစာရ (ဝိညာဏဝါဒ) ဂိုဏ်း

၄- မဇ္ဈိမိက (သုညဝါဒ) ဂိုဏ်း တို့ဖြစ်ကြသည်။

ဤ၌ အချို့က 'သဗ္ဗတ္ထိ'အမည်ကို ဂိုဏ်းအဖြစ် ခေါ်ပြီး၊ ၎င်း၏ဝါဒကို 'ဗာဟျအဇ္ဈတ္တရ အတ္ထဝါဒ' ဟု ပြကြသည်။ ယင်း အဘိဓမ္မာ ၄ ဂိုဏ်းအနက် သဗ္ဗတ္ထိဝါဒဂိုဏ်း၊ သုတ္တန္တိကဂိုဏ်း ၂ ဂိုဏ်း၏ အဘိဓမ္မာအယူအဆ များသာ ရှေးဟောင်း ၁၈ ဂိုဏ်းနှင့် ဆက်စပ်သည်။ ကျန် ယောဂါစာရဂိုဏ်းနှင့် မဇ္ဈိမကဂိုဏ်း ၂ ဂိုဏ်းကား ထို ၁၈ ဂိုဏ်းမှ အလွန်နောက်ကျမှပေါ်လာသော ဂိုဏ်းသစ်များ ဖြစ်သည်။ ယင်းဂိုဏ်း ၄ ဂိုဏ်း၏ အဘိဓမ္မာ အယူအဆများသည် နောက်ပိုင်း၌ အိန္ဒိယတွင်ပေါ်ပေါက်ခဲ့သော ဗုဒ္ဓတက္ကသိုလ်များ၏သင်ရိုးများ ဖြစ်ခဲ့သည်။

## ဝေဘာသိက (သဗ္ဗတ္ထိဝါဒ) ဂိုဏ်း၏ အဘိဓမ္မာအယူအဆ

ဝေဘာသိက (သဗ္ဗတ္ထိဝါဒ)ဂိုဏ်း၏ အယူဝါဒမှာ 'အတိတ်ဖြစ်သော ရုပ်၊နာမ်တို့သည်လည်း ပျောက်ကွယ်ခြင်း မရှိ။ တစ်နည်းတစ်ဖုံ ရှိနေကြသည်။ အနာဂတ် ရုပ်၊နာမ်တို့သည်လည်း မြင်သာအောင် ထင်ရှားသောအဆင့်သို့ မရောက်ကြသေးဘဲ မထင်မရှားအသွင်တစ်မျိုးဖြင့် တည်ရှိနေကြသည်သာ ဖြစ်သည်။'

အဘိဓမ္မာကောသ အလိုအရ 'သဗ္ဗတ္ထိဝါဒ' ဟူသောအမည်၏ အနက်အဓိပ္ပာယ်မှာ 'အားလုံးအရှိဝါဒ။ အရှိတရားအားလုံးကို လက်ခံသည်' ဟုဆိုလိုသည်။

ရုပ်ရော၊နာမ်ရော အရှိတရား ဖြစ်သည်။ ရုပ်မဟုတ်၊နာမ်မဟုတ်သော တရားသည်လည်း အရှိတရား ဖြစ်သည်။ သို့ရာတွင် ဤသို့ အရှိတရားကို လက်ခံသည်ဟုဆိုရုံမျှဖြင့် အတ္တကို လက်ခံသည် ဟု မဆိုလိုပါ။ စိတ်ကိုလည်းကောင်း၊ ဝိညာဉ်လိပ်ပြာကိုလည်းကောင်း၊ စကြဝဠာ၏ မူလပထမ အကြောင်းရင်း (ဖန်ဆင်းရှင်)ကို လည်းကောင်း လက်ခံခြင်း မဟုတ်ပါ။

ထေရဝါဒ၌ ပိဋကဝ ၃ ပုံ၊ နိကာယ် ၅ ရပ်ဖြင့် ခွဲခြားထားသကဲ့သို့ ဝေဘာသိကဂိုဏ်း၌ နိကာယ်အစား 'အာဂမ' ဟု သုံးစွဲသည်။ 'ဒီဃာဂမ၊ မဇ္ဈိမာဂမ၊ သံယုတ္တာဂမ၊ အင်္ဂုတ္တရာဂမ၊ ခုဒ္ဒကာဂမ' ဟူ၍ အာဂမ ၅ရပ် ရှိသည်။

ဝေဘာသိကဂိုဏ်း၌ အဘိဓမ္မာ ၇ ကျမ်းရှိသော်လည်း ထေရဝါဒအဘိဓမ္မာ ၇ ကျမ်းနှင့် လုံးဝ မတူချေ။ တတိယသင်္ဂါယနာနောက်ပိုင်းတွင် ကိုယ်ပိုင်အဘိဓမ္မာကျမ်းများ တီထွင်ရေးသားခဲ့ကြသည်။ သို့ရာတွင် ထိုကျမ်းများမှာ ဗုဒ္ဓလက်ထက်တော်ကပင် တည်ရှိခဲ့သယောင် ထင်မှတ်ကြစေရန် အရှင်မဟာကစ္စည်း၊ အရှင်မဟာကောဋ္ဌိလ၊ အရှင်မောဂ္ဂလ္လာန် စသူတို့ကို ကျမ်းပြုပုဂ္ဂိုလ်များအဖြစ် ပြဆိုကြသည်။

ဤဂိုဏ်း၏ အဘိဓမ္မာ ၇ ကျမ်းမှာ -

၁- ဉာဏပဋ္ဌာန။ စီရင်သူ- အရှင်ကစ္စာယနီပုတြ။

၂- သင်္ဂီတိပရိယာယ။ စီရင်သူ- အရှင်မဟာကောဋ္ဌိလ၊ သို့မဟုတ် အရှင်သာရိပုတြာ။

၃- ပကရဏပါဒ။ စီရင်သူ- အရှင်ဝသုမိတြ။

၄- ဝိညာဏကာယ။ စီရင်သူ- အရှင်ဒေဝသမဏ။

၅- ဓာတုကာယ။ စီရင်သူ- အရှင်ပုဏ္ဏထေရ်။

၆- ဓမ္မက္ခန္ဓ။ စီရင်သူ- အရှင်သာရိပုတြာ သို့မဟုတ် အရှင်မဟာမောဂ္ဂလာန်။

၇- ပညတ္တိသတ္ထ။ စီရင်သူ- အရှင်မောဂ္ဂလာန်တို့ ဖြစ်ကြသည်။

ထို့နောက် အဘိဓမ္မာကျမ်းများကိုဖွင့်ဆိုသော ဝိဘာသာကျမ်းကို တရုတ်ဘာသာပြန်ဆိုထားရာ ၁၄ တွဲ ရှိသည်။ 'ပါသ'အမည်ရှိ ပုဂ္ဂိုလ်ကလည်း မဟာဝိဘာသာကျမ်းကြီးကို ပြုစုခဲ့ပြန်သဖြင့် တရုတ်ဘာသာပြန်ဆိုထားရာ အတွဲပေါင်း ၂၀၀ ရှိသည်။ ထို ၁၄ တွဲရှိ ဝိဘာသာကျမ်းနှင့် အတွဲ ၂၀၀ ရှိ မဟာဝိဘာသာကျမ်းကြီးကို ဂျပန်ပြည်က အမွေခံရရှိထားသည်။

ဝိဘာသာကျမ်းကို ဂန္ဓာရဂိုဏ်းကပြုစု၍၊ မဟာဝိဘာသာကို ကသ္မီရဂိုဏ်းက ပြုစုစီရင်ခဲ့သည်။

ထိုမျှကြီးကျယ်သော အဘိဓမ္မာကျမ်းကြီးများကို အကျဉ်းချုပ်၍ ဓမ္မတ္တရထေရ်က အဘိဓမ္မဟာဒယကျမ်းကို ရေးခဲ့သည်။

ဓမ္မတြာတထေရ်ကလည်း သံယုတ္တအဘိဓမ္မဟာဒယကျမ်းကို စီရင်ခဲ့သည်။

သာသနာသက္ကရာဇ် ၁၀၀၀ ခန့်တွင် အထက်ဖော်ပြပါ အဘိဓမ္မာကျမ်းများကိုမှီး၍ ဝသုဗန္ဓုသည် 'အဘိဓမ္မကောသ' ခေါ် အဘိဓမ္မာအကျဉ်းချုပ်ကျမ်းကို ရေးသားခဲ့သည်။ ပရမတ္ထသတ္တတိကျမ်း, တက္ကသတ္တကျမ်း, ဝါဒဝိဓိကျမ်းများကိုလည်း စီရင်ခဲ့သည်။

အဘိဓမ္မာကောသကျမ်းကို တရုတ်ဘာသာပြန်ဆိုထားခဲ့ရာ အခန်းကဏ္ဍပေါင်း ၆၀ ရှိသည်။ သက္ကတဘာသာဖြင့်ရေးသားထားသော မူရင်းကျမ်းစာမှာ ပျောက်ဆုံးသွားလေပြီ။ တရုတ်ဘာသာပြန်သာ ရှိတော့သည်။ ထို အဘိဓမ္မာကောသ၏အဖွင့်ဖြစ်သော အဘိဓမ္မာကောသဗျာချာကျမ်းကို ယသောမိတြက ရေးသားစီရင်ခဲ့သည်။ ထိုအဖွင့်ကျမ်းကိုမှီး၍ ကွယ်လွန်သူ ဘယ်လ်ဂျီယန်အမျိုးသား ပါမောက္ခတစ်ဦးက ပျောက်ဆုံးသွားသောသက္ကတ အဘိဓမ္မကောသကျမ်းကို ပြန်လည်ဖော်ထုတ်သည်။ နောက်ဆုံးတွင် အိန္ဒိယပြည်သား ရာဟုလာသံကစ္စည်းက အပြီးသတ်အချောကိုင်၍ သက္ကတဘာသာ ပြန်ဆိုရေးသားခဲ့သည်။

အဘိဓမ္မာကောသကျမ်းကို ဓိနမိတြက တိဘက် ဘာသာပြန်ဆို၍၊ ဝလဘိတက္ကသိုလ်မှ ပရမတ္ထထေရ်က တရုတ်ဘာသာသို့ ပထမအကြိမ် ပြန်ဆိုသည်။ နောက်ဆုံး၌ ဟီယန်ဆိုင် (ရှင်ကျန်)က ဒုတိယအကြိမ် တရုတ်ဘာသာ ပြန်ဆိုခဲ့သည်။ ဤကျမ်းကို အစွဲပြု၍ တရုတ်ပြည်တွင် ကောသကောရှဂိုဏ်း သီးခြားပေါ်ထွန်းခဲ့သည်။ ဂျပန်ပြည်တွင် ကုရှဂိုဏ်း သီးခြားပေါ်ထွန်းခဲ့လေသည်။ လက်ရှိ အဘိဓမ္မာကောသကျမ်းမှာ အပိုင်း ၈ ပိုင်းရှိပြီး တရုတ်ဘာသာပြန် အဘိဓမ္မာကောသကျမ်းမှာ အပိုင်း ၉ ပိုင်း ရှိသည်။ နဝမအပိုင်းမှာ ဗုဒ္ဓဘာသာအားလုံးလိုက်နာရမည့် အနတ္တသဘောတရားကို ရှင်းပြထားသည်။ ဝသုဗန္ဓုက ယင်းကျမ်းကိုထုတ်ဝေသောအခါ အပြင်းအထန် ကန့်ကွက်မှုများရှိသည်ကို တွေ့ရသည်။ ဤ အဘိဓမ္မာကောသကျမ်းကို နာလန္ဒာ, ဝလဘိ အစရှိသော ဗုဒ္ဓဘာသာ တက္ကသိုလ်ကြီးများ၌ ကျောင်းသုံးပြဋ္ဌာန်းထားရုံ မျှမက၊ အဓိပ္ပာယ်အဖွင့်ကျမ်းများစွာကိုလည်း ရေးခဲ့သည်။

## သုတ္တန္တိက (ဗာဟျအတ္ထဝါဒ)ဂိုဏ်း၏ အဘိဓမ္မာအယူအဆ

ဤဂိုဏ်းကို 'သစ္စသိဒ္ဓိဂိုဏ်း' ဟူ၍လည်း ခေါ်သည်။ ဤဂိုဏ်း၏အယူအဆအရ 'သခ်ိတ, အသခ်ိတ တရားများသည် အစစ်အမှန်ရှိသောတရားများ မဟုတ်ချေ။ သုည မျှသာဖြစ်သည် ဟုယူဆသည်။ ထိုသို့ ရုပ်,နာမ်ဓမ္မ အားလုံး၏ ရှိခြင်းကို ငြင်းပယ်သောကြောင့် ဤဝါဒကို 'နတ္ထိကဝါဒ'ဟုလည်း ဆိုကြသည်။ ကြွင်းမဲ့ဥသုံ အလုံးစုံ ဘာမျှမရှိ ဆိတ်သုဉ်းသောကြောင့် 'သဗ္ဗသုညတာဝါဒ'လည်း ခေါ်သည်။

သဗ္ဗသုညတာဝါဒ၌ အရှိတရား အားလုံးကို ငြင်းပယ်လိုက်သည်။ ထုတ်ပယ်လိုက်သည်။ ထိုအခါ ဘာမျှမရှိခြင်းသဘောကို ရသည်။ သဗ္ဗသုညတာ ကို ထိုးထွင်းသိရန်အတွက် 'တဏှာ ၃ မျိုးကို ပယ်ရှားရမည်။

အမည်အပေါ်၌ တွယ်တာမှုတဏှာကို ပယ်ခွာရမည်။ တရားအားလုံး (သဗ္ဗဓမ္မ)အပေါ်၌ တွယ်တာမှုတဏှာကို ပယ်ခွာရမည်။ သုညတာတရားအပေါ်၌ တွယ်တာမှုတဏှာကို ပယ်ခွာရမည်' ဟုဆိုသည်။ ဤသို့ ဓမ္မအားလုံး တွယ်တာမှုတဏှာကိုပယ်ခွာနိုင်လျှင် ကိလေသာကုန်ခန်းခြင်း ဖြစ်၍ ရဟန္တာအဖြစ်သို့ ရောက်သည်။ ရဟန္တာသည် ပရိနိဗ္ဗာန်စံဝင်သောအခါဗုဒ္ဓအဖြစ်သို့ ရောက်သည်ဟု ယူဆကြသည်။ ဤသို့ ပရိနိဗ္ဗာန်စံဝင်သော ဗုဒ္ဓကို 'ဓမ္မကာယ' ဟုခေါ်သည်။ 'ဗုဒ္ဓ၏ အစစ်အမှန်ဆုံးသောကာယ' ဟု ဆိုလိုသည်။

သုတ္တန္တိကဂိုဏ်းသည် အဘိဓမ္မာကို ငြင်းပယ်သည်ဆိုသော်လည်း အဘိဓမ္မာဂိုဏ်း၏ အရှိန်အဝါသြဇာကို မလွန်ဆန်နိုင်သဖြင့် နောက်ပိုင်းတွင် သဗ္ဗတ္ထိဝါဒအဘိဓမ္မာကို အတုယူကာ ပရမတ္ထတရား ၈၄ ပါးကို ရေတွက်ပြရသည်။ သာသနာတော် ၇၉၄-၈၉၄ နှစ်တွင် သုတ္တန္တိကဂိုဏ်းဝင် 'ဟရိဓမ္မ' မည်သောပုဂ္ဂိုလ်သည် သစ္စသိဒ္ဓိကျမ်းကို ရေးသားခဲ့သည်။ ဤကျမ်းကို သုတ္တန္တိကဂိုဏ်းက သင်ရိုးကျမ်းပြုကြသည်။

ဤကျမ်းဆရာသည် ဝသုဗန္ဓုထက် နှစ် ၁၀၀ ခန့် စောသည်။ ဝသုဗန္ဓုသည် ကာလပြဿနာကို ဆွေးနွေးဖြေရှင်းရာ၌ သစ္စသိဒ္ဓိကျမ်း၏ အဆိုအမိန့်ကို ယူငင်သုံးစွဲထားသည်။ သာသနာနှစ် ၉၅၆ ၌ ကုမာရဇီဝက သစ္စသိဒ္ဓိကျမ်းကို တရုတ်ဘာသာပြန်ဆိုသည်။ တရုတ်ဘာသာဖြင့် ဤကျမ်းကို ဖွင့်ဆိုရေးသားကြရာ ၁၂ ကျမ်းခန့် ရှိသည်။ ဂျပန်၌ ဤဂိုဏ်းကို 'ဂျိုဂျစ်ဆုဂိုဏ်း' ဟုခေါ်သည်။

## ယောဂါစာရ (ဝိညာဏဝါဒ) ဂိုဏ်း၏ အဘိဓမ္မာအယူအဆ

ဤဂိုဏ်းကို ဈာန်သမာဓိရရှိရေးကို အဓိကထား၍ ကျင့်သောဂိုဏ်းဖြစ်၍ 'ယောဂါစာရဂိုဏ်း' ဟုခေါ်ပြီး၊ 'ဝိညာဉ်သာလျှင် အရှိတရားဖြစ်၍ ပြင်ပရုပ်ဝတ္ထုများသည် အမှန်တကယ်ရှိသောတရားများ မဟုတ်' ဟု ယူဆသော ဝါဒဖြစ်သောကြောင့် 'ဝိညာဏဝါဒ' ဟုခေါ်သည်။

တည်ငြိမ်နေသောဝိညာဉ်သည် နိဗ္ဗာန် ဖြစ်သည်။ လှုပ်ရှားနေသောဝိညာဉ်သည် လောက ဖြစ်သည်။ ပြင်ပရှိရုပ်ဝတ္ထုများသည်လည်း စိတ်တွင်းမှာသာရှိ၍ စိတ်၏ထင်မြင်ချက်မျှသာ ဖြစ်သည်။ စိတ်ဖန်တီးချက်မျှသာ ဖြစ်သည်။ တံလျှပ်ကိုရေထင်ရာ၌ တံလျှပ်၌ ရေ လုံးဝမပါရှိချေ။ စိတ်က ဖန်တီးခြင်းမျှသာဖြစ်သည်။

ဤဂိုဏ်း၏ပန်းတိုင်မှာ တထတာ ဖြစ်သည်။ 'တထတာ' ဟူသည်မှာ ထိုအတိုင်းရှိသောသဘော၊ တစ်စုံတစ်ရာ ပြောင်းလဲခြင်းမရှိ ထိုအတိုင်း တည်မြဲနေသောသဘော' ဟုဆိုလိုသည်။ ကျွန်ုပ်တို့ နားလည်လွယ်အောင် ဆိုပါက တထတာသည် နိဗ္ဗာန် ဖြစ်သည်။ သို့ရာတွင် ထိုနိဗ္ဗာန်သည် နာမ်တရား ဖြစ်သည်။ မဟာဝိညာဉ်ကြီး ဖြစ်သည်။ စကြဝဠာအနန္တ ကောင်းကင်နှင့်အမျှ နာမ်ဝိညာဉ်ကြီးသည် အပြည့်တည်ရှိနေသည်။ ထိုဝိညာဉ်သည် မိမိပင်ကိုသဘာဝအတိုင်း တည်ငြိမ်စွာရှိနေပါက 'တထတာ' ဟုခေါ်ရသည်။ ထို မဟာဝိညာဉ်ကြီးသည် မတည်မငြိမ် လှုပ်လှုပ်ရှားရှားဖြစ်လာပါက 'စကြဝဠာလောကဓာတ်' ဟုခေါ်ရသည်။

ထိုသို့ ဝိညာဏဓာတ်ကြီး လှုပ် ရှားလာသောအခါ သတ္တလောကနှင့် ဩကာသလောက ပေါ်ပေါက်လာသည်။ ထို လောကဓာတ်စကြဝဠာကို 'ဓမ္မဓာတု' ဟုခေါ်ကြသည်။ ယောဂါစာရအဘိဓမ္မာအရ 'လောကနှင့် တထတာ (နိဗ္ဗာန်)သည် အခြေအနေ အနိုက်အတန့်မျှသာ ထူးခြားကွဲပြားသည်။ တစ်ခုတည်းသော မဟာဝိညာဉ်ကြီးသာလျှင် ဖြစ်သည်။ လှုပ်ရှား ချောက်ချားမှုမရှိဘဲ ပကတိတည်ငြိမ်နေသော မဟာဝိညာဉ်ကြီးသည် တထတာ (နိဗ္ဗာန်)ဖြစ်သည်' ဟုဆိုသည်။

တထဓာတ်ကြီးမှ ပေါ်ထွက်လာသောကြောင့် သတ္တဝါကို 'တထာဂတ'. ဟုခေါ်သည်။ တထတာသည် 'တထာဂတ' ခေါ် သတ္တဝါ၏ ပဋိသန္ဓေတည်နေကိန်းဝပ်ရာ ဝမ်းကြာတိုက်နှင့်တူနေသောကြောင့် တထတာကို

'တထာဂတဂဗ္ဘ' ဟုခေါ်ကြသည်။ တစ်ဖန် သတ္တဝါသည် သံသရာ၌ကျင်လည်ပြီးနောက် စင်ကြယ်သောဝိညာဉ် အဆင့်သို့ ပြန်လည်ရောက်ရှိလာသောအခါ တထတာတ်အတွင်းသို့ ပြန်လည် ဝင်ရောက် ပေါင်းစပ်ရောနေှောသွားသည်။

တစ်ဖန် တထတာ ဟုခေါ်သော စင်ကြယ်သောမူလဝိညာဉ်သည် သတ္တဝါတစ်ဦးစီ၏ အတွင်း၌ ဝင်ရောက် တည်နေသောအခါ 'အာလယဝိညာဉ်' ဟုဆိုလိုသည်။ အာလယ ဆိုသည်မှာ တည်ရာဌာန, သိုမှီးသိမ်းဆည်းရာဌာန ဟု ဆိုလိုသည်။ အတိတ်က ပြုခဲ့သမျှသော ကုသိုလ်ကံ, အကုသိုလ်ကံစွမ်းအားများသည် ဗီဇအဖြစ်ဖြင့် အာလယဝိညာဉ်အတွင်း၌ တည်ရှိနေသည်။ ထိုဗီဇစွမ်းအားများသည် ပစ္စုပ္ပန်အခိုက်၌ အကျိုးတရားအဖြစ် ပေါ်ထွက်လာကုန်သည်၊ ဖြစ်ပေါ်လာကုန်သည်။ ပစ္စုပ္ပန်ရုပ်,နာမ်အဖြစ်ဖြင့် ဖြစ်ပေါ်ကြကုန်သည်။ ထိုသို့ဖြစ်ပေါ်လာပြီးနောက် အနာဂတ်အတွက် စွမ်းအားဗီဇဓာတ်များကို အာလယဝိညာဉ်အတွင်း၌ သိုမှီးမြှုပ်နှံပေးအပ်၍ ထိုပစ္စုပ္ပန်တရားတို့သည် ချုပ်ငြိမ်းကုန်သည်။

ဤ ယောဂါစာရဂိုဏ်းအလို 'ရုပ်တရားသည် တကယ်ရှိတရား မဟုတ်။ ဝိညာဉ်၏ စိတ်ကူးယဉ်ထင်မြင်ချက်မျှကို ရုပ် ဟုခေါ်ကြရသည်။'

ထိုသို့ ရုပ်နှင့် နာမ် ဟူ၍ ၂ မျိုး မကွဲပြားသောကြောင့် 'အဒွယတာ (၂ ခု မရှိသောသဘော) ဝါဒ'ဟု အမည်တွင်သည်။ နာမ်ဝိညာဉ်တစ်ခုသာလျှင် ရှိသောကြောင့် 'ဧကတ္တဝါဒ'လည်း မည်သည်။

တစ်ဖန် 'ဗုဒ္ဓတွင် ဓမ္မကာယ, သမ္ဘောဂကာယ, နိမ္မာနကာယ' ဟူ၍ ကာယ ၃ ပါးရှိသည် ဟု ယူပြန်သည်။ 'ဓမ္မကာယ' ဟူသည်မှာ ပညာတစ်မျိုးတည်းဖြင့်သာ တည်ဆောက်ထားသော ကာယဖြစ်သည်။ 'ဖြူစင်မြင့်မြတ်သော ဉာဏ်သက်သက်မျှကို ဓမ္မကာယ ဟုခေါ်သည်။ ဓမ္မကာယသည် လွန်စွာသိမ်မွေ့သဖြင့် ဗောဓိသတ္တ (ဘုရားလောင်း)များ၏ဉာဏ်ဖြင့်ပင်လျှင် မတွေ့မြင်နိုင်' ဟုဆိုသည်။

'သမ္ဘောဂကာယ' ဟူသည်မှာ ဈာန်ချမ်းသာ (ဖလသမာပတ်)ချမ်းသာကို ခံစားနေသောဗုဒ္ဓ ဖြစ်သည်။ 'ဗုဒ္ဓ၏သမ္ဘောဂကာယကို ဗောဓိသတ္တ (ဘုရားလောင်း)များသာလျှင် မြင်နိုင်ကြသည်' ဟုဆိုသည်။

'နိမ္မာနကာယ' ဟူသည်မှာ ဖန်ဆင်းထားသော ကာယ။ 'သတ္တဝါအပေါင်းအား တရားဟောချွတ်ခြင်း, ပူဇော်ခြင်းဖြင့် သတ္တဝါတို့ကိုကယ်တင်ရန် လူတို့မျက်စိဖြင့် တွေ့မြင်နေရသော သကျမုနိဂေါတမဘုရားသည် နိမ္မာနကာယ ဖြစ်သည်။ လူသားတို့ကိုကယ်တင်ရန် မွေးဖွားခြင်း, သေဆုံးခြင်း, အစာမှိဝဲခြင်း စသည်တို့ကို ဟန်ဆောင်ပြုလုပ်ပြသည်။ တကယ်ဘုရားအစစ်မှာ ဓမ္မကာယသာလျှင် ဖြစ်သည်' ဟုဆိုသည်။

ထေရဝါဒ၌ ဘုရားဟောဒေသနာများကို ဓမ္မကာယ ဟုဆိုသည်။ ယောဂါစာရဂိုဏ်းကမူ တစ်ခဲနက် ဉာဏ်တုံးဉာဏ်ခဲကြီးဖြစ်သော တထတာကိုသာ ဓမ္မကာယ ဟုဆိုလိုကြသည်။

ယောဂါစာရဂိုဏ်း၏ အခြားတီထွင်ချက်တစ်ခုမှာ 'ဗောဓိသတ္တ (ဘုရားလောင်း)ဝါဒ' ဖြစ်သည်။ လူတိုင်းသည် သတ္တဝါအပေါင်းကို သံသရာမှကယ်တင်ရန် ဘုရားဆုပန်ကြရမည်။ မုဒိတာ, ဝိမလာ စသည်ဖြင့် ဘုရားလောင်းကျင့်စဉ် ၁၀ ဆင့်ကို ဒသဘူမိကသုတ်၌ ဖော်ပြထားသည်။

ဤဂိုဏ်းကို စတင်တည်ထောင်သူ အသင်္ဂသသည် မဟာယာနသမ္ပရိဂ္ဂဟကျမ်းနှင့် ယောဂါစာရဘူမိကျမ်းကို ရေးခဲ့သည်။ ထိုကျမ်းအမည်ကို အစွဲပြု၍ 'ယောဂါစာရဂိုဏ်း' ဟူ၍ အမည်ရလေသည်။ အဆိုတစ်ရပ်ကမူ 'ပုဂ္ဂိုလ်နှင့် ဝိညာဉ်ပူးပေါင်းနေသည် ဟူသောအယူကို 'ယောဂ'ဟု ခေါ်သည်။

ဤ ယောဂဝါဒကို သာသနာ သက္ကရာဇ် ၃၉၄ နှစ် (၁၅၀ ဘီစီ)ခန့်၌ 'ပတဥ္စလိ' မည်သောပညာရှိကြီး (ပတဥ္စလိကား 'ပိင်္ဂလမုနိ, ပိင်္ဂလနာဂ, ပိင်္ဂလာစရိယ' ဟူ၍ အမည်တွင်သည့်အပြင်၊ သာဝတ္တိဆန်းကျမ်းကို

စီရင်သူ ဖြစ်သည်။)က ဗြာဟ္မဏဘာသာအတွင်းသို့ စတင် သွတ်သွင်းခဲ့ပြီး၊ သာသနာသက္ကရာဇ် ၉၀၀ ပြည့်နှစ် (အေဒီ ၄၀၀)အတွင်း၌ အရှင်အသင်္ဂက ဗုဒ္ဓဝါဒအတွင်းသို့ သွတ်သွင်းခဲ့သည် ဟုဆိုသည်။

အသင်္ဂ၏ညီတော် ဝသုဗန္ဓုသည် ဝိညတ္တိမတ္တတာသိဒ္ဓိကျမ်းကိုရေးခဲ့ရာ ထိုကျမ်းအမည်ကိုအစွဲပြု၍ 'ဝိညတ္တိမတ္တတာဂိုဏ်း' ဟုလည်း ခေါ်ကြသည်။ ယင်းကျမ်းကို ဝေဒန္တကျမ်းများ၌ 'ဝိညာဏအတ္တိတာမတ္တဝါဒ' ဟု ဖော်ပြသည်။

ယောဂါစာရဂိုဏ်းခေါင်းဆောင်များမှာ အောက်ပါအတိုင်း ဖြစ်သည်။

| | | | |
|---|---|---|---|
| ၁။ | မေတ္တေယျနာထ | သာသနာအနှစ် | ၉၀၀ ခန့် |
| ၂။ | အသင်္ဂ | ။ | ၁၀၀၀ ခန့် |
| ၃။ | ဝသုဗန္ဓု | ။ | ၁၀၀၀ ခန့် |
| ၄။ | ထိရမတိ | ။ | ၁၁၀၀ ခန့် |
| ၅။ | ဒိန္နာဂ | ။ | ၁၁၀၀ ခန့် |
| ၆။ | ဓမ္မပါလ | ။ | ၁၂၀၀ ခန့် |
| ၇။ | ဓမ္မကိတ္တိ | ။ | ၁၂၀၀ ခန့် |
| ၈။ | သန္တရက္ခိတ | ။ | ၁၃၀၀ ခန့် |
| ၉။ | ကမလ သီလ | ။ | ၁၃၀၀ ခန့် |

ယောဂါစာရဂိုဏ်းမှာ အသင်္ဂထေရ်လက်ထက်၌ ဂိုဏ်းသီးခြားအဖြစ် ပေါ်ပေါက်ခဲ့ခြင်း ဖြစ်သည်။ အသင်္ဂထေရ်ကို တုသိတာနတ်ပြည်၌ စံနေတော်မူသော မေတ္တေယျဘုရားလောင်းတော်က ဟောကြားသောတရားများကို အသင်္ဂကတစ်ဆင့် ပြန်လည်ဟောပြသည် ဟု စကားစဉ်ပြောရိုး ရှိသည်။ အမှန်စင်စစ် အသင်္ဂ၏ဆရာ မေတ္တေယျနာထကိုပင် ဘုရားလောင်းအဖြစ် တင်စားမြှောက်ပင့်ပြောဆိုကြခြင်း ဖြစ်ပေသည်။

အသင်္ဂနှင့် ညီတော်ဝသုဗန္ဓုတို့၏ လက်ထက်၌ ဂုတ္တမင်းက ဗုဒ္ဓဘာသာကို ချီးမြှင့်ထောက်ပံ့ခဲ့ကြသဖြင့် ဝိညာဏဝါဒသည် ထိပ်တန်းရောက်အောင် ကြီးပွားခဲ့၍ ဩဇာအာဏာအရှိဆုံး ဖြစ်ခဲ့သည်။ အကြောင်းမူ ဂုတ္တမင်းများသည် ဗြာဟ္မဏဘာသာဝင်များဖြစ်ကြ၍၊ ဝိညာဏဝါဒသည် ဗုဒ္ဓ၏ အနတ္တဒေသနာတော်ကို အတ္တဝါဒ ဖြစ်အောင် ပြောင်းလဲပြင်ဆင်ခဲ့ခြင်းကြောင့်ဖြစ်သည်။ ဗုဒ္ဓကို မဟာဗြဟ္မာကြီးနှင့်တူညီအောင် ပြောင်းလဲပြင်ဆင်ရေးသား၍ ဗုဒ္ဓဝါဒနှင့် ဗြာဟ္မဏဝါဒပူးပေါင်းရန် ကြိုးပမ်းသောကြောင့် ဗြာဟ္မဏဘာသာဝင်ဘုရင်များ၏ အားပေးချီးမြှင့်မှုခံရခြင်း ဖြစ်ပေသည်။

ထို့ကြောင့် သာသနာနှစ် ၁၀၀၀ က ကုမာရဂုတ္တမင်းတည်ထောင်ခဲ့သော နာလန္ဒာတက္ကသိုလ်ကြီးကား ဗုဒ္ဓသာသနာတော်အလံ လွှင့်ထူထားသော်လည်း ဗြာဟ္မဏဝါဒ ဖြန့်ချိရာဌာနကြီးတစ်ခုသာ ဖြစ်ပေသည်။

ဝသုဗန္ဓု ကွယ်လွန်ပြီးနောက်ပိုင်း၌ ယောဂါစာရဂိုဏ်းသည် ၃ ဂိုဏ်း ကွဲသည်။

ပထမဂိုဏ်းမှာ ဒိန္နာဂ၊ အဂေါတြ၊ ဓမ္မပါလတို့၏ဂိုဏ်း ဖြစ်သည်။ တရုတ်ရဟန်းတော် ဟီယန်ဆိုင်၏ ဆရာဖြစ်သော နာလန္ဒာတက္ကသိုလ်ကျောင်းအုပ်ကြီး သီလဘဒြသည် ဒိန္နာဂတို့၏အဆက်အနွယ် ဖြစ်သည်။ 'ဗုဒ္ဓနျာယ' ခေါ် ဗုဒ္ဓလောဂျစ်ကို အထူးအလေးပေးကြသည်။

ဒုတိယဂိုဏ်းမှာ ဂုဏမတိနှင့် ထိရမတိတို့၏ဂိုဏ်းဖြစ်ပြီး၊ ဝလဘိတက္ကသိုလ်ကိုဗဟိုပြု၍ သာသနာပြုကြသည်။ တရုတ်ပြည်တွင် ရှေလွန်ဂိုဏ်းကိုတည်ထောင်သော ပရမတ္ထထေရ်သည် ဤဂိုဏ်းဝင် ဖြစ်သည်။

တတိယဂိုဏ်းမှာ နန္ဒထေရ်၏ဂိုဏ်း ဖြစ်သည်။ သူ၏ တပည့်အဆက်အနွယ်တို့မှာ ပရမတ္ထနှင့် ဖယသေနတို့ ဖြစ်သည်။ ဖယသေနကား တရုတ်ရဟန်းတော် ဟီယန်ဆိုင်ကို ပြဿနာအချို့ ဖြေရှင်းဟောကြားခဲ့သည်။ ဤဂိုဏ်းမှာ များစွာမထွန်းကားဘဲ မကြာမီကွယ်ပျောက်လေသည်။

## မဇ္ဈိမိက (သုညဝါဒ)ဂိုဏ်း၏ အဘိဓမ္မာအယူအဆ

မဇ္ဈိမိကဂိုဏ်း၏ဝါဒမှာ သဿတနှင့် ဥစ္ဆေဒ၊ အတ္ထိနှင့် နတ္ထိ၊ အတ္တနှင့် အနတ္တ အစွန်း ၂ ဘက်၏ အလယ်ဗဟို၌ တည်၍၊ ထိုအစွန်း ၂ ပါးကို ငြင်းပယ်သည်။ ဗုဒ္ဓ၏ မဇ္ဈိမပဋိပဒါမှာ အကျင့်လမ်းစဉ်နှင့်ဆိုင်၍ ဤဂိုဏ်း၏ မဇ္ဈိမပဋိပဒါမှာ အတွေးအခေါ် အယူအဆပိုင်းနှင့် ဆိုင်သည်။ ဤ မဇ္ဈိမိကဂိုဏ်း၏ရည်ရွယ်ချက်မှာ တစ်စုံတစ်ခုကိုမျှ စွဲကိုင်ခြင်း၊ မှီခိုအားထားခြင်း မပြုမိအောင် တွေ့သမျှ၊ ပေါ်လာသမျှ အယူအဆ၊ အစွဲအလမ်းများကို ဆက်တိုက် ငြင်းပယ်ရသည်။ ထိုသို့ ဆက်တိုက် ထပ်ကာထပ်ကာငြင်းပယ်သောအခါ အစွဲအားလုံး လွတ်ကင်း၍ နိဗ္ဗာန်အစစ် (သုညတာ)ကို သိမြင်လေတော့သည် ဟုဆိုသည်။

ထို့ကြောင့် အောက်ပါအတိုင်း ပတ်လည် ၈ နည်းဖြင့် ငြင်းပယ်ရသည်။

၁- န ဥပ္ပါဒေါ = (ဖြစ်ခြင်း မရှိ)
၂- န နိရောဓော = (ချုပ်ငြိမ်းခြင်း မရှိ)
၃- န အာဂတိ = (လာရောက်ခြင်း မရှိ)
၄- န ဂတိ = (ထွက်ခွာသွားခြင်း မရှိ)
၅- န နိစ္စ = (မြဲသည်လည်း မဟုတ်)
၆- န အနိစ္စ = (မမြဲသည်လည်း မဟုတ်)
၇- န ဧကတ္တ = (တစ်ခုတည်း မဟုတ်။ ထပ်တူ မညီချေ)
၈- န နာနတ္တ = (သီးခြားစီ မဟုတ်။ အသစ် မဟုတ်)

ဤသို့ ဆက်ကာဆက်ကာ ငြင်းပယ်ရမည်။ အစွန်းတစ်ဖက်ကိုငြင်းပယ်သောအခါ အခြားအစွန်းတစ်ဖက်ကို လက်မခံမိစေရန် ထပ်ဆင့်ငြင်းပယ်နည်းကို အသုံးပြုရမည်။ ဖြစ်ပေါ်ခြင်းသဘောကို မဖြစ်ပေါ်ခြင်း၊ ချုပ်ငြိမ်းခြင်း သဘောဖြင့် ငြင်းပယ်ရမည်။

ချုပ်ငြိမ်းခြင်းသဘောကို လာရောက်ခြင်းသဘောဖြင့် ငြင်းပယ်ရမည်။ လာရောက်ခြင်းသဘောကို ထွက်ခွာသွားခြင်းသဘောဖြင့် ငြင်းပယ်ရမည်။ ထွက်ခွာခြင်းသဘောကို အမြဲတည်ရှိခြင်းသဘောဖြင့် ငြင်းပယ်ရမည်။ တကယ်အစစ်အမှန်တရားသည် လှုပ်ရှားခြင်း၊ ရွေ့ရှားခြင်းမရှိ။ ကျောက်တောင်ထွတ်ကဲ့သို့ မလှုပ်မယှက် တည်နေသည်။ တစ်နေရာမှ တစ်နေရာသို့ ရွေ့ရှားခြင်း မရှိ။ အပေါ်ယံအသွင်အပြင်များသာ ရွေ့ရှားနေသည်ဟု ထင်ကြရသည်။

တည်မြဲခြင်းသဘောကို မတည်မြဲခြင်း၊ ဖောက်ပြန်ပြောင်းလဲခြင်းသဘောဖြင့် ငြင်းပယ်ရမည်။ မမြဲခြင်းသဘောကို ထပ်တူညီမှုသဘောဖြင့် ငြင်းပယ်ရမည်။ ထပ်တူညီမှုမှု တစ်ခုတည်းသဘောကို မတူညီကွဲပြားမှုဖြင့် ငြင်းပယ်ရမည်။ သီးခြားစီမတူညီကွဲပြားမှုကို ကြောင်းကျိုးဆက်ဖြစ်ပေါ်မှုဖြင့် ငြင်းပယ်ရမည်ဟု ဆိုသည်။

၄င်းအပြင် သစ္စာ ၄ ဆင့်ဖြင့်လည်း ငြင်းပယ်နိုင်သည်။ အမှိုင်ကင်းလွတ်၍ သီးသန့်ဖြစ်သော အလယ် (ပစ္စေက မဇ္ဈိမ)ကို 'ပစ္စေကသစ္စာ' ဟုခေါ်၏။ ထိုပစ္စေကသစ္စာသည် သတ္တဝါတို့နားလည်စေရန် အဆင့်နိမ့်၍ ရှင်းပြသောအခါ ခဏိကသဘောကိုဆောင်၍ သမ္မုတိသစ္စာ ဖြစ်လာသည်။ ဤနည်းအားဖြင့် သမ္မုတိသစ္စာနှင့် ပရမတ္ထသစ္စာတို့ကို အဆင့်ဆင့်ခွဲရသည်။

ပထမဆင့်။ 'ပုဂ္ဂိုလ်သတ္တဝါ၊ ငါ၊ သူတစ်ပါး၊ ယောကျ်ား၊မိန်းမ မရှိ' ဟု ငြင်းပယ်ရာ၌၊ ပုဂ္ဂိုလ်သတ္တဝါ ရှိခြင်းသည် သမ္မုတိသစ္စာ မည်သည်။ ပုဂ္ဂိုလ်သတ္တဝါ မရှိခြင်းသည် ပရမတ္ထသစ္စာ မည်သည်။ တစ်နည်း ပြဆိုရပါမူ အနတ္တအမြင်ဖြင့် အတ္တအမြင်ကို ငြင်းပယ်ရာ၌ အတ္တအမြင်သည် သမ္မုတိသစ္စာ မည်သည်။ အနတ္တအမြင်သည် ပရမတ္ထသစ္စာ မည်သည်။

ဒုတိယဆင့်။ အတ္တနှင့် အနတ္တ အမြင် ၂ မျိုးစလုံးကို ထပ်ဆင့်ငြင်းပယ်ရမည်။ အတ္တအမြင်လည်း မှားသည်။ အနတ္တအမြင်လည်း မှားသည် (နေဝအတ္တ နအနတ္တ)။ ထို အတ္တ၊ အနတ္တ အမြင် ၂ ပါးစုံ မှားသည်ဟူသော အမြင်သစ်တစ်ခုဖြင့်သာ ထပ်ဆင့်ငြင်းပယ်ရသည်။ ထိုအခါ ရှေ့အမြင် ၂ ခုသည် သမ္မုတိသစ္စာ မည်သည်။ နောက်အမြင်သစ်သည်ကား ပရမတ္ထသစ္စာ မည်သည်။

တတိယဆင့်။ အထက်ဖော်ပြပြီးသော အတ္တအမြင်၊ အနတ္တအမြင်၊ နေဝအတ္တ နအနတ္တအမြင်တို့ကို ထပ်ဆင့် ငြင်းပယ်ရမည်။ ထိုအခါ ငြင်းပယ်ခံရသော ရှေ့အမြင်ဟောင်းများသည် သမ္မုတိသစ္စာ မည်သည်။ နောက်အမြင်သစ်သည် ပရမတ္ထသစ္စာ မည်သည်။

စတုတ္ထအဆင့်။ အထက်ဖော်ပြပြီးသော အမြင်အားလုံးကို ထပ်ဆင့်ငြင်းပယ်ရမည်။ ထိုအခါ ရှေးအမြင်ဟောင်းများသည် သမ္မုတိသစ္စာ မည်သည်။ နောက်အမြင်သစ်သည် ပရမတ္ထသစ္စာ မည်သည်။ ဤနည်းအတိုင်း ဆက်ကာဆက်ကာ ငြင်းပယ်ရမည်။ အယူဝါဒတစ်ခုကို လည်းကောင်း၊ ဝါဒအများကို လည်းကောင်း စွဲလမ်းမှုရှိပါက ဤနည်းကိုသုံး၍ ဆင့်ကဲဆင့်ကဲ ငြင်းပယ်ရမည်။ ဆင့်ကဲငြင်းပယ်မှုသည်သာလျှင် ပစ္စေကသစ္စာ (ကေဝလသစ္စာ) တံခါးဝသို့ ပို့ပေးနိုင်သည်ဟု ဆိုသည်။

'သုညဝါဒ' ဟူသည်မှာ အဆင့်ဆင့်ငြင်းပယ်ရာမှ ထွက်ပေါ်လာသောဝါဒ ဖြစ်သည်။ သုည၏ အဓိပ္ပာယ်မှာ ပဋိလောမအားဖြင့် မရှိခြင်း၊ ဗလာသဘော ဖြစ်သည်။ အနုလောမအားဖြင့် သမ္မုတိပညတ် ဖြစ်သည်။ ဝိသေသလက္ခဏာမှ ကင်းသောသဘော ဖြစ်သည်။ အမှိုအခိုကင်းလွတ်သော သဘော မဟုတ်ချေ။ အကြောင်းတရားတို့သည် စုပေါင်းဖြစ်စေအပ်သော သခ်ီတတရား ဖြစ်သည်။ အကြောင်းတရားတို့၏ပေါင်းဆုံခြင်းကို မဇ္ဈိမပဋိပဒါ ဟုခေါ်သည်။ ထို မဇ္ဈိမပဋိပဒါမှာ သီးခြားဂုဏ်အရည်အချင်းများ မရှိ။ သီးခြားအမှတ်အသား မရှိ။ လောကီနှင့် လောကုတ္တရာ၊ ပညတ်နှင့် ပရမတ်၊ သခ်ီတနှင့် အသခ်ီတ အားလုံး တစ်ခုတည်းအဖြစ်ပေါင်းစည်း၍ ပြီးပြည့်စုံသော သဘောတရားကြီးကို 'မဇ္ဈိမပဋိပဒါ (ဝါ) သုည' ဟုခေါ်သည်။

သုညတာသည် ၄ မျိုးရှိသည်။ ၄င်းတို့မှာ အောက်ပါအတိုင်းဖြစ်သည်။

၁-ပုဂ္ဂလသုညတာ = 'ပုဂ္ဂိုလ်သတ္တဝါ မရှိခြင်း၊ ဆိတ်သုဉ်းခြင်း' ဟုဆိုလိုသည်။ အတ္တမရှိ၊ အနတ္တမျှသာ ဟုဆိုလိုသည်။ (ထေရဝါဒအဋ္ဌကထာများ၌ 'အတ္တသုည' ဟုခေါ်သည်။)

၂- သဘာဝသုညတာ = 'ပရမတ္ထအသီးသီးသည် ပြုပြင်စီမံတတ်သော ကိုယ်ပိုင်စွမ်းအားသတ္တိ မရှိခြင်း၊ ဆိတ်သုဉ်းခြင်း' ဟုဆိုလိုသည်။ (ထေရဝါဒအဋ္ဌကထာများ၌ 'သင်္ခါရသုည' ဟုခေါ်သည်။)

၃- ပရမတ္ထသုညတာ = 'လောကီနယ်ကိုလွန်မြောက်သော ဆန့်ကျင်ဘက်တရားအားလုံးကို စုပေါင်းထားခြင်း ဖြစ်သည်။' ဖြစ်ခြင်းနှင့် ပျက်ခြင်း၊ ရှိခြင်းနှင့်မရှိခြင်း၊ အမှားနှင့် အမှန်ကဲ့သို့သော ဆန့်ကျင်ဘက်သဘောတို့ကို စုပေါင်းထားသည်။

၄- အစ္စန္တသုညတာ = 'တစ်စုံတစ်ရာနှင့် ဆက်စပ်ခြင်းမရှိ၊ မှီခိုခြင်းမရှိ' သီးသန့်လွတ်လပ်စွာရှိသော သုညသဘော ဖြစ်သည်။

ဤ အမှတ် ၄ သုညမှာ အထက်ပါသုည ၃ မျိုးကိုငြင်းပယ်ခြင်းဖြင့် ရရှိသောသုည ဖြစ်သည်။ ထေရဝါဒ၌ ပထမနှင့် ဒုတိယ သုည ၂ မျိုးကိုသာ လက်ခံသည်။ တတိယနှင့် စတုတ္ထသုညမှာ မဟာယာနတို့၏ တီထွင်ချက် ဖြစ်၍ ထေရဝါဒက လက်မခံပါ။

ဤဂိုဏ်း၌ အထက်ဖော်ပြပါ သုညတာကို ရှင်းပြရာမှ မာယာဝါဒလည်း ပေါ်ထွက်လာပြန်သည်။ 'မာယာဝါဒ' ဟူသည်မှာ 'လှည့်ပတ်ခြင်း' ဟု အဓိပ္ပာယ်ရသည်။ မရှိခြင်းသဘော သုညကိုပင် ရှိသယောင်လှည့်စားပြခြင်းသည် လောက၏မာယာ ဖြစ်သည်။ လောကသည် မျက်လှည့်ပြပွဲနှင့် တူသည်။ ယင်းလောကသည် ဘာမျှမရှိ။ သုညသာ ဖြစ်သည်။ အမည်ဝေါဟာရမျှသာ ရှိသည်။ အရှိ ဟုထင်ရခြင်းမှာ မာယာ၏လှည့်စားချက်သာ ဖြစ်သည်။ ချမ်းသာခြင်းနှင့် ဆင်းရဲခြင်း၊ နှောင်ဖွဲ့ခံရခြင်းနှင့် လွတ်မြောက်ခြင်း၊ ဖြစ်ခြင်းနှင့် ပျက်ခြင်း၊ ရွေ့ရှားခြင်းနှင့် ရပ်တည်ခြင်း၊ ဒေသနှင့် ကာလတို့သည် အပြန်အလှန် မှီခိုထောက်ထားနေကြ၍ စိတ်ကူးကြံဆချက် သက်သက်မျှသာဖြစ်ကုန်သည်။ ထိုသို့ ကြံစည်စိတ်ကူးခြင်းသည် မာယာသာလျှင် ဖြစ်သည်။ ဤသို့ မရှိခြင်း သုညသဘောကို ရှင်းပြရာ၌ မာယာဝါဒကို အသုံးပြုကြသည်။ '

အေဒီ ၇ ရာစု၌ ဟိန္ဒူဘုန်းကြီး ရှင်္ကရသည် ဤမာယာဝါဒကိုပင် ဟိန္ဒူဝါဒအသွင် ပြောင်းလဲခဲ့ခြင်း ဖြစ်သည်။

ဤ၌ မှတ်ရန်အချက်အထူးမှာ ပုဂ္ဂိုလ်သတ္တဝါ မရှိခြင်း၊ အတ္တ မရှိခြင်း၊ ဆိတ်သုဉ်းခြင်းသဘောကို ဗုဒ္ဓကိုယ်တိုင် ဟောတော်မူခဲ့သည်။ ရည်ရွယ်ချက်မှာ အတ္တစွဲကိုပယ်ဖျက်ရန် ဖြစ်သည်။ အတ္တစွဲမရှိက နိဗ္ဗာန်ကို သိမြင်ရန်ဖြစ်သည်။ သို့ရာတွင် ထိုသုညသဘောကို မဇ္ဈိမိက (မဓျမိက) ဂိုဏ်းသားများက ထပ်မံချဲ့ထွင်ကြရင်း မလိုလားအပ်သော မာယာဝါဒ၊ တန္တရဝါဒများဆီသို့ တစ်ဘက်စောင်းသွားရခြင်း ဖြစ်သည်။

သုညဝါဒနှင့် မာယာဝါဒများသည် တတိယသင်္ဂါယနာတင်ခေတ်က အန္ဓကဂိုဏ်းသားတို့မှ စတင် ပေါ်ပေါက်ခဲ့သော်လည်း၊ မဇ္ဈိမိကဂိုဏ်းမှာမူ သာသနာနှစ် ၇၀၀ ခန့်၌ စတင်ပေါ်ပေါက်ခဲ့သည်။

ဤဂိုဏ်းကို စတင်တည်ထောင်သူမှာ နာဂအဇ္ဈုန ဖြစ်သည်။ နဂါးကိုးကွယ်သောအမျိုးဖြစ်၍ 'နာဂ' ဟူသောအမည် ရသည်။ ထောက်ကြံ့ပင်ရိပ်၌မွေးဖွား၍ 'အဇ္ဈုန' ဟု အမည်ရသည်။

နာဂအဇ္ဈုန ပေါ်ပေါက်မည်ကို ဗုဒ္ဓဘုရားရှင်က ဗျာဒိတ်တော်ထားခဲ့သည်ဟု ၄င်းဂိုဏ်းသားများက ဆိုကြသည်။ နာဂအဇ္ဈုန၏ မွေးရပ်ဒေသမှာ ရှေးခေတ်အခေါ် ဝိဒ္ဒဘတိုင်း (ယခုအခေါ် ဒက်ကန်ကုန်းမြင့်ဒေသ) အမရဝတီနှင့် နာဂအဇ္ဈုနကုဏ္ဍမြို့အနီး၌ မွေးဖွားခဲ့သည်။ 'ရသာယန' ခေါ် အသက်ရှည်ဆေးပညာကို တတ်ကျွမ်းသည်။ မန္တရားဗေဒင် တတ်ကျွမ်းသည်။

ဗုဒ္ဓသည် လူ့ပြည်တွင် သာဝကလမ်းစဉ်ကိုသာ ဟောခဲ့သည်။ ပါတာလ ခေါ် နဂါးပြည်တွင်မူ ပိုမိုနက်နဲ ခက်ခဲသော ဗောဓိသတ္တလမ်းစဉ်နှင့် သုညဝါဒကို ဟောကြားခဲ့သည်။ နာဂအဇ္ဈုနကို နဂါးပြည် ပါတာလနန်းတော်သို့ ပင့်ဆောင်၍ နဂါးမင်းက သုညဝါဒကို သင်ကြားပေးလိုက်သည်။ ထို့ကြောင့် ဤဝါဒကို နဂါးပြည်မှ နာဂအဇ္ဈုနက ယူဆောင်ခဲ့သည် ဟုဆိုသည်။

သဒ္ဓမ္မပုဏ္ဍရိကကျမ်းနှင့် ပညာပါရမိတာကျမ်းများမှာ ဤဂိုဏ်းထွက် ပါဠိတော်များ ဖြစ်သည်။ နာဂအဇ္ဈုန၏အဆက်အနွယ်များမှာ အောက်ပါအတိုင်း ဖြစ်သည်။

၁။ အရိယဒေဝ (သာသနာနှစ် ၇၀၀ ကျော်)။ နာဂအဇ္ဈုန၏တပည့်ကြီး ဖြစ်သည်။

၂။ ဗုဒ္ဓပါလိတ (သာသနာနှစ် ၁၀၀၀ ခန့်)။ 'ပသံဂိကဂိုဏ်း' ခေါ် မဇ္ဈိမိက ဂိုဏ်းကွဲတစ်ခု တည်ထောင်သည်။

၃။ ဘာဝိဝေက (သာသနာနှစ် ၁၀၀၀ ခန့်)။ 'သကတန္တရ' ခေါ် ဂိုဏ်းကွဲတစ်ခု တည်ထောင်သည်။

၄။ စန္ဒကိတ္တိ (သာသနာနှစ် ၁၀၀၀ ခန့်)။ နာဂအဇ္ဈုနရေးသော မဇ္ဈိမိကသတ္တကျမ်း၏အဖွင့် ပသန္နပဒါကျမ်းကို ရေးသည်။

၅။ သန္တိဒေဝ (သာသနာနှစ် ၁၂၀၀ ခန့်)။ သုရဋ္ဌပြည့်ရှင် ဘုရင့်သားတော်ဖြစ်ပြီး တာရာဒေဝီ မယ်တော်တိုက်တွန်းမှုကြောင့် ထီးနန်းစွန့်၍ ရဟန်းပြုသူဖြစ်သည် ဟုဆိုသည်။

ဤ သုညဝါဒကို တရုတ်ပြည်သို့ ကုမာရဇီဝက ပို့ဆောင်ဖြန့်ချိခဲ့သည်။ တရုတ်ပြည်တွင် တီယင်တိုင်းဂိုဏ်းနှင့် စံလွန်းဂိုဏ်း အမည်ဖြင့် တည်ရှိသည်။

ဂျပန်ပြည်တွင် တင်ဒိုင်းဂိုဏ်း, နိချိရင်းဂိုဏ်း, စံလွန်းဂိုဏ်းများအဖြစ် တည်ရှိခဲ့သည်။

## မဟာယာနနှင့် ဟီနယာနကွဲခြင်း

သဗ္ဗတ္ထိဝါဒဂိုဏ်း သင်္ဂါယနာတင်ပွဲကိုဦးစီးခဲ့သော ရှင်အဿဃောသသည် သာသနာသက္ကရာဇ် ၇၀၀ ခန့်ကနှစ်ရှကမင်းလက်ထက်၌ 'ဗုဒ္ဓစရိတ' မည်သော ဘုရားဖြစ်စဉ်ကျင့်စဉ်ကျမ်းတစ်စောင်ကို စီရင်ရေးသားခဲ့သည်။ ယင်းကျမ်းတွင် '၁- သာဝကယာန, ၂- ပစ္စေကဗုဒ္ဓယာန, ၃- ဗုဒ္ဓယာန' ဟူ၍ ကျင့်စဉ် ယာဉ် ၃ မျိုးကို အဓိကထား၍ ရေးသားဖော်ပြထားသည်။ ယင်းအကျင့် ၃ မျိုးကို ထေရဝါဒ၌ 'သာဝကဗောဓိ, ပစ္စေကဗောဓိ, သမ္မာသမ္ဗုဒ္ဓဗောဓိ' ဟူ၍ ဖော်ပြထားပြီး၊ 'လူတို့သည် ပါရမီ အယုတ်, အလတ်, အမြတ် အနုအရင့်အရနိဗ္ဗာန်ကို ရိုးရိုးသာဝကအကျင့်, ပစ္စေကဗောဓိအကျင့်ဖြင့် မျက်မှောက်ပြုနိုင်သကဲ့သို့ အမြင့်မြတ်ဆုံး ဗုဒ္ဓအကျင့်ဖြင့်လည်း မျက်မှောက်ပြုနိုင်သည်' ဟုယူသည်။ ယင်းကျမ်း၌ ရှင်အဿဃောသကိုယ်တိုင်က ဗောဓိကိုမသုံးဘဲ 'ယာန' ဟု သုံးခဲ့စေကာမူ ထေရဝါဒအတိုင်းအယူရှိသည် ဟုယူဆနိုင်သည်။

သို့ရာတွင် သာသနာသက္ကရာဇ် ၇၀၀ အတွင်း၌ အသစ်ထပ်မံပေါ်လာသော မဇ္ဈိမိကဂိုဏ်းသားများက 'သာဝကယာနနှင့် ပစ္စေကဗုဒ္ဓယာနတို့မှာ မိမိတစ်ကိုယ်တည်းသာ နိဗ္ဗာန်ကူးရောက်နိုင်၍ တစ်ကိုယ်ကောင်းအကျင့်သာဖြစ်သဖြင့် သတ္တဝါတို့ကို ကယ်တင်နိုင်သောအကျင့် မဟုတ်ကြောင်း။ ဗုဒ္ဓယာနဘုရား ကျင့်စဉ်သည်သာလျှင် သတ္တဝါအများကို ကယ်တင်နိုင်ကြောင်း။ ထို့ကြောင့် ဗုဒ္ဓယာနသည်သာ အမြတ်ဆုံး (မဟာယာန)ဖြစ်၍ ၎င်းအကျင့်ကိုသာ လိုက်နာကျင့်ဆောင်အပ်ကြောင်း'ဖြင့် သဒ္ဓမ္မပုဏ္ဍရိကကျမ်းတွင် ရေးသားဖော်ပြလာရာမှ အဘိဓမ္မာအယူအဆ အငြင်းပွားမှု စတင်လာရသည် ဟု ယူဆရပေသည်။ ယင်း အငြင်းပွားမှုသည် သာသနာသက္ကရာဇ် ၉၀၀ ပြည့်နှစ် ပတ်ဝန်းကျင်တစ်ဝိုက်၌ ယောဂါစာရဂိုဏ်း ပေါ်လာသောအခါ အထွတ်အထိပ်သို့ ရောက်ရှိလာရပြီးနောက်၊ မဟာယာန အယူအဆသစ်ကိုလက်မခံသော သဗ္ဗတ္ထိဝါဒဂိုဏ်းသားများ၊ သုတ္တန္တိကဂိုဏ်းသားများ၊ ဝိဘဇ္ဇဝါဒဂိုဏ်းသားအချို့တို့ကို 'ဟီနယာန' ဟု မဇ္ဈိမိကဂိုဏ်းသားများက နှိပ်ကွပ်ခေါ်ဝေါ်ခဲ့ကြရာမှ 'မဟာယာန'၊ 'ဟီနယာန' ဟူ၍ ကွဲပြားလာရတော့သည်။

## မဟာယာနဗုဒ္ဓဘာသာ အယူအဆများ

'မဟာယာန' ဟူသည် 'သတ္တဝါအားလုံးကို နိဗ္ဗာန်ရွှေပြည်အရောက် သယ်ယူပို့ဆောင်ပေးမည့် ကြီးကျယ်သောယာဉ်' ဟုဆိုလိုသည်။

မဟာယာနဝါဒမှာ 'တစ်ဦးတစ်ယောက်တည်းလွတ်မြောက်မှုသည် လွတ်မြောက်မှုအစစ် မဟုတ်ချေ။ တစ်လောကလုံး တစ်ယောက်မကျန် အကုန်အစင် လွတ်မြောက်ပါမှ လွတ်မြောက်မှုအစစ် ဖြစ်သည်' ဟုဆိုသည်။

'မိမိတစ်ဦးတည်း နိဗ္ဗာန်ရောက်စေနိုင်မည့်ရဟန္တာကျင့်စဉ် (သာဝကယာန)နှင့် ဘုရားငယ်ကျင့်စဉ် (ပစ္စေကဗုဒ္ဓယာန)တို့ကို လုံးဝပစ်ပယ်၍ ဘုရားလောင်းလမ်းစဉ် (မဟာယာန)တစ်ခုတည်းကို လက်ခံသူမှသာ မဟာယာနဂိုဏ်းဝင် ဖြစ်နိုင်သည်' ဆိုသည်။

တစ်ဖန် 'အာလယဝိညာဉ်၊ တထတာ၊ တထာဂတ၊ တထာဂတဂဗ္ဘ၊ ဓမ္မဓာတု ဤသဘောတရားများကို လက်ခံမှသာလျှင် မဟာယာနဂိုဏ်းဝင် ဖြစ်သည်' ဟုဆိုသည်။ ထို့ကြောင့် သဗ္ဗတ္ထိဝါဒ စသော ရှေးပိုင်းဂိုဏ်းများသည် ဤသဘောတရားများကို လက်မခံကြသဖြင့် မဟာယာန မဖြစ်လာဘဲ 'ဟီနယာန' ဟု ကင်ပွန်းတပ်ခံကြရသည်။

'အာလယဝိညာဉ် ဆိုသည်မှာ ထေရဝါဒ၌ဖော်ပြထားသော ဝိညာဉ် ၆ ပါးထက်ပို၍ နောက်ထပ်တိုးထားသော သတ္တမမြောက်ဝိညာဉ် ဖြစ်သည်။ ကျွန်ုပ်တို့ပြုသမျှသော ကုသိုလ်ကံ၊ အကုသိုလ်ကံမျိုးစေ့များ၏ သိုမှီးသိမ်းဆည်း ထားရာဌာန ဟုဆိုလိုသည်။ အာလယဝိညာဉ်၏ တည်ရာမှီရာ မူရင်းအကြောင်းတရားမှာ တထတာ ဖြစ်သည်။

နာမည်ပေးရန်လည်း ခက်ခဲ၍ အဓိပ္ပာယ်ဖွင့်ဆိုရှင်းပြရန်လည်း ခက်ခဲသော မူလဓာတ်ကြီးကို 'တထတာ' ဟုခေါ်သည်။ ထို့အတူ မူလရှိရင်းအတိုင်း၊ နဂိုအတိုင်းရှိ၍ တစ်စုံတစ်ရာပြောင်းလဲခြင်း မရှိ။ မည်သည့်အချိန်မှာပင်မဆို ထို့အတူ ထိုအတိုင်းသာ ရှိနေသည်။ တထတာသည် မလှုပ်မယှက်တည်ငြိမ်နေသည်။ ထိုသို့တည်ငြိမ်နေခိုက်၌ တထတာသည် တည်ရာဒေသ မရှိ။ အာကာသအတွင်း၌ နေရာယူခြင်း မရှိ။ လှုပ်ရှားပြောင်းလဲခြင်း၊ ဖြစ်ပျက်ခြင်း ကင်းသဖြင့် အတိတ်၊ အနာဂတ်၊ ပစ္စုပ္ပန် ကာလ ၃ ပါးမှ လွတ်သည်။ ထိုသို့ ကာလနှင့် အာကာသမှ ကင်းလွတ်နေသဖြင့် ကျွန်ုပ်တို့ သိနားလည်ရန် ခက်ခဲသည်။ ပိုင်းခြားကန့်သတ်မှု မရှိသောကြောင့် ပုံသဏ္ဌာန် အရိပ်နိမိတ်လည်း မရှိ။ အရောင်အဆင်းလည်း မရှိ။ အနံ့အရသာ၊ အတွေ့အထိလည်း မရှိ။ ထို့ကြောင့် 'တထတာ' ခေါ်သော မူလဓာတ်ကြီးကို သိရန်မြင်ရန် ခက်သည်။

တထတာကို 'ပရမတ္ထသစ္စာ' ဟုခေါ်သည်။ နိဗ္ဗာန်ဆိုသည်မှာ တည်ငြိမ်နေသော တထတာကိုပင် ခေါ်သည်။ သတ္တဝါဆိုသည်မှာ တထတာ၏ အသွင်ပြောင်းမှုဖြစ်၍ တထတာမှ ပေါ်ထွက်လာသည် ဟုဆိုလိုသည်။ တစ်နည်းအားဖြင့် လောကကြီးတစ်ခုလုံး ဆိတ်ငြိမ်၍ တထတာအဖြစ်သို့ရောက်သောအခါ သတ္တဝါသည်လည်း တထတာအဖြစ်သို့ ရောက်သွားသည်။ သတ္တဝါသည် တထတာမှ ပေါ်ထွက်လာသောကြောင့် ၄င်းကို 'တထာဂတ'* ခေါ်သည်နည်းတူ တထတာသို့ ပြန်လည်ရောက်ရှိသွားသောကြောင့် 'တထာဂတ' မည်သည်။ 'တထာဂတ' ခေါ်သော သတ္တဝါ၏ မူလအစ ကိန်းအောင်းရာတိုက်ခန်း(ဝမ်းဗိုက်)ဖြစ်သောကြောင့် တထတာသည် 'တထာဂတဂဗ္ဘ'လည်း မည်သည်။ ထို တထတာ ဟူသည် လှုပ်ခတ်ချောက်ချားလာသောအခါ လှုပ်ရှားမှုတစ်ခုစီကို သတ္တဝါတစ်ခုစီ ဟုဆိုရသည်။ ထို လှုပ်ရှားမှုများအားလုံးကို စုပေါင်း၍ စကြဝဠာလောကဓာတ် ဟုခေါ်ရသည်။ ထို စကြဝဠာလောကဓာတ်ကြီးသည် ဓမ္မဓာတု မည်သည်။ အမှန်မှာ လှုပ်ရှားလှိုင်းထနေသော တထတာကိုပင် ဓမ္မဓာတု ခေါ်သည်။

တစ်ဖန် ထေရဝါဒ၌ ဒေသနာတော်ကို 'ဓမ္မကာယ' ခေါ်သော်လည်း မဟာယာနဂိုဏ်းအလို ဓမ္မကာယဆိုသည်မှာ နိဗ္ဗာန် ဟုခေါ်သော တထတာပင် ဖြစ်သည်။ ဗုဒ္ဓသည် ပရိနိဗ္ဗာန်စံတော်မူပြီးနောက်၌ ဓမ္မကာယဖြင့် ဆက်လက်တည်ရှိနေတော်မူသည် ဟုဆိုသည်။

ထေရဝါဒ၌ 'နိဗ္ဗာန်သည် အကြောင်းကင်းမဲ့သော အသင်္ခတဓာတ်ဖြစ်ပြီး ရွေ့ရှားပျက်စီးခြင်းမရှိ (အစ္စုတ)' ဟု ဆိုသည်။ မီးပုံကြီးငြိမ်းသွားသောအခါ ငြိမ်းပြီ ဟုသိရသည်။ ထို ငြိမ်းသွားသောမီးကား အဘယ်သို့ရောက်သွားသနည်းဟု ဆက်လက်ကြံစည်ရန် မလိုတော့ချေ။ မီးငြိမ်းခြင်းသည် နောက်ဆုံးပန်းတိုင်ဖြစ်၍ ပန်းတိုင်ရောက်ပြီးပါက ဆက်လက်သွားရန် မလိုတော့ချေ။ မြတ်စွာဘုရား ပရိနိဗ္ဗာန်စံပြီးသည့်နောက်၌ ပြန်ဖြစ်ခြင်းမရှိတော့သောကြောင့် တစ်ဖန် မြတ်စွာဘုရားကို နတ်၊ လူ၊ ဗြဟ္မာတို့က မမြင်နိုင်တော့ချေ။

မဟာယာနဝါဒအရမှာမူ နိဗ္ဗာန်ဆိုသည်မှာ ဓမ္မကာယ ဖြစ်သည်။ ဗုဒ္ဓသဘာဝ ဖြစ်သည်။ သဗ္ဗညုတဉာဏ်သားစစ်စစ် ဖြစ်သည်။ ဓမ္မကာယအဖြစ်သို့ ရောက်ခြင်း (ဝါ) ဉာဏ်သက်သက်မျှရှိနေခြင်းကို 'ဗုဒ္ဓဘုရားပရိနိဗ္ဗာန်စံသည်' ဟုဆိုသည်။ ထို့ကြောင့် ၄င်းတို့က နိဗ္ဗာန်ကို 'မဟာပရိနိဗ္ဗာန်' ဟုခေါ်ကြသည်။

မဟာယာနဂိုဏ်း၏ မဟာပရိနိဗ္ဗာနသုတ်၌ နိဗ္ဗာန်ကိုဖွင့်ဆိုပုံမှာ 'သံသရာလောကသည် အနိစ္စ၊ ဒုက္ခ၊ အသုဘ၊ အနတ္တ ဖြစ်၍၊ နိဗ္ဗာန်သည် နိစ္စ၊ သုခ၊ သုဘ၊ အတ္တ ဖြစ်သည်' ဟုဆိုသည်။

ထေရဝါဒဂိုဏ်းကမူ နိဗ္ဗာန်ကို နိစ္စ၊ သုခ၊ သုဘ ဟုသာ ဆိုနိုင်၏။ အတ္တ ဟု မဆိုနိုင်ချေ။ နိဗ္ဗာန်သည်လည်း အနတ္တသာလျှင်ဖြစ်ကြောင်းကို 'သဗ္ဗေ ဓမ္မာ အနတ္တာ' ဟု ဘုရားဟော ပါဠိအထောက်အထားရှိသည်။

မဟာယာနအလို 'ဗုဒ္ဓသည် ပရိနိဗ္ဗာန်စံပြီးသောအခါ သဘာဝကာယ (ဓမ္မကာယ)အဖြစ်ဖြင့်တည်ရှိ၍ လူသားအပေါင်းကိုကယ်တင်ရန် လိုအပ်သောအခါ လူ့ပြည်၌ ပြန်လည်ဝင်စားဦးမည်။ လူသား၏အသွင်ကို ယူဦးမည်' ဟုဆိုသည်။

အမှန်မှာ မဟာယာနတို့သည် သဘောတရားရေးအမြင် ခိုင်မာခြင်း မရှိ။ လိုက်လျောညီထွေ လုပ်တတ်သည်။ ဝိနည်းသိက္ခာပုဒ်ကို မလေးစား။ လူ့ဝတ်ကြောင်နှင့် မထူးခြားလှချေ။ မိန်းမများ၊ စာမတတ်သူများ မင်္ဂဖိုလ်ရရေးကို ဦးစားပေးသည်။ 'ထက်မြက်သော စာတတ်ပေတတ်ရဟန်းများ မင်္ဂဖိုလ်ရရန် မလွယ်' ဟုဆိုကြသည်။ နောက်ပေါ် ကျမ်းစာများကို အလေးထားကြသည်။ မဟာယာနဂိုဏ်းသားများသည် ဗုဒ္ဓကို တကယ့်လူသားစင်စစ်မှ ကောင်းကင်

* ယိုးရှေးဘုရားသို့ အတူကျင့်တော်မူသော မြတ်စာဘုရား။ ရဟန္တာ။ သတ္တဝါ။

ဘုံသို့ ပို့လိုက်ကြသည်။ 'ဗုဒ္ဓအစစ်သည် ဤလူ့ပြည်၌ ပဋိသန္ဓေမနေ။ ဖန်ဆင်းရုပ်ပွား (နိမ္မိတရုပ်)သာလျှင် လူ့ပြည်၌ ပဋိသန္ဓေနေဟန်၊ မွေးဖွားဟန်၊ တောထွက်ဟန်၊ တရားဟောကြားဟန်၊ ဆွမ်းစားဟန် စသည်တို့ကို ပြုမူသည်။ လူတို့မျက်စိ၌ တကယ့်လူသား ဟု ထင်မှတ်စေသည်' ဟုဆိုသည်။

၄င်းအပြင် သာကီနွယ်ဖွား ဂေါတမဘုရားသည် နိဗ္ဗာန်ဘုံ၌စံနေသော ဗုဒ္ဓအစစ်၏ကိုယ်ပွားသာ ဖြစ်သည်။ ဗြာဟ္မဏတို့၏ ဗိသနိုးဘုရားဝင်စားသော အဝတာရကဲ့သို့ ဗုဒ္ဓအား နိဗ္ဗာန်၌အမြဲရှိသော ဗုဒ္ဓဘုရားဝင်စားသော ဗောဓိသတ္တ (ဘုရားလောင်း)အဖြစ် တီထွင်ခဲ့ကြသည်။ ၄င်းတို့တီထွင်ထားသော ဗောဓိသတ္တ (ဘုရားလောင်း)များမှာ အောက်ပါအတိုင်း ဖြစ်သည်။

၁ - အရိမေတ္တေယျဘုရားလောင်း
(ထေရဝါဒဗုဒ္ဓဘာသာ၏ အရိမေတ္တေယျဘုရားလောင်းပင် ဖြစ်သည်။)

၂ - အဝလောကိတေသရ ဘုရားလောင်း
(လောကကို အမြဲစောင့်ရှောက်ကြည့်ရှုနေသော ကရုဏာရှင်ဘုရားလောင်း)

၄င်း အဝလောကိတေသရ ဘုရားလောင်း၏ ကိုယ်ပွားများအဖြစ် -

၁- လောကနာထ ဘုရားလောင်း
၂- ဟာယဂီဝါ ဘုရားလောင်း
၃- ခတိဂဗ္ဘ ဘုရားလောင်း
၄- ဝဇီရပါဏိ ဘုရားလောင်း
၅- ခဂဗ္ဘ ဘုရားလောင်း
၆- ဂဂနဂဉ္ဇ ဘုရားလောင်း
၇- ဝိသကမ္ဘင် ဘုရားလောင်း
၈- သမန္တဘဒြ ဘုရားလောင်း
၉- သီဟနာဒလောကေသရ ဘုရားလောင်း

* 'ကွမ်ဆုယင်ဖုဆ' ခေါ် ကွမ်ယင်မယ်တော်ကား အဝလောကိတေတရ ဗောဓိသတ်ပင် ဖြစ်သည်။ သဒ္ဓမ္မပုဏ္ဍရိကကျမ်းက 'ဤဗောဓိသတ်သည် ခရီးသွားများကိုကူညီပြီး၊ ရုပ်ပြောင်း ၃၂ မျိုး ဖန်ဆင်းနိုင်သည်' ဟုဆိုသည်။

၃ - မဉ္ဇုသိရိ ဘုရားလောင်း (သာယာနှစ်သက်ဖွယ် ဂုဏ်ကျက်သရေရှိသော ဘုရားလောင်း)

၄င်း၏ ကိုယ်ပွားအဖြစ် -

- မဉ္ဇုဃောသ ဘုရားလောင်း
- အရပစနဘုရားလောင်း

ဖော်ပြပါ ဘုရားလောင်းများအပြင် - ဈာနီဗုဒ္ဓအဖြစ် -

၁- ဝေရောစန (ရောင်ခြည်ဖြင့်တင့်တယ်သော ဘုရား)
၂- အက္ခောဘ (မတုန်လှုပ်သော ဘုရား)
၃- ရတနသမ္ဘဝ (ရတနာကျောက်မှပေါ်ထွက်သော ဘုရား)

၄- အမိတာဘာ (အနန္တအရောင်အလင်းရှိသော ဘုရား)
၅- အမောဃသိဒ္ဓိ (အမြဲရန်အောင်သော ဘုရား)
၆- ဝဇီရသတ္တ (ဝရမိန်လက်နက်စွဲကိုင်သော ဘုရား)

ဤ ဈာနီဗုဒ္ဓ ၆ ဆူမှ ပေါက်ဖွားလာသော-
၁- သမန္တဘဒ္ဒ (ထက်ဝန်းကျင်မှ ကောင်းမြတ်သူ ဘုရားလောင်း)
၂- ဝဇီရပါဏိ (ဝရမိန်ကိုင်သူ ဘုရားလောင်း)
၃- ရတနာပါဏိ (ရတနာ (ကျောက်) ကိုင်စွဲသူဘုရားလောင်း)
၄- ပဒုမပါဏိ (ပဒုမ္မာကြာကိုင်သူ ဘုရားလောင်း)
၅- ဝိသုပါဏိ (ကမ္ဘာလောကဓာတ်ကို ကိုင်ထားသူ ဘုရားလောင်း)
၆- ဃဏ္ဍာပါဏိ (ခေါင်းလောင်းကိုင်သူ ဘုရားလောင်း) ဟူသော ဗောဓိသတ် (ဘုရားလောင်း) ၆ ပါးကိုလည်း တီထွင်ကိုးကွယ်ကြသည်။

ဈာနီဗုဒ္ဓများမှာ ပါရမီဖြည့်ကျင့်ရန် မလို။ မူလအလိုအလျောက် ဘုရားဖြစ်ပြီးဖြစ်၍ အာဒိဗုဒ္ဓများ ဖြစ်သည်။ လူ့ပြည်သို့ တရားဟောကြွဆင်းတော်မူခြင်း မရှိ။ 'မိမိတို့ကိုယ်စား သတ္တဝါတို့ကိုကယ်တင်ရန် ဗောဓိသတ္တ (ဘုရားလောင်း)များကိုသာ စေလွှတ်ကြသည်' ဟုဆိုသည်။ အထူးမှာ ဘုရား(ဗုဒ္ဓ)များမှာ အပြာရောင်ရောင်ခြည်တော် ဦးခေါင်းတွင်ရှိပြီး၊ ဘုရားလောင်း(ဗောဓိသတ္တ)များမှာ ဦးခေါင်းတွင် သရဖူဆောင်းထားကြသည်။

၎င်းအပြင် မဟာယာနဗုဒ္ဓဘာသာတွင် ဘုရား(ဗုဒ္ဓ), ဘုရားလောင်း(ဗောဓိသတ္တ)များ, 'ဒေဝီ' ခေါ် မယ်တော်များ၏ အနေအထား ပုံဟန်ဖော်ပြမှုကို 'မုဒြာ' ဟုခေါ်ပြီး၊ ယင်း ဘုရား, ဘုရားလောင်း, ဒေဝီများ၏ မုဒြာအမျိုးမျိုးကိုလည်း ဖန်တီးဖော်ပြထားသည်။

ဗောဓိသတ္တ (ဘုရားလောင်း)များသည် သတ္တဝါအားလုံးကို ပညာဉာဏ်အဆင့်မြင့်အောင် ဦးဆောင်မှုပေးရသည်။ အဆင့်နိမ့်သတ္တဝါများကို ကယ်တင်ကြရသည်။ ဖုန်မှုန့်, အထုမြူမှုန့်ပါမကျန် တိရစ္ဆာန်, လူ, နတ်, ဗြဟ္မာ တစ်လောကလုံးကို ဗောဓိသတ္တအဖြစ်ပြောင်းလဲ၍၊ 'တထတာ'ခေါ်သော မူလဓာတ် (ဗုဒ္ဓဘုရား)အဖြစ်သို့ ပို့ဆောင်ပေးရမည့်တာဝန် ရှိသည်။ တစ်လောကလုံး ဗုဒ္ဓဘုရားမဖြစ်မချင်း အကြိမ်ကြိမ် လူဝင်စား၍ ကယ်တင်ကြရသည်။ ဤသို့အားဖြင့် သတ္တဝါအားလုံး ပထမဦး ဗောဓိသတ္တအဆင့်ရောက်ရှိကြပြီးနောက်၊ ဒုတိယအဆင့်အဖြစ် ဗုဒ္ဓအဖြစ်ကို တစ်ပြိုင်နက်တည်း ရယူကြရသည်။

'ဗုဒ္ဓဘုရားဖြစ်ခြင်း ဆိုသည်မှာ တထတာ ခေါ် မူလဓာတ်အဖြစ်သို့ ပြန်လည်ရောက်ရှိကာ တည်ကြည်ငြိမ်သက်နေခြင်းပင် ဖြစ်သည်' ဟုဆိုလိုသည်။

**မဟာယာနတို့၏ တန္တရ, မန္တရအယူအဆများ**

'တန္တရ'ဟူသည်မှာ 'ဉာဏ်ပညာ'ဟု အဓိပ္ပာယ်ရသည်။ အချို့က 'ဂါထာမန္တရား, အင်းအိုင်ခါးလှဲ့, လက်ဖွဲ့ စသည်ကိုဖော်ပြသော ကျမ်းစာ'ဟု အဓိပ္ပာယ်ကောက်ကြသည်။

'တန္တရအယူ' ဟူသည်မှာ ဂါထာမန္တရား များသည် လောကီဉာဏ်ပညာမှစ၍ လောကုတ္တရာဉာဏ်ပညာအထိ ရစေနိုင်သည် ဟု ယူဆသောအယူ ဖြစ်သည်။

တစ်ဖန် ယင်း ဂါထာမန္တရားများကို ရွတ်ခြင်းဖြင့် လောကီကောင်းကျိုးချမ်းသာများကိုသာမက နတ်ရွာချမ်းသာမှသည် မဂ်,ဖိုလ်,နိဗ္ဗာန်ချမ်းသာအထိ ရရှိစေနိုင်သည် ဟု အယူရှိပြန်သောကြောင့် 'မန္တရ' ဟူ၍လည်း ခေါ်ပြန်သည်။

ထေရဝါဒဗုဒ္ဓဘာသာ၌အသုံးပြုသော ပရိတ်တော်များသည် ဘုရားရဟန္တာတို့၏ သီလ, မေတ္တာ, ခန္တီ, ကရုဏာ စသော တန်ခိုးများကိုမှတည်၍ သစ္စာဆိုခြင်း, အဓိဋ္ဌာန်ပြုခြင်းဖြင့် ဘေးအန္တရာယ်ကင်းရသည်ဟု အယူရှိကြသည်။ မဟာယာနအဖွဲ့ တန္တရ, မန္တရ အယူရှိသူများမှာကား ဂါထာမန္တန်ရွတ်ဆိုရုံဖြင့် မကောင်းမှု အကုသိုလ်ကံများ ပပျောက်သည်။ ငရဲကျမည့်ဘေးမှ လွတ်သည်။ 'အကုသိုလ်များကို ရှောင်ခြင်း, ကုသိုလ်ပြုခြင်း, သီလဆောက်တည်ခြင်းများ မလို။ မန္တန်ရွတ်ရုံသာ လိုသည်' ဟု အယူရှိကြသည်။

အမှန်မှာ မဟာယာနတို့သည် ၎င်းတို့၏ကျမ်းများ ကျယ်ပြန့်၍ သိရန်မလွယ်သောကြောင့် သုတ် တစ်သုတ်စီ တစ်သုတ်စီကို ၂ ပိုင်း- ၃ ပိုင်း စသည်ဖြင့် ဆောင်ရွက်ကျက်မှတ်လွယ်ရန် အပိုင်းငယ် (ဓာရဏီ)များ ပြု လုပ်ခဲ့ကြသည်။ တစ်ဖန် ထိုအပိုင်းငယ် (ဓာရဏီ)များကိုပင် ထပ်မံချုံး၍ မန္တရား (မန္တန်)များကို စီရင်ကြပြန်ရာမှ တန္တရ, မန္တရ အယူအဆ ပေါ်လာရတော့သည်။

အဆိုတစ်ရပ်ကမူ ယောဂါစာရဂိုဏ်းသည် ဝိညာဉ်ကိုဦးစားပေး၍ ဝိညာဉ်တိုးတက်ရန် ဘာဝနာပွားနည်းများကို အရေးထားဖော်ပြရာမှ တန္တရ, မန္တရ အယူအဆပေါ်လာရပြီး၊ 'ဓာရဏီ' ခေါ်သော ပရိတ်အမျိုးမျိုးနှင့် မန္တန်များ, 'မဏ္ဍလ' ခေါ် စက်ဝိုင်းတွင်းရှိ ရုပ်ပုံများ, တြိဂံပုံ စသောအင်းကွက်များသည် သမာဓိလုပ်ငန်း၌ အရေးပါလာရ သည် ဟုဆိုသည်။

မည်သို့ပင်ဖြစ်စေ၊ ဤ တန္တရ, မန္တရ အယူရှိသူများသည် ဂုတ္တမင်းဆက်အစပိုင်း သာသနာသက္ကရာဇ် ၈၆၄ နှစ် (အေဒီ ၃၂၀)မှ ဟဿဝဒ္ဓနမင်းလက်ထက် သာသနာသက္ကရာဇ် ၁၁၅၀ ပြည့်နှစ် (အေဒီ ၆၀၆)အထိ ကာလအတွင်း၌ မဉ္ဇုသီရိမူလကပ္ပကျမ်း, ဂုယှသမဇ္ဇကျမ်း, စက္ကသံဝရကျမ်း စသော မန္တရားကျမ်းပေါင်းများစွာကို ရေးသားခဲ့ကြသည်။ မဉ္ဇုသီရိမူလကပ္ပကျမ်းသည် မန္တရား, အင်းအိုင်, ခါးလှည့်, လက်ဖွဲ့, စီရင်ထုံးများကို ဖော်ပြထားသောကျမ်း ဖြစ်သည်။ ဂုယှသမဇ္ဇကျမ်းကား အရက်သောက်ခြင်း, မေထုန်မှီဝဲခြင်း, မန္တန်စုတ်ခြင်း စသည်များကို ဖော်ပြသောကျမ်း ဖြစ်သည်။

အဆိုတစ်ရပ်ကမူ မ၃လုံးခေါ် 'မဇ္ဇ' သေရည်သေရက် မူးယစ်ဆေးဝါးသုံးစွဲခြင်း, 'မံသ' အမဲသားငါး စားခြင်း, 'မေထုန' မေထုန်မှီဝဲခြင်းနှင့် (မစ္ဆရိယ - ငါးမျှားခြင်း, မုဒြ-လက်နေဟန်အမျိုးမျိုးဖြင့် ကမ္မဋ္ဌာန်း ထိုင်ခြင်း ၂ မျိုး ပေါင်းစပ်က မ ၅ လုံး) လုပ်ရပ်များကို တန္တရ, မန္တရအဖွဲ့ ဝဇိရယာနဂိုဏ်းက ကျင့်သုံးသော ကျင့်ဝတ် ဖြစ်သည် ဟုဆိုသည်။ ဤ ဝဇိရယာနတို့၏ကျင့်ဝတ်ကို ဒုတိယနာဂအဖွဲ့ (သာသနာ ၁၁၄၄- ၁၁၉၄ နှစ်၊ အေဒီ ၆၀၀-၆၅၀)က တီထွင်ခဲ့ပြီး အိန္ဒိယအရှေ့ပိုင်းဒေသများ, ဘင်္ဂလားနယ်, အာသံ တောင်တန်းနှင့် အိန္ဒိယအနောက်ပိုင်းပက်ရှဝါတို့၌ ပြန့်ပွားထွန်းကားခဲ့သည် ဟုဆိုသည်။

ဤ ဝဇိရယာန ရဟန်းများသည် မိမိတို့၏လုပ်ရပ်များ အယုတ်ညံ့ဆုံးဖြစ်စေကာမူ လူများအား မွန်မြတ်သော လုပ်ငန်းများဖြစ်ကြောင်း ထင်မြင်လာစေရန် 'သီရိသမဇ္ဇ' ခေါ် ဂုယှသမဇ္ဇ (နာဂအဖွဲ့ရေး), ပညောပယ ဝိနိစ္ဆယသိဒ္ဓိ (အနင်္ဂဝဇီရရေး)ကျမ်းနှင့် ရေးသူ အမည်မပေါ်သော သာနေမာလာကျမ်း, ညာဏသိဒ္ဓိကျမ်းများကို ရေးသားခဲ့ကြသည်။ ဤကျမ်းများတွင် အထက်ဖော်ပြပါ မ ၃ လုံး, မ ၅ လုံး လုပ်ရပ်အပြင်၊ လုယက်မှု, လိမ်လည်မှု, ခိုးမှု, သူတစ်ပါးမယား ကြာခိုမှုများကိုပါ ထောက်ခံအားပေးထားသည် ဟုဆိုသည်။

သို့ရာတွင် ဤ တန္တရ၊ မန္တရအနွယ် ဝဇိရယာနရဟန်းတို့၏ မ ၃ လုံး၊ မ ၅ လုံး ခေါ် လုပ်ရပ်များကား အစပထမ၌ လျှို့ဝှက်တည်ရှိခဲ့သည်။ အဖွဲ့ဝင်အချင်းချင်းသာ သိကြသည်။ ဤနည်းဖြင့် ၎င်းတို့သည် ၇ ရာစု အတွင်း၌ ယင်းတို့လုပ်ရပ်များကို ပုန်းလျှိုးပြုလုပ်ကြပြီး၊ အပြင်လူများနှင့်တွေ့လျှင် 'မိမိတို့က မဟာယာန' ဟု ထုတ်ဖော်ပြောကြသည်။ ၎င်းတို့တွင် သီးခြားဝိနည်း မရှိ၍ သိက္ခာတင် ရဟန်းပြုလိုသူများအား သဗ္ဗတ္ထိဝါဒ စသောဂိုဏ်းများထံ သိက္ခာတင်စေခဲ့ကြသည်။

နာလန္ဒာ၌ မဟာယာနခိုင်မြဲသော ၈ ရာစုတွင် ထိုအရပ်ရှိ ရဟန်းများမှာ သဗ္ဗတ္ထိဝါဒဂိုဏ်း နောက်လိုက်များ ဖြစ်ပြီး၊ ဗောဓိသတ် (ဘုရားလောင်း)ကျင့်စဉ်ကိုကျင့်လျက် အရက်သောက်၊ မိန်းမလိုက်ကြသူ တန္တရယာနီ၊ မန္တရယာနီများသာ ဖြစ်ကြသည်။

ဤသို့ ယင်းလုပ်ရပ်များကို လျှို့ဝှက်ခဲ့ကြရာမှ ၇ ရာစုအတွင်း၌ပင် ဣန္ဒဘူတိဘုရင်နှင့် သူ၏ဆရာ အနင်္ဂဝဇိရ ဦးဆောင်သော ပုဂ္ဂိုလ်တစ်စုသည် 'မိန်းမများကို ယောကျ်ားတို့၏လွတ်မြောက်ရေးပေးသူ' မုတ္တိပါဏီ (မုတ္တိဒါတြီ)၊ အရက်ကို 'အမြိုက်(အမတ)' ဟု ခေါ်၍ ပွင့်ပွင့်လင်းလင်းပြုလုပ်လာကြသည်။ ၎င်းတို့သည် ဘုရင့်သမီးကိုပင် ကာမ လျှူဒါန်းစေခဲ့ကြသည်။ အချို့သော မဟာယာနအနွယ် တန္တရ၊ မန္တရ ရဟန်းများသည် ဦးခေါင်းခွံကို သပိတ်ပြုကိုင်ကျင့်ခြင်း၊ တောထဲနေကျင့်ခြင်း၊ ဖိနပ်စီးကျင့်ခြင်း၊ စောင်ခြုံကျင့်ခြင်း၊ ဆုံငယ်ဆွဲကိုင် ကျင့်ခြင်း၊ စည်တိုတစ်မျိုး ဆွဲကိုင်ကျင့်ခြင်း စသည်ဖြင့် 'ဟိပနော်တစ်ဇင်း' ခေါ် စိတ်ညှို့ပညာကို အသုံးပြုကာ ယောဂအမျိုးမျိုး၊ သိဒ္ဓိအဖုံဖုံကိုလိုက်စားလျက် ဂါထာမန္တရား၊ အင်းအိုင်ခါးလှည့် လက်ဖွဲ့ စုတ်ကြတိုးကြန့်ကြလျက် ရှိသည်။ ဘုရင်များသည်ပင် စစ်ထွက်ရာ၌ အဆောင်ကောင်း ဆောင်ကြသည့်အပြင် သိဒ္ဓိမြောက်သူ၊ ဂါထာမန္တရား မန်းမှုတ်တတ်သူများကိုခေါ်၍ စစ်ထွက်လေ့ရှိသည်အထိ တန္တရ၊ မန္တရ အယူဝါဒ ခေတ်စား အရေးပါလာသည်။ အချုပ်အားဖြင့် သာသနာသက္ကရာဇ် ၁၃၀၀ ပြည့်နှစ် (အေဒီ ၈၀၀)ခန့်တွင် အိန္ဒိယရှိ မဟာယာနများမှာ တန္တရ၊ မန္တရ အယူရှိသော မဟာယာနချည်းသာ ရှိနေရတော့သည်။ ဗြာဟ္မဏဘာသာနှင့် မဟာယာနဗုဒ္ဓဘာသာတို့ မှာလည်း ချွတ်စွပ်တူနေတော့သည်။

တစ်ဖန် ၎င်း တန္တရ၊ မန္တရ အယူရှိသူတို့သည် အင်းအိုင်ခါးလှည့်၊ လက်ဖွဲ့၊ ဂါထာ၊ မန္တရား၊ မှော်၊ ဝိဇ္ဇာ စသော ပညာရပ်များနှင့်ပတ်သက်၍ လူပရိသတ်ရှေ့တွင် ဆွေးနွေးလေ့ မရှိကြချေ။ သဘောတူသူအချင်းချင်း အစုငယ်များဖွဲ့၍ တိုးတိုးတိတ်တိတ် ဆွေးနွေးလေ့ရှိကြသည်။ ဆရာကလည်း မိမိတပည့်ရင်း လူယုံများကိုသာ ယင်းလျှို့ဝှက်ပညာရပ်ကို သင်ကြားပေးလေ့ ရှိသည်။ ဤဝါဒကား လျှို့ဝှက်ဝါဒဖြစ်၍ မိမိအနေဖြင့် စာဖတ်ရုံဖြင့် နားမလည်နိုင်။ ကိုယ်တိုင် ကျင့်သုံးအားထုတ်သော်လည်း မရနိုင်။ ဆရာက လက်ထပ်သင်ပေးမှ ရနိုင်သည်။ ဤ တန္တရ၊ မန္တရဂိုဏ်းတွင် ဆရာသည် ဗုဒ္ဓဖြစ်ပြီး၊ ဆရာဖြစ်သူက 'ဗောဓိစိတ္တာဘိသိက်' ခေါ် ရေစင်သွန်းဖျန်းပေးမှ တပည့်ဖြစ်သူ ပညာဉာဏ်အဆင့်တိုးတက်၍ "ဆရာ" ဟူသောဗုဒ္ဓအဖြစ်သို့ ရောက်နိုင်သည် ဟုဆိုသည်။

အမှန်မှာ 'ဂါထာမန္တရားရွတ်က မကောင်းဆိုးဝါးနှင့် ဘေးအန္တရာယ်များ ကင်းနိုင်သည်' ဟူသော တန္တရ၊ မန္တရအယူဝါဒသည် ကမ္ဘာဦးလူသား စတင်ပေါ်ထွန်းချိန်မှစ၍ ယနေ့တိုင် လူအဖွဲ့အစည်းအများစုတွင် တည်ရှိနေသော အယူဝါဒတစ်ရပ် ဖြစ်သည်ဟု ယူဆနိုင်သည်။ အလားတူ အိန္ဒိယပြည်တွင်လည်း ဗုဒ္ဓမြတ်စွာ မပေါ်ထွန်းမီကာလကပင် ဗြာဟ္မဏတို့က တန္တရ၊ မန္တရအယူဝါဒကို လက်ခံကျင့်သုံးနေကြပြီး ဖြစ်သည်။ ၎င်းတို့၏ တန္တရ၊ မန္တရကျမ်းများမှာ ကုဏ္ဍလိနီ၊ ယောဂိနီ၊ ကုလာဝဏ္ဏ၊ ဝုတ္တသာနေ၊ ရုဒြယမလ၊ ဗြဟ္မယမလ စသည်တို့ ဖြစ်ကြသည်။ ဤ ဗြာဟ္မဏတို့၏ 'တန္တရ၊ မန္တရ' ခေါ် စုန်း၊ ကဝေ၊ တစ္ဆေ၊ မှော်၊ ဝိဇ္ဇာအတတ်များ သည် မဂ်ဖိုလ်နိဗ္ဗာန်ရောက်ကြောင်းတရားနှင့် ဇီလာဖြစ်သောကြောင့် တိရစ္ဆာနဝိဇ္ဇာဖြစ်ကြောင်း၊ ပယ်အပ်ကြောင်းကို ဗုဒ္ဓမြတ်စွာဘုရားက ဗြဟ္မဇာလသုတ္တန် မဟာသီလသုတ်၌ ဟောတော်မူခဲ့သည်။

တစ်ဖန် ဤ တန္တရ၊မန္တရ အတတ်ကို 'ဂန္ဓာရ'မည်သောရသေ့ စီရင်ခဲ့သည် ဟု ဆိုသည်။ တစ်နည်းအားဖြင့် ပန်ဂျပ်နှင့် ကသ္မီရတို့၏ အနောက်မြောက်ဘက်တွင် ကပ်လျက်ရှိသော ဂန္ဓာရတိုင်းသားများနှင့်တကွ ယင်းအနီးအနား ရှိ ကသ္မီရတိုင်းသားများပါ စုန်း၊ နတ်၊ တစ္ဆေ၊ ကဝေ၊ ပယောဂ စသော တန္တရ၊ မန္တရ အတတ်များတတ်မြောက် ကြောင်း ကျော်စောလျက်ရှိသည်။ ထိုသို့ကျော်စောကြောင်းကို တရုတ်ရဟန်းတော် ဟီယန်ဆိုင် (၇ ရာစု)နှင့် မာကိုပိုလို (၁၃ ရာစု)တို့ကလည်း သူတို့၏မှတ်တမ်းများတွင် ရေးသားခဲ့ကြသည်။

ယင်း ဂန္ဓာရတိုင်းမှလာသော အတတ်ပညာဖြစ်သောကြောင့်၊ တစ်နည်းအားဖြင့် ဂန္ဓာရရသေ့ စီရင်သော အတတ်ပညာဖြစ်သောကြောင့် ယင်းတန္တရ၊ မန္တရအတတ်ကို 'ဂန္ဓာရီအတတ်' ဟု ခေါ်ကြသည်။ ၎င်းကား 'စူဠဂန္ဓာရီ၊ မဟာဂန္ဓာရီ' ဟူ၍ ၂ မျိုး ကွဲသည်။

အသီတိမဟာ သာဝကီဝင်ဖြစ်သော ပိလိန္ဒဝစ္ဆထေရ်လောင်းလျာသည် ဘုရားနှင့်မတွေ့မီ စူဠဂန္ဓာရီအတတ်ကို တတ်၍ ကောင်းကင်ပျံနိုင်ကြောင်း။ မဟာဂန္ဓာရီအတတ်ကား ထို့ထက် တန်ခိုးအာနုဘော်ကြီးကြောင်းကို ဓမ္မပဒ အဋ္ဌကထာ၌ ဆိုထားသည်။ အလားတူ အလ္လကပ္ပမင်း၊ ဝေဋ္ဌဒီပမင်း၊ ဥတေနမင်းတို့သည် ဆင်များကို လာစေနိုင် သော ဟတ္ထိကန္တ မန္တရားတတ်ကြောင်းကို ဓမ္မပဒအဋ္ဌကထာတွင် ဆိုထားသကဲ့သို့၊ 'စောရဃာတက'မည်သော ခိုးသူသတ်ယောကျ်ားကလည်း လူကို လေဖြင့်မှုတ်၍သေစေနိုင်သောမန္တရားကို တတ်ကြောင်း ရသဝါဟိနီ၌ ဖော်ပြ ထားသည်။ ၎င်းအပြင် ဆဝသီသမန္တန်၊ ဝေဒဗ္ဗမန္တန်၊ သဗ္ဗရုတဉာဏ မန္တရား၊ ပဒလက္ခဏ မန္တရား စသည် အကြောင်းများကို ဖော်ပြသော ဇာတ်နိပါတ်တော်များလည်း ရှိသည်။ နောက်ပိုင်းတွင် ယင်း မန္တန်အတတ်များကို တတ်မြောက်သော ဗြာဟ္မဏ(ပုဏ္ဏား)တို့သည် မဟာယာနသာသနာ့ဘောင်သို့ ဝင်ရောက်လာကြပြီး၊ ၎င်းတို့၏ တန္တရ၊ မန္တရအကျင့်နှင့် ယောဂအကျင့်များကို ရဟန်းဝတ်ဖြင့် ကျင့်သုံးလာကြသဖြင့် ယင်း တန္တရ၊မန္တရ အယူဝါဒ သည် မဟာယာန ဗုဒ္ဓဘာသာအတွင်း၌ ပေါ်လွင်လာရတော့သည်။ ဂါထာမန္တရားရွတ်ခြင်း၊ အင်းချခြင်း စသော တန္တရ၊ မန္တရအတတ်ဖြင့် လောကီသိဒ္ဓိပေါက်ရုံသာမက မဂ်၊ဖိုလ်၊နိဗ္ဗာန်ကိုပါ ရနိုင်သည် ဟုယူဆလာကြတော့ သည်။ ဤနည်းဖြင့် ၎င်းရဟန်းများသည် တန္တရ၊ မန္တရကျမ်းများကို အခိုင်အမာရေးသားလာကြတော့သည်။

မဟာယာန တန္တရ၊ မန္တရဝါဒ၌ လက်ဝဲလမ်း၊ လက်ယာလမ်း ဟူ၍ ခွဲခြားထားသည်။ ၎င်းတို့သည် ဘုရားလောင်းနတ်များအပြင် မယ်တော်နတ်သမီးအမျိုးမျိုးကိုလည်း လက်ခံထားကြပြီး၊ ၎င်းတို့၏ အကူအညီဖြင့် နတ်ကိုးကွယ်သူများ၊ မန္တန်ရွတ်သူများသည် သိဒ္ဓိအမျိုးမျိုး၊ တန်ခိုးအမျိုးမျိုးကို ရနိုင်သည်ဟု ယုံကြည်ကြသည်။ ဗြာဟ္မဏတို့သည် ရှီဝ နတ်ဘုရား၏ ပုရိသနိမိတ်ကို ကိုးကွယ်သကဲ့သို့ ရှီဝနတ်ဘုရား၏ တန်ခိုးသတ္တိ ဟူသော 'ရှတ်ကတိ' ခေါ် အမတေ် (ရှီဝ၏ မိဖုရား) နတ်သမီးကိုလည်း ကိုးကွယ်ကြသည်။ ၎င်းနတ်မိဖုရားကို 'မဟာဒေဝီ၊ မဟာမာတာ (မယ်တော်ကြီး)၊ ဥမာ၊ ဒုရဂါ၊ ကာလီ' ဟူ၍ အမည်အမျိုးမျိုးခေါ်ကြသည်။ ယင်းနတ်သမီးသည် လက်ဝဲလမ်းခေါ် အောက်လမ်းသမားများ မော်သွင်းသောအခါ ပသချိုန်တွင် အလွန်ကြောက်မက်ဖွယ် ကြမ်းကြုတ် သောအသွင်ရှိသောကြောင့် 'စဏ္ဍီ' သို့မဟုတ် 'ဘေရဝီ' ဟူ၍ ခေါ်သည်။ ဤနတ်သမီးကို ဗြာဟ္မဏ တန္တရ၊ မန္တရဝါဒီများ ကိုးကွယ်ကြသကဲ့သို့ မဟာယာန တန္တရ၊ မန္တရဝါဒီများလည်း ကိုးကွယ်ကြသည်။ ဤနတ်သမီးအပြင် အောက်ပါ နတ်သမီးများကိုလည်း တီထွင်၍ ကိုးကွယ်ကြသည်။

၁- ပညာပါရမိတာ နတ်သမီး - ပညာပါရမီ၊ သို့မဟုတ် ပညာပါရမိတာကျမ်း၊ သို့မဟုတ် မန္တန်၊ သို့မဟုတ် ဗောဓိသတ္တရင်ခွင်၌ရှိသော နတ်သမီးကို ခေါ်ခြင်းဖြစ်သည်။ ဤနတ်သမီးကား မဟာယာနတို့ ပထမဆုံးတီထွင်သော နတ်သမီး ဖြစ်သည်။ ပညာပါရမိတာသုတ်

၌ ပညာကို ဘုရားအားလုံး၏မယ်တော် ဟုတင်စား၍၊ ဗုဒ္ဓကို ၎င်းမယ်တော်က မွေးထုတ်ခဲ့သည် ဟု တင်စားထားသည်။ ထို့ကြောင့် ၎င်းနတ်သမီးကို မဟာယာန တို့က ဗုဒ္ဓနှင့်တန်းတူ၊ တစ်ခါတစ်ရံ ဗုဒ္ဓအထက်ကထား၍ ကိုးကွယ်ကြလေ့ ရှိသည်။ ၎င်းနတ်သမီး၏ ဘယ်လက်ရှိ ကြာပွင့်ပေါ်တွင် ပိဋကတ် ၃ ပုံ ရှိသည်။

၂- တာရာဒေဝီမယ်တော် - ဘေးရန်ကာကွယ်သည့်အပြင် အလိုဆန္ဒပြည့်ဝစေနိုင်သည်ဟု ဆိုသည်။ အဝလောကိတေသရ ဘုရားလောင်းသည် အမျိုးသမီးအသွင်ဆောင်၍ 'တာရာဒေဝီ' အမည်ခံသောကြောင့် 'ဘုရားမ' ဟူ၍လည်း ခေါ်သည်။ ၎င်း အဝလောကိတေသရ ဘုရားလောင်း၏မျက်ရည်အိုင်တွင်ပေါက်သော ကြာမှ တာရာဒေဝီကို မွေးဖွားလာသည် ဟုဆိုသည်။ အဖြူစင်၊ အသွားအို၊ ဘီလူးမ အသွင်အမျိုးမျိုး ပြောင်းလဲနိုင်သည်ဟု ဆိုသည်။

၃- ဝဇိရတာရာဒေဝီ - ဝရဇိန်ကဲ့သို့ မာကျောသော တာရာဒေဝီနတ်သမီးအဖြစ် ကြာပွင့်ကြာငုံအတွင်း၌ ထုလုပ်ကိုးကွယ်ကြသည်။

၄- မဟာပတိသရာဒေဝီ - နိုင်ငံ၊ မြို့ပြ၊ ပြည်ရွာကို စောင့်ရှောက်သော၊ ဝေါ်မှတ်ဘေးရောဂါဘေးတို့မှ စောင့်ရှောက်သော နတ်သမီး ဖြစ်သည်။ မျက်လုံး ၃ လုံးစီရှိသော မျက်နှာ ၃ ခု ရှိသည်။ အနေအထား (မုဒြာ)အမျိုးမျိုးရှိသော လက် ၁၀ ဖက် ရှိသည်။

၅- နိရာတမာဒေဝီ - အာတမာ (အတ္တ) မရှိခြင်း၊ နိရာတမာ (အနတ္တ)ကို ဒေဝီနတ်သမီးပြု၍ တင်စားကိုးကွယ်ကြခြင်း ဖြစ်သည်။ ဗောဓိသတ္တသည် နိရာတမာဒေဝီရင်ခွင်သို့ဝင်၍ ဖက်ထားပုံကို ထုလုပ်ကိုးကွယ်ကြသည်။

၆- မရိစိဒေဝီ - အရုဏ်ဦးနတ်သမီးဖြစ်ပြီး ဝက် ၇ ကောင် ကသောရထားကို စီးထားသည်။ ဝေရောစနဗုဒ္ဓဘုရား၏မိဖုရား (သတ္တိ)လည်း ဖြစ်သည်။

၇- ပဏ္ဏသဝရိဒေဝီ - တောင်ပေါ်သားလူရိုင်းများ ကိုးကွယ်သော နတ်သမီးဖြစ်သည်။ မျက်နှာ ၃ ဘက်၊ လက် ၆ ဖက် ရှိသည်။

## မဟာယာန ဗုဒ္ဓဘာသာတက္ကသိုလ်ကျောင်းတော်ကြီးများ

သာသနာနှစ် ၁၀၀၀ (အေဒီ ၅၀၀)ကျော်မှစ၍ အိန္ဒိယပြည်တွင် မဟာယာန ဗုဒ္ဓတက္ကသိုလ် အများအပြား ပေါ်ခဲ့သည်။ ယင်းတက္ကသိုလ်များကို မဟာယာနဗုဒ္ဓဘာသာ ဘုရင်များသာမက ဟိန္ဒူဘုရင်များပါ အားပေးခဲ့ကြသည်။ ဤတက္ကသိုလ်ကြီးမှပင် တရုတ်၊ ဂျပန်နှင့် အခြားဒေသများသို့ မဟာယာနဗုဒ္ဓသာသနာကို ဖြန့်ချိခဲ့ခြင်း ဖြစ်သည်။ သာသနာသက္ကရာဇ် ၁၃၀၀ (အေဒီ-၉၀၀) နောက်ပိုင်း၌မူ ဤတက္ကသိုလ်ကြီးများသည် ဝဇိရယာန ဝါဒဖြန့်ချိရာ ဗဟိုဌာန ဖြစ်လာခဲ့ကြသည်။ ယင်းတက္ကသိုလ်များမှာ အောက်ပါအတိုင်း ဖြစ်သည်။

၁ - နာလန္ဒာတက္ကသိုလ် - ဤတက္ကသိုလ်ကား နာမည်ကျော်ကြား လူသိအများဆုံး ဖြစ်သည်။ သာသနာသက္ကရာဇ် ၁၀၀၀ ပြည့် (အေဒီ-၅၀၀)ကျော်က ကုမာရဂုတ္တမင်းက စတင်တည်ထောင်ခဲ့သည်။ မဟာယာနစာပေများကို ဗြာဟ္မဏတို့၏ ဝေဒစာပေနှင့် တွဲဖက်၍ သင်ခဲ့သည်။ ဤတက္ကသိုလ်တွင် စာသင်သား ရဟန်း ၁ သောင်းနှင့် စာချဆရာတော် ၁၅၀၀ ရှိသည်ဟု တရုတ်ရဟန်း ဟီယန်ဆိုင်နှင့် အိုက်ဆင်တို့က မှတ်တမ်းတင်ခဲ့သည်၊ ရတနာများနှင့် စီခြယ်ထားသည့်ပြင် ပိဋကတ်တိုက်များကိုလည်း ကျောင်းဝင်း ပတ်လည်၌ ဆောက်လုပ်ထားပြီး အထပ် ၉ ထပ်ပင် ရှိသည်။ သာသနာနှစ် ၁၇၀၀ ကျော်၌ တူရကီအနွယ်ဝင် မဟာမေဒင်တို့သည် နာလန္ဒာတက္ကသိုလ်ကို စစ်တပ်နှင့်ဝိုင်းရံ၍ ကျောက်မျက်များကို လုယက်ယူကြသည့်အပြင် ရဟန်းများကိုလည်း သတ်ရာ ၁ သောင်းကျော် သေခဲ့ရသည်ဟု ဆိုသည်။

တူရကီ ရာဇဝင်ဆရာ မင်ဟာဒေ်ကမူ ရဟန်းပေါင်း ထောင်ပေါင်းများစွာ ခေါင်းဖြတ်ခံရ၊ ထောင်ပေါင်းများစွာ အရှင်လတ်လတ် မီးရှို့အသတ်ခံရပြီး၊ ပိဋကတ်တိုက်များကို မီးရှို့ဖျက်ဆီး၍ မီးလောင်ရာ လပေါင်းများစွာ ကြာသည်ဟု 'တဗကတအင်နာဆီတီ'စာအုပ်၌ ရေးသား ဖော်ပြထားသည်။

၂ - ဝလဘီတက္ကသိုလ် - ဤတက္ကသိုလ်မှာ အိန္ဒိယအနောက်ပိုင်းတွင်ရှိ၍ သမ္မတိဝါဒ ဟီနယာနစာပေကို သင်ကြားပေးသည်။ နာလန္ဒာတက္ကသိုလ်နှင့်အပြိုင် ဖြစ်သည်။

၃ - ဝိက္ကမသီလာတက္ကသိုလ် - ဤတက္ကသိုလ်ကို ပါလမင်းဆက်လက်ထက်၌ တည်ထောင်သည်။ ဂင်္ဂါမြစ်၏ လက်ယာဘက်တွင်ရှိသည်။ ဤတက္ကသိုလ်ကျောင်းထွက်များကို ပဏ္ဍိတဘွဲ့ ပေးသည်။ သာသနာနှစ် ၁၇၄၃ (အေဒီ ၁၃၀၀)ခန့်၌ ဘီဟာနယ်ကို မဟာမေဒင်များသိမ်း၍ ရဟန်းအဖြေစစ် ရှင်းပွဲပြုလုပ်ရာ၌ ဤတက္ကသိုလ်မှ ရဟန်းအများစု အသတ်ခံခဲ့ရသည်ဟု ဆိုသည်။ ဤတက္ကသိုလ်ကျောင်းအုပ် 'အတိဆာ'ခေါ် ဒီပင်္ကရာဉာဏသည် တိဗက်ဘုရင်ပင့်ဖိတ်ချက်အရ တိဗက်သို့ သာသနာနှစ် ၁၆ ရာစု (ခရစ်နှစ် ၁၁ ရာစု)တွင်ကြွရောက်၍ လားမား ဗုဒ္ဓဘာသာသာသနာကို တည်ထောင်ခဲ့သည်။

အထူးမှာ အတိဆာဆရာတော်သည် ဩဒန္တပူရီတက္ကသိုလ်၌ပညာသင်ခဲ့သည့်အပြင် 'သုဝဏ္ဏဒီပ' ခေါ် အင်ဒိုနီးရှားသို့သွား၍ ဆရာတော် စန္ဒြကိတ္တိထံ၌လည်း တန္တရ, မန္တရပညာကို သင်ခဲ့သည်ဟု အချို့ကဆိုကြသော အချက် ဖြစ်သည်။ ဩဒန္တပူရီတက္ကသိုလ်မှာ တန္တရ, မန္တရပညာရပ်ကိုသာ အဓိကသင်ကြားသောတက္ကသိုလ်ဖြစ်၍၊ ယင်းတက္ကသိုလ်၌ပင် တန္တရ, မန္တရပညာရပ်ကို လုံလောက်စွာသင်ယူရရှိနိုင်ပါလျက် အင်ဒိုနီးရှားသို့သွားရောက်၍ ယင်းပညာရပ်ကို သင်ယူရသေးသည် ဟူသောအဆိုမှာ ထူခြားလျက်ပင်ရှိသည်။

ထိုထက်ထူးခြားသည်မှာ ယင်း အတိဆာဆရာတော်သည် မြန်မာနိုင်ငံ ပဲခူးသို့လည်း သာသနာနှစ် ၁၅၇၀ (အေဒီ-၁၀၂၆)၌ လာရောက်၍ အရည်းကြီးဝါဒဖြစ်သော တန္တရပညာရပ်ကို သင်ကြားသည်ဟူသော အဆိုပင်ဖြစ်သည်။ ဤအဆိုကို ရေးသားဖော်ပြသောစာအုပ်မှာ 'သန်လျင် ကျိုက်ခေါက်စေတီတော်ဘုရားသမိုင်း' ဖြစ်သည်။ ယင်းစာအုပ်တွင် သမိုင်းရေးသူက 'တိဗက်တာရနာထ လားမားဘုန်းတော်ကြီး၏မှတ်တမ်းအရ ဘင်္ဂလား

ပြည်မှ ရှင်ဝသုဗန္ဓုသည် သူ၏တပည့်ရဟန်းများကို ပုဂံနှင့်ပဲခူးအရပ်များသို့ သာသနာနှစ် ၁၀၅၀-၆၀ (အေဒီ ၅၀၆-၅၁၆) လောက်တွင် မဟာယာနဗုဒ္ဓဘာသာကို ပြုစုရန် စေလွှတ်လိုက်သည်ဟု ရေးသားထားပြီး အရည်းကြီး ဝါဒ ခေါ် တန္တရယာနသည် ပုဂံ၌ကဲ့သို့ပင် သန်လျင်၊ ပဲခူးတို့၌လည်း ထွန်းကားနေသည့်အပြင် အိန္ဒိယပြည် ဘင်္ဂလားနယ် တန္တရယာနထက်ပင် ဆန်းကြယ်နေသောကြောင့် ဘင်္ဂလားပြည်သား အတိသ (အတိဿ) ခေါ် ဒီပင်္ကရသြီဇ္ဇာဏသည် ပဲခူး၊ သန်လျင်သို့လာ၍ တန္တရအလေ့အကျင့်များကို သာသနာနှစ် ၁၅၇၀ (အေဒီ-၁၀၂၆) လောက်တွင်သင်ယူပြီးနောက် တိဗက်ပြည်၌ တန္တရယာနအယူကို ပြုစုပေးခဲ့သည်ဟု သူ၏တပည့် ဗရွမ်တွန်ရေးသားချက်အရ သိရသည်' ဟု ရေးသားဖော်ပြထားသည်။

ဤ၌ ရှေးဦးစွာ ယင်းစာအုပ်ပါ ဖော်ပြထားသော ရှင်ဝသုဗန္ဓုကား မည်သူဖြစ်သည်ကို စိစစ်ရန်လိုသည်။ သာသနာသမိုင်းတွင် ထင်ရှားကျော်ကြားလှသော သဗ္ဗတ္ထိဝါဒဂိုဏ်း အဘိဓမ္မာကောသဆရာ ရှင်ဝသုဗန္ဓုသည် ဂန္ဓာရတိုင်း ပက်ရှဝါမြို့ (ပုရိသပုရ)၌ သာသနာနှစ် ၉၆၄ (အေဒီ-၄၂၀)တွင် မွေးဖွား၍ သာသနာနှစ် ၁၀၄၄ (အေဒီ-၅၀၀)၌ ပျံလွန်တော်မူခဲ့သည်။ ဤအရှင်သည် ကက်ရှမီးယားသို့ မထင်မရှားသွား၍ ပညာသင်ကြားခဲ့ပြီး ဂန္ဓာရတိုင်းသို့ ပြန်ရောက်လာသောအခါ အဘိဓမ္မာကောသကျမ်းကို ပြုစုခဲ့ခြင်း ဖြစ်သည်။

ယင်းစာအုပ်တွင် ဖော်ပြထားသော အရှင်ဝသုဗန္ဓုမှာ သာသနာနှစ် ၁၀၅၀-၆၀၌ တပည့်များကို ပညာသင် လွှတ်သည်ဟု ဆိုသဖြင့်၊ ၆ နှစ်နှင့် ၁၆ နှစ် ကွာနေသောကြောင့် အဆိုပါ ပညာကျော်ဆရာတော် ရှင်ဝသုဗန္ဓု မဟုတ်ကြောင်း ထင်ရှားသည်။ တစ်ဖန် ထိုကာလတစ်ပိုက်တွင် အိန္ဒိယ၌ထင်ရှားနေသော 'ရှင်ဝသုဗန္ဓု'အမည်ရှိ ပုဂ္ဂိုလ်မှာလည်း ယင်းပညာကျော် ဆရာတော်မှတစ်ပါး အခြားရှိသေးကြောင်း ခိုင်မာသောမည်သည့်သမိုင်းမှတ်တမ်း များကမျှ ဖော်ပြထားခြင်းမရှိသောကြောင့် အဆိုပါစာအုပ်တွင်ဖော်ပြသော တိဗက်တာရနာထ လားမားဘုန်းကြီး၏ မှတ်တမ်းသည် မှန်ကန်ခိုင်မာမှုမရှိကြောင်း ထင်ရှားလှသည်။

တစ်ဖန် မြန်မာရာဇဝင်၊ မွန်ရာဇဝင် အစောင်စောင်တို့၏အဆိုအမိန့်များနှင့် ကျောက်စာ၊ စေတီ၊ပုထိုး စသောအထောက်အထားများအရ ပုဂံ၊ သရေခေတ္တရာ စသော ပျူတို့၏ဒေသများတွင်သာ အရည်းကြီးဝါဒ မဟာယာနရှိကြောင်း၊ ပဲခူး၊ သထုံ စသော ရာမညဒေသများတွင် ထေရဝါဒဗုဒ္ဓ သာသနာထွန်းကားခဲ့ကြောင်းကို မြန်မာနိုင်ငံသားတိုင်း သိရှိထားကြပြီး ဖြစ်သည်။ သို့ဖြစ်၍ တိဗက်တာရနာထ လားမားဘုန်းကြီးက စာအုပ်တွင် ဖော်ပြထားသည့်အတိုင်း မှတ်တမ်းရေးခဲ့ရိုးမှန်လျှင်လည်း ယင်းမှတ်တမ်းသည် ဒေသမကျွမ်းမှုအပေါ် အခြေခံ၍ ရမ်းမှန်းဖြန်းသန်းရေးသားထားသော မှတ်တမ်းဖြစ်ကြောင်း ထင်ရှားနေပြန်သည်။ ထို့ကြောင့် အဆိုပါ တိဗက် တာရနာထ လားမားဘုန်းကြီး၏မှတ်တမ်းကို အခြေအမြစ်ခိုင်လုံသော မှတ်တမ်းအဖြစ်လက်ခံရန် မဖြစ်တော့ပေ။

တစ်ဖန် အတိဿဆရာတော်သည် အိန္ဒိယတွင် ပညာသင်ကြား၍ အိန္ဒိယမှ တိုက်ရိုက်ပင် တိဗက်သို့ကြွ၍ လားမားသာသနာကို တည်ထောင်ပြီး ၎င်းတွင်ပင် ပျံလွန်တော်မူခဲ့ကြောင်း ပညာရှင်များ လက်ခံထားကြသည်။ ပဲခူးသို့လာ၍ ပညာသင်သည် ဟူသောအချက်ကို မည်သည့်ပညာရှင်ကမျှ အမြွက်မျှပင် ဖော်ပြခဲ့ကြခြင်း မရှိပေ။ ထို့ကြောင့် သာသနာနှစ် ၁၅၇၀ (အေဒီ-၁၀၂၆) လောက်၌ ပဲခူး၊ သန်လျင်နယ်များသို့လာပြီး တန္တရ အလေ့အကျင့်များကို သင်ယူသည်ဟု တိဗက်လားမားဘုန်းကြီး ဗရွန်တွန်က ရေးသားခဲ့သည် ဆိုသောအချက်ကို စိစစ်ရန် လိုအပ်ပြန်သည်။

ပဲခူး ပထမမင်းဆက်ဖြစ်သော သမလဝိမလမင်းဆက်တွင် နောက်ဆုံးမင်းဆက်ဖြစ်သော တိဿမင်း (အေဒီ ၁၀၄၃-၁၀၅၇) လက်ထက်၌ ဟိန္ဒူဘာသာဝင် ကုလားများသည် ဘုရင်၏မြှောက်စားမှုကို ခံကြရ၍ သြဇာအရှိန်အဝါ ကြီးခဲ့ကြသည်။ ဘုရင်ကိုယ်တိုင်က အခိုက်အတန့်အယူများပြီး ဟိန္ဒူဘာသာဝင် ဖြစ်ခဲ့ရသည်။

သို့ရာတွင် မကြာမြင့်ပါ။ 'ဘဒြဒေဝီ' ခေါ် တလထော်၏စွမ်းဆောင်ချက်အရ တိဿဘုရင်မှာ အမြင်မှန်ရ၍ ဗုဒ္ဓဘာသာတို ပြန်လည်သက်ဝင်ယုံကြည်လာပြီး ဘုရားစေတီ ၇ ဆူကိုပင် တည်ထားကိုးကွယ်ခဲ့ကြောင်း 'ဘုရား ၇ ဆူ ကျောက်စာသမိုင်း'တွင် ဖော်ပြထားသည်။ ဟိန္ဒူကုလားများလည်း ထိုအချိန်မှစ၍ ပဲခူးမှနှင်ထုတ်ခံခဲ့ရသဖြင့် ၎င်းတို့၏အယူဝါဒလည်း ၎င်းတို့နှင့်အတူ ပဲခူးမှ ကွယ်ပျောက်ခဲ့ရတော့သည်။

ရာမညဒေသတွင် ဤတိဿဘုရင်မှတစ်ပါး ပဲခူး ပထမမင်းဆက်ဝင်မင်းများ၊ နောက်မင်းဆက်ဝင်မင်းများ သာမက၊ သထုံ၊ ဒဂုံ စသောမင်းဆက်များအားလုံးပင် ထေရဝါဒဗုဒ္ဓသာသနာကိုသာ အားပေးချီးမြှောက်ခဲ့သော မင်းများချည်းသာဖြစ်ကြောင်း သမိုင်းမှတ်တမ်းများက သက်သေထူလျက်ရှိသည်။ သို့ရာတွင် တေလဂူ ဟိန္ဒူကုလားများ မကြာခဏရောက်ရှိနေကြသဖြင့် ရာမညဒေသတွင် ဝဇိရာယာန အရည်းကြီးဝါဒ တန္တရအယူမဟုတ်သော ဟိန္ဒူဗြာဟ္မဏတို့၏ တန္တရအလေ့အကျင့်များကိုမူ လက်ခံကျင့်သုံးသောပုဂ္ဂိုလ်များ အုတ်ကြားမြက်ပေါက် ဆိုသကဲ့သို့ အနည်းအကျဉ်းရှိနိုင်သည်။

ထို့ကြောင့် သထုံ မနုဟာမင်းနှင့် ပုဂံ နော်ရထာမင်း (အေဒီ ၁၀၄၄-၁၀၇၇) လက်ထက်၌ သထုံမှ ဗျတ်ဝိ၊ဗျတ္တတို့၏ဆရာ ဝိဇ္ဇာရသေ့အကြောင်း၊ ဟံသာဝတီ၌နန်းစိုက်သော ဘုရင့်နောင် (အေဒီ ၁၅၅၁-၁၅၈၁) လက်ထက်၌ ထင်ပေါ်ကျော်ကြားခဲ့ရသော ဘား ၉ ဘား ဝိဇ္ဇာဆရာတော်များ၏အကြောင်းများနှင့် ကျွန်ုပ်တို့ ယဉ်းပါးနေကြရခြင်း ဖြစ်သည်။ ဟံသာဝတီမင်း ဘုရင့်နောင် (အေဒီ ၁၅၅၁-၁၅၈၁) လက်ထက်မှစ၍ ကျောင်းကို အစွဲပြု၍ ထင်ပေါ်ကျော်ကြားနေခြင်းကြောင့် ဟံသာဝတီ မော်ကွန်းဝင်စာတမ်းများ ၃၉၉ တွင် ဖော်ပြထားချက်အရ သိရှိရသော "ဘားမဲ့ (သမဲ့ပင်ကျောင်း)၊ ဘားထိ (ကေ၊ရာစ်ပင်ကျောင်း)၊ ဘားမြို့က် (ငရုတ်ပင်ကျောင်း)၊ ဘားတမော့ (ကျောက်စွန်းကျောင်း)၊ ဘားကရာ (ခင်တန်းကျောင်း)၊ ဘားတွဲ (ပထမကျောင်း)၊ ဘားနိုင်း (အနန်းပင်ကျောင်း)၊ ဘားထော် (ရွှေကျောင်း)၊ ဘားနိုင် (ကန့်ကလာပင်ကျောင်း)' ဟူသော ဘား ၉ ဘား ဆရာတော်များ၏ အကြောင်းအရာအတ္ထုပ္ပတ္တိများကို နှံ့နှံ့စပ်စပ်မသိရှိသေးသော်လည်း၊ ဝိဇ္ဇာလမ်းလိုက်နေကြသော ပုဂ္ဂိုလ်များလောကတွင် ထင်ရှားနေသော 'ဘားမြို့က်၊ ဘားတမွတ်၊ ဘားတမော့၊ ဘားမဲ့' ဟူသော ဘား ၄ ဘားဝင် ဘားမဲ့ဆရာတော်မှာမူ ဘုရင့်နောင်၏သားများဖြစ်သော ညောင်ရမ်းဆက် ညောင်ရမ်းမင်း (အေဒီ၁၅၉၉ -၁၆၀၅)နှင့် အနောက်ဘက်လွန်မင်း (အေဒီ ၁၆၀၅-၁၆၂၈)တို့၏ ဆရာဖြစ်ကြောင်း၊ 'ဘားမဲ့ဆရာတော် လက်တွေ့ ကျမ်း ဒုတိယတွဲ'တွင် ဖော်ပြထားသည်ကို တွေ့ရှိရသည်။ မည်သို့ပင်ဖြစ်စေ၊ ယင်း ဘား ၉ ဘား ဆရာတော်များ သည် ခရစ် ၁၆-၁၇ ရာစုနှစ်များအတွင်း၌ ပေါ်ပေါက်ကြသော ဆရာတော်များဖြစ်ကြောင်း သိရှိနိုင်သကဲ့သို့၊ အတိဆာ ဆရာတော်သည်လည်း အချိန်ကာလခြားနားချက်အရ ယင်းဝိဇ္ဇာဆရာတော်များထံ၌ ပညာသင်ခဲ့သည်ဟု မယူဆနိုင်ကြောင်း ထင်ရှားနေပေသည်။

သို့ဆိုလျှင် အတိဆာဆရာတော်သည် သာသနာနှစ် ၁၅၇၀ (အေဒီ-၁၀၂၆) လောက်၌ ပဲခူးသို့လာ၍ အရည်းကြီးဝါဒ တန္တရအလေ့အကျင့်ကို သင်ယူသည်ဟု ဗရွှမ်တွန်က မှတ်တမ်းရေးသားခဲ့ရိုးမှန်လျှင် မည်သူ့ထံ၌ မည်ကဲ့သို့သော တန္တရပညာရပ်မျိုးကို သင်ယူခဲ့ကြောင်း ဖော်ပြရာသည်။ ယခုမူ အထောက်အထားခိုင်လုံရန် ဝေးစွ။ ဆက်စပ်ရန်သဲလွန်စမျှကိုပင် မတွေ့ရှိနိုင်သဖြင့် လားမားဘုန်းကြီး ဗရွှန်တွန်သည်လည်း ထိုအချိန်၌ သရေခေတ္တရာ၊ ပုဂံတို့၌ အစုကြီးစွာရှိ၍ထင်ရှားနေသော အရည်းကြီးအယူဝါဒကိုပင် ပဲခူး၊ သန်လျင်နယ်၌ရှိသယောင် မှားယွင်း ယူဆပြီး ရေမြေဒေသမကျွမ်းကျင်မှုအပေါ် အခြေခံ၍ ရမ်းမှန်းဖြန်းသန်းရေးသားခဲ့ကြောင်း ထင်ရှားနေပြန်တော့သည်။

ထို့ကြောင့် ရမ်းမှန်းဖြန်းသန်းရေးသားထားသော တိဗက်လားမားဘုန်းကြီး တာရနာထမှတ်တမ်းနှင့် ဗရွှမ်တွန် ၏ရေးသားချက်တို့ကို အခြေပြုပြီး သထုံ၊ ပဲခူး၊ သန်လျင်တို့၌ အရည်းကြီးတို့၏ တန္တရယာန လွှမ်းမိုးခဲ့ကြောင်းနှင့်

ကျိုက်ခေါက်ဒေသတွင် ဟိန္ဒူဗြာဟ္မဏတို့၏လက်ရာများကို သမိုင်းရေးသူက အထောက်အထားပြ သုံးသပ်ထားသော်လည်း သာသနာနှစ် ၁၆၀၁ (အေဒီ ၁၀၅၇) သထုံ မနုဟာမင်း ပုဂံသို့ ရောက်ရှိသွားသည့်နှစ်အထိ ယင်းဒေသတွင် အရည်းကြီးတို့၏ တန္တရယာနလွှမ်းမိုးခဲ့ကြောင်း 'ကျိုက်ခေါက်သမိုင်း' စာအုပ်၌ ရေးသားဖော်ပြဆုံးဖြတ်ထားချက်မှာ မှန်ကန်မှု ရှိ,မရှိကို သုတေသီများစဉ်းစားဆုံးဖြတ်ရန်သာ ရှိပါတော့သည်။

၄- ဇာဒ္ဒလတက္ကသိုလ် - ဤတက္ကသိုလ်ကို ရာမပါလမင်း (သာသနာနှစ် ၁၆၅၈-၁၆၇၄၊ အေဒီ ၁၂၀၀ ကျော်)က တည်ထောင်သည်။ ၄င်းမင်းသည် ဂင်္ဂါနှင့် ကရာတိုအာမြစ်အဆုံ၌ ရာမာဝတီမြို့သစ်ကိုတည်၍ မြို့တော်အနီး၌ ယင်းတက္ကသိုလ်ကို တည်ထောင်ထားခြင်းဖြစ်သည်။ သို့ရာတွင် တက္ကသိုလ်ကိုတည်ထောင်ပြီး နှစ် ၁၀၀ ခန့်အကြာ၌ မဟာမေဒင်တို့၏ဖျက်ဆီးမှုကို ခံခဲ့ရသည်။

၅- ဩဒန္တပူရိတက္ကသိုလ် - ဤတက္ကသိုလ်တွင် ဝင်္ဂတိုင်းဘုရင် ပါလမင်းဆက်မတိုင်မီကပင် ရဟန်း ၁၀၀၀ ရှိသည့်ကျောင်းတိုက်ကြီး ဖြစ်သည်။ နောက်ပိုင်း ပါလမင်းများ၏ထောက်ပံ့မှုကြောင့် တက္ကသိုလ်အဆင့်မီလာခြင်း ဖြစ်သည်။ ဤတက္ကသိုလ်သည်လည်း သာသနာသက္ကရာဇ် ၁၇၄၃ နှစ် (အေဒီ-၁၁၉၉)၌ မဟာမေဒင်များဖျက်ဆီး၍ ပျက်စီးခဲ့ရပြီး၊ ဤတက္ကသိုလ်မှ ရဟန်းအချို့မှာ တိဗက်သို့ ထွက်ပြေးခဲ့ကြသည်ဟု ဆိုသည်။

## အိန္ဒိယတွင် မဟာယာနဗုဒ္ဓသာသနာကွယ်ခြင်း

အိန္ဒိယတောင်ပိုင်းတွင် ဟိန္ဒူပဏ္ဍိတ်ကြီး ရှံကရကျာလယ (၄င်းအကြောင်းကို 'ဗြာဟ္မဏဘာသာ' အခန်း၌ ကြည့်ပါ။)၏ အစီအစဉ်ကြောင့် တစ်နည်းအားဖြင့် အိန္ဒိယတောင်ပိုင်းရှိ မဟာယာန တန္တရ, မန္တရ အနွယ်ဝင် ဝဇိရယာနရဟန်းများမှာ ၄င်းရှံကရကျာလယအား ယှဉ်ပံ့သူမရှိဘဲ တိမ်းရှောင်ခဲ့ကြသောကြောင့် သာသနာသက္ကရာဇ် ၁၃၀၀ နှစ် (အေဒီ-၈၀၀) ခန့်ကပင် မဟာယာနဗုဒ္ဓဘာသာ စောစီးစွာကွယ်ပျောက်ခဲ့ပြီး ဖြစ်သည်။

တစ်ဖန် အိန္ဒိယအလယ်ပိုင်းနှင့် မြောက်ပိုင်းရှိ မဟာယာနဗုဒ္ဓဘာသာကွယ် ပျောက်ရခြင်းအကြောင်းများစွာ ရှိသော်လည်း အဓိကအကြောင်းမှာ မဟာမေဒင်တို့၏အုပ်စိုးမှုပင် ဖြစ်သည်။ သာသနာသက္ကရာဇ် ၁၂၅၅ နှစ် (အေဒီ-၇၁၁)တွင် အာရပ်စစ်ဗိုလ် မိုဟာမက်ကာစင်(ဘင်ကာစင်) ဦးစီးသော မဟာမေဒင်စစ်တပ်သည် အိန္ဒူမြစ်ဝှမ်းသို့ ဝင်ရောက်၍ ဆင်းနယ် (သိန္ဓု)နယ်ကို တိုက်ခိုက်သိမ်းယူပြီး၊ အေဒီ ၇၅၀ ၌ အိန္ဒိယမှ ပြန်လည်ဆုတ်ခွာသွားခဲ့သည်။ သို့သော်လည်း ၄င်းတို့သည် မွတ်စလင်ယဉ်ကျေးမှုကို ထိုအရပ်ဒေသ၌ အခြေချခဲ့ပြီးဖြစ်သည်ဟုဆိုသည်။

တစ်ဖန် မဟာမေဒင်စစ်တပ်များသည် အေဒီ ၈၆၅ မှ အေဒီ ၁၀၃၀ အတွင်း အိန္ဒိယကို အကြိမ်ကြိမ်ဝင်ရောက်တိုက်ခိုက်ဖျက်ဆီးပြီး အဖိုးတန်ရတနာပစ္စည်းများကို ယူဆောင်သွားကြသည်။ နောက်ဆုံး၌ တူရကီအနွယ်ဝင် မဟာမေဒင်တို့သည် ထင်ထင်ရှားရှားဝင်ရောက်တိုက်လေရာ သာသနာသက္ကရာဇ် ၁၇၀၀ ပြည့်နှစ် (အေဒီ ၁၂၀၀)ခန့်၌ အိန္ဒိယပြည် မြောက်ပိုင်း, အလယ်ပိုင်းတို့ကိုအောင်မြင်၍ အုပ်စိုးလာနိုင်တော့သည်။ ထိုအခါ ဝင်္ဂနှင့် မာဂဓတိုင်းများရှိ နာမည်ကျော် ဟိန္ဒူဘာသာ, ဂျိန်းဘာသာ, မဟာယာနဗုဒ္ဓဘာသာ ကျောင်းကန်ပုထိုးများ, ပိဋကတ်တိုက်များလည်း လုယက်ဖျက်ဆီး မီးရှို့ခြင်းများကို ခံခဲ့ရတော့သည်။ ၄င်းအပြင် ရဟန်းများကို

လည်းသတ်ဖြတ်၍ ရွှေ၊ ငွေပစ္စည်းများကိုလည်း ယူငင်ခဲ့ကြသည်။ ဟိန္ဒူနှင့် ဂိုဏ်းဘုန်းကြီးများသည် အဝတ်ဖြူများ ဝတ်ဆင်ကြခြင်းကြောင့် လူဝတ်ကြောင်များနှင့်ရောနှောနေနိုင်သဖြင့် မွတ်စလင်တို့၏သတ်ဖြတ်မှုမှ လွတ်မြောက်နိုင်ကြသော်လည်း၊ မဟာယာန ဗုဒ္ဓဘာသာရဟန်းများမှာမူ ဦးပြည်းကတုံးဖြစ်နေကြသည့်အပြင် အဝါရောင်သင်္ကန်းများကို ဝတ်ဆင်ထားကြပြီး မြို့ပြင်တွင် တစ်စုတဝေးနေကြသည်ဖြစ်ရာ မွတ်စလင်စစ်တပ်၏ ဝိုင်းရံသတ်ဖြတ်မှုကို အလွယ်တကူပင် ခံကြရတော့သည်။

ထိုအခါ၌ ပါလမင်းသည် တိုင်းပြည်ကိုကာကွယ်ရန်ဟု ယုံကြည်ရည်ရွယ်၍တည်ဆောက်ထားသော ဝိဇ္ဇာဆရာများဖြစ်သော မဟာယာနတန္တရ၊ မန္တရရဟန်းများ၏ ဩဒန္တပူရီကျောင်းကို တူရကီအနွယ်ဝင် မိုဟာမက်ဘင်ဗခတီယာဦက မြင်းစီးစစ်သား ၂၀၀ မျှဖြင့် တိုက်ခိုက်ဖျက်ဆီး၍ ဝိဇ္ဇာရဟန်းများစွာကိုလည်း သတ်ဖြတ်လိုက်တော့သည်။ ပါလမင်းသည် ယင်းကျောင်းရှိ ဝိဇ္ဇာရဟန်းများ၏အကူအညီဖြင့် အစွမ်းကုန်တိုက်ခိုက်သော်လည်း အားမတန်၍ နောက်ဆုံး၌ တစ်ပြည်လုံးအဆုံးခံခဲ့ရသည် ဟုဆိုသည်။ အချို့အဆို၌ ပါလမင်းသည် မိမိ၌ ယင်းမဟာမေဒင်စစ်တပ်ကိုတွန်းလှန်နိုင်သော စစ်သည်အင်အားပြည့်စုံပါလျက် မှော်ပညာ (တန္တရ၊ မန္တရ)တန်ခိုးများကို ယုံကြည်၍ ခုခံမှုမပြုသောကြောင့် တစ်ပြည်လုံးကျဆုံးခဲ့ရသည် ဟုဆိုသည်။

ဤသို့အားဖြင့် မဟာယာန ဗုဒ္ဓဘာသာရဟန်းများသည် မဟာမေဒင်တို့၏သတ်ဖြတ်ညှဉ်းဆဲမှုကို ခံနေရကြ၍ ပေါ်ပေါ်ထင်ထင်မနေနိုင်တော့သောကြောင့် တစ်ကြောင်း၊ ထိုအချိန်က မဟာယာန တန္တရ၊ မန္တရ ဝိဇ္ဇာရဟန်းများ၏ဂုဏ်သည်လည်း ၎င်းတို့၏ ဉာဏ်ပညာ၊ သီလ၊ သမာဓိ၊ သမာစာရတို့တွင် တည်သည်မဟုတ်ဘဲ ၎င်းတို့မြှောက်စားသော နတ်၊ စုန်း၊ မှော် စသည်တို့အပေါ်၌တည်နေရာ မဟာမေဒင်တို့၏လက်ချက်ဖြင့် ပျက်စီးသွားရသော နတ် စသည်တို့နှင့်အတူ ထိုရဟန်းတို့၏ဂုဏ်သည်လည်း ပျက်စီးသွားရသဖြင့် ကျောင်းကန်ပုထိုးပြုပြင်ခြင်း၊ အသစ်တည်ဆောက်ခြင်းပြုရန် လူတို့၏အယုံအကြည် အကူအညီ အထောက်အပံ့ကိုလည်းမရတော့သောကြောင့် တစ်ကြောင်းတို့ကြောင့် မဟာယာန ဗုဒ္ဓဘာသာရဟန်းများသည် အိန္ဒိယတွင် မနေနိုင်ကြတော့ဘဲ မဟာမေဒင်တို့ အာဏာစက်ကွင်းလွတ်ရာ အခြားတိုင်းပြည်များသို့ ထွက်ပြေးခဲ့ကြရတော့သည်။

ဘာသာရေး၌ ဦးဆောင်မှုပေးမည့် ရဟန်းများမရှိသောအခါ သာမန်ဘာသာဝင် လူဝတ်ကြောင်များမှာ ဟိန္ဒူဘာသာဝင်များထဲ၌ ရောနှောပျောက်ကွယ်သွားရတော့သည်။ ကြွင်းကျန်သော ဗုဒ္ဓဘာသာ ကျောင်းကန်၊ စေတီ၊ ပုထိုးများမှ အချို့ကို မဟာမေဒင်တို့ အပိုင်ယူကြ၍ အများစုကို ဟိန္ဒူဘုန်းကြီးများကအပိုင်စီးခဲ့ကြသည်။ ဗုဒ္ဓဘာသာတို့၏စေတီများကိုဖုံး၍ ဟိန္ဒူဘုရားကျောင်းများကို တည်ဆောက်ခဲ့ကြသည်။ ဤနည်းဖြင့် ၁၃ ရာစုအစပိုင်းလောက်၌ မဟာယာနဗုဒ္ဓဘာသာသည် အိန္ဒိယတွင် လုံးဝ ကွယ်ပျောက်သွားရတော့သည်။

## မဟာယာနဗုဒ္ဓဘာသာရောက်ရှိသော နိုင်ငံများနှင့် မြန်မာပြည်မဟာယာနဗုဒ္ဓဘာသာ

အိန္ဒိယမှ မဟာမေဒင်တို့၏ဘေးကြောင့် မဟာယာနရဟန်းများ ထွက်ပြေးရောက်ရှိလာသဖြင့် မဟာယာန ဗုဒ္ဓဘာသာထွန်းကားလာသော နိုင်ငံများနှင့် ယင်းအချိန်မတိုင်မီကပင် မဟာယာနဗုဒ္ဓဘာသာကို လက်ခံကျင့်သုံးနေကြသောနိုင်ငံများမှာ နီပေါလ်၊ ဆစ်ကင်း၊ ဘူတန်၊ တိဗက်၊ တရုတ်၊ ကိုရီးယား၊ ဂျပန်၊ မွန်ဂိုလီးယား၊ မန်ချူးရီးယား၊ ဆိုက်ဗေးရီးယား၊ ရုရှမြောက်ပိုင်းတိုင်းပြည်များ ဖြစ်သည်။ အိန္ဒိယမြောက်ပိုင်း မဟာယာန ဗုဒ္ဓဘာသာသည် မြောက်ပိုင်းတိုင်းပြည်များသို့ ရောက်ရှိထွန်းကားနေသကဲ့သို့၊ တောင်ဘက်ပိုင်းဖြစ်သော မြန်မာ၊ ယိုးဒယား၊ အင်ဒိုနီးရှားနိုင်ငံများသို့လည်း ရောက်ရှိခဲ့သည် ဟု အဆိုရှိသည်။

၄င်းတို့အနက် အင်ဒိုနီးရှားမှ ဗုခေါဗုဒေါ့ရှား၌ ဗုဒ္ဓဝင်ရုပ်တုများမှာ မဟာယာနဗုဒ္ဓဝင် လလိတာဝိတ္ထာရ ကျမ်းလာပုံများဖြစ်ကြောင်း သုတေသီတို့ လေ့လာတွေ့ရှိရပြီးဖြစ်၍ အင်ဒိုနီးရှားသို့ မဟာယာနဗုဒ္ဓဘာသာရောက် ရှိသွားကြောင်း ထင်ရှားသည်။ ယိုးဒယားသို့ မဟာယာနဗုဒ္ဓဘာသာ ရောက်,မရောက်ကိစ္စကို အထောက်အထား မတွေ့ရသေး၍ မတင်ပြလိုသော်လည်း၊ မြန်မာနိုင်ငံသို့ မဟာယာနဗုဒ္ဓဘာသာရောက်ရှိသည့်ကိစ္စကို အနည်းအကျဉ်း ဆွေးနွေးတင်ပြလိုသည်။ အနော်ရထာမင်း (အေဒီ ၁၀၄၄-၁၀၇၇)လက်ထက်တွင် ပုဂံ၌ မဟာယာနတို့၏ တန္တရ,မန္တရအဆက်အနွယ်ဖြစ်သော အရည်းကြီးရဟန်းများ အထင်အရှားရှိနေသဖြင့် မြန်မာနိုင်ငံသို့လည်း မဟာယာနဗုဒ္ဓဘာသာရောက်ရှိကြောင်း ထင်ရှားသည်။

ထိုအချိန်၌ ပုဂံနှင့် သရေခေတ္တရာတို့တွင် ကြီးပွားနေကြသော အရည်းကြီးများမှာ တစ်စုလျှင် အရေအတွက် ဦးရေ ၃၀ စီရှိသော အစု ၁၀ ရှိသည် ဟုဆိုသည်။ ဤမဟာယာနတို့၏ တန္တရ, မန္တရဝိဇ္ဇာရယာန အနွယ်ဝင် အရည်းကြီးများသည် ကာလကိုထောက်ဆသောအားဖြင့် အိန္ဒိယ၌ တူရကီအနွယ် မဟာမေဒင်တို့ သတ်ဖြတ်ညှဉ်းဆဲ သောဘေးများကြောင့် မြန်မာပြည်သို့ထွက်ပြေးရောက်ရှိလာကြသည် မဟုတ်ဘဲ၊ အိန္ဒိယ၌ မဟာယာနဗုဒ္ဓဘာသာ မကွယ်မီကပင် မြန်မာပြည်သို့ရောက်ရှိနေပြီဖြစ်ကြောင်း သိသာထင်ရှားလှသည်။ ထို့ကြောင့် မဟာယာနဗုဒ္ဓဘာသာ မြန်မာပြည်သို့ရောက်ရှိသောကာလနှင့် ရောက်ရှိလာပုံကို စိစစ်ရန်လိုအပ်လာသည်။

သာသနာသက္ကရာဇ် ၂၃၅ (၃၀၉ ဘီစီ)၌ အသောကမင်းနှင့် ရှင်မဟာမောဂ္ဂလိပုတ္တတိဿထေရ်တို့ ဦးစီးသော တတိယသင်္ဂါယနာတင်ပွဲ ပြီးဆုံးသောအခါ ၉ တိုင်း ၉ ဌာနသို့ သာသနာပြုစေလွှတ်ခဲ့ကြောင်း၊ ဂိုဏ်းကွဲသံဃာများလည်း စင်ကြိုင်သင်္ဂါယနာတင်ပြီးနောက် ထေရဝါဒဗုဒ္ဓဘာသာ သွားရာနောက်သို့ တကောက်ကောက်လိုက်၍ နှောင့်ယှက်ခဲ့ကြောင်း၊ သီဟိုဠ်နှင့် သုဝဏ္ဏဘူမိ (သထုံ) ၂ ဌာနမှလွဲ၍ ကျန်ဌာနအားလုံးရှိ ထေရဝါဒဗုဒ္ဓသာသနာသည် ဂိုဏ်းကွဲဗုဒ္ဓဘာသာတို့၏ဝါးမျိုမှုကို ခံခဲ့ရကြောင်းများကို အထက်၌ ဖော်ပြခဲ့ပြီး ဖြစ်သည်။

သီဟိုဠ်၌ ဝေတုလ္လ, ဝဇ္ဇိပုတ္တက, မဟာသံဃိကဂိုဏ်းတို့၏ နှောင့်ယှက်မှုကိုခံရသကဲ့သို့ သုဝဏ္ဏဘူမိ (သထုံ)၌လည်း သမ္မိတိယဂိုဏ်း၏နှောင့်ယှက်မှုကို ခံခဲ့ရသည်။ သို့ရာတွင် သီဟိုဠ်ထေရဝါဒ ဗုဒ္ဓသာသနာရော၊ သုဝဏ္ဏဘူမိ (သထုံ) ထေရဝါဒဗုဒ္ဓသာသနာပါ ကြံ့ကြံ့ခံနိုင်ခဲ့သည်။ ဤ၌ အချို့က သုဝဏ္ဏဘူမိ(သထုံ)ထေရဝါဒ ဗုဒ္ဓသာသနာသည် သမ္မိတိယဂိုဏ်း၊ တန္တရ, မန္တရဂိုဏ်းတို့၏ နှောင့်ယှက်မှုကို ခံခဲ့ရသည်ဟု လုံးထွေးဖော်ပြထား သည်ကို တွေ့ရှိရသည်။ ဤဖော်ပြချက်သည် မှားယွင်းသောဖော်ပြချက်ဖြစ်ကြောင်း ယူဆမိပါသည်။ အဘယ်ကြောင့် ဆိုသော် သမ္မိတိယဂိုဏ်း စသောအမည်များ ထင်ရှားရှိနေသောအချိန်တွင် တန္တရ, မန္တရဂိုဏ်း မပေါ်သေးဘဲ အေဒီ ၄၀၀ ပတ်ဝန်းကျင်၌ မဟာယာနဝါဒကို လူကြိုက်များလာပြီးသည့်နောက်ပိုင်းအချိန်သို့ ရောက်လာသော အခါမှသာ မဟာယာနတို့၏တန္တရ,မန္တရဂိုဏ်းများ ပေါ်ပေါက်လာရသောကြောင့် ဖြစ်သည်။ ထို့ကြောင့် မြန်မာပြည်အောက်ပိုင်း သုဝဏ္ဏဘူမိ (သထုံ)သို့ မဟာယာနတို့၏ တန္တရ, မန္တရ မရောက်ရှိခဲ့ကြောင်း ထင်ရှားသည်။

မြန်မာပြည်အောက်ပိုင်း သုဝဏ္ဏဘူမိသို့ မဟာယာန ဗုဒ္ဓဘာသာမရောက်လျှင် မြန်မာပြည်အထက်ပိုင်းနေ ပျူလူမျိုးတို့၏ မြန်မာပြည်သို့ဝင်ရောက်ရာကာလနှင့် ၄င်းတို့၏စာပေယဉ်ကျေးမှုကို ခြေရာခံရန် လိုအပ်လာပြန် သည်။ ပျူလူမျိုး မဟာသမ္ဘဝ, စူဠသမ္ဘဝ ညီနောင်မင်း ၂ ပါးသည် သာသနာသက္ကရာဇ် ၆၀ ပြည့်နှစ် (၄၈၄ ဘီစီ)၌ သရေခေတ္တရာကိုတည်၍မင်းပြုကြောင်း 'မှန်နန်းရာဇဝင်'၌ဆိုထားပြီး၊ သမန္တစက္ခုဒီပနီကျမ်းတွင်မူ

သာသနာသက္ကရာဇ် ၁၀၁ နှစ် (ဘီစီ ၄၄၃)၊ တန်ခူးလဆန်း ၁ ရက် တနင်္ဂနွေနေ့နံနက် နက္ခတ် ၂၆ လုံးတွင် အစပြု၍ သရေခေတ္တရာပြည်ကြီးကို ရသေ့၊ သိကြား စသော ၇ ယောက်တို့တည်ထောင်ကြောင်း ဆိုထားသည်။ သို့သော် တူးဖော်ရရှိသောအထောက်အထားများ၊ ကျောက်စာများအရ 'ဗိြကြွေတြဲ' ခေါ် သရေခေတ္တရာကို ခရစ်ပေါ်ပြီးနောက်မှတည်ထောင်ကြောင်း တွေ့ရှိရသည်။ မည်သို့ပင်ဖြစ်စေ၊ ယင်းပျူတို့သည် စာပေနှင့် ဗုဒ္ဓဘာသာယဉ်ကျေးမှုရှိခဲ့သူများ ဖြစ်ကြသဖြင့် ၎င်းတို့၏စာပေနှင့် ဗုဒ္ဓဘာသာသည် မည်သည့်စာပေနှင့် ဗုဒ္ဓဘာသာဖြစ်ကြောင်း စိစစ်ရန် လိုအပ်လာပြန်သည်။ ခင်ဘကုန်း၌တူးဖော်ရရှိသော ရွှေပေချပ် ၂၀ နှင့် ပျူအရိုးအိုးစာ အထောက်အထားများအရ ပျူတို့အသုံးပြုသောစာပေသည် အေဒီ ၄ ရာစု ဂုတ္တခေတ် အိန္ဒိယမြောက်ပိုင်းသုံး ကဒမ္ဗအက္ခရာစာပေဖြစ်သည်ကို တွေ့ရှိနိုင်သည်။ ထို့ကြောင့် ပျူတို့၏ဗုဒ္ဓဘာသာယဉ်ကျေးမှုသည်လည်း မြောက်ပိုင်းဗုဒ္ဓဘာသာ (ဝါ) မဟာယာနဗုဒ္ဓဘာသာဖြစ်ကြောင်း ခန့်မှန်းနိုင်သည်။

ပျူတို့၏ဗုဒ္ဓဘာသာသည် မြောက်ပိုင်းမဟာယာနဗုဒ္ဓဘာသာဖြစ်ကြောင်းကို ဘက်စုံပညာပြည့်ဝသော ဦးဥာဏကဆရာတော်က ရှင်ရာဟုလာသံကစ္စည်း၏ ဗုဒ္ဓစရိယာနှင့် သျှရီဂူလာဗ်ရာမ်၏ ဗောဒ္ဓဓမ္မကျမ်းများကို မှီး၍ ၁၉၅၆ ခုနှစ် (သာသနာနှစ် ၂၅၀၀) ပြည့်နှစ်ထုတ် ရန်ကုန်တက္ကသိုလ် ပါဠိအသင်းမဂ္ဂဇင်းပါ 'ကမ္ဘာ့အလင်းရောင်' ဆောင်းပါးတွင် 'မြန်မာပြည်(အထက်ပိုင်း)၌ အနော်ရထာမင်းတိုင်အောင် ဗြာဟ္မဏဘာသာ၊ မဟာယာနဗုဒ္ဓဘာသာတို့ ရောနှောရှိခဲ့ကြောင်း၊ ခရစ် ၆ ရာစုတွင် အိန္ဒိယမြောက်ပိုင်း အရှေ့ဘက် ဘင်္ဂလားမှတစ်ဆင့် တန္တရအယူဝါဒအတွင်းခံရှိသော မဟာယာနဗုဒ္ဓဘာသာသည် မြန်မာပြည်အထက်ပိုင်းသို့ ရောက်ရှိလာသဖြင့် ပန်းဦးပန်အရည်းကြီးများ ခေတ်စားလာခဲ့ရကြောင်း' ရေးသားဖော်ပြထားသည်ကို တွေ့ရသည်။

အထက်ဖော်ပြပါ အထောက်အထားများနှင့် မျက်မြင်တူးဖော်ရရှိသော အထောက်အထားများအရ ပျူတို့၏ ဗုဒ္ဓဘာသာယဉ်ကျေးမှုသည် တန္တရ၊ မန္တရအတွင်းခံရှိသော မဟာယာနဗုဒ္ဓဘာသာယဉ်ကျေးမှုဖြစ်ကြောင်း ထင်ရှားသည်။ တစ်ဖန် မြန်မာအက္ခရာနှင့် ပျူအက္ခရာ မတူသည်ကိုတွေ့ရှိရသောကြောင့် အက္ခရာဗေဒအရ ပျူနှင့် မြန်မာလူမျိုးတို့ တခြားစီဖြစ်ကြောင်းဆိုကြသော်လည်း၊ ပျူတို့ နောက် ၉ ရာစုခန့်၌ မြန်မာနိုင်ငံသို့ ဝင်ရောက်လာကြသော မြန်မာတို့ကလည်း ပထမဦးဆုံး ပျူတို့၏စာပေနှင့် ယဉ်ကျေးမှု အမွေအနှစ်များကိုသာ နှစ်ပေါင်းအတော်ကြာ လက်ခံခဲ့ကြမည် ဟု ယူဆနိုင်သည်။ ထို့ကြောင့် ပုဂံတွင် အနော်ရထာမင်းတိုင်အောင် ယင်း ပျူတို့၏စာပေနှင့် ဘာသာယဉ်ကျေးမှုအမွေအနှစ်များကို တွေ့နေရခြင်းဖြစ်သည်။ ပုဂံကိုပင် ရှေးက 'ပျူဂါမ' ခေါ်ခဲ့ရာမှ ကာလရွေ့လျောသောအားဖြင့် 'ပုဂါမ'မှ 'ပုဂံ'ဖြစ်လာရသည် ဟုအဆိုရှိသည်။

သို့ရာတွင် ရှေးမြန်မာတို့သည် သထုံမှသာသနာပြုကြွရောက်လာသော မွန်ရဟန်းတော် 'ဓမ္မဒဿီ' ခေါ် ရှင်အရဟံ၏ကျေးဇူးကြောင့် အနော်ရထာမင်းလက်ထက်မှစ၍ အရည်းကြီးတို့၏ တန္တရ၊ မန္တရအတွင်းခံရှိသော မဟာယာနဗုဒ္ဓဘာသာယဉ်ကျေးမှုကိုပစ်ပယ်၍ စစ်မှန်သော ထေရဝါဒဗုဒ္ဓဘာသာယဉ်ကျေးမှုကို ပြောင်းလဲ လက်ခံရရှိခဲ့ကြသည်။ စာပေဘက်တွင်မူ ထိုအချိန်၌ 'သထုံမှရရှိသော မွန်ဘာသာပိဋကတ်တော်များကို ပုဂံသို့ရောက်ရှိလာသော မွန်ရဟန်းတော်များအား မြန်မာဘာသာအရေးအသားဖြင့် ပြန်ဆိုစေခဲ့သည်' ဟု မှန်နန်းရာဇဝင်၌ ရေးသားခဲ့သော်လည်း၊ အမှန်မှာ မြန်မာတို့သည် ပိဋကတ်တော်များကို ရှေးဦးစွာ မွန်ဘာသာဖြင့်ပင် သင်ကြားခဲ့ကြခြင်းသာ ဖြစ်သည်။ ထို့ကြောင့် အနော်ရထာမင်းလက်ထက်တွင် မြန်မာတို့သည် ပျူစာသာမက မွန်စာကိုပါ ရေးသားအသုံးပြုခဲ့သည့်အပြင်၊ တစ်ခါတစ်ရံ နာဂရီဘာသာဖြင့်လည်း ရေးသားအသုံးပြုခဲ့ကြောင်း တူးဖော်ရရှိသော အုတ်ခွက်စာ၊ စဥ့်ခွက်စာများအရ သိရှိရသည်။ အနော်ရထာလွန်ပြီးနောက် စောလူးမင်းလက်ထက်တွင် ပါဠိသက္ကတစာများကို မွန်အက္ခရာဖြင့်ပင် အနည်းငယ်ရေးခဲ့သည်ကို တွေ့ရှိရပြီး၊ ထီးလိုင်ရှင်ကျန်စစ်သားမင်းလက်ထက်

တွင်မှ မိမိဘွဲ့အမည်ကို နာဂရီအက္ခရာဖြင့်ရေးသားခဲ့သော အုတ်ခွက်တစ်ခုမှလွဲ၍ ပျူစာ၊ နာဂရီစာကို လုံး၀ မသုံးတော့ဘဲ မွန်စာကိုသာ အသုံးပြုထားသည်ကို တွေ့ရှိရသည်။ ကျောက်စာများကိုလည်း မွန်စာဖြင့်ပင် ရေးထိုးခဲ့သည်။ သို့ရာတွင် ယင်း မွန်အက္ခရာကိုအခြေခံ၍ မွန်ပညာရှင် ရဟန်းတော်များနှင့် ရှေးမြန်မာကြီးများ၏ ကြိုးပမ်းတီထွင်မှုအရ မြန်မာစာလည်း ပေါ်ပေါက်လာရတော့သည်။

ထို့ကြောင့် သမိုင်းပါမောက္ခများဖြစ်ကြသော ဒေါက်တာသန်းထွန်းနှင့် ဒေါက်တာကျော်သက်တို့က 'မြန်မာတို့၏ ရေးဟောင်းအက္ခရာများသည် ပျူတို့ထံမှယူ၍ ရေးသားခဲ့ခြင်းမဟုတ်ဘဲ မွန်တို့ထံမှ အတုယူ၍ ရေးသားခဲ့ကြခြင်းဖြစ်ကြောင်း' ၄င်းတို့၏သမိုင်းစာအုပ်များတွင် ရေးသားဖော်ပြထားခဲ့ခြင်း ဖြစ်သည်။ အလားတူ ဦးသာမြတ်ကလည်း 'ယနေ့မြန်မာအက္ခရာကို မွန်-မြန်မာအက္ခရာ' ဟူ၍ မြန်မာ့စွယ်စုံကျမ်းတွင် ရေးသားဖော်ပြထားသကဲ့သို့ လန်ဒန်တက္ကသိုလ် မြန်မာစာပါမောက္ခ ဒေါက်တာလုဖေကလည်း 'မြန်မာတို့သည် ၁၁ ရာစုတွင် မွန်တို့ထံမှ အက္ခရာများလက်ခံခဲ့ကြပြီး မြန်မာဘာသာကို အက္ခရာတင်ကြသည်' ဟု မြန်မာနိုင်ငံ သုတေသနအသင်းဂျာနယ် အတွဲ ၅၄ တွင် ရေးသားဖော်ပြခဲ့သည်။

သို့ရာတွင် ကျန်စစ်သားမင်း၏သားတော် ရာဇကုမာရ်ကျောက်စာရေးချိန်၌ မြန်မာစာတွင် မွန်စာအရေးအသား အများအပြားရောနှောနေသေးလျက်၊ ယနေ့ ရေးသားနေသောအဆင့်သို့ရောက်ရှိရန်မှာ နှစ်ပေါင်းများစွာ တီထွင်ခဲ့ရသည် ဟုဆိုသည်။ ထို့ကြောင့် ဆရာဦးသောင်းလွင် (ဘီအေ)က 'ထိုအချိန်၌ မြန်မာစာမှာ လမ်းလျှောက်သင်စကလေးတစ်ယောက်ကဲ့သို့ တုန်ချည့်ယိမ်းယိုင်လျက်ရှိနေသေးကြောင်း၊ ယနေ့အသုံးပြုနေသော စာပေအရေးအသားအဆင့်ရောက်ရန် ရှေးမြန်မာကြီးများတို့ နှစ်ပေါင်း ၅၀၀ ခန့် ကြံဆတီထွင်ခဲ့ရကြောင်း'ကို 'မြန်မာအက္ခရာဗေဒ'စာအုပ်တွင် ရေးသားဖော်ပြထားခြင်း ဖြစ်သည်။

အချုပ်အားဖြင့် ဤသမိုင်းကြောင်းများကို ထောက်ဆလျက် မြန်မာတို့သည် မွန်ရဟန်းတော်များနှင့် ပိဋကတ်တော်များ ပုဂံသို့ရောက်ရှိသည့်အချိန်မှစ၍ ပျူတို့၏ဘာသာယဉ်ကျေးမှုဖြစ်သော မဟာယာန တန္တရ၊ မန္တရအယူ၀ါဒကိုပစ်ပယ်၍ စစ်မှန်သော ထေရ၀ါဒဗုဒ္ဓဘာသာယဉ်ကျေးမှုကို လက်ခံရရှိလာကြသကဲ့သို့ ပျူစာအရေးအသားကိုလည်းပစ်ပယ်၍ မွန်စာအရေးအသားမှတစ်ဆင့် မြန်မာစာပေအရေးအသားကိုပါ လက်ခံရရှိလာရကြောင်း ဆိုလိုသည်။

## တရုတ်ပြည် မဟာယာနဗုဒ္ဓဘာသာ

သာသနာသက္ကရာဇ် ၃၂၇ နှစ် (၂၁၇-ဘီစီ) တွင် တရုတ်အမည် 'လီဖန်' ခေါ် အိန္ဒိယပြည်သား ဗုဒ္ဓဘာသာရဟန်းတော်တစ်ပါးသည် အခြားရဟန်း ၁၇ ပါးနှင့်အတူ ဗုဒ္ဓတရားတော်များကိုဟောပြောရန် ဆီယန်းဖူးမြို့၊ သို့မဟုတ် ရှင်စီမြို့တော်သို့ ရောက်ရှိခဲ့သည်။ ထိုအခါ ထူးခြားသောပုဂ္ဂိုလ်များဖြစ်နေ၍ အစိုးရကဖမ်းဆီးချုပ်နှောင်ခဲ့သော်လည်း နောင်မကြာမီ အံ့ဩဖွယ်ဖြင့်လွတ်မြောက်သွားသည် ဟု သာသနာသက္ကရာဇ် ၁၂၁၂နှစ် (အေဒီ ၆၆၈)၌ တရုတ်ဗုဒ္ဓဘာသာ ရဟန်းတော် ထောက်ရှိက '[illegible]အန်ချူလင်' ခေါ် တရုတ်ရာဇ၀င်စာအုပ်တွင် ရေးသားဖော်ပြထားသည် ဟုဆိုသည်။

တစ်ဖန် ဟန်မင်းဆက် ဧကရာဇ်ဘုရင် ဝူးလက်ထက် သာသနာသက္ကရာဇ် ၄၂၁ နှစ် (၁၂၃ ဘီစီ)တွင် 'ချန်ချအီယင်' အမည်ရှိသောစစ်ဗိုလ်တစ်ဦးက တရုတ်ပြည်အနောက်ဘက်၊ တောင်ဘက်နယ်စပ်များသို့သွားရာ၊ ဒုတိယ မိတရိဒတီဘုရင်အုပ်စိုးလျက်ရှိသော ပါသီယပြည်သို့ရောက်ရှိ၍ အပြန်တွင် ရွှေဆင်းတုတစ်ဆူ ပင့်လာသည် ဟုဆိုသည်။

တစ်ဖန် ဟန်မင်းဆက် 'မင်တီ' ခေါ် လီယူချုန်ဘုရင် သာသနာသက္ကရာဇ် ၆၀၂-၆၂၀ နှစ် (အေဒီ ၅၈-၇၆)က ဗုဒ္ဓဆင်းတုတော်ကြွလာကြောင်း အိပ်မက်အရနှင့် အတိတ်နိမိတ်များအရ တမန် ၁၈ ယောက်ကို အိန္ဒိယသို့ သာသနာနှစ် ၅၀၇ နှစ် (အေဒီ-၆၃) ၌ စေလွှတ်ခဲ့သည်။ အဆိုတစ်ရပ်ကမူ ပိဋကတ်တော်များ စုဆောင်းရန်နှင့် သာသနာပြုရဟန်းများပင့်ဆောင်ရန် သာသနာသက္ကရာဇ် ၆၀၀ နှစ် (အေဒီ ၅၆)၌ စေလွှတ်ခဲ့သည်ဟု ဆိုသည်။ ယင်းတမန်အဖွဲ့သည် အိန္ဒိယအလယ်ပိုင်းသား သျှင်ကဿပ မာတင်္ဂနှင့် သျှင်ဂေါဘရန ၂ ပါးတို့ကို ပင့်ဆောင်၍ သက္ကတဖြင့်ရေးသားထားသော ပိဋကတ်ကျမ်းစာများ၊ ဆင်းတုတော်များ၊ ဓာတ်တော်များကို မြင်းဖြူပေါ်တင်ကာ ပင့်ဆောင်ခဲ့ကြပြီး သာသနာသက္ကရာဇ် ၆၁၁ နှစ် (၆၇ အေဒီ)တွင် လိုယန်မြို့သို့ ပြန်ရောက်ခဲ့ကြသည်။ ထိုသက္ကရာဇ်ကိုပင် 'တရုတ်ပြည်သို့ မဟာယာနဗုဒ္ဓဘာသာစတင်ရောက်ရှိခဲ့သော ခုနှစ်' ဟုမှတ်သားကြသည်။ လိုယန်မြို့၌ ပထမဆုံးတည်ဆောက်သောကျောင်းကိုလည်း ယင်း မြင်းဖြူကိုအစွဲပြု၍ 'မြင်းဖြူကျောင်း' ဟူ၍ ခေါ်ခဲ့ကြသည် ဟုဆိုသည်။ အရှင်ကဿပမာတင်္ဂသည် အရေးကြီးသောပါဠိတော်များ၏ အခန်း ၂ ခန်းကို တရုတ်ဘာသာ ပြန်ဆိုပေးခဲ့ပြီး၊ လိုယန်မြို့၌ပင် ပျံလွန်တော်မူခဲ့သည်။ အရှင်ဂေါဘရနကား အသက် ၆၀ တိုင် နေခဲ့ရသဖြင့် သာသနာပြုလုပ်ငန်း များစွာအထမြောက်အောင်မြင်ခဲ့ရသည် ဟုဆိုသည်။

တရုတ်ပြည်သို့ သာသနာရောက်ပြီး နှစ် ၃၀၀ ခန့်အကြာ၌ သာသနာတိုးတက်ပြန့်ပွားလာသည်။ သာသနာနှစ် ၈၇၉ (အေဒီ ၃၃၅)၌ ချောင်ဘုရင်သားတော်သည် မိမိလူပျိုတော်များကို ဉပုသ်စောင့်စေခဲ့သည်။ သာသနာနှစ် ၉၂၅ (အေဒီ ၃၈၁) ခန့်တွင် တရုတ်ပြည်မြောက်ပိုင်းတစ်ခွင်၌ လူဦးရေ ၁၀ ပုံ ၉ ပုံသည် ဗုဒ္ဓဘာသာကို ကိုးကွယ်လျက်ရှိကြသည်။ လိုယန်မြို့တော်တစ်ခုတည်း၌ပင် ဘုရားပုထိုး ဘန်ဆောင်းများအပြင် ရဟန်းကျောင်း ၄၂ ကျောင်းမျှ ရှိသည်။

သာသနာသက္ကရာဇ် ၉၀၀ အကျော်၌ တရုတ်ဘုရင်များ၏ပင့်ဖိတ်ချက်အရ အိန္ဒိယမှ အရှင်ကုမာရဇီဝ၊ အရှင်ဗောဓိဓမ္မ၊ အရှင်ပရမတ္ထ စသောရဟန်းတော်များကြွလာ၍ သာသနာပြုကြသကဲ့သို့၊ တရုတ်ပြည်မှ ဖာဟီယန်၊ ဆွန်ချန်၊ အိုက်ဆင် စသောတရုတ်ရဟန်းများကလည်း အိန္ဒိယသို့ ကြွရောက်ပညာသင်ပြီး မဟာယာနပိဋကတ်များကို တရုတ်ပြည်သို့ သယ်ဆောင်ခဲ့ကြသည်။ ၎င်းတို့အနက် ကသ္မီရတိုင်းသားဖြစ်သော အရှင်ကုမာရဇီဝကို သာသနာနှစ် ၉၄၅ (၄၀၁ အေဒီ)တွင် တိဗက်မှဖမ်းယူခဲ့ကြောင်းနှင့် ထိုအရှင်၏ဘာသာပြန်ချက်ကား အထူးရှင်းလင်း ပြတ်သားသဖြင့် ယနေ့တိုင် တရုတ်ပြည်ကျောင်းများတွင် အသုံးပြုလျက်ရှိကြောင်း အဆိုတစ်ရပ်အရ သိရသည်။

အရှင် ဖာဟီယန်သည် အိန္ဒိယ၌ ၁၅ နှစ်ကြာမျှ သွားရောက်နေထိုင်၍ တရုတ်ပြည်သို့ ပြန်ရောက်ပြီးနောက် မကြာမီ သာသနာသက္ကရာဇ် ၉၆၄ ခုနှစ် (အေဒီ ၆၄၀)တွင် ဗုဒ္ဓဘာသာကို ချီးမြှောက်သော ချင်မင်းဆက်ပျက်သုဉ်း သဖြင့် ချင်မင်းဆက်၏ရန်သူဖြစ်သော မြောက်ပိုင်းရှိ (ဝီး) မွန်ဂိုမင်းဆက်နှင့် တောင်ပိုင်းရှိ တရုတ်(ဆုန်)မင်းဆက် တို့၏ နှိပ်စက်မှုကို ခံခဲ့ရသည်။ ဆင်းတုတော်များ၊ ကျမ်းစာများဖျက်ဆီးခြင်းခံရသည့်အပြင် ရဟန်းတော်များလည်း သတ်ဖြတ်ခြင်းကို ခံခဲ့ရသည် ဟုဆိုသည်။ သို့ရာတွင် တိုင်းသူပြည်သားတို့က ကန့်ကွက်ဆူပူကြရာမှ ၂၅ နှစ် အကြာ သာသနာသက္ကရာဇ် ၉၉၅ နှစ် (အေဒီ ၄၅၁)၌ မွန်ဂိုမင်းဆက်က ဘာသာရေး နှိပ်ကွပ်မှုအမိန့်ကို ရုပ်သိမ်း၍ လူထုကျေနပ်စေရန် ပေ ၅၀ အမြင့်ရှိသော ကြေးဆင်းတုတော်တစ်ဆူကို သွန်းပြု၍ ရွှေချပေးခဲ့သည့်ပြင် မြို့တစ်မြို့လျှင် ကျောင်းတစ်ကျောင်းဆောက်နိုင်ပြီး လူ ၅၀ ကို ရဟန်း၊ သို့မဟုတ် သီလရှင် ဝတ်ခွင့်ပေးခဲ့သည်။

ယင်း မွန်ဂိုမင်းဆက်မှ သာသနာသက္ကရာဇ် ၉၉၈ နှစ် (အေဒီ ၄၅၄)၌ နန်းတက်သော အီယအိုဝူးတီဘုရင်သည် ဗုဒ္ဓကျမ်းစာကို လွတ်လပ်စွာသင်ကြားကျင့်ကြံလို၍ သာသနာသက္ကရာဇ် ၁၀၁၅ နှစ် (အေဒီ ၄၇၁)၌ ထီးနန်းကိုပင်စွန့်ခဲ့သည် ဟုဆိုသည်။ ဤသို့ သာသနာပြန်လည်ကြီးပွားလာသဖြင့် သာသနာသက္ကရာဇ် ၁၀၇၄

နှစ် (အေဒီ ၅၃၀)တွင် မြောက်ပိုင်း၌ ကျောင်းပေါင်း ၁ သောင်း ၃ထောင်ကျော် ရှိလာသည်။ အလယ်ပိုင်းနှင့် တောင်ပိုင်း၌လည်း ဆုန်မင်းဆက်က ဗုဒ္ဓဘာသာကို အထူးအခွင့်အရေး ပေးခဲ့သည်။ ဘုရင်အချို့ကိုယ်တိုင် ကျောင်းဆောက်လှူဒါန်းခြင်း၊ ကိုယ်တိုင် ကျမ်းစာများသင်ယူတတ်မြောက်ခြင်းများဖြင့် သာသနာကိုချီးမြှောက်ကြသဖြင့် သာသနာတော် အထူးတိုးတက်လျက်ရှိသည်။ ၄င်းမင်းဆက် မင်းတစ်ပါးဖြစ်သော လီယန်ဝူးတီ (သာသနာသက္ကရာဇ် ၁၀၄၆-၁၀၉၄ နှစ်၊ အေဒီ ၅၀၂-၅၅၀)ဆိုလျှင် ဗုဒ္ဓဘာသာကို အကြီးအကျယ်ထောက်ပံ့သဖြင့် 'တရုတ်ပြည် အသောကမင်း' ဟူ၍ပင် ခေါ်ကြသည်ဟု အဆိုရှိသည်။

ဗုဒ္ဓဘာသာသည် တရုတ်ပြည်ရောက်စ၌ ဂိုဏ်းကွဲများမရှိသော်လည်း နောက်ပိုင်း၌ အိန္ဒိယမှ ဂိုဏ်းကွဲ ဗုဒ္ဓဘာသာအယူအဆအမျိုးမျိုးနှင့် အကျင့်အမျိုးမျိုးကို သိလာကြသောအခါ ဂိုဏ်းကွဲမှုများ ဖြစ်ပေါ်လာရပါတော့သည်။ ထိုဂိုဏ်းကွဲများသည် တရုတ်ပြည်မြောက်ပိုင်း၊ တောင်ပိုင်းသို့ တဖြည်းဖြည်းပျံ့နှံ့လာတော့သည်။

တရုတ်ပြည်၏ မဟာယာနဗုဒ္ဓဘာသာ ဂိုဏ်းကွဲများမှာ အောက်ပါအတိုင်း ဖြစ်သည်။

၁ - ပိတန်ဂိုဏ်း (ဟိနယာန)။ သာသနာသက္ကရာဇ် ၉၂၇ နှစ်တွင် ဝိဘာသာကျမ်းများကို တရုတ်ဘာသာဖြင့် ပြန်ပြီးသောအခါ ပေါ်ပြီး ပျောက်ကွယ်ခဲ့သည်။

၂ - ကောရှုဂိုဏ်း (ဟိနယာန)။ အဘိဓမ္မကောသကျမ်းကို သာသနာသက္ကရာဇ် ၁၁၀၇-၁၁၁၁ နှစ်တွင် အိန္ဒိယရဟန်းပရမတ္ထထေရ်က တရုတ်ဘာသာပြန်ပြီး သာသနာသက္ကရာဇ် ၁၁၉၄-၁၁၉၈ နှစ်တွင် ဟီယန်ဆိုင်က ထပ်မံ၍ တရုတ်ဘာသာပြန်ပြီးသောအခါ ပေါ်သည်။

၃ - သစ္စသိဒ္ဓိဂိုဏ်း ချင်ရှီးဂိုဏ်း (ဟိနယာန)။ သာသနာသက္ကရာဇ် ၉၅၅-၅၅၆ နှစ်၌ ကုမာရဇီဝက သစ္စသိဒ္ဓိကျမ်းကို တရုတ်ဘာသာပြန်ပြီးသောအခါ ပေါ်သည်။

၄ - ရှေလွန်းဂိုဏ်း (မဟာယာနတစ်ပိုင်း)။ သာသနာသက္ကရာဇ် ၁၀၇၅ နှစ်တွင် ဗုဒ္ဓသန္တထေရ်က အသင်္ဂ၏ မဟာယာနသမ္ပရိဂ္ဂဟကျမ်းကို တရုတ်ဘာသာပြန်သည်။ သာသနာသက္ကရာဇ် ၁၁၀၇ နှစ်တွင် ပရမတ္ထထေရ်က ထပ်မံဘာသာပြန်ပြီး၊ ၁၁၉၂-၁၁၉၃ ခုနှစ်တွင် ဟီယန်ဆိုင်က ထပ်မံ ဘာသာပြန်ပြီးသောအခါ ပေါ်သည်။

၅ - စံလွန်းဂိုဏ်း (မဟာယာနတစ်ပိုင်း)။ နာဂအဇ္ဇုန၏ မဇ္ဈိမိကသတ္တကျမ်း၊ ဒွါဒသဒွါရကျမ်းနှင့် အရိယဒေဝ၏ သတသတ္တကျမ်း ၃ ကျမ်းကို ကုမာရဇီဝထေရ်က တရုတ်ဘာသာပြန်ပြီးသောအခါ ပေါ်သည်။ ကျမ်း ၃ ကျမ်းကို အဓိကထားသောကြောင့် တိဂန္ထဂိုဏ်း ဟူ၍လည်း ခေါ်သည်။

၆ - တီလွန်းဂိုဏ်း (မဟာယာန)။ အိန္ဒိယပြည်သား ဗောဓိရုစိ၊ ရတနမတိ၊ ဗုဒ္ဓသန္တထေရ် ၃ ပါးက ဒသဘူမိကသုတ်ကို သာသနာသက္ကရာဇ် ၁၀၅၂-၁၀၅၆ နှစ်တွင် တရုတ်ဘာသာပြန်ဆိုပြီးသောအခါ ပေါ်သည်။ နောက် ဟွာယင်ဂိုဏ်းက မျိုသွားသည်။

၇ - ဟွာယင်ဂိုဏ်း အဝတံသကဂိုဏ်း (မဟာယာန)။ တူမျိုးရိုးမိဘမှ ဆင်းသက်ပေါက်ဖွားလာသော တရုတ်ဘုန်းကြီး 'ဖရှန်' (လူအမည် တူရှန်) တည်ထောင်သောဂိုဏ်းဖြစ်၍ 'တူရှန်ဂိုဏ်း' ဟုခေါ်သည်။ 'ပန်းကုံး'အဓိပ္ပာယ်ရှိ အဝတံသကကျမ်းမှာ တရုတ်ဘာသာဖြင့် အတွဲ ၈၀ မူ၊ အတွဲ ၆၀ မူ၊ အတွဲ ၄၀ မူ ဟူ၍ ၃ မူ ရှိသည်။ ဒုတိယမူ သက္ကတမူရင်း မတွေ့ချေ။ အတွဲ ၄၀ မူ သက္ကတမူရင်းကို 'ဂဏ္ဍဗျူဟာသုတ်' ဟုခေါ်သည်။

တရုတ်ပြည်၌ ဗုဒ္ဓသာသနာထွန်းတောက်ချိန်၌ ဝါဒရေးရာရှုပ်ထွေးနေခဲ့သော်လည်း ဤဂိုဏ်းက ဗုဒ္ဓဝါဒကို အောက်ပါအတိုင်း ၅ မျိုးခွဲ၍ ရှင်းပြထားသည်။

- ဟိနယာန။ အတ္တဇီဝကိုငြင်းပယ်ပြီး၊ ပုဂ္ဂလသုညတာကို လက်ခံသည်။ 'စိတ်, စေတသိက်, ရုပ်တရားများကို တကယ်အရှိတရား' ဟုယူသည်။ သဗ္ဗသုညတာကို နားမလည်သူများ ဖြစ်သည်။ အိန္ဒိယတွင် သဗ္ဗတ္ထိဝါဒဝေဘာသိက, တရုတ်ပြည်တွင် ကောရှ, ဂျပန်တွင် ကုရှဂိုဏ်းတို့ ဖြစ်သည်။
- အခြေခံမဟာယာန။ ဝိညာဏဝါဒနှင့် သုညဝါဒ ဟူ၍ ၂ ပိုင်း ကွဲသည်။ ဝိညာဏဝါဒ မှာ အိန္ဒိယတွင် ယောဂါစာရဂိုဏ်း, တရုတ်တွင် ရှေလွန်း, ဂျပန်ပြည်တွင် ဟိုဆိုဂိုဏ်းတို့ ဖြစ်သည်။ သုညဝါဒမှာ အိန္ဒိယတွင် မဇ္ဈိမိက, တရုတ်တွင် စံလွန်း, ဂျပန်တွင် စံရွန်ဂိုဏ်း တို့ ဖြစ်သည်။

  ဝိညာဏဝါဒမှာ အာလယဝိညာဉ်ဖြင့် ကြောင်းကျိုးဆက်စပ်ပြထား၍ ဓမ္မနှင့် နိယာမကို တစ်ခုတည်းဖြစ်အောင် ပေါင်းစပ်မပြနိုင်ဘဲ သီးခြားစီခွဲထားသည်။ အမျိုး (ဂေါတ္တ) ၅ ပါးကို သီးခြားယူထားသဖြင့် 'လူတိုင်း ဗုဒ္ဓဖြစ်နိုင်သည်' ဟူသောသဘောတရားကို လက်ခံသောကြောင့် မဟာယာန မဖြစ်နိုင်။ မဇ္ဈိမိကဂိုဏ်းကမူ 'မိမိကိုယ်ပိုင်လက္ခဏာ မရှိခြင်းကိုအခြေပြု၍ သုညကို လက်ခံသည်။ အတ္တနှင့် အနတ္တကို ထပ်တူပြုသည်။ သတ္တဝါတိုင်း ဗုဒ္ဓဖြစ်နိုင်သည်' ဟုဆိုသည်။ ထို့ကြောင့် ဤဂိုဏ်းသည် မဟာယာနဖြစ်ရန် ရှေ့သို့ တစ်ဆင့်တက်လာသည်။
- အန္တိမမဟာယာန။ တထတာကို လက်ခံသည်။ 'သဘာဝဓမ္မအားလုံးသည် ပျက်စီး ပျောက်ကွယ်မသွားဘဲ အမြဲတစေ ပုံသေတည်ရှိနေသည်' ဟုယုံကြည်သည်။ 'သတ္တဝါ တိုင်းတွင် ဗုဒ္ဓသဘာဝ ပါရှိသည်' ဟုဆိုသည်။ တရုတ်ပြည်တွင် တီယင်တိုင်းဂိုဏ်း, ဂျပန်တွင် တင်ဒိုင်းဂိုဏ်း တို့ဖြစ်ကြသည်။
- ဖြတ်လမ်းမဟာယာန။ သူတစ်ပါးက ဟောကြားဆုံးမ နည်းပြရန်မလို။ မိမိအလိုလို ရုတ်တရက် ဗောဓိဉာဏ်ကို ရသောနည်း ဖြစ်သည်။ တရုတ်ပြည်၌ ချန် (ဈာန်)ဂိုဏ်းနှင့် ဂျပန်ပြည်၌ ဈာင်(ဇင်)ဂိုဏ်းတို့ ဖြစ်သည်။
- စက်ဝိုင်းမဟာယာန။ 'ယာနအားလုံးမှာ ထပ်တူညီကြ၍ ယာနတစ်ခုတည်း (ဧကယာန) သာ ဖြစ်သည်။ ထို့ကြောင့် အထက်၌ဖော်ပြခဲ့သော ယာနအားလုံးသည် ဧကယာန ခေါ် အဝဋ္ဋံသကတရားတော်၏ ဂိုဏ်းကွဲများသာ ဖြစ်သည်' ဟုဆိုသည်။ ၎င်းအပြင် ဤဂိုဏ်းသည် ဘုရားဟောတရားတော်ကိုလည်း 'သမာပတ်ပြင်ပ၌ ၄၅ ဝါပတ်လုံး ဟောတော်မူသော တရားအာဂမ (နိကာယ်) ၄ ရပ် နှင့် ပိဋကတ် ၃ ပုံ။ သမာပတ်အတွင်း (မဟာဗောဓိပင်ရင်း၌ သာဂရမုဒြာသမာဓိဈာန်ကို ဝင်စား၍စဉ်)၌ ဟောတော်မူသောတရား (အဝဋ္ဋံသကတရားတော်)' ဟူ၍ ၂ ပိုင်း ခွဲထားသည်။

၈ - တီယင်တိုင်း (မဟာယာန)။ တရုတ်ပြည်တောင်ပိုင်းရှိ တီယင်တိုင်းတောင်ပေါ်၌နေသော အဘိဓမ္မာဆရာကြီး 'ချီအီကိုင်' (သာသနာ သက္ကရာဇ် ၁၀၇၅-၁၁၄၁ နှစ်) မည်သော ဆရာကြီးကိုအစွဲပြု၍ တီယင်တိုင်းဂိုဏ်း ဟုခေါ်သည်။ ဤဂိုဏ်းကို ဟွယ်ဝင်း (သာသနာသက္ကရာဇ် ၁၀၉၄-၁၁၂၁ နှစ်)က စတင်တည်ထောင်ခဲ့ခြင်း ဖြစ်သည်။ ဒုတိယဂိုဏ်းချုပ်ကား ဟွယ်ဆူ ဖြစ်သည်။ ချီကိုင်မှာ တတိယဂိုဏ်းချုပ် ဖြစ်သည်။ သူသည် ကြာပန်းကိုကြည့်၍ သမာဓိရှာနံ အားထုတ်နည်းကို ဟွယ်ဆူထံမှ သင်ယူခဲ့သည်။ ထို့ကြောင့် ဤဂိုဏ်းကို တီယင်တိုင်းဂိုဏ်း ဟု ခေါ်သည့်အပြင် 'သဒ္ဓမ္မပုဏ္ဍရီကာဂိုဏ်း' ဟူ၍လည်း ခေါ်သည်။ ဤဂိုဏ်းသည် တရုတ်ပြည်တွင် ယနေ့တိုင် တည်ရှိနေသောဂိုဏ်း ဖြစ်သည်။ ဤဂိုဏ်းသည် အိန္ဒိယ၌မရှိခဲ့သော တရုတ်တို့၏ မူပိုင်တီထွင်ထားသောဂိုဏ်း ဟုဆိုနိုင်သည်။

ဤတီယင်တိုင်းဂိုဏ်းက ဗုဒ္ဓဒေသနာတော်ကို အောက်ပါအတိုင်း ခေတ် ၅ ခေတ်ဖြင့် ခွဲပြထားသည်။

- အဝတံသကခေတ်။ ဗောဓိပင်၌ဟောတော်မူသော တရား။
- မြွေစကြာခေတ် (မိဂဒါဝုန်ခေတ်)။ ဓမ္မစကြာသုတ်၊ အနတ္တလက္ခဏာသုတ် စသော ရှေးပိုင်းအာဂမ (နိကာယ်)တရားများကို ဉာဏ်ပညာနည်းသူတို့ သိနားလည်စေရန်နှင့် ရဟန္တာ ဖြစ်နိုင်ရန် ဟောတော်မူသောတရား။
- ဝေပုလ္လခေတ်။ အဆင့်မြင့်တရားဖြစ်သည်။ ဟိနယာန (ရဟန္တာ)အဆင့်မှ မဟာယာန (ဘုရားလောင်း)အဆင့်သို့တိုးမြှင့်ပေးရန် ဟောတော်မူသောတရား။
- ပညာပါရမိတာခေတ်။ ပညာပါရမီကို ပဓာနထား၍ ပညာပါရမိတာသုတ်ကို ဟောကြားတော်မူသောခေတ် ဖြစ်သည်။ အန္တိမသုညနှင့် ကေဝလဝါဒ သဘောတရားတော်များ ဖြစ်သည်။
- သဒ္ဓမ္မပုဏ္ဍရီကနှင့် မဟာပရိနိဗ္ဗာန်ခေတ်။ 'အသစ်ရှာဖွေခြင်းခေတ်' ဟူ၍လည်း ခေါ်သည်။ သာဝက ပစ္စေကဗုဒ္ဓါနှင့် ဗောဓိသတ္တယာန ၃ ပါးကို တစ်ခုတည်းပေါင်း၍ ကေယာနဝါဒကို ဟောတော်မူသည်။ သဒ္ဓမ္မပုဏ္ဍရီကနှင့် မဟာပရိနိဗ္ဗာနသုတ်ဒေသနာတို့သည် ဗုဒ္ဓ၏ နောက်ဆုံးဒေသနာ ဖြစ်သည် ဟုဆိုသည်။ တစ်ဖန် ဒေသနာတော်အားဖြင့်လည်း အောက်ပါ အတိုင်း ၈ နည်း ခွဲခြားထားပြန်သည်။

**ပထမဒေသနာ ၄ နည်း**

- အကာလိကဒေသနာ။ သတ္တဝါတို့၏စရိုက်ကိုမငဲ့ဘဲ တိုက်ရိုက်ဟောသော အဝတံသက ခေတ် ဒေသနာ။
- နေယျတ္ထဒေသနာ။ တစ်ဆင့်ချင်းတိုးမြှင့်၍ သိရန်ဟောသော ဓမ္မစကြာခေတ်၊ ဝေပုလ္လခေတ်၊ ပညာပါရမိတာခေတ်ဒေသနာ။
- မန္တရဒေသနာ။ ဗုဒ္ဓက လျှို့ဝှက်၍ တန်ခိုးဖြင့်ဖုံးကွယ်ထားသော အဝတံသကခေတ်မှ ပညာ ပါရမိတာခေတ်အထိ ဒေသနာ။
- အနိယာမဒေသနာ။ မန္တရဒေသနာအတိုင်းပင် ဖြစ်သည်။ အထူးမှာ တရားနာသူများ တစ်ဦး တစ်မျိုးစီနားလည်သော်လည်း အချင်းချင်း မြင်နေကြရသည်။ ဤနည်းကို သဒ္ဓမ္မပုဏ္ဍရီက သုတ်မဟောမီက အသုံးပြုသည် ဟုဆိုသည်။

### ဒုတိယဒေသနာ ၄ နည်း

- ပိဋကဒေသနာ။ အာဂမ ခေါ် နိကာယ် ၄ ရပ်နှင့် ဟိနယာနတရားတော်အားလုံး ပါဝင်သည်။
- သာမညဒေသနာ။ သာဝက၊ ပစ္စေကဗုဒ္ဓ၊ ဗောဓိသတ္တယာန ၃ ပါးစလုံးက ဟောသောတရား ဖြစ်သည်။ အသုံ့စားဗောဓိသတ္တသည် ယာန ၃ ပါးစလုံးကို ကျင့်သည်။
- ဝိသေသဒေသနာ။ မဟာယာန ဗောဓိသတ္တအတွက် သီးသန့်ဟောသောတရား ဖြစ်သည်။ ပထမ၊ဒုတိယ ဒေသနာ ၂ ပါးကား တစ်ဘက်စွန်းကျသော သုညဖြစ်ပြီး၊ ဤဒေသနာမှာမူ အခြားနှင့်မရောသော မဇ္ဈိမပဋိပဒါသုညကို ဟောသည်။
- စက္ကဒေသနာ။ စက်ဝိုင်းအဓိပ္ပာယ်မှာ ပြည့်စုံခြင်း ဖြစ်သည်။ သဒ္ဓမ္မပုဏ္ဍရိကနှင့် မဟာပရိနိဗ္ဗာနသုတ်ဒေသနာ ဖြစ်သည်။ သဒ္ဓမ္မပုဏ္ဍရိကကျမ်းကား ဤဂိုဏ်းမပေါ်မီ သာသနာနှစ် ၉၀၀ ခန့်ကပင် တရုတ်ပြည်၌ သင်ယူဟောကြားနေကြပြီဖြစ်သည့်အပြင်၊ သာသနာနှစ် ၉၅၀ ၌ ကုမာရဇီဝထေရ်က တရုတ်ဘာသာ ပြန်ဆိုပြီးသောအခါ ပို၍ စနစ်ကျလာသော ကျမ်း ဖြစ်လာသည် ဟုဆိုသည်။

တစ်ဖန် ဤတီယင်တိုင်းဂိုဏ်းသည် သစ္စာကိုလည်း ၃ ပါးအဖြစ် အောက်ပါအတိုင်းဖော်ပြထားသည်။

- သုညသစ္စာ။ အရာအားလုံးသည် မတည်မြဲခြင်း၊ အနှစ်သာရကင်းခြင်း။
- ခဏိကသစ္စာ။ အရာအားလုံးသည် အမြဲမတည်သော်လည်း ခေတ္တတည်မှုရှိခြင်း။
- မဇ္ဈိမသစ္စာ။ သဘောတရားအားလုံးသည် စစ်မှန်ခြင်း၊မစစ်မှန်ခြင်း၊ ရှိခြင်း၊မရှိခြင်းတို့ အကြား၌ ရှိခြင်း။

၄င်းအပြင် ဘုံ ၁၀ ဆင့်နှင့် လောက ၃၀၀၀ ကိုလည်း အောက်ပါအတိုင်း ဖော်ပြထားသည်။

| | | | |
|---|---|---|---|
| ၁ - | ဗုဒ္ဓဘူမိ | = | ဗုဒ္ဓတည်ရာဘုံ၊ (ဗုဒ္ဓသည် ဘုံ ၁၀ ဆင့်၌မပါဝင်သော်လည်း သတ္တဝါများကို တရားဟောရန် တစ်စိတ်တစ်ပိုင်းအားဖြင့် လောကဘုံအတွင်း၌ပါဝင်ရခြင်း ဖြစ်သည်။ |
| ၂ - | ဗောဓိသတ္တဘူမိ | = | ဘုရားလောင်းတို့တည်ရာဘုံ။ |
| ၃ - | ပစ္စေကဗုဒ္ဓဘူမိ | = | ဘုရားငယ်တို့တည်ရာဘုံ။ |
| ၄ - | သာဝကဘူမိ | = | သာဝကကြီးများတည်ရာဘုံ။ |
| ၅ - | ဒေဝတာဘူမိ | = | နတ်တို့တည်ရာဘုံ။ |
| ၆ - | အသူရာဘူမိ | = | စစ်တိုက်ဝါသနာပါသော အောက်တန်းနတ်တို့တည်ရာဘုံ။ |
| ၇ - | မနုဿဘူမိ | = | နတ်နှင့် ငရဲကြားရှိ လူ့ဘုံ။ |
| ၈ - | ပေတဘူမိ | = | အမြဲဆာနေသောပြိတ္တာဘုံ။ |
| ၉ - | တိရစ္ဆာနဘူမိ | = | တိရစ္ဆာန်လောက။ |
| ၁၀ - | နိရယဘူမိ | = | အောက်ဆုံးရှိငရဲဘုံ။ |

ဘုံ ၁၀ ဆင့်အနက် အထက် ၄ ဘုံသည် အရိယာဘုံဖြစ်၍ ကျန် ၆ ဘုံသည် ပုထုဇဉ်တို့၏ဘုံဖြစ်သည်ဟု ဆိုသည်။ ၎င်းအပြင် ဘုံတစ်ဆင့်ဆင့်တွင် ကျန်သော အခြား ဘုံ ၉ ဆင့်လည်း ပါဝင် နေသဖြင့် အပြန်အလှန်သဘောအရ ဘုံ ၁၀၀ (၁၀×၁၀=၁၀၀ ဘုံ) ဖြစ်လာရသည်။

တစ်ဖန် ၎င်း ဘုံ ၁၀၀ တွင် ရုပ်သွင်သဏ္ဌာန်, သဘာဝ, ဒြပ်, စွမ်းအား, ကြိယာအပေါ် မူလအကြောင်း, အခြံအရံအကြောင်း, အကျိုးရင်း, အကျိုးဖျား, အတ္တမအခြေအနေ ဟူသော တထတာ၏လက္ခဏာ ၁၀ ရပ် ပါဝင်နေပြန်သဖြင့် ၁၀၀×၁၀=၁၀၀၀ ဘုံ ဖြစ်လာရပြန်သည်။

တစ်ဖန်ဘုံအသီးသီး၌ 'သက်ရှိသတ္တဝါတို့၏ ဗီဇ၊ အာကာသဗီဇ၊ ရုပ်, ဝေဒနာ, သညာ, သင်္ခါရ, ဝိညာဉ် ဟူသော ခန္ဓာ ၅ ပါး၏ဗီဇ' ဟူ၍ ဗီဇ ၃ ပိုင်း ပါဝင်နေပြန်သဖြင့် ၁၀၀၀×၃= ဘုံလောက ၃၀၀၀ ဖြစ်လာရသည် ဟုဆိုသည်။

## ၉ - တန္တရဂိုဏ်း (ဟွာယင်ဂိုဏ်း - မဟာယာန)

အိန္ဒိယပြည်ဖြစ် တန္တရကျမ်းများကို အသီရိမိတြက သာသနာနှစ် ၉၀၀ ခန့်တွင် တရုတ်ဘာသာ ပြန်ဆိုခဲ့သည်။ မဟာယာနဗုဒ္ဓဘာသာ၏ တန္တရ, မန္တရကျမ်းများကို တန်ခေတ် (သာသနာနှစ် ၁၂၅၀-၁၄၅၀)တွင် အရှင်သုဘကသိဟ, ဝဇိရဗောဓိ, အမောဃဝဇိရ ရဟန်း ၃ ပါးကသယ်ယူလာ၍ တရုတ်ပြည်ရောက်ရှိပြီး၊ တရုတ်ဘာသာ ပြန်ဆိုခဲ့ကြရာမှ ဤဂိုဏ်း ပေါ်လာသည်။

## ၁၀ - သုခဝတီဗျူဟာဂိုဏ်း (ချင်ဟူဂိုဏ်း-မဟာယာန)

တန်ခေတ်၌ တရုတ်ရဟန်းတော် 'ဖူမင်း' ခေါ် ဂျင်မင်း (သာသနာသက္ကရာဇ် ၁၁၆၂-၁၂၆၃)က အိန္ဒိယသို့ ထွက်ခွာသွားရာ၊ ဂန္ဓာရတိုင်း၌ ဗျာနိဗုဒ္ဓ ၆ ပါးအနက် အမိတာဘဘုရား ကိုးကွယ်မှုကိုတွေ့၍ တရုတ်ပြည်သို့ ယူလာရာမှ ပေါ်လာသည်။

'အနောက်အရပ်၌ အမိတာဘဘုရားနေပြည်တော် သုခဝတီဘုံ ရှိသည်။ ယင်းဘုံသို့ရောက်ရန်မှာ အမိတာ ဘာဘုရားကို အကြွင်းမဲ့ယုံကြည်မှုဖြင့် 'နမော အမိတာဘာ ဗုဒ္ဓါယ' ဟူသောဂါထာကို အကြိမ်ကြိမ်ရွတ်ဆိုနေရန်သာ လိုသည်' ဟုဆိုသည်။ သဒ္ဓမ္မပုဏ္ဍရိကသုတ်, စူဠသုခဝတီ ဗျူဟာသုတ်, မဟာသုခဝတီ ဗျူဟာသုတ်, အမိတာဘာယုဗျာနသုတ်တို့ကို အခြေခံ၍ဖြစ်ပေါ်လာသော ဝါဒဂိုဏ်း ဖြစ်သည်။

## ၁၁ - ချန် (ဈာန် = ဈာင် = ဇင်ဂိုဏ်း - မဟာယာန)

တရုတ်ပြည် အသောကမင်း လီယန်ပူးတီလက်ထက် သာသနာနှစ် ၁၀၆၄ (အေဒီ ၅၂၀)တွင် ကိဉ္စိပူရမြို့မှ ဗြာဟ္မဏဘုရင်တစ်ပါး၏ တတိယသားတော်ဖြစ်သော ဗောဓိဓမ္မအရှင်သည် အိန္ဒိယမှ တရုတ်ပြည်သို့ ရောက်ရှိခဲ့ သည်။ ဤအရှင်သည် တရုတ်နှင့် ဂျပန်ပြည်တို့တွင် ဈာန်(ဈာင်=ဇင်)ဂိုဏ်းကို တည်ထောင်သူအဖြစ် ယနေ့တိုင် ထင်ရှားလျက်ရှိသည်။ ဤအရှင်သည် 'ဂေါတမဘုရားမှ တိုက်ရိုက်ဆင်းသက်လာသော ၂၈ ဆက်မြောက် အရှင်ဖြစ်သည်' ဟုဆိုသည်။

'သမထကမ္မဋ္ဌာန်းအလုပ်ကို အထူးယုံကြည်လျက်စိတ်တည်ကြည်မှ သမာဓိ ရမည်။ သမာဓိရမှ ကျမ်းစာကို ကျနစွာနားလည်ကျင့်ကြံနိုင်မည်။ 'ဒါန'စသော ပြင်ပကုသိုလ်များထက် သမထဘာဝနာအလုပ်က ပို၍ သံသရာမှ လွတ်မြောက်နိုင်သည်' ဟု ဟောပြောကာ၊ ချန် (ဈာန်=ဈာင်=ဇင်)ဂိုဏ်းကို တည်ထောင်ခဲ့သည်။ အမှန်မှာ ဤဂိုဏ်း၏ကျင့်စဉ်ကို ယောဂါစာရဂိုဏ်း သမာဓိဈာန် အားထုတ်နည်းနှင့် တန္တရဂိုဏ်း၏ လျှို့ဝှက်နည်းများကို စုပေါင်းကာ တီထွင်ထားခြင်းဖြစ်သည်။

### ၁၂ - ဝိနယဂိုဏ်း (လူ့ဂိုဏ်း)

သာသနာသက္ကရာဇ် ၁၂၀၀ ပြည့်နှစ် (အေဒီ ၆၅၆)ခန့်၌ တာအိုရွှန်က တည်ထောင်သောဂိုဏ်း ဖြစ်သည်။ ဤဂိုဏ်းကို နန်းကင်းမြို့တော်၌ ကြည်ညိုသူ များလှသည်။ အနက်ရောင်သင်္ကန်း ဝတ်ဆင်သည်။ ထေရဝါဒ ဝိနည်းသိက္ခာပုဒ်များနှင့် တူသည်က များသည်။ ထေရဝါဒ၌ ပါစိတ် ၉၂ ရှိရာ၊ မဟာယာနနှ၌ ၁၀၀ ရှိသည်။ သို့ရာတွင် မဟာယာနတို့သည် စိတ်သဘ်ပဓာနဆိုပြီး၊ သိက္ခာပုဒ်ကို တိကျစွာလိုက်နာခြင်း မရှိကြချေ။

### ၁၃ - နိရိုပန်ဂိုဏ်း (နိဗ္ဗာန်ဂိုဏ်း)

တီယင်တိုင်းဂိုဏ်း၏ဝါးမျိုခြင်း ခံရ၍ သက်တမ်း မရှည်ခဲ့ချေ။

### ၁၄ - ဖစီယန်ဂိုဏ်း (ဖရှန်ဝိညာဏဝါဒဂိုဏ်း)

မဟာယာနတစ်ပိုင်း ဖြစ်သည်။ ဤဂိုဏ်းသည် ရှေလွန်းဂိုဏ်းကို ဝါးမျို နေရာယူခဲ့သည်။

ဖော်ပြခဲ့ပြီးသော ကောရှဂိုဏ်းကိုပင် 'ချူရှေးဂိုဏ်း' ဟူ၍လည်း ခေါ်သည်။ ၎င်း ၁၄ ဂိုဏ်းအနက် ပီတန်၊ နိရိုပန်၊ တီလွန်းနှင့် ရှေလွန်းဂိုဏ်းတို့သည် ဂျပန်ပြည်သို့ ရောက်ရှိလာခြင်းမရှိချေ။ အချုပ်အားဖြင့် တရုတ်ပြည်မဟာယာန ဗုဒ္ဓဘာသာဝင် များ ယနေ့ကိုးကွယ်နေကြသော ဘုရားများမှာ အတန်းစားအလိုက်- '၁- ဂေါတမဗုဒ္ဓသကျမုနိ။ ၂- အမိတာဘာ။ ၃- ဘေသဇ္ဇမယဂုရု။ ၄- ဝေရောစန။ ၅- လောရှန' ဟူ၍ ၅ ဆူရှိပြီး၊ ဘုရားလောင်းများမှာ- '၁- အဝလောကိတေသရ။ ၂- အမိတာဘာ၏ ဒုတိယသား တရှိချီ။ ၃-မေတ္တေယျ။ ၄- မဉ္ဇူသီရိ။ ၅- သမန္တဘဒ္ဒ' တို့ဖြစ်သည်။

အရဟတ်များအဖြစ်- '၁- သျှင်သာရိပုတြာ။ ၂- သျှင်မောဂ္ဂလာန်။ ၃- သျှင်မဟာကဿပ။ ၄- သျှင်အနုရုဒ္ဓါ။ ၅- သျှင်သုဘုတိ။ ၆- သျှင်ပုဏ္ဏ။ ၇- သျှင်ကစ္စာယန။ ၈- သျှင်ဥပါလိ။ ၉- သျှင်ရာဟုလာ။ ၁၀- သျှင်အာနန္ဒာ' တို့ကို ကိုးကွယ်ကြသည်။

အထူးမှာ ရဟန်းပြုလိုသူများသည် ပထမ လူ့ဘဝဖြင့် ၅ နှစ်ခန့် သီလ ဆောက်တည်ရသည်။ ဒုတိယ ရဟန်းတက်ရသည်။ တတိယ ဘုရားလောင်းအဖြစ် ပါရမီဖြည့်ရသည်။ ရှေးက အသက် ၂၀ ပြည့်မှ ရဟန်းပြုရ သော်လည်း၊ ယခုအခါ အသက် ၁၅ နှစ်၊ ၁၆ နှစ်၊ ၁၇ နှစ်မျှဖြင့် ရဟန်းပြုလျက်ရှိကြသည် ဟုဆိုသည်။

### ဟာန်ဆူချွမ်၊ သို့မဟုတ် တိုင်ပေဘာသာရေးဂိုဏ်း

တရုတ်ပြည်တွင် ဗုဒ္ဓဘာသာဂိုဏ်းကွဲများကို နှစ်သက်ရာ ကိုးကွယ်နေကြရာမှ အလွန်နှောက်ကျသောကာလ၌ ခရစ်ယာန်နှင့်ဆက်စပ်နေသော ဘာသာရေးဂိုဏ်းတစ်ခု အထင်အရှားပေါ်ပေါက်လာသည်။ ၎င်း ဘာသာရေးဂိုဏ်းမှာ 'ဟာန်ဆူးချွမ် ဘာသာရေးဂိုဏ်း' ပင်ဖြစ်သည်။

တရုတ်ပြည်တောင်ပိုင်း ကွမ်တန်နယ် တောရွာတစ်ရွာတွင် ကျောင်းဆရာ လုပ်နေသော 'ဟာန်ဆူးချွမ်' ဆိုသူ တရုတ်လူမျိုးတစ်ယောက်သည် ခရစ်ယာန်ဘာသာကိုနှစ်သက်သဖြင့် ခရစ်ယာန်ဆန်သောတရားများကို ဟောပြော ခဲ့သည်။ တိုင်းပြည်အခြေအနေဆိုးရွား၍ ဒုက္ခအမျိုးမျိုးရောက်နေကြရသော တောင်သူလယ်သမားများက ဟာန်ဆူးချွမ် ဟောပြောသော တရားကိုနှစ်သက်၍ သူ၏ဂိုဏ်းသို့ ဝင်လာကြသည်။ ဟာန်ဆူးချွမ်ဂိုဏ်းသို့ဝင်လာကြသော တောင်သူလယ်သမားများသည် အလွန်ဆင်းရဲနွမ်းပါးသော ပစ္စည်းမဲ့လူတန်းစားများဖြစ်၍ မိမိတို့ဘဝကို အလွန် မကျေမနပ်သူများ ဖြစ်ကြသည်။

ဟန်ဆူးချွမ်ဘာသာရေးဂိုဏ်းသည် တစ်နေ့တခြား တိုးတက်ကြီးထွားလာရာ တောင်သူလယ်သမားတို့သည် မိမိတို့၏အဖွဲ့အစည်း အင်အားကောင်းလာသည်ကို သိမြင်သဖြင့်၊ သူတို့အားနှိပ်စက်ဖိစီးသော မြေရှင်၊အရင်းရှင်ကို တော်လှန်ပြီး ထိုမြေရှင်အရင်းရှင်တို့၏မြေယာပစ္စည်းများကို သိမ်းယူကြရန် အချင်းချင်းတိုင်ပင်ဟောပြော တိုက်တွန်းလှုံ့ဆော်ကြသည်။ ထို့ကြောင့် ဟန်ဆူးချွမ်ဘာသာရေးဂိုဏ်းသည် နိုင်ငံရေးအဖွဲ့အစည်းတစ်ခုအဖြစ်သို့ ရောက်ရှိလာပါတော့သည်။ ဟန်ဆူးချွမ်ဂိုဏ်းဝင်များသည် တစ်နေ့တခြား အင်အားတောင့်တင်းလာသဖြင့် နေရာအနှံ့အပြားတွင် အဖွဲ့ခွဲများကို တည်ထောင်လာကြသည်။

'ဟန်ဆူးချွမ်ဂိုဏ်းဝင်များသည် ဘာသာရေးမှ နိုင်ငံရေးသို့ကူးပြောင်းပြီး မြေရှင်၊အရင်းရှင်တို့ကို တိုက်ပွဲဝင်ရန် အားထုတ်ကြိုးပမ်းနေကြကြောင်း' တရုတ်အစိုးရသိသောအခါ တိုင်းပြည်ဆူပူမှု ဖြစ်မည်စိုးသောကြောင့် ထိုအသင်းအဖွဲ့များ၏လုပ်ငန်းများကို တားဆီးပိတ်ပင်ရန်၊ တားဆီးပိတ်ပင်မရလျှင် အပြီးဖျက်သိမ်းရန် အမိန့်ပေးပြီး အစိုးရတပ်များကို စေလွှတ်ခဲ့သည်။ ၁၈၅၀ ပြည့်နှစ်တွင် ဟန်ဆူးချွမ်ဂိုဏ်းဝင်များသည် အစိုးရတပ်ကို လက်နက်စွဲကိုင်၍ ပုန်ကန်ခုခံခဲ့ကြသည်။ ဟန်ဆူးချွမ်လည်း သူပုန်ခေါင်းဆောင် ဖြစ်လာတော့သည်။

ဟန်ဆူးချွန်သည် နောက်လိုက်အင်အား တောင့်တင်းစွာဖြင့် သူပုန်ခေါင်းဆောင်ဖြစ်လာသောအခါ တိုင်းသူပြည်သားတို့မလိုလားသော မန်ချူးမင်းဆက်ကိုအပြုတ်တိုက်၍ သူကိုယ်တိုင် မင်းလုပ်ပြီး မင်းဆက်အသစ်တည်ထောင်ရန် ကြံစည်ခဲ့သည်။ ဤသို့အကြံရှိသောကြောင့် ဟန်ဆူးချွမ်သည် 'မိမိ မင်းဖြစ်ပြီ' ဟုကြေညာကာ 'တိုင်ပေမင်းဆက်'ကို တည်ထောင်ခဲ့သည်။ တိုင်ပေ၏အဓိပ္ပာယ်မှာ 'ကြီးမြတ်သောငြိမ်းချမ်းမှု' ဟုဆိုလိုသည်။ ထို့ကြောင့် ဟန်ဆူးချွမ် ခေါင်းဆောင်သော သူပုန်ကိုလည်း 'တိုင်ပေသူပုန်' ဟုခေါ်သည်။ ဟန်ဆူးချွမ်သည် သူ၏နာမည်ကိုလည်း 'တီယမ်ဝမ်' ဟုအမည်ပြောင်းလိုက်သည်။ တီယမ်ဝမ် အဓိပ္ပာယ်မှာ 'မိုးကောင်းကင်မှ ဆင်းသက်လာသော ဘုရင်မင်းမြတ်' ဟုဆိုလိုသည်။

သို့ရာတွင် အစိုးရတပ်မတော်က ၁၈၆၄ ခုနှစ်တွင် သူပုန်ဌာနချုပ်ဖြစ်သော နန်းကင်းမြို့ကို သူပုန်လက်မှ သိမ်းယူနိုင်ခဲ့သည်။ သူပုန်များသည် သူတို့၏ဌာနချုပ် ကျဆုံးသောအခါ ကစဉ့်ကလျားထွက်ပြေးကြသည်။ သူပုန်ခေါင်းဆောင် ဟန်ဆူးချွမ်သည် သူ့ကိုယ်သူ သတ်သေလိုက်သည်။ ကျန် သူပုန်ခေါင်းဆောင်များလည်း နိုင်ငံရပ်ခြားသို့ ထွက်ပြေးတိမ်းရှောင်သွားခဲ့ကြသည်။ ထို့ကြောင့် သူပုန်ရန်လည်း ငြိမ်းသွားရတော့သည်။

## ဂျပန်ပြည် မဟာယာနဗုဒ္ဓဘာသာ

သာသနာနှစ် ၁၀၀၀ ပြည့်နှစ် (အေဒီ ၄၅၆)ခန့်တွင် ဂျပန်ဘုရင်၏အမတ်ကြီးသည် ဗုဒ္ဓရုပ်ပွားတော်တစ်ဆူကို ကိုးကွယ်ရာ တိုင်းရင်းသား ဘာသာရေးအယူသည်းသူများက ကန့်ကွက်သဖြင့် ဘုရင့်အမိန့်ဖြင့် ရုပ်ပွားတော်ကို တူးမြောင်းတစ်ခုထဲသို့ လွှင့်ပစ်ခဲ့ရသည်။ ထိုအချိန်၌ ဂျပန်တွင် ကပ်ရောဂါတစ်မျိုး ဆိုက်ရောက်ရာ 'ဗုဒ္ဓရုပ်ပွားတော်ကို စော်ကားသောကြောင့် ဤသို့ဖြစ်ရသည်' ဟု ထိတ်လန့်တုန်လှုပ်ကြသဖြင့် ဗုဒ္ဓရုပ်ပွားတော်ကို ပြန်လည်ပူဇော်ခွင့်ရခဲ့သည်။

သာသနာနှစ် ၁၀၉၆ (အေဒီ ၅၅၂)တွင် ကိုရီးယားတွင် ပြည်တွင်းစစ်ဖြစ်ပွားနေ၍ ဘုရင်ကုဒရ က ဂျပန်ဘုရင်ထံ အကူအညီတောင်းခဲ့သည်။ လက်ဆောင်ပဏ္ဏာအဖြစ် ဗုဒ္ဓဘာသာကျမ်းစာများ၊ ဘုရားရုပ်တုတော်များကိုလည်း ပေးပို့ခဲ့သည်။ ဤကား ဂျပန်သို့ ဗုဒ္ဓဘာသာ ပထမဦးဆုံးရောက်ရှိလာခြင်း ဖြစ်သည် ဟု ဆိုသည်။ အဆိုတစ်ရပ်ကမူ ယင်းသက္ကရာဇ်၌ပင် ကိုရီးယားပြည်ရှိ ပိတ်ချီပြည်နယ်မှ ဂျပန်ပြည်သို့ ဗုဒ္ဓဘာသာတရားဝင်ရောက်လာခြင်းဖြစ်သည် ဟု ဆိုသည်။

ထို့နောက် အနှစ် ၅၀ အကြာ၌ စွဲကို ဘုရင်မလက်ထက် ရင်ခွင်ပိုက်မင်းသား ရှိတိုကူတိုင်းရှိ (သာသနာ သက္ကရာဇ် ၁၁၃၇-၁၁၆၅၊ အေဒီ ၅၉၃-၆၂၁)က ဗုဒ္ဓဘာသာကို နိုင်ငံတော်ဘာသာအဖြစ်ကြေညာရာမှ ဗုဒ္ဓဘာသာ သည် ပြည်သူ့ဘာသာ ဖြစ်လာရတော့သည်။

ဂျပန်ပြည်၌ ဗုဒ္ဓဘာသာမရောက်မီ ရှင်တိုဘာသာ ရှိသည်။ ရှင်တိုမှာ 'နတ်များ၏ (ဝါ) ဘုရားများ၏ နည်းလမ်း' ဟုအဓိပ္ပာယ်ရှိသည်။ တော, တောင်, ရေ, မြေ, ကောင်းကင် စသော သဘာဝမွှေနှင့် ကွယ်လွန်ပြီး မိဘဘိုးဘွား စသည်တို့ကိုပေါင်း၍ ကိုးကွယ်သောဘာသာ ဖြစ်သည်။ နတ်ပေါင်း ၈ သန်းမျှရှိသည့်အနက်၊ အကြီးမြတ်ဆုံးနတ်မှာ 'အမတေရစူအိုမိကမိ'အမည်ရှိသော နေနတ်သမီး ဖြစ်သည်။ ဂျပန်ဘုရင်များလည်း ဤ အမိနတ်သမီးမှ ဆင်းသက်လာကြသည် ဟုအယူရှိကြသည်။

ဂျပန်သို့ ဗုဒ္ဓဘာသာရောက်ပြီးနောက် ရှင်တိုဘာသာဟောင်းမှာ မှေးမှိန်ခဲ့ရသော်လည်း ခရစ်နှစ် ၁၇၃၀- ၁၈၀၁ အတွင်း၌ 'မိုတိုအိုရီနိုနာ'ဆိုသူက ပြုပြင်၍ ပြန်လည်ဖော်ထုတ်ခဲ့ပြီး၊ ၁၉ ရာစုတွင် ရှင်တိုဆရာတို့က ထပ်မံကြိုးစားကြသဖြင့် ထင်ရှားလာရပြန်သည်။ ယခုအခါ ရှင်တိုဘာသာမှာ ၂ ဂိုဏ်းရှိပြီး၊ တစ်ဂိုဏ်းက အစိုးရဂိုဏ်း, တစ်ဂိုဏ်းက အခြားဘာသာများကဲ့သို့ အခြေရသောဂိုဏ်းဖြစ်၍ ဂိုဏ်းကွဲ ၁၃ ခုရှိသည် ဟုဆိုသည်။ ခရစ် ၁၉၃၃ နှစ်တွင် အစိုးရဂိုဏ်းဆိုင်ရာ ဘုရားကျောင်းကန် တန်ဆောင်း ၁ သန်း ၁ သိန်း ၁ သောင်း နှင့် အခြား ၁၃ ဂိုဏ်းဆိုင်ရာ ၁၅ သန်း ၉ သိန်း ၂ သောင်း ၆ ထောင် ရှိသည် ဟုဆိုသည်။ သို့ရာတွင် နောက်ပိုင်း၌ ရှင်တိုဘာသာရှိ နတ်များသည် ဗုဒ္ဓဘုရားဝင်စားသော နတ်များဖြစ်သည် ဟုယူဆကြရာမှ ဗုဒ္ဓဘာသာက လွှမ်းမိုးလာတော့သည်။

တရုတ်ရှေးဟောင်းမှတ်တမ်းများအရ တန်ခေတ်(၁၂၅၀-၁၄၅၀ နှစ်)နှင့် ဆွန်ခေတ် (၁၅၀၄-၁၈၂၃ နှစ်) တို့၌ ဂျပန်သို့ ဗုဒ္ဓဘာသာရောက်ရှိပြီးနောက်၊ ဂျပန်တို့သည် တရုတ်ပြည်မှ ပိဋကတ်စာပေများကို ဂျပန်ပြည်သို့ အကြိမ်ကြိမ်သယ်ဆောင်ခဲ့ကြသည် ဟုဆိုသည်။ တရုတ်ပြည်တွင် ဗုဒ္ဓဘာသာဆန့်ကျင်သောမင်းများကြောင့် ပိဋကတ် စာပေများစွာ ပျက်စီးပျောက်ဆုံးသွားခဲ့ရသော်လည်း၊ ဂျပန်ပြည်တွင်မူ ခေတ်အဆက်ဆက် ထိန်းသိမ်းခဲ့သဖြင့် ပိဋကတ်စာပေ အတွဲပေါင်း ၅၀၄၈ တွဲ ရှိသည်။ ယခုတိုင် ပုံမနှိပ်ရသေးသော စာမူများလည်းရှိသည်။ အထူးမှာ ဟိနယာနစာပေကို ဂျပန်ပြည်တွင် လက်ခံကျင့်သုံးသူမရှိသော်လည်း၊ စာပေတစ်ရပ်အနေဖြင့် ထိန်းသိမ်းထားခဲ့ကြ သည်။ တစ်ဖန် ဂျပန်ပြည်ရှိ တန္တရ, မန္တရဂိုဏ်းများမှာ ညစ်ညမ်းသောအပိုင်းများကိုလက်မခံဘဲ၊ သဘောတရားရေးရာနှင့် ကိုယ်ကျင့်တရားအပိုင်းကိုသာ လက်ခံထားသည်။ ဖော်ပြပါ ဗုဒ္ဓစာပေများကို ဂျပန်ပြည်ရှိ ဘုန်းတော်ကြီးကျောင်းများ၌ သင်ကြားရုံသာမက၊ ဗုဒ္ဓဘာသာကို ပဓာနထား သင်ကြားပေးနေသော တွဲဖက် တက္ကသိုလ်ကြီး ၆ ခုရှိသည်။ ဗုဒ္ဓစာပေသင်ခန်းစာများ ပြဋ္ဌာန်းသင်ပေး၍ ဗုဒ္ဓဘာသာ အထောက်ပံ့ခံကောလိပ်များ, အထက်တန်းကျောင်းများလည်း ရှိသည်။ ဂျပန် နိုင်ငံတော်အစိုးရ၏ တက္ကသိုလ်ကြီး ၅ ခုတွင်လည်း ပါဠိ,သက္ကတ နှင့် ဗုဒ္ဓအဘိဓမ္မာများကို သင်ကြားပေးသောဌာနများ ဖွင့်လှစ်ထားသည်။

အထူးမှာ ဂျပန်ပြည်သို့ ဗုဒ္ဓဘာသာရောက်စ၌ ဂိုဏ်းကွဲပြားမှု မရှိခဲ့သော်လည်း နောက်ပိုင်း၌ ဗုဒ္ဓဘာသာ ဂိုဏ်းများ အမျိုးမျိုးကွဲပြားလာရာ ဂိုဏ်းကွဲပေါင်း ၁၁ ဂိုဏ်း ရှိသည်။ တစ်ဖန် ချင်ဂိုဏ်း ၄ ဂိုဏ်းကွဲ၍ သုခ ဝတီဗျူဟာ (အမိတာ) ဂိုဏ်း ၄ ဂိုဏ်း ထပ်မံကွဲပြားသွားပြန်ရာ၊ စုစုပေါင်း ဂိုဏ်းပေါင်း ၁၇ ဂိုဏ်း ဖြစ်လာသည်။ ၄င်းတို့မှာ အောက်ပါအတိုင်း ဖြစ်သည်။

၁- ကုရှ (ချူရှေး) ဂိုဏ်း- ဟိနယာန။ အဘိဓမ္မကောသကျမ်းကို စွဲ၍ ပေါ်သည်။

၂- ဂျိဂျစ်ဆု (ချင်ရှီး) ဂိုဏ်း- ဟိနယာန။ သစ္စသိဒ္ဓိကျမ်းကို စွဲ၍ပေါ်သည်။

၃- ဟိုဆို (ဖစီယန်+ရှေလွန်း) ဂိုဏ်း- မဟာယာန။ သဒ္ဓိမ္မောခနသတ္တ, မဟာယာနသမ္ပဋ္ဌိဂ္ဂဟသတ္တ ယောဂါစာရဘူမိသတ္တ, ဝိညာဏမတ္တတာသိဒ္ဓိသတ္တကျမ်းတို့ကို စွဲ၍ပေါ်သည်။

၄- စံ လွန် (စံလွန်း) ဂိုဏ်း- မဟာယာန။ မဇ္ဈိမိကသတ္တ, ဒွါဒသနိကာယသတ္တကျမ်းနှင့် သတသတ္တ ကျမ်းများကို စွဲ၍ပေါ်သည်။

၅- ဂီဝွန် (ဟွာယင်) ဂိုဏ်း- မဟာယာန။ အဝင်္ဋသကသုတ်, မဟာယာနသဒ္ဓုပ္ပါဒကျမ်းတို့ကို စွဲ၍ ပေါ်သည်။

၆- တင်ဒိုင်း (တီယင်တိုင်း) ဂိုဏ်း- မဟာယာန။ သဒ္ဓမ္မပုဏ္ဍရိကကျမ်းနှင့် မဟာပညာပါရမိတာ ကျမ်း တို့ကို စွဲ၍ပေါ်သည်။

၇- ရှင်ဝွန် (ချင်ယင်) ဂိုဏ်း- မဟာယာန။ မဟာဝေရောစနာဘိသမ္ဗောဓိသုတ်, သုဗာဟုကုမာရ သုတ်နှင့် သုသိဒ္ဓိကာရသုတ်တို့ကို စွဲ၍ ပေါ်သည်။

၈- ဈင် (ချန်) ဂိုဏ်း- မဟာယာန။ 'ရင်ဇိုင်းဈင်, ဆိုတိုဈင်, ဖူကေဈင်, အိုဘာကုဈင်' ဟု ၄ ဂိုဏ်းကွဲသည်။ လင်္ကာဝတာရသုတ်, ဝဇိရစ္ဆေဒိကာသုတ်, ပညာပါရမိတာ သုတ်တို့ကို စွဲ၍ခေါ်သည်။

၉- သုခဝတီဗျူဟာ (ချင်တူ=တန်လွန်း) ဂိုဏ်း- မဟာယာန။ ဤ ဂိုဏ်းလည်း 'ဂျိုဒို, ရှင်, ယူဇူနင်ဘုဇု, ဂျီ ဂိုဏ်း' ဟူ၍ ၄ ဂိုဏ်း ကွဲသည်။သုခဝတီဗျူဟာသုတ်ကို အစွဲပြု၍ ပေါ်သည်။

၁၀- ရစ်ဆု (လူ) ဂိုဏ်း- မဟာသံဃိကဝိနယ။ 'စတုဝဂ္ဂဝိနယပိဋ္ဋက' ခေါ် ဝိနည်း ၄ ကျမ်းကို စွဲ၍ ပေါ်သည်။

၁၁- နိချိရင်ဂိုဏ်း- သဒ္ဓမ္မပုဏ္ဍရိက။ ကျမ်းအတိုင်း အတိအကျကျင့်သုံးသော ဂျပန်ဘုန်းကြီး နိချိရင် တည်ထောင်၍ ပေါ်လာသည်။

အထက်ပါဂိုဏ်းများသည် တရားအယူအဆနှင့်တကွ အဝတ်အဆင်များပါ ကွဲပြားနေကြသည်။

တစ်ဖန် သာသနာပြု ဗုဒ္ဓဘာသာကောလိပ်ကျောင်းထွက်ကြီးများကို 'ဆရာ' ဟု မခေါ်ဘဲ၊ 'ဘုံစံ'ခေါ်သည် ဟုဆိုသည်။ ဘုံစံဖြစ်လိုသူတို့ကလည်း ၁၅ နှစ်ခန့်သင်ပြီးသောအခါ ဗုဒ္ဓဘာသာကောလိပ်ဘွဲ့၊ သို့မဟုတ် တက္ကသိုလ်ကျောင်း တိုက်တစ်တိုက်မှ စာပေကျမ်းဂန်ဘွဲ့၊ သို့မဟုတ် သဘာဝဓမ္မဗေဒဘွဲ့ကို ရမှသာ ဘုံစံအဖြစ် ဆိုင်ရာဂိုဏ်းများ၏ အဖွဲ့အစည်းများက ခန့်ထားခြင်းကို ခံရသည် ဟုဆိုသည်။ ၎င်းဘွဲ့များအပြင် ပါမောက္ခဘွဲ့, ပညာကျော်ဘွဲ့, ပညာရှင်ဘွဲ့တို့ကို ဗုဒ္ဓစာပေနှင့် ရရှိပြန်ပါက ၎င်းဂိုဏ်းများတွင် အမှုဆောင် ကော်မတီလူကြီးများပင် ဖြစ်နိုင်သည် ဟု ဆိုသည်။

ရဟန်းခံရာ၌ 'ရှေးရိုးစဉ်လာ ရဟန်းခံနည်း, အဓိဋ္ဌာန်ရဟန်းခံနည်း' ဟူ၍ ၂ မျိုးရှိသည်။

ရှေးရိုးစဉ်လာနည်းမှာ ဥပဇ္ဈာယ်ဆရာ, ကမ္မဝါစာဆရာ, ကာရကသံဃာတို့ဖြင့် ကမ္မဝါစာဖတ်ခြင်း, စောင့်ထိန်းရန်သိက္ခာပုဒ်များကို ပြောပြခြင်း, ပြီးက ရဟန်းသစ်က 'ဝိနည်းစည်းကမ်းကို စောင့်ထိန်းပါမည်'ဟု အဓိဋ္ဌာန်ပြုရသောနည်းဖြစ်သည်။

အဓိဋ္ဌာန်ရဟန်းခံနည်းမှာမူ 'ထို ဝိနည်းစည်းကမ်းများကို ထိန်းသိမ်းပါမည်' ဟု မိမိတစ်ဦးတည်း အဓိဋ္ဌာန်ပြုနည်းဖြစ်သည်။ ဤနည်းကို 'ဗောဓိသတ္တ ရဟန်းခံနည်း ဖြစ်သည်' ဟုဆိုသည်။

တင်ဒိုင်းဂိုဏ်းနှင့် ချင်ဂိုဏ်းကမူ မဏ္ဍာလများကို အသုံးပြု၍ လျှပ်တစ်ပြက်ရဟန်းခံနည်းကို သုံးသည်။ 'စိတ်ထဲ၌ ရုတ်တရက် ဖျတ်ခနဲ ဉာဏ်ပွင့်လင်းသွားပါက ရဟန်းဖြစ်ပြီ' ဟုဆိုသည်။ ဤ တင်ဒိုင်းဂိုဏ်းနှင့် ချင်ဂိုဏ်း၏ လျှပ်တစ်ပြက်ရဟန်းခံနည်းကိုအခြေခံ၍ ရှိုတိုက မင်းသားကြီးက ဗောဓိသတ္တရဟန်းခံနည်းကို တီထွင်ထားခြင်းဖြစ်သည်။

ရှင်ပွန်ဂိုဏ်း၏ရဟန်းခံနည်းမှာ ဆီမန်းလိမ်းပေးခြင်း ဖြစ်သည်။

သုခဝတီဗျူဟာ၏ဂိုဏ်းကွဲဖြစ်သော ဂျိုဒိုဂိုဏ်းကမူ ဓာတ်ကူးပြောင်းမှုနည်း ၅ နည်းဖြင့် ရဟန်းခံပေးသည်။

အချုပ်အားဖြင့် ဂျပန်တွင် 'ရဟန်း' နှင့် 'ဗောဓိသတ္တ' ဟူ၍ ၂မျိုးကွဲပြီး၊ သတ်မှတ်ထားသောဝိနည်းသိက္ခာပုဒ်များကို ထိန်းသိမ်းလိုက်နာသူသည် ရဟန်းဖြစ်၍၊ ဝိနည်းသိက္ခာပုဒ်ကို မထိန်းသိမ်းဘဲ တရားကျင့်ရုံမျှ ကျင့်သူသည် ဗောဓိသတ္တ (ဘုရားလောင်း) ဖြစ်သည်။ လူတို့ နေထိုင်စားသောက်ပုံနှင့် ဘာမျှမထူးခြားပေ။

ဤဂျိုဒိုဂိုဏ်း ဟိုနင်ဆရာတော်ကြီးလက်ထက် (သာသနာသက္ကရာဇ် ၁၆၇၇-၁၇၅၆ နှစ်၊ အေဒီ ၁၁၃၃ - ၁၂၁၂နှစ်)၌ တပည့်ဖြစ်သော မင်းမျိုးမင်းနွယ် သာသနာ့ဝန်ကိုထမ်းဆောင်နေသည့် ရှိုနင်ဆရာတော်လေး အသက် ၃၀ အရွယ်တွင် ရှင်တိုဘာသာနှင့် ဗုဒ္ဓဘာသာကို ပေါင်း၍ကြည်ညိုနေကြသော မင်းမျိုးမင်းနွယ်တစ်စုက ဟိုနင်ဆရာတော်ကြီးထံသွားပြီး၊ ရှိုနင်အား အိမ်ထောင်ပြုခွင့်ပေးရန် အကြိမ်ကြိမ်လျှောက်ထားကြသည်။ နောက်ဆုံး၌ ဆရာတော်ကြီးကခွင့်ပြုသဖြင့် ရှိုနင်သည် ဂျိုဒိုဂိုဏ်းကြီးမှခွဲထွက်ပြီး 'ထားမာဟိ' ခေါ် မင်းမျိုးနွယ်အမျိုးသမီး တစ်ယောက်နှင့် လက်ထပ်ပြီး၊ 'အိမ်ထောင်ပြုနိုင်သော ရှင်ဂိုဏ်း' ကို စတင်တည်ထောင်ခဲ့သည်။ နောက်ပိုင်းတွင် ရှင်ဂိုဏ်းမှာ အရှေ့ဂိုဏ်းနှင့် အနောက်ဂိုဏ်း ဟူ၍ ၂ ဂိုဏ်း ထပ်မံကွဲပြန်သည်။ ယခုအခါ ရှင်ဂိုဏ်းသည် ဂျပန်တွင် အကြီးဆုံးသောဂိုဏ်းကြီးတစ်ဂိုဏ်း ဖြစ်လျက်ရှိသည် ဟုဆိုသည်။

## နီပေါပြည် မဟာယာနဗုဒ္ဓဘာသာ

နီပေါသည် ဗုဒ္ဓမြတ်စွာဘုရားအနွယ်တော် သာကီဝင်မင်းများ၏ မူလနေရာတိုင်းပြည် ဖြစ်သည်။ ဗုဒ္ဓမြတ်စွာဘုရားကိုဖွားမြင်တော်မူရာ လုမ္ဗိနီဥယျာဉ်သည်လည်း ဤနိုင်ငံအတွင်း၌ပင် ရှိသည်။ နီပေါနိုင်ငံသည် အသောကမင်း၏လက်အောက်ခံဖြစ်ချိန်၌ အသောကမင်း၏သမီးတော် စာရုမတီသည် နီပေါကိုအုပ်ချုပ်သောအမတ်ကြီးနှင့် လက်ထပ်ခဲ့သည်။ ၎င်းတို့တည်ဆောက်ခဲ့သော စေတီနှင့် ကျောင်းတော်ရာများသည် ယခုတိုင် ရှိသည်။ အသောက မင်းကြီးလက်ထက်၌ နီပေါဗုဒ္ဓသာသနာသည် ထေရဝါဒဖြစ်ခဲ့သော်လည်း၊ အသောကမင်းနောက်ပိုင်း၌ အိန္ဒိယတွင် ထေရဝါဒဗုဒ္ဓဘာသာကွယ်ပသောအချိန်နှင့် ကွယ်ပုံအတိုင်း နီပေါထေရဝါဒဗုဒ္ဓဘာသာလည်း ကွယ်ခဲ့ရသည်။

၎င်းနောက် သာသနာသက္ကရာဇ် ၁၀၀၀ ပြည့်နှစ် (အေဒီ ၄၅၆)ခန့်တွင် ယောဂါစာရဂိုဏ်းမှ သျှင်ဝသုဗန္ဓု က နီပေါပြည်သို့ သာသနာပြုခရီးလှည့်လည်ခဲ့သည်။ ထိုအချိန်၌ နီပေါသည် ဗြာဟ္မဏဘာသာဝင် ဂုတ္တ မင်းဆက်ဖြစ်သော သမုဒ္ဒဂုတ္တဘုရင်၏လက်အောက်ခံ ဖြစ်သည်။ သို့ရာတွင် 'သာသနာနှစ် ၁၂၀၀ ပြည့်နှစ် (အေဒီ ၆၅၆ နှစ်) ခန့်တွင် နီပေါ၌ မဟာယာနဗုဒ္ဓဘာသာဝင် လိစ္ဆဝီမင်းများ အုပ်ချုပ်လျက်ရှိကြောင်း' တရုတ်ရဟန်းတော် ဟီယန်ဆိုင်က မှတ်တမ်းရေးခဲ့သည်။

ထိုအချိန်၌ပင် နီပေါဘုရင် အံသုဝမ္မက ကာကူရီမင်းဆက်ကို တည်ထောင်ပြီး ဗုဒ္ဓဘာသာ သာသနာ့ဒါယကာ အဖြစ် ခံယူသည်။ ၎င်းဘုရင်သည် မိမိ၏သမီးကို တိဗက်ဘုရင် စရွန်ကျန်ဂံပိုအား ဆက်သခဲ့သည့်အပြင် ပိဋကတ်စာပေများကိုလည်း သက္ကတဘာသာမှ တိဗက်ဘာသာ ပြန်ဆိုရာ၌ အကူအညီ များစွာပေးခဲ့သည်။ သို့ရာတွင် သာသနာနှစ် ၁၄၀၀ ပြည့်နှစ် (အေဒီ ၈၅၆ နှစ်) ခန့်တွင် ဟိန္ဒူဘာသာဝင်ဂေါ်ရခါးများ ဝင်ရောက် သိမ်းပိုက်ခဲ့သည်။ ယခုလက်ရှိဘုရင်များမှာ ဂေါ်ရခါးအနွယ်များ ဖြစ်ကြသည်။

ယခုအခါ နီပေါပြည်ရှိ ဗုဒ္ဓဘာသာဘုန်းကြီးများသည် တန္တရဂိုဏ်းဝင်များ ဖြစ်ကြ၍ အိမ်ထောင်ပြုကြသည်။ အုပ်စိုးသူများနှင့် ပြည်သူလူထုအများစုမှာ ဟိန္ဒူဘာသာဝင်များဖြစ်၍ ဗုဒ္ဓဘာသာဘုန်းကြီးများကို 'ဇာတ်မြင့်ဟိန္ဒူအမျိုးသား' ဟု အသိအမှတ်ပြုကြသည်။ ထို ဗုဒ္ဓဘာသာဘုန်းကြီးအဆက်အနွယ်များကို 'ဗန်ရာ' ဟုခေါ်ပြီး၊ ဘုရားကျောင်းပတ်လည်၌ ဗန်ရာအိမ်ထောင်စုများ ဝန်းရံလျက်နေကြသည်။ ဘုရားဝတ်ကျောင်းအတွင်း၌ 'သက္ကျမုနိ၊ အဝလောကိတေသရ၊ အဏ္ဏာဘ၊ မဉ္ဇုသီရိ' စသော ဟိနယာနနှင့် မဟာယာနဘုရားဆင်းတုများကို တည်ထားကိုးကွယ်ကြသည်။ တန္တရနတ်များဖြစ်သော ဟေရုက၊ ဟေဝဇိရတို့ကိုမူ သီးသန့်ဝတ်ကျောင်းငယ်များ၌ထား၍ ကိုးကွယ်ကြသည်။ အမျိုးသမီးများသည် ဝတ်ကျောင်းအတွင်းသို့ ဝင်ခွင့်မရကြဘဲ၊ ဝတ်ကျောင်းငယ်များသို့သာ ဝင်ခွင့်ရကြသည်။ နီပေါတွင်-

၁- မဉ္ဇုသီရိဘုရားလောင်းက သူရဿတီနတ်သမီးကို ခေါ်သော 'အုမ်ဗာဂိဆွရီမွမ်' မန္တန်။

၂- အဝလောကိတေသရ ဘုရားလောင်းက တာရာဒေဝီကို ခေါ်သော 'အုမ်မဏိပဒ္မေဟုံ' မန္တန်။

၃- 'အုမ်ဝဇိရပါဏိဟုံ' ဟူသော ဝဇိရပါဏိဘုရားလောင်းနတ်သားအား ခေါ်သော မန္တန် ၃ မျိုးမှာ ခေတ်စားလျက် ရှိသည်။

၄င်းအပြင် ယခုလက်ရှိ မဟာယာနဗုဒ္ဓဘာသာကြီးမှာ ၄ ဂိုဏ်း ရှိပြီး၊ ၄င်းတို့မှာ အောက်ပါအတိုင်းဖြစ်သည်။

၁- သဘာဝိကဂိုဏ်း။ 'သက်ရှိ၊သက်မဲ့အရာခပ်သိမ်း၌ မိမိတို့ကိုယ်ပိုင်သဘာဝ ရှိကြသည်' ဟု ယူဆသောဂိုဏ်း။

၂- ဣသရိယဂိုဏ်း။ အနန္တတန်ခိုးရှင်၊ ဖန်ဆင်းရှင်ကို ကိုးကွယ်သောဂိုဏ်း။

၃- ကမ္မိကဂိုဏ်း။ ကံအကြောင်းတရားတစ်ခုကိုသာ ယုံကြည်လက်ခံသောဂိုဏ်း။

၄- ယာတြိကဂိုဏ်း။ 'တစ်ဘဝမှ တစ်ဘဝသို့ကူးပြောင်းသော အတ္တကောင်ရှိသည်' ဟု ယူဆသောဂိုဏ်း။

ယခုအခါ နီပေါတွင် ၄င်း မဟာယာနဂိုဏ်းများအပြင် ထေရဝါဒဂိုဏ်း ရဟန်းနှင့် သီလရှင် စာသင်တိုက်များလည်း ရှိနေပြီဖြစ်သည်။

## တိဗက်ပြည် လားမားဗုဒ္ဓဘာသာ

သာသနာသက္ကရာဇ် ၁၂ ရာစု (အေဒီ ၇-ရာစု) မတိုင်မီက တိဗက်တွင် စာပေ မရှိသေးဘဲ၊ အတော်အတန်ရိုင်းစိုင်းသောစိတ်ထားများ ရှိကြသည်။ 'စုန်း၊ နတ်၊ တစ္ဆေ၊ ပယောဂ စသည်တို့ ပြွမ်းလျက် လူကိုပင်ယဇ်ပူဇော်သော အလေ့အထရှိကြသည့်အပြင်၊ လူ့အသားကိုပင် စားကြသည်' ဟု ဆိုသည်။

သာသနာသက္ကရာဇ် ၁၁၇၃ ခုနှစ် (အေဒီ ၆၂၉ နှစ်)တွင် နန်းတက်လာသော စရွှန်ကျန်ဂံပိုသည် သာသနာသက္ကရာဇ် ၁၁၈၂ နှစ် (အေဒီ ၆၃၈ နှစ်)၌ နီပေါဘုရင် အံသုဝမ္မ၏သမီးတော် ဘရိကုဋီနှင့်လည်းကောင်း၊ သာသနာသက္ကရာဇ် ၁၁၈၅ နှစ် (အေဒီ ၆၄၁ နှစ်) ၌ တရုတ်ဘုရင် တာအီဆွန်၏သမီးတော် ဝင်ချင်း (ကောင်ကျို)နှင့်

လည်းကောင်း လက်ထပ်ခဲ့သည်။ ထိုမင်းသမီးတို့ သည် မိမိတို့၏တိုင်းပြည်မှ အက္ခောဘျဘုရား၊ မေတ္တေယျဘုရား လောင်းနှင့် သကျမုနိဘုရားရုပ်တုတော်များကို ယူဆောင်လာ၍ ကိုးကွယ်ကြသည့်အပြင်၊ ဘုရင်အား ကြိုးစား ဟောပြောမှုကြောင့် စရွှန်ကျန်ဂံပိုသည် သာသနာသက္ကရာဇ် ၁၁၈၅ ခုနှစ် (အေဒီ ၆၄၁ နှစ်)တွင် ဗုဒ္ဓဘာသာဝင် ဖြစ်လာရတော့သည်။

ဘုရင်စရွှန်ကျန်ဂံပိုသည် ဗုဒ္ဓဘာသာဖြစ်ပြီးနောက် တိဗက်အသောကမင်း ဆိုရလောက်အောင် တိဗက်တွင် ဗုဒ္ဓသာသနာပြန့်ပွားအောင် ဆောင်ရွက်ခဲ့သည်။ မိဖုရား ၂ ပါး၏ အကြံပေးချက်အရ ပိဋကတ်စာပေနှင့် သာသနာ ပြုရဟန်းများရရှိနိုင်ရန်၊ စာပေအရေးအသား ရရှိနိုင်ရန်အတွက် အိန္ဒိယ၊ နီပေါ၊ တရုတ်ပြည်တို့သို့ တမန်များ စေလွှတ်ခဲ့သည်။

အိန္ဒိယသို့သွားရသော တမန်ခေါင်းဆောင်မှာ သုန်မိသံဘူတ ဖြစ်သည်။ သံဘူတသည် နောက်ပါ ၁၆ ဦး နှင့် အိန္ဒိယတွင်အတန်ကြာနေ၍ အိန္ဒိယတောင်ပိုင်းတက္ကသိုလ်များတွင် စာပေပညာသင်ခဲ့ပြီးလျှင်၊ ပိဋကတ်ကျမ်းစာ များကို ယူ၍ သာသနာသက္ကရာဇ် ၁၁၉၄ နှစ် (အေဒီ ၆၅၀)၌ တိဗက်သို့ ပြန်လည်ရောက်ရှိခဲ့သည်။ သံဘူတသည် အိန္ဒိယမြောက်ပိုင်း စာပေအရေးအသားအက္ခရာကိုလည်း တိဗက်သို့ ယူခဲ့သည်။

သုန်မိသံဘူတသည် ထိုအက္ခရာဖြင့်ပင် တိဗက်သဒ္ဒါကျမ်းကို ရေးခဲ့သည့်အပြင်၊ သက္ကတဘာသာဖြင့် ရေးသားထားသော ပိဋကတ်ကျမ်းစာများကိုလည်း တိဗက်ဘာသာသို့ ပြန်ဆိုခဲ့သည်။ ပထမဆုံး တိဗက်ဘာသာ ပြန်ဆိုသောကျမ်းမှာ 'ကရဏ္ဍဗျူဟာသုတ္တ' ကျမ်း ဖြစ်သည်။ ဤကျမ်းသည် နီပေါ၌လည်း လူကြိုက်များသောကျမ်း ဖြစ်သည် ဟုဆိုသည်။

စရွှန်ကျန်ဂံပိုဘုရင်သည် ဤနည်းဖြင့် ဗုဒ္ဓဘာသာကိုချီးမြှောက်ခြင်း၊ သုစရိုက် ၁၀ ပါးနှင့်ညီအောင် ဥပဒေရေးခြင်း၊ စာပေအရေးအသား စသောယဉ်ကျေးမှုများ ပျိုးထောင်ခြင်းများကို ပြုခဲ့သဖြင့် ကြီးကျယ် ထင်ရှားသောမင်းတစ်ပါး ဖြစ်ခဲ့သည်။ ထို့ကြောင့် တိဗက်တို့သည် ၎င်းအား 'အဝလောကိတေသရ ဘုရားလောင်း ဝင်စားသူ'အဖြစ် ကိုးကွယ်ကြသည့်အပြင်၊ တရုတ်မိဖုရား ဝင်ချင်းကို 'တာရာဒေဝီဖြူ' နီပေါမိဖုရား ဘရိကုဋီကို 'တာရာဒေဝီစိမ်း' ဟုအမည်ပေးကာ ကိုးကွယ်ခဲ့ကြသည်။

စရွှန်ကျမ်ဂံပိုဘုရင်လက်ထက်၌ တိဗက်တွင် ဗုဒ္ဓသာသနာ ထွန်းတောက်ခဲ့သော်လည်း သာသနာသက္ကရာဇ် ၁၁၉၄ နှစ် (အေဒီ ၆၅၀ နှစ်)၌ ၎င်းဘုရင် နတ်ရွာစံသောအခါ တစ္ဆေသရဲကိုးကွယ်သော တိုင်းရင်းသား ဘွန်ဝါဒ လွှမ်းမိုးလာသဖြင့် ဗုဒ္ဓဝါဒ မှေးမှိန်ခဲ့ရတော့သည်။ ထိုဘုရင်နတ်ရွာစံပြီးနောက် နှစ် ၁၀၀ ခန့်အကြာ သာသနာ သက္ကရာဇ် ၁၂၉၄ နှစ် (အေဒီ ၇၅၀ ပြည့်နှစ်)ခန့်တွင် သာသနာပြုမင်းတစ်ပါး တက်လာပြန်သဖြင့် ဗုဒ္ဓဘာသာလည်း ပြန်လည်ဦးမော့လာရပြန်သည်။ လားမားဗုဒ္ဓဘာသာလည်း ဤကပင် စလေသည်။

ထိုမင်းကား စရွှန်ကျန်ဂံပို၏အဆက်အနွယ်ဖြစ်ပြီး ၎င်းနောက် ၅ ဆက်မြောက် ဘုရင်ခရိစရွှန် ဒေဗကျန် (သိစရွှန်ဒက်စတန်) ဖြစ်သည်။ ဤမင်း၏မယ်တော်မှာ ဗုဒ္ဓဘာသာကို အလွန်ကြည်ညိုသော တရုတ်မင်းသမီးကြီး ဖြစ်သည် ဟုဆိုသည်။ ဤဘုရင်သည် ဗုဒ္ဓဘာသာကို နိုင်ငံတော်ဘာသာပြုလုပ်ရာ၊ တိုင်းရင်းသားဘွန်ဂိုဏ်းဝင် အရာရှိများက အပြင်းအထန်ကန့်ကွက်ကြသည်။ ထိုအခါ ဘုရင်က နာလန္ဒာတက္ကသိုလ်ကျောင်းအုပ်ဆရာတော် သန္တရက္ခိတထေရ်အား တိဗက်သို့ ပင့်ခဲ့သည်။ ထိုဆရာတော်သည် အဟောအပြောကောင်း၍ ပြည်သူလူထုအား ဗုဒ္ဓဘာသာဖြစ်လာစေရန်အတွက် ပင့်ခဲ့ခြင်းဖြစ်သည်။ သို့ရာတွင် တိဗက်ပြည်သူများသည် ဆရာတော်၏ အဟော အပြောကောင်းကို နားမဝင်ကြချေ။ ထိုအတွင်း တိဗက်ပြည်၌ လေမုန်တိုင်းကျခြင်း၊ ကပ်ရောဂါများ ဆိုက်ခြင်း ဖြစ်ပေါ်လာသဖြင့် တိုင်းသူပြည်သားများက 'သန္တရက္ခိတထေရ် ဟောသည့်တရားများကို တိဗက်နတ်များ မကျေနပ်

သောကြောင့် ဤသို့ဖြစ်ရသည်' ဟု စွပ်စွဲကာ မကျေမနပ်ဖြစ်လာကြသည်။ ထို့ကြောင့် ဘုရင်သည် သန္တရက္ခိတထေရ်အား နီပေါသို့ ခေတ္တပြန်ကြွစေခဲ့ရသည်။ ထိုအခါ ဆရာတော်က ဂါထာမန္တရားနှင့် စုန်းပယောဂများကိုနိုင်နင်းသော တန္တရဂိုဏ်းဝင် ဂုရုပဒုမသမ္ဘဝအားပင့်ရန် အကြံပေးခဲ့သည်။

ဂုရုပဒုမသမ္ဘဝကား ဥဒျာနဌာနမြေ၌ သန္တရက္ခိတထေရ်၏ ယောက်ဖတော်စပ်ကာ၊ နာလန္ဒာတက္ကသိုလ်တွင် သီတင်းသုံးလျက်ရှိသည်။ တိဗက်ဘုရင်က ပင့်သဖြင့် သာသနာနှစ် ၁၂၉၁ (အေဒီ ၇၄၇ နှစ်)တွင် တိဗက်သို့ရောက်ခဲ့သည်။ ဂုရုပဒုမသမ္ဘဝသည် တိဗက်သို့ရောက်သောအခါ မကောင်းဆိုးဝါးတစ္ဆေသရဲများကို နှိမ်နင်းအောင်မြင်သည်။ ထို့ကြောင့် တိဗက်ပြည်သူပြည်သားများက ဆရာတော်အား 'ဂုရုကြီး', 'မဟာအာစရိယကြီး' ဟုခေါ်ကာ ကိုးကွယ်ခဲ့ကြသည်။ ယခုအခါ ၄င်းအရှင်အား ဘုရားကဲ့သို့ကိုးကွယ်လျက် ရှိကြသည်။ အချို့ဂိုဏ်းများတွင် ဗုဒ္ဓဘုရားထက်ပင် ကြည်ညိုကိုးကွယ်ကြသည် ဟုဆိုသည်။ တိဗက်ဘုရင်ကလည်း ဂုရုကြီးအား နန်းတော်သူများကို ဇနီးအဖြစ် ပေးထားသည်။ ဂုရုပဒုမသမ္ဘဝသည် တပည့်များအကြောင်း 'ပါတာမာ' ခေါ် စာပေများကိုရေး၍ ဂူထဲ၌ဝှက်ထားခဲ့သည်။

နောက်ပိုင်း၌ ဘုရင်သည် လာဆာမြို့တော်မှ မိုင် ၃၀ အကွာ၌ ဆံယီခေါ်သော ဘုန်းကြီးကျောင်းတိုက်ကို သာသနာသက္ကရာဇ် ၁၂၉၃နှစ် (အေဒီ ၇၄၉ နှစ်)တွင် ဆောက်လုပ်၍ သန္တရက္ခိတဆရာတော်ကို ပင့်ဆောင်လှူဒါန်းခဲ့သည်။ ယင်းဆရာတော်သည် တိဗက်ဘာသာပြန်လုပ်ငန်းကို ဆက်လက်ဆောင်ရွက်ကာ ဘာသာပြန်ပြီး ကျမ်းများကို စာအုပ်စာရင်း ပြုလုပ်ထားသည်။ ဘာသာပြန်လုပ်ငန်းကို သန္တရက္ခိတထေရ်နောက်ပိုင်း၌ 'ပညာအတတ်မြောက်ဆုံးဖြစ်သော အရှင်ဝေရောစနကလည်း သက္ကတဘာသာကျမ်းများစွာကို တိဗက်ဘာသာသို့ ပြန်ဆိုပေးခဲ့သေးကြောင်း။ ဘွန်ဝါဒအယူရှိသူများကကုန်းချော၍ ဘုရင့်မိဖုရားကယုံမှားပြီး ထိုအရှင်အား ပြည်နှင်ဒဏ်ပေးခဲ့ရာ၊ မိဖုရား၌ ကုဋ္ဌနူနာစွဲလာသဖြင့် ထိုအရှင်ကို ပြန်လည်ပင့်ခဲ့ရကြောင်း။ ထိုအရှင်ကို တိဗက်တို့က 'ဗုဒ္ဓ၏ညီတော်ရှင်အာနန္ဒာ ဝင်စားသည်' ဟုအသိအမှတ်ပြုထားကြောင်း' သိရှိရသည်။

ဆံယီကျောင်းတိုက်သို့ အရှင်သန္တရက္ခိတထေရ် ရောက်ရှိသည့်အချိန်မှစ၍ အရှင်သန္တရက္ခိတနှင့် အရှင်ပဒုမသမ္ဘဝတို့သည် လားမားသာသနာကို စတင်တည်ထောင်ခဲ့ကြသည်။ တိဗက်ဘာသာ 'လားမား' အဓိပ္ပာယ်မှာ 'မြင့်မြတ်သောပုဂ္ဂိုလ်' ဖြစ်သည်။ အရိယာကို တိုက်ရိုက်ဘာသာပြန်ထားခြင်း ဖြစ်သည်။ သန္တရက္ခိတထေရ်သည် လားမားဗုဒ္ဓဘာသာဂိုဏ်းတွင် ပထမသာသနာပိုင် ဖြစ်သည်။ ဤအရှင်သည် လားမားဗုဒ္ဓဘာသာ သာသနာရေးကိစ္စကို ၁၃ နှစ်ခန့် ဆောင်ရွက်ပြီးနောက်၊ 'တိဗက်တွင်ပင် ပျံလွန်တော်မူခဲ့သည်။ အရှင်ပဒုမသမ္ဘဝကား တိဗက်တွင် အနှစ် ၅၀ ခန့်နေပြီးနောက် အခြား ဘီလူး,သဘက်,နတ်ဆိုးပေါ်သောကျွန်းတစ်ကျွန်းသို့သွားမည်' ဟုဆိုကာ သာသနာသက္ကရာဇ် ၁၃၄၆ နှစ် (အေဒီ ၈၀၂ နှစ်)တွင် တိဗက်မှထွက်ခွာသဖြင့် ပြည်သူပြည်သားများ ကြေကွဲဝမ်းနည်းပက်လက် ကျန်ခဲ့ရလေသည်။ တိဗက်တို့သည် ဤ 'ပဒုမသမ္ဘဝ'ကို ဒုတိယဗုဒ္ဓ ဟု အသိအမှတ်ပြုထားကြသည့်အပြင်၊ ယခုအခါ 'အာစရိယဗောဓိသတ္တ' (ဆရာဘုရားလောင်း) ဟုခေါ်နေရှိကြသည် ဆိုသည်။

ဤ အရှင်သန္တရက္ခိတနှင့် အရှင်ပဒုမသမ္ဘဝထေရ်တို့ တည်ထောင်ခဲ့သော လားမားဗုဒ္ဓဘာသာ အယူအဆကား အရှင်ပဒုမသမ္ဘဝ၏ နေရင်းဌာန ဥဒျာနနှင့် ကသ္မီရတို့၌ ပြန့်ပွားထင်ရှားနေသော စုန်း၊ နတ်၊ မှော်အတတ်တို့ဖြင့် ပြွမ်းသော တန္တရ,မန္တရ မဟာယာနဗုဒ္ဓဘာသာမျိုးသာ ဖြစ်သည်။ ဤ မစင်ကြယ်သော မဟာယာနဗုဒ္ဓဘာသာသည် တိဗက်သို့ရောက်လာသောအခါ ရှိရင်းတိုင်းရင်းသား ဘွန်ဝါဒဖြစ်သော စုန်း၊ နတ်၊ တစ္ဆေ၊ မှော်၊ ပယောဂအတတ်ပညာများနှင့် ရောနှောသွားရာ၊ ဗုဒ္ဓဘာသာမှာ အငွေ့အသက်မျှသာကျန်တော့သည်။ သို့ဖြစ်၍ လားမား

ဗုဒ္ဓဘာသာသည် အတွင်း၌ 'ရှိဂ' ခေါ် ပရမေဆွာရ ဟိန္ဒူအယူဝါဒ၊ တန္တရ၊မန္တရအနွယ် ဝဇိရယာနအယူဝါဒအပြင်၊ အိန္ဒိယနှင့် တိဗက်တွင်ရှိသော စုန်း၊ နတ်၊ တစ္ဆေ၊ ကဝေ၊ မှော်၊ ပယောဂစသော အယူဝါဒအမျိုးမျိုး ရောပြွမ်းနေပြီး၊ အပေါ်ယံတွင် မဟာယာနဗုဒ္ဓဘာသာပါးပါးလွှာလွှာမှန်၍ ဖုံးအုပ်ထားသောဘာသာ ဖြစ်သည်။

သို့ရာတွင် တိဗက်လားမား ဗုဒ္ဓဘာသာရွှေခေတ် ဟုဆိုရလောက်အောင် သာသနာပြုမင်းတစ်ပါးဖြစ်သော ရာလ်ပချန်ကို ညီဖြစ်သူ (အဆိုတစ်ရပ်က အစ်ကို) လင်ဓရ်မက သာသနာသက္ကရာဇ် ၁၄၄၃ ခုနှစ် (အေဒီ ၈၉၉ နှစ်) တွင်လုပ်ကြံ၍ နန်းတက်လာသည်။ သက္ကရာဇ်ကိုပြရာ၌ အဆိုတစ်ရပ်က ရာလ်ပချန် (သာသနာသက္ကရာဇ် ၁၃၆၀-၁၃၈၂ ခုနှစ်)၊ လင်ဓရ်မ (သာသနာသက္ကရာဇ် ၁၃၈၂-၁၃၈၅ နှစ်) ဟု ပြထားသည်။

မည်သို့ပင်ဖြစ်စေ၊ လင်ဓရ်မသည် နန်းတက်လာပြီးနောက် ကျောင်းကန်တို့ကို ဖျက်ဆီးခြင်း၊ ပိဋကတ်စာများ ကို မီးရှို့ခြင်း၊ လားမားဘုန်းတော်ကြီးများကိုလည်း နယ်နှင် လူထွက်စေခြင်း၊ သတ်ဖြတ်ခြင်း စသော သာသနာဖျက်လုပ်ငန်းများကို ပြုလုပ်လာသည်။ ၃ နှစ်ခန့်အကြာတွင် လားမားဘုန်းတော်ကြီးတစ်ပါးက နန်းတော် တွင်းရောက်အောင် မြင်းစီးဝင်၍ ဘုရင်ကို မြားနှင့် တစ်ချက်တည်းပစ်သတ်ခဲ့သည်။ ထိုအခါ သာသနာဖျက်သဖြင့် ဒေါသဖြစ်နေကြသောလူထုကလည်း မင်းဆွေမင်းမျိုးတို့ကို လက်စားချေကြတော့သည်။ ပြည်နှင်ဒဏ်ခံရဟန်းများ ကိုလည်း ပြန်လည်ခေါ်ခဲ့ကြသည်။ ထိုအချိန်မှစ၍ မှော်ဝိဇ္ဇာပယောဂဘုန်းကြီးများ ကြီးစိုးလာပြီး ဘုရင့်အာဏာ လည်း ကျဆင်းလာတော့သည်။

သာသနာသက္ကရာဇ် ၁၆ ရာစု (အေဒီ ၁၁ ရာစု) အစပိုင်းလောက်တွင် အိန္ဒိယနှင့် ကသ္မီရတို့မှ ရဟန်းများ သည် တိဗက်သို့လာကြရာတွင် မင်းမျိုးမင်းနွယ်ဖြစ်သော အဖ ကလျာဏသု၊ အမိ ပဘာဝတီ တို့မှ သာသနာနှစ် ၁၅၂၄ (အေဒီ ၉၈၀ ပြည့်နှစ်)တွင် မွေးဖွားရ၍၊ ဩဒန္တပူရီကျောင်းတွင် ရဟန်းဖြစ်ပြီး မာဂဓတိုင်း ဝိက္ကမသီလာ တက္ကသိုလ်ကျောင်းတွင် ပါမောက္ခကျောင်းအုပ်ဖြစ်သော 'အတိဆာ' ခေါ် ရှင်ဒီပင်္ကရာသီရိဉာဏလည်း ပါဝင်လာ သည်။ အဆိုတစ်ရပ်ကမူ ခေါ် ဂူဒေဘုရင် (ရဟန်းဘွဲ့-ဉာဏပဘာအရှင်)က ပင့်၍ တိဗက်သို့ရောက်လာခြင်း ဖြစ်သည် ဟုဆိုသည်။ ဤအရှင်သည် ဘင်္ဂါနှင့်ဘီဟာနယ်ရှိ တန္တရစာပေများကို တိဗက်သို့သယ်ဆောင်လာပြီး သင်ကြားပို့ချသဖြင့် တိဗက်တွင် စာပေလည်း အခြေခိုက်လာရတော့သည်။ အတိဆာသည် တန္တရဝါဒများအနက် ဖောက်ပြန်ယုတ်ညံ့သော ကာလစက္ကတန္တရကို လက်ခံသည်။ မေတ္တေယျနာထနှင့် အသင်္ဂတို့ ဟောကြားသော ယောဂါစာရ ဝိညာဏဝါဒကို တိဗက်တိုင်းရင်းဖြစ် တစ္ဆေသရဲဝါဒနှင့်ကိုက်ညီအောင် ပြုပြင်ပြီး ကာဒမ္ပဂိုဏ်းကို တည်ထောင်ခဲ့သည်။

အတိဆာသည် တိဗက်တွင် ၁၄ နှစ်ခန့် နေပြီးနောက် သာသနာသက္ကရာဇ် ၁၅၉၆ ခုနှစ် (အေဒီ ၁၀၅၂ နှစ်)တွင် လာဆာမြို့အနီး ညေသန်အရပ်၌ ပျံလွန်နေ့စတ်မူသည်။ ၎င်းကို 'ဘုရားလောင်း မဉ္ဇုသီရိဝင်စားသူ' ဟု တိဗက်တို့ ယုံကြည်ကြသည်။

တစ်ဖန် မွန်ဂိုဘုရင် ကူဗလေခန်က လားမားဘုန်းတော်ကြီး သကျပဏ္ဍိတအား အခြားဘာသာရေးခေါင်း ဆောင်များ မဆောင်ရွက်နိုင်သော တန္တရတန်ခိုးကိုပြနိုင်သောကြောင့် သာသနာသက္ကရာဇ် ၁၈၁၄ ခုနှစ် (အေဒီ ၁၂၇၀ ပြည့်နှစ်)တွင် သာသနာပိုင်အဖြစ် လွှဲအပ်ခဲ့သည်။ သကျပဏ္ဍိတပြခဲ့သော တန္တရတန်ခိုးကား လက်ဖြင့်မကိုင်ရဘဲ စားသောက်ဖွယ်ရာများကို ဘုရင်၏ပါးစပ်သို့ အလိုလိုရောက်စေခဲ့ခြင်း ဖြစ်သည်။ အဆိုတစ်ရပ်ကမူ သကျပဏ္ဍိတ အရှင်သည် အိန္ဒိယသားဖြစ်ပြီး ကူဗလေခန်၏ဖခင်ဂျင်ဂစ်ခန်အား ရောဂါပျောက်အောင် ဆေးကုသပေးခဲ့သော ကြောင့် သာသနာပိုင်အဖြစ်လွှဲအပ်ခဲ့သည် ဟုဆိုသည်။

ထို့ကြောင့် သကျပဏ္ဍိတသည် တိဗက်လားမား ရဟန်းမင်းဖြစ်သည့်အပြင်၊ တိဗက်ကိုအုပ်ချုပ်ရသော တရုတ်လက်အောက်ခံ (ပဒေသရာဇ်) ဘုရင်ခံလည်း ဖြစ်လာတော့သည်။ သာသနာသက္ကရာဇ် ၁၉၆၁ ခုနှစ် (အေဒီ ၁၄၁၇ နှစ်) အဆိုတစ်ရပ်အရ သာသနာသက္ကရာဇ် ၁၉၅၂ ခုနှစ် (အေဒီ ၁၄၀၈ နှစ်)သို့ ရောက်သောအခါ ဆုန်ခဖ ဆရာတော်သည် အတိဆာဆရာတော်၏ ကာဒမ္ဗဂိုဏ်းကို ပြုပြင်၍ ဂျီလပ်ပဂိုဏ်းကို တည်ထောင်ခဲ့ပြန်သည်။ ဂျီလပ်ပ အဓိပ္ပာယ်မှာ 'ကောင်းမြတ်သော' ဟုအဓိပ္ပာယ်ရသည်။ ဤဂိုဏ်း အိမ်ထောင်မပြုရ။ နေ့စဉ်မကြာခဏ ဘုရားရှိခိုးရသည်။ တန္တရမှော်၊ ပယောဂပညာများ နည်းနိုင်သမျှနည်းအောင် ဖယ်ရှားပစ်ရသည်။

တစ်ဖက်တွင် သကျပဏ္ဍိတ၏အဆက်အနွယ်များ မညီမညွတ်ဖြစ်နေရာမှ ဂျီလပ်ပဂိုဏ်းမှ ဆုန်ခပ၏တူ 'အဝလောကိတေသရ ဘုရားလောင်းဝင်စားသူ' ဟုအသိအမှတ်ပြုခံနေရသော ဂျီဒန်ဒပ် (သာသနာသက္ကရာဇ် ၁၉၃၅-၂၀၂၂ ခုနှစ်) က ပထမလားမား သာသနာပိုင်ဘုရင်ခံ ဖြစ်လာတော့သည်။ ဒုတိယ လားမားသာသနာပိုင်မှာ ဆရာတော်ဂျီဒန် (သာသနာသက္ကရာဇ် ၂၀၂၃-၂၀၈၄ ခုနှစ်) ဖြစ်သည်။

တတိယသာသနာပိုင် လားမားဆရာတော် ဆော့ဒ်နမ် (သာသနာသက္ကရာဇ် ၂၀၈၇-၂၁၃၀ ပြည့်နှစ်) လက်ထက်၌ မွန်ဂိုဘုရင်က 'ဒလိုင်' (သမုဒ္ဒရာကဲ့သို့ ကြီးကျယ်နက်နဲသော ) ဟူသောဘွဲ့ကို ချီးမြှင့်ရာမှ 'ဒလိုင်လားမား' ဟူသောအမည်သည် ယနေ့တိုင် ထင်ရှားလာရတော့သည်။ အဆိုတစ်ရပ်ကမူ သာသနာပိုင် ၅ ဆက်မြောက်မှစ၍ ဒလိုင်လားမားအမည် ထင်ရှားလာသည်ဟု ဆိုသည်။

**ယနေ့ရှိသော တိဗက်ဗုဒ္ဓဘာသာဂိုဏ်း ၁၈ ဂိုဏ်း**

| | |
|---|---|
| ၁- ဂျီလပ်ပ + ကာဒမ္ဗ | ၁၀- လီလုတ်စုန်ပ |
| ၂- နိန်မပ | ၁၁- ဘာဂျူပ |
| ၃- ဂျိုနန်ပ | ၁၂- ဒီကွန်ပ |
| ၄- သကျပ | ၁၃- တလွန်ပ |
| ၅- အော်ဂျင်ပ | ၁၄- အထက်ပိုင်း ဒုတ်ပ |
| ၆- ဒေါ်ယီတက်ပ | ၁၅- အလယ်ပိုင်း,တောင်ပိုင်းဘူတန်ပြည် ဒုတ်ပ |
| ၇- မင်ဒိုလင်ပ | ၁၆- အောက်ပိုင်းဒုတ်ပ |
| ၈- နဒက်ပ | ၁၇- ကာမပ |
| ၉- ကာထုတ်ပ | ၁၈- နော်ပဂိုဏ်း |

ဂျီလပ်ပဂိုဏ်းသည် အကြီးကျယ်ဆုံး၊ တန်ခိုးအကြီးဆုံးနှင့် တစ်ပြည်လုံးကိုအုပ်စိုးသော ဂိုဏ်း ဖြစ်သည်။ နောက် နိန်မပနှင့် ဂျိုနန်ပတို့မှာ ဒုတိယ၊ တတိယ လိုက်၍ အနည်းအကျဉ်းထင်ရှားသည်။ ကျန်ဂိုဏ်းများမှာ မထင်ရှားပါ။

## ထေရဝါဒ ၅ နိုင်ငံနှင့် ပြန့်ပွားပုံ

ယနေ့ထင်ရှားနေသော ထေရဝါဒ ၅ နိုင်ငံကား 'သီဟိုဠ်' (သီရိလင်္ကာ)၊ မြန်မာ၊ ယိုးဒယား၊ ကမ္ဘောဒီးယား (ကမ်ပူးချာ)၊လာအို (လော)နိုင်ငံတို့ ဖြစ်ကြသည်။

တတိယသင်္ဂါယနာတင်အပြီး၌ ၉တိုင်း ၉ ဌာနသို့ သာသနာပြုစေလွှတ်ခဲ့သော်လည်း၊ ၇ ဌာနတွင် ထေရဝါဒသာသနာတော်သည် အေဒီ ၁ ရာစုခန့်ကပင် ကွယ်ပခဲ့ပြီး၊ မြန်မာနိုင်ငံ သုဝဏ္ဏဘူမိနှင့် သီဟိုဠ် ၂ ဌာန၌သာ ထေရဝါဒသာသနာအမြစ်တွယ်၍ မကွယ်ပဘဲ တည်ရှိနေခဲ့ရကြောင်း အထက်၌ ပြခဲ့ပြီးဖြစ်သည်။

သို့ရာတွင် ယနေ့ ထေရဝါဒ ၅ နိုင်ငံဖြစ်နေသဖြင့် သာသနာပြုစေလွှတ်ရာတွင် မပါဝင်ခဲ့သော ယိုးဒယား၊ ကမ္ဘောဒီးယား (ကမ်ပူးချား)၊လော( လာအို) ဟူသော ၃ နိုင်ငံတို့သို့ ထေရဝါဒဗုဒ္ဓသာသနာ မည်ကဲ့သို့ရောက်ရှိသွားသည် ဟူသောအချက်မှာ စဉ်းစားဖွယ်တစ်ရပ်အဖြစ် တည်ရှိနေပေသည်။

၎င်း စဉ်းစားဖွယ်အချက်နှင့်ပတ်သက်၍ ဓမ္မာစရိယ- ဘီအေ ဘီအီးဒီ ဘွဲ့ရ ဝါရင့်ကျောင်းဆရာကြီးဟောင်းတစ်ဦးအား မေးမြန်းကြည့်ရာ ထို ဆရာကြီးဟောင်းက 'မွန်ခမာအဆက်နှင့် ပတ်သက်၍ ထို ၃ နိုင်ငံသို့ ထေရဝါဒဗုဒ္ဓသာသနာ ရောက်ရှိသွားမည် ဟုယူဆကြောင်း' ထင်မြင်ချက်ပေးခဲ့သည်။ ထိုဆရာ၏ ထင်မြင်ချက်သည် ကျွန်တော်၏ယူဆချက်နှင့် တစ်ထပ်တည်းရှိပါသည်။

## သုဝဏ္ဏဘူမိ အယူအဆ

'သုဝဏ္ဏဘူမိ' (သထုံ) ဟူသော မြို့တည်နေရာသည် မည်သည့်အရပ်ဒေသဖြစ်သည်ကို ရှေးဦးစွာစိစစ်ရန်လိုအပ်သည်။ သီဟိုဠ်နှင့် သုဝဏ္ဏဘူမိ (သထုံ)တို့သည် သာသနာပြုထေရ်ရှင်တို့၏ သာသနာရေးဆောင်ရွက်ချက်ဆက်စပ်နေမှုကြောင့် ၂ ပြည်ထောင်ဆက်သွယ်ရေး ရှိနေခဲ့သည့်အတိုင်း ဒုဋ္ဌဂါမဏိမင်းကြီး (၁၀၁-၁၅၇ ဘီစီ) လက်ထက် မဟာစေတီပန္နက်ချပွဲတွင် သထုံပြည် ကေလာသကျောင်းတိုက်မှ ရဟန္တာများကြွရောက်ချီးမြှောက်ကြောင်း 'မဟာဝံသ'နှင့် ဒေါက်တာသီဝလိ၏ 'ဗုဒ္ဓသမိုင်း'တွင် ဖော်ပြထားသည်။

ယင်း ဖော်ပြချက်အရ သုဝဏ္ဏဘူမိ (သထုံ)မြို့ဟောင်းသည် ကေလာသတောင်တစ်ဝိုက်တွင် တည်ရှိခဲ့ကြောင်း ထင်ရှားသည်။ ကလျာဏီကျောက်စာ၌ကား သုဝဏ္ဏဘူမိတိုင်း၌ သီရိမာသောကမင်း နန်းစံချိန် ရာဇဌာနီကား ကေလာသတောင်ထိပ်စေတီ၏ အနောက်မြောက်ယွန်း၌ မြို့၏ထက်ဝက်အရှေ့ပိုင်းသည် တောင်ထိပ်၌၊ အနောက်ပိုင်းသည် မြေညီ၌တည်ကြောင်း။ ၎င်းမြို့ကို 'တိုက်ကုလားမြို့' ခေါ်ပြီး၊ သောဏထေရ်နှင့် ဥတ္တရထေရ်တို့သည် ထိုမြို့သို့ ရောက်ရှိခဲ့ကြောင်း ဆိုသည်။

ဤ၌ သထုံမြို့နေရာနှင့်စပ်လျဉ်း၍ ယိုးဒယားမှ မဟာဖုန်ဆရာတော် တည်းဖြတ်ပြီး၊ စန္ဒကန္တ မဟာထေရ်က သာသနာသက္ကရာဇ် ၂၄၅၃ ခု (မြန်မာသက္ကရာဇ် ၁၂၇၂ ခုနှစ်)၌ ရိုက်နှိပ်ထုတ်ဝေထားသော 'ဥပ္ပန္နသုဓမ္မဝတီရာဇဝံသကထာ'ဟူသော မွန်ရာဇဝင်၏အဆိုအမိန့်ကို အနည်းငယ်တင်ပြလိုပေသည်။ 'သုဓမ္မဝတီ' ခေါ် သထုံမြို့ဟောင်းနေရာသည် ယခုတည်ရှိနေသော သထုံမြို့နေရာပင် ဖြစ်ကြောင်း၊ နောက် ၎င်းနေရာသည် ရေလွှမ်းခြင်းခံရသဖြင့် ကေလာသတောင်တစ်ဝိုက်သို့ ပြောင်းရွှေ့ခဲ့ရကြောင်း၊ ၎င်း၌ ကာလကြာမြင့်စွာ မြို့တည်ခဲ့ပြီးနောက် သာသနာပြုမထေရ်ရှင်သောဏ၊ ရှင်ဥတ္တရတို့ ရောက်ရှိလာသောအခါ ယင်းမထေရ် ၂ ပါးက 'သုဓမ္မဝတီ (သထုံ)မြို့ဟောင်းနေရာသည် ယခုမျက်မြင် သထုံမြို့နေရာသာဖြစ်သည်' ဟု မိန့်ကြားတော်မူချက်အရ ယင်းနေရာသို့ ပြန်လည်ပြောင်းရွှေ့ခဲ့ရကြောင်း သိရှိရသည်။

အထူးမှာ ကေလာသတောင်ခြေတစ်ဝိုက်တွင် ရှင်သောဏ၊ ရှင်ဥတ္တရမထေရ်တို့ သာသနာပြု ကြွရောက်ရာ သုဝဏ္ဏဘူမိမြို့ဟောင်းနေရာကို တူးဖော်တွေ့ရှိထားသကဲ့သို့၊ ယိုးဒယားနိုင်ငံ နခွန်ပထုံတွင်လည်း အလားတူ တူးဖော်တွေ့ရှိရပြန်သဖြင့်၊ ၎င်း 'နခွန်ပထုံအရပ်သည်လည်း သုဝဏ္ဏဘူမိမြို့ဟောင်းဖြစ်နိုင်ကြောင်း' ဆိုလာပြန်သည်။

တစ်ဖန် သာသနာနှစ် ၁၅၀၀ နီးပါးက ဒေဝပါလမင်း ရေးထိုးခဲ့သော ကြေးပုရပိုက်ကို အထောက်အထားပြု၍ သုဝဏ္ဏဒီပ ခေါ်သော စုမတြားကျွန်းကိုပင် သုဝဏ္ဏဘူမိ ခေါ်ကြောင်း' အချို့ကဆိုကြပြီး၊ အချို့ကမူ 'မြန်မာနိုင်ငံတောင်ပိုင်းမှ ယိုးဒယားနိုင်ငံ အပါအဝင် စုမတြားအထိဖြစ်သော ဒေသတစ်ခုလုံးကိုပင် ရွှေထွက်သောချောင်း ရှိသည်ကို အစွဲပြု၍ သုဝဏ္ဏဘူမိ ခေါ်ကြောင်း' ဆိုပြန်သည်။

ယင်း အဆိုများသည် အတိအကျ မဟုတ်။ မှန်းဆ၍ဆိုထားသော အဆိုများဖြစ်ပြီး၊ ယခု တူးဖော်တွေ့ရှိထားသော တိုက်ကုလားဒေသတစ်ဝိုက်ရှိ မြို့ဟောင်းနေရာသည်သာ သာသနာပြုထေရ်ရှင်မြတ်များဖြစ်သော ရှင်သောဏနှင့် ရှင်ဥတ္တရတို့ရောက်ရှိခဲ့သော သုဝဏ္ဏဘူမိတိုင်း သထုံမြို့အစစ် ဖြစ်သည်။

ထို့ကြောင့် မှန်နန်းရာဇဝင်တော်ကြီးက-

'သထုံရာဇဝင်တွင် သီဟရာဇာမင်းအား ရသေ့,သိကြား ၂ ပါးမ,၍ သုဝဏ္ဏဘူမိတည်ကြောင်း၊ ထို့နောက် ၆၀ မြောက်ဖြစ်သော ဥပဒေဝမင်းလက်ထက်တွင် တောင်သို့ပြောင်း၍ သုဓမ္မဝတီ မည်သော သထုံပြည်တည်ကြောင်းကို ဆိုသည်။ ထို ဥပဒေဝမင်းမြေး ဓောတကုမ္မာ သီရိဓမ္မာသောက (သီရိမာသောက)မင်းလက်ထက် သာသနာပြု အရှင်သောဏ,ဥတ္တရ မထေရ်တို့ ရောက်ကြောင်းကို ဆိုသောစကားနှင့် ကျမ်းဂန်တို့၌ 'အရှင်သောဏ, ဥတ္တရမထေရ်တို့ကို သုဝဏ္ဏဘူမိသို့ သာသနာပြုစေလွှတ်သည်' ဟူသော စကားညီလေသည်ဖြစ်၍ သထုံကိုသာ သုဝဏ္ဏဘူမိ ယူအပ်သတည်း' ဆိုထားခြင်း ဖြစ်သည်။

သမိုင်းပါမောက္ခ ဒေါက်တာသန်းထွန်းကလည်း 'တော်လမီမြေပုံ၌ဖော်ပြထားသော ခရိုရေကား သုဝဏ္ဏဘူမိပင်ဖြစ်ကြောင်း။ သီဟိုဠ်ရေး ဒီပဝင်နှင့် ၆ ရာစုရေး မဟာဝင်တို့၌လည်း သုဝဏ္ဏဘူမိကို ဗုဒ္ဓသာသနာ၏ အခြေခံအရပ်ဟု ညွှန်ပြပြီး၊ ပါဠိစာပေ၌လည်း သုဝဏ္ဏဘူမိအမည် လာရှိကြောင်း၊ ယင်းသုဝဏ္ဏဘူမိကား သထုံမှ အနောက်မြောက်ဘက် မိုင် ၃၀ အကွာ ကေလာသကျောက်တောင်စွန်းပေါ်နှင့် တောင်အောက်တစ်ဝိုက်သာ သုဝဏ္ဏဘူမိ ဖြစ်နိုင်ကြောင်းဖြင့် လတ္တီတွဒ်မြောက် ၁၇ အံသာ ၁၃ လိတ္တာနှင့် လောင်ဂျီတွဒ် အရှေ့ ၉၇ အံသာ ၆ လိတ္တာတွင်ရှိသော ဝင်ကအရက်သမအရပ်, တိုက်ကုလားအရပ် စသည်များကို သုဝဏ္ဏဘူမိမြို့ဟောင်း အဖြစ် 'ရှေးဟောင်းမြန်မာရာဇဝင်'စာအုပ်တွင် ရေးသားဖော်ပြထားသည်။

ကလျာဏီကျောက်စာတွင်မူ 'ရာမညတိုင်း တစ်တိုင်းလုံးကို သုဝဏ္ဏဘူမိ'အဖြစ် ဖော်ပြထားသည်။

သာသနာပိုင် မောင်းထောင်ဆရာတော်ကမူ 'အိန္ဒိယမှ သုဝဏ္ဏဘူမိသို့ ရေလမ်းအဖြောင့်သွားလျှင် ခရီးအကွာအဝေး ယူဇနာ ၇၀၀ ရှိကြောင်း။ သီဟိုဠ်နှင့် သုဝဏ္ဏဘူမိလည်း အလားတူ ခရီးအကွာအဝေး ယူဇနာ ၇၀၀ ရှိကြောင်း။ ၇ နေ့ ၇ ည သင်္ဘောဖြင့် သွားရကြောင်း။ ထို့ကြောင့် ခရီးနှင့် ဌာနကို ထောက်ဆသောအားဖြင့် သုဓမ္မပူရ (သထုံ)ပြည်သည်သာ သုဝဏ္ဏဘူမိဖြစ်ကြောင်း။

အပရေဆရာတို့ကား 'ယောနကတိုင်း (လော)မှ ဟရိဘုဉ္စအရပ်'ကို၊ အညေဆရာတို့ကား 'သီယာမခေါ် ယိုးဒယားနိုင်ငံကို သုဝဏ္ဏဘူမိ'အဖြစ်ယူကြောင်း သာသနဝံသဒီပိကာကျမ်းတွင် ရေးသားဖော်ပြထားသည်။

အထူးမှာ မြန်မာနိုင်ငံမှ သုဝဏ္ဏဘူမိမြို့ဟောင်းသည် ထိုအချိန်က မွန်ခမာတို့၏ နေရာဒေသဖြစ်ခဲ့သည့်နည်းတူ၊ အထက်ဖော်ပြပါ ထင်မြင်ချက်အမျိုးမျိုးပေးထားသော 'လော, ယိုးဒယားနှင့် စုမတြား' ဟူသော နေရာဒေသများသည်လည်း မွန်ခမာတို့၏ နေရင်းဒေသများဖြစ်ခဲ့သဖြင့် ၎င်းတို့အချင်းချင်း အဆက်အသွယ်ရှိခဲ့သည်ကို သတိပြုကြရပေမည်။

မွန်ခမာအနွယ်ဖြစ်သော ဩစတြိုအေရှတစ်များသည် ၄၀၀၀ ဘီစီခန့်ကပင် တရုတ်ပြည်တောင်ပိုင်း ယန်စီကျန်မြစ်ဝှမ်းဒေသမှ စတင်ဆင်းသက်လာကြပြီး၊ ယိုးဒယား, စုမတြား အပါအဝင် အရှေ့တောင်အာရှဒေသအနှံ့အပြားတွင် နေထိုင်ခဲ့ကြောင်းကို 'အခန်း-၃' ၌ ဖော်ပြပြီးဖြစ်သည်။ သို့သော် မွန်ခမာများသည် မဲခေါင်နှင့် မဲနန်မြစ်ဝှမ်းတစ်ဝိုက်တွင်မူ အစုကြီးစွာ နေခဲ့ကြသည်။ ထိုဒေသမှတစ်ဆင့် ဒေသအနှံ့အပြားသို့ ရောက်ရှိသွားသကဲ့သို့ မြန်မာနိုင်ငံတွင်းသို့လည်း ရောက်ရှိခဲ့ကြခြင်း ဖြစ်သည်။

ထို့ကြောင့် ဒေါက်တာသန်းထွန်းက '၂၀၀၀ ဘီစီခန့်ကပင် မွန်တို့သည် အောက်မြန်မာနိုင်ငံ၌ ရက္ခ (ရေဘီလူး)တို့ကိုနှိမ်နင်း၍ အခြေစိုက်နေထိုင်သည်' ဟုဆိုသော်လည်း၊ 'မြန်မာပြည် အရှေ့တောင်ဘက်၌ အနေများမည်ဟု ထင်ကြောင်း။ ယခု ယိုးဒယားပြည်သည် မွန်တို့၏ အချက်အချာဒေသဖြစ်ပြီး ၇ ရာစု၌ တန်ခိုးကြီးခဲ့သော ဒွါရာဝတီမြို့တော် လဝပုရ (လောဗ္ဗူရီ)နှင့် ဟရိဘုဥ္စ (လင်ဖုန်)တို့သည် ထင်ရှားသော မွန်တို့၏နိုင်ငံဖြစ်ခဲ့ကြောင်း။ အချုပ်မှာ မွန်တို့သည် အရှေ့ထိုင်းလင်းမှတစ်ဆင့် 'မြန်မာနိုင်ငံ'ခေါ်သော အနောက်သို့ဝင်လာပြီး နောက်တစ်စုမှာ အရှေ့မှပင် အနောက်သို့သွားသော်လည်း မြောက်ဘက်လမ်းကို လိုက်၍ အိန္ဒိယတိုင် ပေါက်ရောက်သွားကြောင်း။' 'ရှေးဟောင်းမြန်မာရာဇဝင်'စာအုပ်တွင် ဖော်ပြထားသည်။

ဗန်းမော်တင်အောင်ကမူ 'မွန်လူမျိုးများသည် ခရစ်မပေါ်မီ သမိုင်းကာလများကတည်းက မဲခေါင်နှင့် မဲနန်မြစ်ဖျားအတိုင်း အင်ဒိုချိုင်းနားကျွန်းဆွယ်ဒေသသို့ ရောက်ရှိနေထိုင်ကြကြောင်း။ အထူးသဖြင့် မဲနန်မြစ်ဝှမ်းတစ်ဝိုက်တွင် အခြေချနေထိုင်ကြဟန်ရှိကြောင်း။ ယင်းဒေသတွင် ရှေးဟောင်း မွန်လူမျိုးတို့နှင့်ဆိုင်သော မြို့ဟောင်းမြို့ပျက်များနှင့် ရှေးဟောင်းပစ္စည်းများကို တွေ့ထားကြောင်း။ ရှေးဟောင်း မွန်ရာဇဝင်များနှင့် ပုံပြင်များ၌ မဲနန်မြစ်ဝှမ်း၏မြောက်ပိုင်းဒေသကို ယောနကတိုင်း ဟရိဘုဥ္စပြည်နယ်, တောင်ပိုင်းကို အယုဒ္ဓယတိုင်း ဒွါရာဝတီပြည်နယ် ဟူ၍ ရည်ညွှန်းဖော်ပြလေ့ရှိကြောင်း။ ယင်း ပြည်နယ်များသည် ၅ ရာစုမှ ၁၃ ရာစုအတွင်း ထင်ရှားကြီးကျယ်ခဲ့ကြောင်း'ကို 'ကိုလိုနီခေတ် မြန်မာနိုင်ငံသမိုင်း'စာအုပ်တွင် ဖော်ပြထားသည်။

ရဲဘော်လှမျိုးက 'ရှေးအခါက ယိုးဒယားနိုင်ငံဒေသတွင် မွန်ခမာလူမျိုးတို့ နေထိုင်ကြသည်။ မွန်ခမာတို့၏ မြို့တော်မှာ လောဗ္ဗူရီဖြစ်ကြောင်း။ ၆ ရာစုတွင် လောဗ္ဗူရီနိုင်ငံကြီး ထွန်းကားပြီးနောက် ၈ ရာစုတွင် မဲနန်မြစ်မြောက်ဘက်၌ ဟရိဘုဥ္စနိုင်ငံပေါ်လာပြန်ကြောင်း။ ၁၂ ရာစုဆန်းစတွင် လောဗ္ဗူရီနေပြည်တော်၌ ကဿပရသီမမင်း စိုးစံ၍ ထိုမင်းလက်ထက် နိုင်ငံကျယ်ဝန်းကြောင်း။ အရှေ့ဘက်ရှိ ကမ္ဘောဇမှတစ်ဆင့် အိန္ဒိယနှင့် ဆက်သွယ်မိ၍ ယဉ်ကျေးမှုများရရှိခဲ့ကြောင်း။ ၁၃ ရာစုတွင် ကမ္ဘောဇပြည်နှင့် စစ်ဖြစ်ကြောင်း။ ထိုအချိန်လောက်တွင် မဲနန်မြစ်ဖျားမှ 'ထိုင်း' ခေါ် ရှမ်းတိုင်းရင်းသားများ ဝင်ရောက်လာကြကြောင်း'ဖြင့် 'နှစ်ပေါင်း ၆၀၀၀ နိုင်ငံတကာသမိုင်းဝင်မှတ်တမ်းများနှင့် စာချုပ်စာတမ်းများ အတွဲ ၁'စာအုပ်တွင် ဖော်ပြထားသည်။

ယိုးဒယားလင်ဖွန် ရာဇဝင်တစ်စောင်၌ 'ခရစ်နှစ် ၉၄၂ တွင် လင်ဖွန်နေပြည်တော် ဝမ်းရောဂါကပ်ဆိုက်ရာ လူအများအပြား သေကျေကြရသဖြင့် မွန်လူမျိုးအဆက်အနွယ်များဖြစ်သော မြို့သူမြို့သားအတော်များများမှာ မိမိတို့၏ဆွေမျိုးများရှိရာ သထုံသို့ ထွက်ပြေးခဲ့ကြကြောင်း။ ထို့နောက် သထုံမှတစ်ဆင့် တောင်ငူသို့ရောက်၍ တောင်ငူ၌နေသူများနှင့် အိမ်ထောင်ကျပြီး၊ ၆ နှစ်ခန့်နေပြီးနောက် ပမ်းရောဂါကင်းရှင်းသွားသောအခါ သားသမီးနှင့်ဇနီးများကို တောင်ငူတွင်ထားကာ လင်ဖွန်သို့ ပြန်ခဲ့ကြကြောင်း' ဖော်ပြထားသည်။

၄င်းအပြင် ယနေ့ကာလ ယိုးဒယားအမျိုးသမီးများသည် တန်ဆောင်တိုင်မီးထွန်းပွဲတော်၌ ရောဝတီတိုင်း ကျုံမငေးမြို့သူမြို့သားများ မီးဖောင်မျှောပူဇော်ပွဲ ကျင်းပကြသကဲ့သို့၊ 'လွိုင်ကထုံ' ခေါ် မီးဖောင်မျှောပူဇော်ပွဲကို ရှေးဟောင်း စုကိုထိုင်းခေတ်အဝတ်အစားများ လှပစွာဝတ်ဆင်လျက် ကျင်းပလေ့ရှိကြရာ ယင်းဝတ်စားဆင်ယင်ထုံးဖွဲ့မှုမှာ ယနေ့ မွန်အမျိုးသမီးများ၏ ဆင်ယင်ထုံးဖွဲ့မှု ဖြစ်နေသည်ကို တွေ့ရှိရသည်။

ဒေါက်တာကျော်သက်ကမူ 'ရာမာဓိပတိ ခေါ် ဓမ္မစေတီမင်း (၁၄၆၀ ခုနှစ်-၁၄၉၂ ခုနှစ်)သည် ၁၄၇၂ ခုနှစ်၌ ဗုဒ္ဓဂယာသို့ သာသနာအဖွဲ့တစ်ဖွဲ့စေလွှတ်ပြီး သီဟိုဠ်ကျွန်း မဟာဝိဟာရကျောင်းသို့ သံဃာ ၂၂ ပါး စေလွှတ်၍ ကလျာဏီမြစ်ရေသိမ်တွင် သိက္ခာတင်စေခဲ့ကြောင်း။ ၄င်းသံဃာတော်များ ဟံသာဝတီသို့ ပြန်ရောက်သောအခါ မြန်မာတစ်ပြည်လုံးမှသံဃာတော်များ, ယိုးဒယားမှသံဃာတော်များ အားလုံးအား ယင်းသီဟိုဠ်ပြန်

သံဃာတော်များထံ သိက္ခာတင်စေသည့်အခမ်းအနားကို ကလျာဏီသိမ်သမုတ်ပြီး ကျင်းပခဲ့ကြောင်း။ ထိုင်းအနွယ်များသည် သံလွင်နှင့် မဲခေါင်မြစ်ကြားတွင် အခြေချလာသဖြင့် တောင်ဘက်မွန်များသည် ပလောင်၊ ဝ၊တို့နှင့် အဆက်အသွယ်ပြတ်ခဲ့ရပြီး မြန်မာနိုင်ငံရှိမွန်တို့သည် ထိုင်းအနွယ်များက ကြားဖြတ်ဝင်နေသည့်အတွက် ကမ္ဘောဒီးယားနှင့် လင်ဖွန်တို့မှ မွန်အဆက်အနွယ်များနှင့် အဆက်အသွယ်ပြတ်တောက်ခဲ့ရကြောင်း'ကို 'မြန်မာ့သမိုင်း' စာအုပ်တွင် ရေးသားဖော်ပြထားသည်။

သတင်းစာဆရာ ဦးသိမ်းမောင်က 'ယနေ့ ယိုးဒယား၌နန်းစံလျက်ရှိသော မဟာကြတ္တရီမင်းဆက်ကို စတင်တည်ထောင်ခဲ့သောမင်းမှာ မြန်မာနိုင်ငံမှ မွန်လူမျိုးဖြစ်နေကြောင်း အံ့သြစွာသိရှိခဲ့ရသည်' ဟု 'ကိုယ်တွေ့ ယိုးဒယား'စာအုပ်တွင် ရေးသားဖော်ပြထားသည်။

ဆရာဦးသောင်းလွင် (ဘီအေ)က 'ဩစတြစ်မျိုးရိုးဖြစ်သော မွန်၊ ပလောင်၊ ရိအန်၊ လဝတို့၏ မူလဒေသမှာ မွန်ဂိုးလီးယားဖြစ်သည် ဟု ပညာရှင်အချို့ကယူပြီး၊ ပါမောက္ခလုစ်က တရုတ်ပြည် အရှေ့တောင်ပိုင်း တုန်ကင်လွင်ပြင် ဖြစ်သည် ဟု ယူဆကြောင်း။ မြန်မာပြည် သထုံနယ်သို့ မရောက်မီ ယိုးဒယားပြည်တောင်ပိုင်း ဒွါရာဝတီနိုင်ငံကို တည်ထောင်ခဲ့ကြပြီး၊ အချို့မွန်တို့က မြန်မာပြည်သို့ဝင်ရောက်၍ ရှိရင်းစွဲ 'နီဂရိတို' ခေါ် ကပ္ပလီလူမျိုးတို့ကိုတိုက်ထုတ်ပြီး သုဝဏ္ဏဘူမိ သထုံတစ်ဝိုက်တွင် နေထိုင်ကြောင်း' မြန်မာအက္ခရာဗေဒစာအုပ်တွင် ရေးသားဖော်ပြထားသည်။

နိုင်ပန်းလှကမူ 'သထုံ မနုဟာမင်းနှင့် ပုဂံ အနော်ရထာမင်းတို့လက်ထက်ကထက် ရှေးပိုကျသည့် မွန်ကျောက်စာများကို မြန်မာနိုင်ငံ၌ မတွေ့ရသော်လည်း ထိုင်း (ယိုးဒယား) အနှံ့အပြား၌ တွေ့ရကြောင်း။ လာပြည်၌လည်း တွေ့ရကြောင်း။ အစောဆုံးမွန်ကျောက်စာသည် အေဒီ ၆ ရာစု ရေးထိုးဖြစ်သဖြင့် ပုဂံထက် နှစ်ပေါင်း ၅၀၀ လောက် ရှေးကျကြောင်း။ ၁၉၈၁ ခုနှစ် စက်တင်ဘာလထုတ် အမှတ် ၃ မွန်မဂ္ဂဇင်း 'ပုဂံခေတ် မြန်မာအက္ခရာ'ဆောင်းပါးတွင် ရေးသားဖော်ပြထားသည်။

သို့ရာတွင် 'ဗိုလ်တထောင်ဘုရား မွန်ကျောက်စာသည် အေဒီ ၇ ရာစု ရေးထိုးသော ကျောက်စာဖြစ်ကြောင်း' ဒေါက်တာသန်းထွန်းက ရှေးဟောင်း မြန်မာရာဇဝင်စာအုပ်တွင် ဖော်ပြထားသကဲ့သို့၊ ဆရာ ဦးသောင်းလွင် (ဘီအေ) ကလည်း 'ယိုးဒယားပြည် ပရပထုံ မွန်ကျောက်စာသည် ၅ ရာစု၊ လောဗ္ဗုရီ မွန်ကျောက်စာသည် ၇ ရာစု ရေးထိုးသော ကျောက်စာဖြစ်ကြောင်း' မြန်မာအက္ခရာဗေဒစာအုပ်တွင် ရေးသားဖော်ပြထားသည်။

အထက်ဖော်ပြပါ သမိုင်းအထောက်အထားအများအပြားကို ဤမျှရှည်လျားစွာ ရေးသားဖော်ပြနေရခြင်း၏ ဆိုလိုရင်းမှာ အဆိုပါ 'သုဝဏ္ဏဘူမိ(သထုံ)၊ ယိုးဒယား၊ လာအိုနှင့် ကမ္ဘောဒီးယား' ဟူသောဒေသများသည် ယခုအခါ နေရာဒေသခြား၍ တိုင်းပြည်နှင့်လူမျိုးများ မည်မျှကွဲပြားနေစေကာမူ ယခင်တစ်ချိန်က မွန်ခမာလူမျိုးတစ်မျိုးတည်းနေထိုင်ခဲ့ရာ ဒေသတစ်ခုတည်းသာဖြစ်ကြောင်း ပြဆိုလိုရင်း ဖြစ်သည်။ ဤသို့ လူမျိုးတစ်မျိုးတည်းနေခဲ့ကြပြီး ရွှေဝါရောင်စပါး စိုက်ပျိုးဖြစ်ထွန်းမှုကို အစွဲပြု၍ ထိုလူမျိုးတို့နေထိုင်ရာ ဒေသတစ်ခုလုံးကို 'သုဝဏ္ဏဘူမိ' ခေါ်နိုင်သော်လည်း၊ သာသနာပြုထေရ်ရှင်တို့ ကြွရောက်ခဲ့သောဒေသမှာ သုဝဏ္ဏဘူမိမြို့တော် သထုံ တိုက်ကလားဒေသသာ ဖြစ်ပါသည်။ ထို့ကြောင့် သုဝဏ္ဏဘူမိ (သထုံ)သို့ ထေရဝါဒသာသနာ ရောက်ရှိလာသည်နှင့် မရှေးမနှောင်းမှာပင် ယိုးဒယား၊ လာအို၊ ကမ္ဘောဒီးယားဒေသများသို့လည်း အချင်းချင်းဆက်သွယ်ခြင်းဖြင့် ပြန့်ပွားသွားခဲ့သောကြောင့်၊ တစ်နည်းအားဖြင့် 'အခန်း ၃'၌ ဖော်ပြထားသော ဦးလူဖေဝင်း၏ ရေးသားချက်အရဆိုလျှင် 'ခရစ်နှစ် ၁၁ ရာစု အစပိုင်းလောက်တွင် သုဝဏ္ဏဘူမိ သထုံမှ မွန်ရဟန်းတော်များက သာသနာပြုပြီး ပရိယတ္တိဗုဒ္ဓဓမ္မကို ဝေငှဖြန့်ချိခဲ့သောကြောင့် ယင်းဒေသများ၌လည်း ထေရဝါဒသာသနာ ထွန်းကားလာရပြီး ယခုအခါ ထေရဝါဒ ၅ နိုင်ငံဟု ထင်ရှားနေရတော့သည်' ဟု ဆိုလိုသည်။

ကျွန်တော်သည် အထက်ပါစာပိုဒ်များကို ရေးပြီးသောအခါ ၁၉၈၆ ခုနှစ် စက်တင်ဘာလထုတ် မြဝတီမဂ္ဂဇင်းမှ ဆရာလှသမိန်၏ 'သုဝဏ္ဏဘူမိ အဘယ်မှာနည်း' ဟူသောဆောင်းပါးကို တွေ့ရှိလိုက်ရပြန်သောကြောင့် ကျွန်တော်၏ယူဆချက် မှန်ကန်ကြောင်း ပို၍ အထောက်အထား ရရှိလိုက်ပြန်သည်။ ဆရာလှသမိန်၏ ဆောင်းပါးကို စာရှုသူများ ဗဟုသုတရရှိနိုင်ရန် ကောက်နုတ်ဖော်ပြအပ်ပါသည်။

ထိုင်းသုတေသီတို့က သုဝဏ္ဏဘူမိသည် နကုန်ပထုံမြို့တော်တည်ရှိရာ ထိုင်းနိုင်ငံအလယ်ပိုင်းဒေသ ဖြစ်သည်ဟူ၍လည်းကောင်း၊ လာအိုနှင့် ကမ္ဘောဒီးယား (ကမ်ပူးချား) သုတေသီများက အသီးသီး မိမိတို့ဒေသများဖြစ်သည်ဟူ၍လည်းကောင်း၊ အခြားသုတေသီများက ပသျှူး (မလေး)ကျွန်းဆွယ်ဒေသ ဖြစ်သည်ဟုလည်းကောင်း ယူဆကြပေသည်။

သုဝဏ္ဏဘူမိကို ရောမ၊ ဂရိ၊ ပါရှား၊ အိန္ဒိယနှင့် တရုတ်ပြည်တို့က ရှေးခေတ်ကာလကတည်းက သိရှိနေကြသည်။ 'သုဝဏ္ဏဘူမိ' အဓိပ္ပာယ်မှာ 'ရွှေမြေ၊ ရွှေဒေသ' ဟူ၍ ဖြစ်ပေသည်။ မြေဩဇာထက်သန်၍ စိုက်ပျိုးလုပ်ကိုင်၍ ဖြစ်ထွန်းသောဒေသကို တင်စားခေါ်ဝေါ်ခြင်း ဖြစ်ပေမည်။

ထိုင်းဘာသာရေး ဇာတကကထာ သာရိတ်သကွန်တွင် သုဝဏ္ဏဘူမိကို အင်ဒိုချိုင်းနားကျွန်းဆွယ် ကမ္ဘာ့အရှေ့ဖျားတစ်ခွင်လုံးအနေဖြင့် ရည်ညွှန်းဖော်ပြပေသည်။ ဇာတကကထာ (သုသန္တိ)တွင် အိန္ဒိယသမုဒ္ဒရာအတွင်း၌ ရှိကြောင်း ဖော်ပြပေသည်။ မဟာနိဒ္ဒေသတွင် စုမတ္တရားကျွန်းကိုဖော်ပြ၍ မဟာဝင်ဒီပဝင်တို့တွင် မြန်မာနိုင်ငံအောက်ပိုင်း တောင်ဘက်ပင်လယ်ကမ်းရိုးတန်း တစ်လျှောက်လုံးကို ဖော်ပြပေသည်။

ဂရိတို့၏သမိုင်းတွင် သုဝဏ္ဏဘူမိကို 'ခရစ်ဆီ' ဟု ဖော်ပြပေသည်။ ၆၀၃ ဘီစီ နှင့် ၆၂၃ ဘီစီ အကြား ဂရိကုန်သည်တစ်ဦးရေးသားသော 'ပဲရီဖီးလပ်အော့ဖ်သည် အီရီသရီးယန်ဆီး' အမည်ရှိစာအုပ်တွင် အိန္ဒိယနိုင်ငံအရှေ့ တရုတ်ပြည်နှင့်နယ်ခြား၏ ဤမှာဘက်တွင်ရှိသည် ဟု ဖော်ပြပေသည်။ ထိုစာအုပ်အလိုအရ ဂင်္ဂါမြစ်နှင့် မျက်နှာချင်းဆိုင်ရှိ ပင်လယ်တွင်းကျွန်းတစ်ကျွန်းကို 'ခရစ်ဆီ' ဟုခေါ်တွင်ကြောင်း ဖော်ပြအပ်ပေသည်။

ရောမလူမျိုး မွမ်ပွန်နီယတ်မီလာ ရေးသားသည့် 'ဒီဆိတူအော်ဘီစ်'စာအုပ်တွင် ခရစ်ဆီကျွန်းသည် အိန္ဒိယသမုဒ္ဒရာတွင်ရှိသည် ဟုဆိုလေသည်။ ပလင်နီ၏ တိုင်းရင်းသမိုင်းတွင် 'ရွှေမြေ'ဟုခေါ်သော ခရစ်ဆီသည် တရုတ်နယ်စပ်အထိပါဝင်သော ကျွန်းဆွယ်ဖြစ်ကြောင်း ဖော်ပြပေသည်။ ထိုပုဂ္ဂိုလ်က သိန္ဓုမြစ်ဝအလွန်တွင် ရွှေကျွန်းဟူ၍ရှိကြောင်း ဖော်ပြပေသည်။ အခြား ရောမစာရေးဆရာ ဂျိုးဆက် ဖတ်စ်ကမူ 'သုဝဏ္ဏဘူမိသည် အိန္ဒိယနိုင်ငံ ဂင်္ဂါမြစ်နှင့် ဗြဟ္မပုတ္တရမြစ်ဝအကြားတွင် ရှိသည်' ဟုဆိုလေသည်။

ဂရိပထဝီဝင်ဆရာကြီးဖြစ်သော အလက်ဇန္ဒြီးယားမြို့သား တိုလမီကမူ (အေဒီ ၁၅၇ ခန့်) ရွှေမြေကို 'ခရစ်ဆီ' ဟူ၍လည်းကောင်း၊ 'ခရစ်ဆီယာဆိုနက်ဆိုစ်' ဟူ၍လည်းကောင်း ခေါ်ပေသည်။ တိုလမီက အာဂီရ ခေါ် ငွေမြေကို မြန်မာနိုင်ငံ ယခု ရခိုင်ပြည်နယ်အောက်ပိုင်းနေရာအဖြစ်ဖော်ပြ၍၊ ရွှေမြေကို ပသျှူးကျွန်းဆွယ်နေရာ၌ ဖော်ပြပေသည်။ ထိုပုဂ္ဂိုလ်က ဂင်္ဂါမြစ်ဝမှ သင်္ဘောလွှင့်သော် အရှေ့တောင်ဘက်သို့ ဦးတည်သွားရာ၌ ပထမအာဂီရ ငွေမြေ (အာဂီရအဲရ်ဟာဒိုအိရ)ကမ်းခြေ 'ဘာရကောရ' အမည်ရှိသော သင်္ဘောဆိပ်သို့ရောက်ကြောင်း၊ ထိုငွေမြေမှ သင်္ဘောကို ဆက်လက်ရွက်လွှင့်ပြန်ရာ ကျွန်းဆွယ်တစ်ခုသို့ ဆိုက်ရောက်ကာ ဒေသရင်းခံလူမျိုးတစ်မျိုးဖြစ်သော ဘက်ဆင်ဂတို့ နေထိုင်ရာ (ဧရာဝတီမြစ်ဝကျွန်းပေါ်)ဒေသသို့ ရောက်ရှိကြောင်း၊ ထို့နောက် ဆက်လက်ရွက်လွှင့်ပြန်ရာ ရွှေမြေ ခရစ်ဆီယာဆိုနက်ဆိုစ်သို့ရောက်၍ တက်ကိုလ (တိုက်ကုလား) ဆိပ်ကမ်းသို့ ရောက်ရှိကြောင်း ဖော်ပြထားလေသည်။

ဂရိနှင့်ရောမတို့၏ ဖော်ပြချက်များအပြင် တရုတ်မှတ်တမ်းများကလည်း သုဝဏ္ဏဘူမိ၏တည်နေရာကို ဖော်ပြပေးသေးသည်။ ၄ ရာစုနှစ်ကုန် ၅ ရာစုနှစ်ဆန်းတွင် ရေးသားသော မှတ်တမ်း၌ ဖူနန်နိုင်ငံ၏ အနောက်ဘက် လီ ၂၀၀၀ ဝေးကွာသောအရပ်တွင် 'ချင်လင်'ဟူသောနိုင်ငံ ရှိကြောင်း၊ ထိုနိုင်ငံ၌ ရွှေတွင်းငွေတွင်းများ ရှိကြောင်း၊ ထို 'ချင်လင်' ခေါ် ရွှေမြေနေရာကို တရုတ်မှတ်တမ်းက ထိုင်းပင်လယ်ကွေ့ပတ်ဝန်းကျင်အဖြစ် ဖော်ပြပေသည်။ ထိုအဆိုကို အနောက်တိုင်းစာရေးဆရာ ပေါလ်ဝှတ်တလီက ထောက်ခံလေသည်။ သို့ရာတွင် တရုတ်ဘုရားဖူး အီဆင်း (အိုက်ဆင်)ကမူ 'ရွှေကျွန်း' ဟုအဓိပ္ပာယ်ရှိသော ကင်ချိအူနိုင်ငံအတွက် ယခုခေတ် စူးမတ္တရား၊ သို့မဟုတ် ထိုကျွန်းပေါ်ရှိ ပလမ်ဘန်မြို့နေရာကို ထောက်ပြခဲ့ပေသည်။

မည်သို့ပင်ဖြစ်စေ၊ မြန်မာနိုင်ငံတွင် သာသနာဝံသနှင့် ကလျာဏီကျောက်စာတို့က သုဝဏ္ဏဘူမိကို မြန်မာနိုင်ငံ တောင်ပိုင်း သထုံဒေသကို ဖော်ပြပေသည်။ သုဝဏ္ဏဘူမိကို 'သုဓမ္မဝတီ၊ သုဓမ္မနဂရ' ဟူ၍လည်း ခေါ်တွင်ခဲ့ပေသည်။ နှောင်းခေတ် အနောက်တိုင်းသုတေသီများအနက် ဂျွန်အက်ကဲဒီက 'အာရှအရှေ့တောင်ပိုင်းနှင့် သမိုင်းဆိုင်ရာ တိုးတက်ဖြစ်ထွန်းမှု'စာအုပ်တွင် သုဝဏ္ဏဘူမိသည် ထိုင်းပင်လယ်ကွေ့မြောက်ဘက် မဲနန်မြစ်ဝှမ်းမှသည် ပသျှူးကျွန်းဆွယ်အထိဖြစ်ကြောင်း ယူဆ၍၊ ရီးစ်ဒေးဗစ်ကမူ သုဝဏ္ဏဘူမိသည် မွန်တို့ဒေသ ရာမညတိုင်းမှ အရှေ့ဘက် စမ္ပာနှင့် တောင်ဘက်ပသျှူးကျွန်းဆွယ်အထိ ကျယ်ပြန့်သောဒေသအဖြစ် မှတ်ယူပေသည်။

အထက်ပါအဆိုအမိန့်များကို လေ့လာက သုဝဏ္ဏဘူမိသည် တစ်နေရာဖြစ်၍၊ ကျွန်းကိုဆိုလိုသော သုဝဏ္ဏဒီပသည် တသီးတခြားဖြစ်ကြောင်း ခွဲခြားနားလည်ရန် လိုပေသည်။ အိန္ဒိယနှင့်ဇာတကစာပေများတွင် ပင်လယ်ခရီးဖြင့် ကုန်သွယ်သောသင်္ဘောများ သုဝဏ္ဏဘူမိသို့ ရောက်ရှိသည်ဆိုရာ၌ သုဝဏ္ဏဘူမိသည် ပင်လယ်ခြားသော တစ်ဖက်ကမ်းခြေဒေသဖြစ်ကြောင်း ထင်ရှားစေပေသည်။ ထို့အပြင် သင်္ဘောများသည် ဂင်္ဂါမြစ်နှင့် စမ္ပာမြစ်ဆုံရာ စမ္ပာဆိပ်ကမ်းမှထွက်ခွာ လေ့ရှိသဖြင့် သုဝဏ္ဏဘူမိသည် အရှေ့ဘက်ကမ်းတစ်ဖက်တွင် ရှိရမည်မှာလည်း သေချာပေသည်။ ဂရိမှတ်တမ်းများ အရလည်း ဂင်္ဂါမှ အရှေ့ဘက်သို့သွားရာခရီးလမ်းတွင် သုဝဏ္ဏဘူမိသို့ရောက်ရှိကြောင်း တွေ့ရမည်ဖြစ်ပေသည်။

သုဝဏ္ဏဘူမိသည် ရှေးအခါက ကုန်ကူးသန်းရာအချက်အချာဒေသ ဖြစ်သည့်အပြင် တိုလမီ ဖော်ပြခဲ့သော တက်ကိုလ (တိုက်ကုလား)သည်လည်း မြန်မာနိုင်ငံအတွင်း သထုံပတ်ဝန်းကျင်တွင်ပင် တည်ရှိနေသဖြင့် သထုံသည်ပင် သုဝဏ္ဏဘူမိဖြစ်ကြောင်းကို အထောက်အထားခိုင်မာပြီး ဖြစ်ပေသည်။ ထိုင်းသုတေသီအချို့က တက်ကိုလသည် ပသျှူးကျွန်းဆွယ် ကရားဒေသတွင်ရှိရမည် ဟူ၍လည်းကောင်း၊ ထိုင်းနိုင်ငံတောင်ပိုင်းရှိ တာကူအာပမြို့ပင် ဖြစ်ရမည် ဟူ၍လည်းကောင်း ကြံဆဖော်ပြခြင်းမှာ ယုတ္တိမတန်ပေ။ ထိုင်းပင်လယ်ကွေ့သို့ အိန္ဒိယသမုဒ္ဒရာမှ ရောက်ရှိရန်မှာ ပသျှူးကျွန်းဆွယ်ကြီးတစ်ခုလုံးကို ကွေ့ပတ်ဖြတ်ကျော်ပြီးမှ ဝင်ရောက်ရမည်ဖြစ်သဖြင့် တိုလမီ၏ တက်ကိုလသည် ထိုင်းပင်လယ်ကွေ့တွင်တည်ရှိရန် မဖြစ်နိုင်ပေ။

ထိုင်းနိုင်ငံအတွင်း၌ ရွှေပါသော မြို့ရွာအမည်များစွာရှိသကဲ့သို့ မြန်မာနိုင်ငံတွင်လည်း ရှိပါသည်။ သို့ရာတွင် ရွှေနှင့် အမည်စပ်ရုံနှင့် သုဝဏ္ဏဘူမိ (ရွှေမြေ) ဖြစ်သည်ဟု ယူဆရန် မဖြစ်နိုင်ပါ။ မြန်မာ့သမိုင်းနှင့် မွန်သမိုင်းတို့တွင် သထုံနှင့် တိုက်ကုလားသုဝဏ္ဏဘူမိအကြောင်းများကို အထင်ကရမှတ်တမ်းတင်ပြီး ဖြစ်ပေသည်။

ပို၍ လေ့လာမှတ်သားရန်မှာ 'သုဝဏ္ဏဘူမိ' ဟူသောအမည်သည် သထုံမြို့ဒေသမျှသာမက ထိုဒေသကို ဗဟိုပြုလျက် အရှေ့ဘက်နှင့် တောင်ဘက်အထိကျယ်ပြန့်သော ဒေသတစ်ခွင်တစ်ပြင်လုံးကို ရှေးက သုဝဏ္ဏဘူမိ ဟူ၍ ထိုခေတ် အနောက်နိုင်ငံသားများက အသိအမှတ်ပြု ရည်ညွှန်းခဲ့ကြခြင်းပင် ဖြစ်သည်။ ခရစ်နှစ် ၄ ရာစု- ၅ ရာစုနှစ်များတွင် ထိုင်းနိုင်ငံအလယ်ပိုင်းနှင့် ကမ်းပူးချားအထိ မွန်အမျိုးသားများ ပျံ့နှံ့နေထိုင်ခဲ့ကြသည်ဖြစ်ရာ၊ သထုံမွန်တို့၏ဒေသနှင့် ထို မွန်ခမာမျိုးနွယ်တို့မှာ တစ်ဆက်တစ်စပ်တည်း ဖြစ်ပေသည်။ ထို့ကြောင့် သုဝဏ္ဏဘူမိသာသနာသည် ထိုင်းနိုင်ငံသို့ပါ ဆက်လက်ပြန့်ပွားမည်မှာ မလွဲပေ။ ကုန်းလမ်းခရီးဆက်သွယ်မှုများသည် ထိုစဉ်ကပင် ရှိခဲ့ပေသည်။

ထို့ကြောင့် အရှင်သောဏနှင့် အရှင်ဥတ္တရတို့ သာသနာမျိုးစေ့ချခဲ့ရာ သုဝဏ္ဏဘူမိသည် လည်းကောင်း၊ တိုလမီ ဖော်ပြခဲ့သော ခရစ်ဆီ (ရွှေမြေ)နှင့် တက်ကိုလ (တိုက်ကုလား)သည် လည်းကောင်း မြန်မာနိုင်ငံတောင်ပိုင်း မုတ္တမပင်လယ်ကွေ့တွင် ရှေးအခါက ဆိပ်ကမ်းမြို့ဖြစ်ခဲ့သည့် သထုံနှင့် ယင်း၏ပတ်ဝန်းကျင်ဒေသတစ်ဝိုက်ဖြစ်ကြောင်း ခိုင်မာစွာ မှတ်ယူနိုင်ပေသည်။

## သင်္ဂါယနာနှင့် ပိဋကတ်တော်စစ်တမ်း

ယနေ့ဗုဒ္ဓဘာသာ၌ အဓိကအားဖြင့် 'ထေရဝါဒ'နှင့် 'မဟာယာန' ဟူ၍ ဂိုဏ်းကြီး ၂ ဂိုဏ်း ကွဲလျက်ရှိသည်။ မဟာယာန ဗုဒ္ဓဘာသာဝင်များသည် ၎င်းတို့၏ ပိဋကတ်တော်များကို မည်သို့ ထိန်းသိမ်းစောင့်ရှောက်ခဲ့ကြသည်ကို သက်ဆိုင်ရာခေါင်းစဉ်အောက်၌ ဖော်ပြခဲ့ပြီးဖြစ်သည်။ ထေရဝါဒဗုဒ္ဓဘာသာဝင်များကား ထေရဝါဒ ပိဋကတ်တော်များကို ပယ်နုတ်ဖြည့်စွက်ပြင်ဆင်ခြင်းများ လုံးဝမရှိဘဲ မူလပကတိအတိုင်း တည်ရှိနေစေရန် သင်္ဂါယနာတင်ခြင်းဖြင့် ထိန်းသိမ်းခဲ့ကြောင်း တင်ပြလိုသည်။

ရှင်မဟာကဿပအမှူးပြုသော မထေရ်တို့သည် ပထမအကြိမ်အဖြစ် သာသနာနှစ် ၁ ခု (၅၄၄ ဘီစီ)၌ ရာဇဂြိုဟ်တွင် နှုတ်ဖြင့် သင်္ဂါယနာတင်တော်မူခဲ့ကြသည်။

ရှင်ယသ အမှူးပြုသော ထေရ်ရှင်မြတ်တို့သည် ဒုတိယအကြိမ်အဖြစ် သာသနာသက္ကရာဇ် ၁၀၀ ပြည့် (၄၄၄ ဘီစီ)၌ ဝေသာလီတွင် နှုတ်ဖြင့် သင်္ဂါယနာတင်တော်မူခဲ့ကြသည်။

ရှင်မဟာမောဂ္ဂလိပုတ္တတိဿထေရ် အမှူးပြုသော ထေရ်ရှင်မြတ်တို့သည် တတိယအကြိမ်အဖြစ် သာသနာသက္ကရာဇ် ၂၃၅ နှစ် (၃၀၉ ဘီစီ)၌ ပါတလိပုတ်တွင် နှုတ်ဖြင့် သင်္ဂါယနာ တင်တော်မူခဲ့ကြသည်။

ဤ တတိယသင်္ဂါယနာတင်ပြီး မကြာမီမှာပင် ထေရဝါဒသာသနာလည်း အိန္ဒိယမှ ကွယ်ပခဲ့ရကြောင်းများကို အထက်၌ ဖော်ပြခဲ့ပြီးဖြစ်သည်။ အိန္ဒိယတွင် ထေရဝါဒသာသနာ ကွယ်ပခဲ့သော်လည်း သီဟိုဠ်နှင့် မြန်မာနိုင်ငံ သုဝဏ္ဏဘူမိ (သထုံ)တို့တွင် ထေရဝါဒသာသနာအမြစ်တွယ်နေပြီ ဖြစ်သည်။ သို့ရာတွင် သီဟိုဠ်တွင် မငြိမ်မသက် သူပုန်ထကြွ၍ ငတ်မွတ်ဘေး ၁၂ နှစ်ကြာဆိုက်ရောက်ခဲ့သည်။ ရဟန်းတော်များသည် ပင်ပန်းဆင်းရဲစွာ ပိဋကတ်တော်များကို နှုတ်တက်အာဂုံဆောင်၍ ထိန်းသိမ်းခဲ့ကြရသည်။

ထို့ကြောင့် ထိုဘေးကြီးငြိမ်းပြီးနောက် သာသနာသက္ကရာဇ် ၄၅၀ ပြည့် (၄၉ ဘီစီ)၌ သီဟိုဠ်ကျွန်း မလယဇနပုဒ် အာလောကလိုဏ်ဂူတွင် ရှင်မဟာဓမ္မရက္ခိတထေရ် အမှူးပြုသော သံဃာတော် ၅၀၀ တို့သည် ဝဋ္ဋဂါမဏိမင်းလက်ထက်၌စတုတ္ထအကြိမ်အဖြစ် သင်္ဂါယနာတင်တော်မူခဲ့ကြသည်။ ဤစတုတ္ထသင်္ဂါယနာ၌ ပိဋကတ်တော်များကို ပေထက်အက္ခရာတင်တော်မူခဲ့ကြသည်။ ယင်း သီဟိုဠ်မှ ပေထက်အက္ခရာတင်ထားသော ပိဋကတ်တော်များကို သုဝဏ္ဏဘူမိ(သထုံ)မှ ရှင်မဟာဗုဒ္ဓဃောသက သာသနာသက္ကရာဇ် ၉၅၃ ခုနှစ်-၉၇၅ ခုနှစ် (အေဒီ ၄၀၉-၄၃၁)အတွင်း၌ သီဟိုဠ်သို့ကြွရောက်ကူးယူပြီး၊ မြန်မာနိုင်ငံ သုဝဏ္ဏဘူမိ(သထုံ)သို့ ဆောင်ယူခဲ့သည်။ နောက်ပိုင်း၌ ယင်း ပိဋကတ်တော်များသည် အထက်မြန်မာနိုင်ငံ ပုဂံ၊ ယိုးဒယား၊ ကမ္ဘောဒီးယား (ကမ်ပူးချား)၊ လောဝ(လာအို)သို့ ပျံ့နှံ့ရောက်ရှိခဲ့သည်။

တစ်ဖန် မြန်မာနိုင်ငံအောက်ပိုင်းသည် (၁၈၂၄ ခုနှစ်-၁၈၅၂ ခုနှစ်) အင်္ဂလိပ်-မြန်မာစစ်ပွဲ ၂ ရပ်အပြီးတွင် ဗြိတိသျှတို့၏လက်အောက်ခံအဖြစ် တည်ရှိနေခဲ့သော်လည်း လွတ်လပ်လျက်ရှိသေးသော မြန်မာနိုင်ငံအထက်ပိုင်း၌ ရတနာပုံ(မန္တလေး)မြို့တည်နန်းတည် မင်းတုန်းမင်းတရားက ပိဋကတ်တော်များကို ရှေးဦးစွာ ကျောက်ပြား ၇၂၉ ချပ်ပေါ်တွင် ကျောက်ထက်အက္ခရာ တင်စေခဲ့သည်။ ယင်းကျောက်ပြားများကို မန္တလေးမြို့ 'လောကမာရဇိန်' ခေါ် ကုသိုလ်တော်စေတီတံတိုင်းအတွင်း ဂူငယ်များနှင့် ထားသည်။ မြန်မာသက္ကရာဇ် ၁၂၂၂ ခုနှစ် တန်ဆောင်မုန်းလဆန်း ၁ ရက်နေ့မှစ၍လုပ်ဆောင်ပြီး၊ ၁၂၃၀ ပြည့်နှစ် ကဆုန်လဆန်း ၁၄ ရက်နေ့တွင် ပြီးပြည့်စုံခဲ့သည်။

ကျောက်စာထွင်းရာ၌ ၁- တောင်ဆောင်မိဖုရားဆရာ ဇာဂရာဘိဝံသ တိပိဋကဓရ မဟာဓမ္မရာဇာဓိရာဇဂုရု၊ ၂- မြတောင်မြို့စား သေနတ်ဝန်ကြီးဆရာ နရိန္ဒာဘိသိရိ သဒ္ဓမ္မဇောတိပါလဓဇ မဟာဓမ္မရာဇာဓိ ရာဇဂုရု၊ ၃-စီးတော်မြင်းဝန်တိုက် ဆရာတော် သုမင်္ဂလသာမိ သိရိပဝရမဏိဓဇ မဟာဓမ္မရာဇာဓိရာဇဂုရု ဆရာတော်၊ ၃ ပါးက ကြီးကြပ်တော်မူခဲ့သည်။

၎င်းနောက် သာသနာသက္ကရာဇ် ၂၄၁၅ နှစ်- မြန်မာသက္ကရာဇ် ၁၂၃၃ ခုနှစ်(အေဒီ ၁၈၇၁)၌ သုဓမ္မာဆရာတော် ၈ ပါးနှင့်တကွ တံဆိပ်တော်ရ,မရ သံဃာတော် ၂၄၀၀ ဖြင့် ပဉ္စမအကြိမ်အဖြစ် သင်္ဂါယနာတင် ရွတ်ဆိုတော်မူခဲ့ကြရာ ၅ လ ၄ ရက်အကြာ မြန်မာသက္ကရာဇ် ၁၂၃၃ ခုနှစ် တော်သလင်းလဆုတ် ၁၄ ရက်နေ့တွင် ပြီးဆုံးခဲ့သည်။ ၎င်းနောက် မြန်မာနိုင်ငံအထက်ပိုင်းသည်လည်း ၁၈၈၅ ခုနှစ် တတိယ အင်္ဂလိပ်-မြန်မာစစ်ပွဲဖြင့် ဗြိတိသျှလက်အောက်ခံ ဖြစ်ခဲ့ရပြန်ပြီး၊ ၁၉၄၈ ခုနှစ် ဇန်နဝါရီလ ၄ ရက်နေ့ကျမှ တစ်ပြည်လုံးလွတ်လပ်ခဲ့သည်။

ဤသို့ လွတ်လပ်ရေးရပြီးနောက် နိုင်ငံတော်အစိုးရဦးဆောင်သော မြန်မာနိုင်ငံသူနိုင်ငံသားများသည် ထေရဝါဒ ပိဋကတ်တော်များကို သီဟိုဠ်(သီရိလင်္ကာ), ထိုင်း(ယိုးဒယား), ကမ္ဘောဒီးယား(ကမ်ပူးချာ), လော (လာအို)တို့မှ သံဃရာဇာ သာသနာပိုင် သံဃနာယကဆရာတော်များ၊ အိန္ဒိယ, ပါကစ္စတန်, နီပေါ, ဗီယက်နမ်တို့မှ ဂဏာစရိယဆရာတော်များ အပါအဝင် သင်္ဂီတိကာရက သံဃာတော် ၂၅၀၀ ဖြင့် မြန်မာနိုင်ငံ မြို့တော်ရန်ကုန် မဟာပါသာဏလိုဏ်ဂူတော်ကြီးတွင် ဆဋ္ဌသင်္ဂါယနာ တင်ခဲ့ပြန်သည်။ ဤ ဆဋ္ဌသင်္ဂါယနာမူ ပိဋကတ်ကျမ်းစာများကို စာအုပ်အဖြစ် စက်တင်ပုံနှိပ်၍ ထိန်းသိမ်းထားခဲ့သည်။

ဆဋ္ဌသင်္ဂါယနာဖွင့်ပွဲကို သာသနာသက္ကရာဇ် ၂၄၉၈ ခု- မြန်မာသက္ကရာဇ် ၁၃၁၆ ခုနှစ် ကဆုန်လပြည့်နေ့ (ခရစ်နှစ် ၁၉၅၄ မေလ ၁၇ ရက်)နေ့၌ ကျင်းပခဲ့သည်။ ပါဠိတော်များကို သာသနာသက္ကရာဇ် ၂၄၉၈ ခု- မြန်မာသက္ကရာဇ် ၁၃၁၆ ခုနှစ် ကဆုန်လဆုတ် ၄ ရက် (ခရစ်နှစ် ၁၉၅၄ မေလ ၂၁ ရက်)မှ စတင်၍သင်္ဂါယနာတင်ပြီး၊ သာသနာသက္ကရာဇ် ၂၅၀၀ ပြည့်- မြန်မာသက္ကရာဇ် ၁၃၁၈ ခုနှစ် ကဆုန်လဆန်း ၁၀ ရက် (ခရစ်နှစ် ၁၉၅၆ မေလ ၁၉ ရက်)တွင် ပြီးဆုံးခဲ့သည်။ ယင်း ပါဠိတော်သင်္ဂါယနာတင်ပွဲ အောင်မြင်စွာပြီးဆုံးပြီးနောက် သာသနာတော်နှစ် ၂၅၀၀ ပြည့်အောင်ပွဲကို ၎င်းနှစ် ကဆုန်လဆန်း ၁၂ ရက်မှ လပြည့်နေ့အထိ ၃ ရက်တိုင်တိုင် တစ်ပြည်လုံး အမြို့မြို့၌ ခြိမ့်ခြိမ့်သဲကျင်းပခဲ့ကြသည်။ ဤ ပါဠိတော် သင်္ဂါယနာတင်ပွဲအခမ်းအနားသို့ ကမ္ဘောဒီးယားနိုင်ငံ ဘုရင်မင်းမြတ်၏ကိုယ်စား ကမ္ဘောဇဒီယားနိုင်ငံဝန်ကြီးချုပ်, လာအိုနိုင်ငံ ဥပရာဇာ, ထိုင်းနိုင်ငံဝန်ကြီးချုပ်, သီဟိုဠ်(သီရိလင်္ကာ)နိုင်ငံ သာသနာရေးနှင့် ယဉ်ကျေးမှုဝန်ကြီးတို့အပြင်၊ တရုတ်ပြည်သူ့သမ္မတနိုင်ငံမှ ဗုဒ္ဓဘာသာမိတ်ဆက်အဖွဲ့ခေါင်းဆောင်တို့လည်း တက်ရောက်ခဲ့ကြသည်။

ပါဠိတော် သင်္ဂါယနာတင်ပွဲပြီးဆုံးပြီးနောက် ဆက်လက်၍ အဋ္ဌကထာသင်္ဂါယနာတင်ပွဲကို သာသနာသက္ကရာဇ် ၂၅၀၀ ပြည့်နှစ်- မြန်မာသက္ကရာဇ် ၁၃၁၈ ခုနှစ် နတ်တော်လဆုတ် ၉ ရက် (ခရစ်နှစ် ၁၉၅၆ ဒီဇင်ဘာ ၂၆ ရက်နေ့)မှစခဲ့ပြီး သာသနာသက္ကရာဇ် ၂၅၀၃ ခု- မြန်မာသက္ကရာဇ် ၁၃၂၁ ခုနှစ် တပေါင်းလဆန်း ၆ ရက် (ခရစ်နှစ် ၁၉၆၀ ပြည့် မတ်လ ၂ ရက်နေ့)တွင် ပြီးဆုံးခဲ့သည်။ အလားတူ ဋီကာသင်္ဂါယနာတင်ပွဲကို သာသနာသက္ကရာဇ် ၂၅၀၄ ခု- မြန်မာသက္ကရာဇ် ၁၃၂၂ ခုနှစ် တန်ဆောင်မုန်းလဆုတ် ၃ ရက် (ခရစ်နှစ် ၁၉၆၀ ပြည့် နိုဝင်ဘာ ၅ ရက်)မှ စခဲ့ပြီး သာသနာသက္ကရာဇ် ၂၅၀၅ ခု- မြန်မာသက္ကရာဇ် ၁၃၂၃ ခုနှစ် တပို့တွဲလဆန်း ၁၂ ရက် (ခရစ်နှစ် ၁၉၆၂ ဖေဖော်ဝါရီလ ၁၆ ရက်နေ့)တွင် ပြီးဆုံးခဲ့သည်။ ယင်း ဆဋ္ဌသင်္ဂါယနာတင် ပါဠိတော်, အဋ္ဌကထာ, ဋီကာ ကျမ်းစာအားလုံးကို ဆဋ္ဌမူအဖြစ် စာအုပ်ရိုက်နှိပ်၍ ထိန်းသိမ်းထားလျက် ရှိသည်။

အထူးမှာ ထေရဝါဒဗုဒ္ဓဘာသာမှခွဲထွက်သွားသော မဟာယာနရှေးပြေး ဂိုဏ်းကွဲရဟန်းသံဃာတော်များသည် ပထမအကြိမ်အဖြစ် သာသနာနှစ် ၁၀၀ (၄၄၄-ဘီစီ) ဒုတိယသင်္ဂါယနာတင်ချိန်၌ ခွဲထွက်ပြီး၊ သဘောတူရာ ရဟန်း ၁ သောင်းကို စုစည်း၍ ကောသမ္ဗီပြည်၌ စင်ပြိုင်သင်္ဂါယနာ တင်ခဲ့ကြသည်။ ၄င်းတို့သည် အပေါ်စီးရရန် မိမိတို့၏သင်္ဂါယနာကို 'မဟာသံဂီတိ' ဟုခေါ်ပြီး၊ မိမိတို့၏ဂိုဏ်းကိုလည်း 'မဟာသံဃိကဂိုဏ်း' ဟုခေါ်ခဲ့ကြသည်။ ပိဋကတ်တော်များကိုမူ လိုသလိုပြင်ဆင်ခဲ့ကြသည်။

တစ်ဖန် သာသနာနှစ် ၂၃၅ (၃၀၉ ဘီစီ)၌ တတိယသင်္ဂါယနာတင်သောအခါ၌လည်း သဗ္ဗတ္ထိဝါဒဂိုဏ်း စသော ဂိုဏ်းကွဲရဟန်းများသည် ရာဇဂြိုဟ်ပြည်အနီး နာလန္ဒာ၌ ဒုတိယအကြိမ် စင်ပြိုင်သင်္ဂါယနာတင်ခဲ့ကြပြန်သည်။ ဤ သင်္ဂါယနာတင်ပွဲတွင် မဟာသံဃိကဂိုဏ်းရဟန်းများလည်း၊ ပါဝင်သည်ဟုဆိုသည်။ ဤသင်္ဂါယနာသည် ဂိုဏ်းကွဲဗုဒ္ဓဘာသာအနေဖြင့် ဒုတိယသင်္ဂါယနာဖြစ်သော်လည်း ဂိုဏ်းကွဲများတွင် အထူးထင်ရှားသော သဗ္ဗတ္ထိဝါဒ ဂိုဏ်းအနေဖြင့် ပထမသင်္ဂါယနာဖြစ်သည်။ တစ်ဖန် သာသနာနှစ် ၆၀၀ ကျော်၌ ကနစ်ရှကမင်းက ကသ္မီရတိုင်း ပက်ရုဝါမြို့၌ သဗ္ဗတ္ထိဝါဒဂိုဏ်းကွဲကိုစုစည်း၍ သင်္ဂါယနာတင်ခဲ့ပြန်သည်။ ဤသင်္ဂါယနာသည် ဂိုဏ်းကွဲဗုဒ္ဓဘာသာ အနေဖြင့် တတိယအကြိမ်ဖြစ်သော်လည်း၊ သဗ္ဗတ္ထိဝါဒဂိုဏ်းအနေဖြင့် ဒုတိယသင်္ဂါယနာ ဖြစ်သည်။

ဤသို့အားဖြင့် ထေရဝါဒဗုဒ္ဓဘာသာအနေဖြင့် သင်္ဂါယနာ ၆ ကြိမ်တင်ခဲ့ပြီး၊ ဂိုဏ်းကွဲဗုဒ္ဓဘာသာအနေဖြင့် ၃ ကြိမ် သင်္ဂါယနာတင်ခဲ့သည်။ ဤသို့ သင်္ဂါယနာအသီးသီးတင်ကြရာ၌ ဂိုဏ်းကွဲသင်္ဂါယနာ ၃ ကြိမ်ကို ထေရဝါဒဗုဒ္ဓဘာသာဝင်များက အသိအမှတ်မပြုကြသကဲ့သို့၊ ထေရဝါဒဗုဒ္ဓဘာသာ သင်္ဂါယနာ ၆ ကြိမ်အနက် တတိယမှဆဋ္ဌအထိ သင်္ဂါယနာ ၄ ကြိမ်ကို မဟာယာနဗုဒ္ဓဘာသာဝင်များက အသိအမှတ်မပြုကြဘဲ၊ ပထမနှင့် ဒုတိယ သင်္ဂါယနာ ၂ ကြိမ်ကိုသာ အသိအမှတ်ပြုကြသည် ဟုအဆိုရှိသည်။

သို့ရာတွင် မဟာယာနတို့အသိအမှတ်ပြုသည် ဟုဆိုသော ဒုတိယသင်္ဂါယနာကား ထေရဝါဒသင်္ဂါယနာ နှင့် စင်ပြိုင်သင်္ဂါယနာ ၂ မျိုးအနက် မည်သည့်သင်္ဂါယနာဖြစ်သည်ကို ခွဲခြားဖော်ပြမှု မရှိသော်လည်း၊ စင်ပြိုင် သင်္ဂါယနာကိုသာ အသိအမှတ်ပြုကြောင်း ယူဆရပေသည်။ မဟာယာနတို့သည် ရှင်မဟာကဿပ စသော ထေရ်ရှင် များကို 'အရဟတ်'များအဖြစ် ကိုးကွယ်နေကြသဖြင့်၊ ရှင်မဟာကဿပဦးစီးခဲ့သော ပထမသင်္ဂါယနာကို အသိ အမှတ်ပြုကြောင်း ယူဆနိုင်သော်လည်း၊ ထေရဝါဒ ဒုတိယသင်္ဂါယနာကိုမူ အသိအမှတ်မပြုဘဲ ပြုပြင်ရေးဝါဒီ ဂိုဏ်းကွဲ မဟာသံဃိကဂိုဏ်း၏ စင်ပြိုင်သင်္ဂါယနာကိုသာ ၄င်းတို့ အသိအမှတ်ပြုမည်ဖြစ်ကြောင်း ယုံမှားဖွယ်မရှိပြီ။

## သာသနာတော်သန့်ရှင်းရေး ဆောင်ရွက်ခြင်း

ဗုဒ္ဓဘာသာဝင်များသည် ထေရဝါဒဗုဒ္ဓသာသနာတော်ကို တစ်နည်းအားဖြင့် ဗုဒ္ဓမြတ်စွာ ဟောကြားတော်မူခဲ့သော တရားတော်များကို တစ်လုံးတစ်ပါဒမျှ အတိမ်းအစောင်းမရှိစေရန် ဖော်ပြပါ သင်္ဂါယနာ ၆ တန့်ဖြင့် ထိန်းသိမ်း စောင့်ရှောက်ခဲ့သည်။ တစ်ဖန် ထေရဝါဒဗုဒ္ဓသာသနာတော်သည် ဗုဒ္ဓမြတ်စွာဘုရား ပရိနိဗ္ဗာန်ပြုသည့်နေ့မှ စတင် ရေတွက်လာခဲ့သော သာသနာသက္ကရာဇ် ၂၅၃၀ ကျော်ရှိခဲ့ပြီးဖြစ်သော ယနေ့တိုင် ရှည်လျားသောကာလတစ်လျှောက် ၌ တိုင်းပြည်နှင့် လူမျိုး အစုံစုံ, ဝါဒအဖုံဖုံအတွင်း ဖြတ်သန်းလာရသည့်အားလျော်စွာ သာသနာ့ဘောင်အတွင်းသို့ အလိုဆိုးရှိသူများ ဝင်ရောက်လာကြသောကြောင့် လည်းကောင်း၊ ဝိနည်းအယူအဆအရ ရဟန်းအချင်းချင်း ညီညွတ် ရေးပျက်ပြား၍ ဂိုဏ်း ကွဲပြားနေရသောကြောင့် လည်းကောင်း သာသနာတော်သည် တစ်ခါတစ်ရံ ညစ်နွမ်းခဲ့ရသည် ဟုဆိုနိုင်သည်။ ထိုအခါ၌ သာသနာတော်သန့်ရှင်းရေး လုပ်ငန်းအတွက် ဆောင်ရွက်ရန် လိုအပ်လာရတော့သည်။ သာသနာသန့်ရှင်းရေးလုပ်ရပ်သည် နိဂ္ဂဟနည်းဖြင့် သာသနာပြုလုပ်ရပ်ပင်ဖြစ်သည်။ သာသနာပြုလုပ်ငန်းသည် ပဂ္ဂဟ (ချီးမြှောက်ထောက်ပံ့နည်း)နှင့် နိဂ္ဂဟ (သန့်ရှင်းရေး) နည်း ၂ နည်းရှိသည်ကို သတိပြုအပ်သည်။

သာသနာတော်သန့်ရှင်းရေးအတွက် သာသနာ့ဘောင်အတွင်းရှိ ရဟန်းဆိုးများကို ဖယ်ရှားသုတ်သင်နိုင်ရန်၊ မမှန်သောအယူဝါဒများကို သုတ်သင်ရှင်းလင်းနိုင်ရန်၊ မညီမညွတ်ကွဲပြားနေမှုများကို ညီညွတ်စေရန်အတွက် ဆောင်ရွက်ရန်မှာ အလွန်ခက်ခဲ လေးနက်လှသောလုပ်ငန်းရပ်ပင် ဖြစ်သည်။ ဤ သာသနာတော် သန့်ရှင်းရေး လုပ်ငန်းကို အမှန်ကန်ဆုံးဖြစ်နိုင်ရေးအတွင် အလျင်စလိုမပြုလုပ်ဘဲ၊ အချိန်ယူ စီမံချက်ချပြီးမှဆောင်ရွက်ရသော လုပ်ငန်းကိစ္စရပ်ဖြစ်သည့်အပြင်၊ သာသနာအပေါ် သဒ္ဓါတရားကြီးမားပြီး ဘုန်းကံကြီးမားသော မင်းများ၊ အာဏာပိုင် အဖွဲ့အစည်းများ၏ အာဏာစက်ကူညီမှုဖြင့် ဆောင်ရွက်ပါမှ ပြီးစီးရသောကိစ္စရပ်လည်း ဖြစ်သည်။ သာသနာတော် သက်တမ်းတစ်လျှောက်၌ သာသနာတော်သန့်ရှင်းရေးလုပ်ဆောင်ချက်များမှာ အောက်ပါအတိုင်း ဖြစ်သည်။

## အိန္ဒိယ သာသနာတော်သန့်ရှင်းရေး

အိန္ဒိယပြည် သာသနာရေးသမိုင်းတွင် သီရိဓမ္မာသောကမင်းကြီးသည် သာသနာတော်အတွက် အလွန်ကျေးဇူး များပြီး သာသနာတော်သန့်ရှင်းရေးကိုဆောင်ရွက်ခဲ့သည့် ထင်ရှားသောမင်းတစ်ပါးပင် ဖြစ်သည်။ မင်းကြီးသည် ဗုဒ္ဓဘာသာဝင်မဖြစ်မီက အလွန်ရက်စက်ကြမ်းကြုတ်သော အလေ့စရိုက်ရှိသည့်အားလျော်စွာ ခမည်းတော် ဗိန္ဒုသာရမင်း နတ်ရွာစံ၍ ထီးနန်းအမွေကိုဆက်ခံရပြီးဖြစ်သော်လည်း၊ ၉ ကျိပ် ၉ ယောက်သော ညီနောင်မင်းသားတို့ကို ၄ နှစ်တိုင်တိုင် ရက်စက်စွာတိုက်ခိုက်နှိမ်နင်း ကွပ်မျက်ခဲ့ပြီးမှ သာသနာသက္ကရာဇ် ၂၁၈ နှစ် (၃၂၆ ဘီစီ)တွင် ညီတော် တိဿမင်းသားကို အိမ်ရှေ့အရာထား၍ အဘိသိက် ခံတော်မူခဲ့သည်။ ထို့ကြောင့် ပြည်သူများက မင်းကြီး ကို 'စဏ္ဍာသောကမင်း' (ကြမ်းကြုတ်သော အသောကမင်း) ဟူ၍ပင် ခေါ်တွင်ခဲ့ကြသည်။

သို့ရာတွင် နောက်ပိုင်း၌ ဗုဒ္ဓဘာသာဖြစ်လာပြီးသောအခါ မင်းကြီးသည် ဗုဒ္ဓသာသနာတော်ကို အကြီး အကျယ်ချီးမြှောက်ထောက်ပံ့ခဲ့ရာ၊ လာဘ်လာဘခေါင်းပါးလာကြသော တိတ္ထိများသည် မိမိတို့၏ဝမ်းရေးနှင့် အယူဝါဒရေးကိုငဲ့ကွက်ပြီး သာသနာ့ဘောင်သို့ နည်းမျိုးစုံဖြင့် ဝင်ရောက်ခိုလှုံလာကြသည်။ ထိုအခါ သာသနာတော် အတွင်း၌ အရှုပ်အထွေးပြဿနာများလည်း ပေါ်ပေါက်လာရတော့သည်။ ရဟန်းအချင်းချင်းလည်း မညီမညွတ်ဖြစ် လာရသည်။ ထို့ကြောင့် မင်းကြီးသည် အဟောဂင်္ဂါတောင်၌ သီတင်းသုံးနေတော်မူသော ရှင်မဟာမောဂ္ဂလိ ပုတ္တတိဿထေရ်မြတ်အား ပင့်၍၊ ထေရ်ရှင်၏အကူအညီဖြင့် ရဟန်းတုရဟန်းယောင် တိတ္ထိ ၆ သောင်းကို လူဝတ်လဲစေခြင်းဖြင့် သာသနာတော်သန့်ရှင်းရေးဆောင်ရွက်တော်မူခဲ့ပြီး၊ တတိယသင်္ဂါယနာတင်ကိစ္စနှင့် ၉ တိုင်း ၉ ဌာနသို့ သာသနာပြု စေလွှတ်ရေးလုပ်ငန်းများကို ဆောင်ရွက်တော်မူခဲ့သည်။

## သီဟိုဠ်(သီရိလင်္ကာ) သာသနာတော်သန့်ရှင်းရေး

သီဟိုဠ်ကျွန်းတွင် သာသနာပြုထေရ် ရှင်မဟိန္ဒအနွယ်များကို 'မဟာဝိဟာရဝါသီ' ဟု ခေါ်ခဲ့ကြသည်။ နောင် ၂၁၇ နှစ် ၁၀ လ ၁၀ ရက် ကြာသောအခါ သာသနာသက္ကရာဇ် ၄၅၅ နှစ် (၈၉ ဘီစီ)၌ ဝဋ္ဋဂါမဏိအဘယမင်းက စစ်အတွင်း၌ မိမိကိုကယ်ဆယ်ခဲ့သော အဘယဂိရိကျောင်းဆရာတော် မဟာတိဿထေရ်အား 'တိတ္ထာရာမ' ခေါ် နိဂဏ္ဌတို့၏ အာရာမ်ဟောင်း၌ ကျောင်းကိုဆောက်၍ လှူဒါန်းခဲ့သည်။ သို့သော် ယင်း မဟာတိဿထေရ်သည် လူဒါယကာတို့နှင့် ရောနှောနေထိုင်မှုကြောင့် မဟာဝိဟာရဝါသီ ဆရာတော်များ၏ ကံပြုကြဉ်ဖယ်မှုကို ခံခဲ့ရသည်။ ထို့ကြောင့် ထိုအချိန်မှစ၍ 'မဟာဝိဟာရဝါသီဂိုဏ်း၊ အဘယဂိရိဝါသီဂိုဏ်း' ဟူ၍ ဂိုဏ်း ၂ ဂိုဏ်း ပေါ်ပေါက်လာ ရတော့သည်။

ထိုအခါ မဟာဝိဟာရဝါသီဂိုဏ်းမှ သံဃာတော်များသည် ထေရဝါဒပိဋကတ်တော်များကို အနုရာဓမြို့မှ ၆၈ မိုင်ကွာဝေးသော မလယဇနပုဒ် မာတုလမြို့အနီး အာလောကလိုဏ်ဂူ၌ ဝဋ္ဋဂါမဏိမင်း၏အကူအညီကို မယူဘဲ၊ ၄င်းနယ်ပယ် အကြီးအကဲများ၏ အကူအညီဖြင့် ထေရဝါဒပိဋကတ်တော်များကို စတုတ္ထသင်္ဂါယနာအဖြစ် စုပေါင်းညှိနှိုင်း ရွတ်ဆိုတော်မူကြပြီး ပေထက်အက္ခရာ တင်တော်မူခဲ့ကြသည်။ ။ ဤကား မဟာစည်ဆရာတော်ဘုရား၏ ဝိသုဒ္ဓိမဂ် မြန်မာပြန်နိဒါန်းပါအဆို ဖြစ်သည်။

ဆရာတော် အရှင်ဇနကာဘိဝံသ၏ အနာဂတ်သာသနာရေး၌ကား 'ဝဋ္ဋဂါမဏိမင်း၏ အကူအညီဖြင့် ပေထက်အက္ခရာတင်ခဲ့သည်' ဟု ဖော်ပြထားပြီး၊ တိပိဋကပါဠိ မြန်မာအဘိဓာန် စ-ဝဂ်၊ သာသနာလင်္ကာရစာတမ်းနှင့် ပါရာဇိကဏ်အဋ္ဌကထာနိဒါန်းတို့၌မူ 'ဝဋ္ဋဂါမဏိမင်းလက်ထက်၌ စတုတ္ထ သင်္ဂါယနာတင်ခဲ့သည်' ဟု သာမညပြဆိုထားသည်။

အဘယဂိရိဂိုဏ်းသားများမှာမူ ဂိုဏ်းကွဲဗုဒ္ဓဘာသာဖြစ်သော ဝဇ္ဇီပုတ္တကဂိုဏ်းအတွင်း၌ပါဝင်သော ဓမ္မရုစိဂိုဏ်း၏ သက္ကတဘာသာဖြင့် ရေးသားထားသော ဓမ္မဝိနယပိဋကတ်ကျမ်းစာများကို သင်ကြားကြသောကြောင့် ဤဂိုဏ်းကို 'ဓမ္မရုစိဂိုဏ်း' ဟူ၍လည်း ခေါ်တွင်ခဲ့ကြသည်။ ဤဂိုဏ်းသည် မဟာဝိဟာရဝါသီတို့၏ ထေရဝါဒ သာသနာကို အကြီးအကျယ် နှောင့်ယှက်ဖျက်ဆီးခဲ့သည်။ ယင်းဂိုဏ်း၏ ဂိုဏ်းကွဲတစ်ခုဖြစ်သော ဝေတုလ္လဂိုဏ်းကလည်း အလားတူထေရဝါဒဗုဒ္ဓသာသနာကို အကြီးအကျယ်နှောင့်ယှက်မှု ပြုခဲ့သည်။

ဤ အဘယဂိရိဝါဒဂိုဏ်းသားများသည် နောက်ပိုင်း၌ 'မဟာယာနဂိုဏ်း' ဟူ၍ ထင်ရှားပေါ်လာသောအခါ၌လည်း မဟာယာနတို့၏ သက္ကတပိဋကတ်စာပေများကိုသာ သင်ကြားခဲ့ကြသည်။ ထို့ကြောင့် သာသနာနှစ် ၉၇၆ (အေဒီ ၄၃၂ နှစ်)၌ သီဟိုဠ်သို့ရောက်ရှိခဲ့သော တရုတ်ရဟန်းတော် ဖာဟီယန်သည် ဤ အဘယဂိရိဝါသီဂိုဏ်းမှ မဟာယာနသက္ကတပိဋကတ်များကို တရုတ်ပြည်သို့ ကူးယူသွားသကဲ့သို့၊ ဖာဟီယန်ထက် ၁၁ နှစ်စော၍ သာသနာနှစ် ၉၆၅ (အေဒီ ၄၂၁ နှစ်)၌ သီဟိုဠ်သို့ရောက်ရှိခဲ့သော ရှင်မဟာဗုဒ္ဓဃောသထေရ်မြတ်ကလည်း မဟာဝိဟာရဝါသီဂိုဏ်းမှ ထေရဝါဒပိဋကတ်တော်များကိုကူး၍ မြန်မာနိုင်ငံ သုဝဏ္ဏဘူမိသို့ ယူဆောင်တော်မူခဲ့ခြင်း ဖြစ်သည်။

သာသနာနှစ် ၇၉၇-၈၁၀ (အေဒီ ၂၅၃-၂၆၆ နှစ်)အတွင်း၌ အဘယဂိရိဝါသီဂိုဏ်းမှပင် သာဂလိယဂိုဏ်း တစ်ခု ပေါ်လာပြန်သည်။ သို့ရာတွင် သာသနာနှစ် ၈၂၉-၈၄၅ (အေဒီ ၂၈၅-၃၀၁ နှစ်)အတွင်း၌ မဟာသေနမင်းက ဒက္ခိဏာရာမကျောင်းမှ ဆရာတော် ကုဟကတိဿထေရ်ကို ကြည်ညို၍ ဇေတဝန်ကျောင်းတိုက်ကိုဆောက်လုပ်လှူဒါန်းရာမှ သာဂလိယဂိုဏ်းအမည် ပျောက်ပြီး ဇေတဝနဝါသီဂိုဏ်းအမည် ထင်ရှားလာရပြန်သည်။ ယင်းကျောင်း၌ ပထမသာဂလိယဂိုဏ်းသားများ နေထိုင်ခဲ့ကြသော်လည်း၊ သာသနာနှစ် ၁၀၆၇-၁၀၈၀ (အေဒီ ၅၂၃-၅၃၆ နှစ်)တွင် ဝေတုလ္လဝါဒီများ နေထိုင်ခဲ့ကြသည်။

မည်သို့ပင်ဖြစ်စေ၊ ထိုအချိန်လောက်မှစ၍ သီဟိုဠ်တွင် မဏိသာရမဉ္ဇူသာဋီကာနှင့် ကလျာဏီကျောက်စာတို့အဆိုအရ အစိကအားဖြင့် 'မဟာဝိဟာရဝါသီ၊ အဘယဂိရိဝါသီ၊ ဇေတဝနဝါသီ' ဟူ၍ ဂိုဏ်းကြီး ၃ ဂိုဏ်းမှာ တြိဂံသဖွယ် တည်ရှိနေခဲ့ကြပြီး၊ သံဃာကွဲပြားမှုလည်း အကြီးအကျယ် ဖြစ်နေခဲ့ရသည်။ သာသနာလင်္ကာရစာတမ်း၌ကား ဖော်ပြပါဂိုဏ်း ၃ ဂိုဏ်းနှင့် မဟာယာနအယူရှိသော 'မဟာဝိဟာရဂိုဏ်း' ဟူ၍ ဂိုဏ်းကြီး ၄ ဂိုဏ်း တည်ရှိခဲ့သည်ဟု ဆိုသည်။ ဤကဲ့သို့ အရောရောအနှောနှော ရှုပ်ရှုပ်ထွေးထွေးဖြစ်နေသော သီဟိုဠ်သာသနာရေးတွင် အဓမ္မဝါဒီများကို သုတ်သင်ရှင်းလင်း၍ သံဃာညီညွတ်မှုရရှိရေးအတွက် သာသနာတော်သန့်ရှင်းရေးလုပ်ငန်းများကို သီရိသင်္ဃဗောဓိမင်း၊ ဝေါဟာရိက တိဿမင်း၊ ဂေါဌာဘယမင်းတို့သည် အဆက်ဆက်ဆောင်ရွက်ခဲ့ကြသည်။

သို့ရာတွင် ထိရောက်သောအောင်မြင်မှု မရရှိခဲ့ပါ။ ပရက္ကမဗာဟုမင်း (သာသနာနှစ် ၁၆၉၇-၁၇၃၀၊ အေဒီ ၁၁၅၃-၁၁၈၆ နှစ်) လက်ထက်တွင်မှ အဓမ္မဝါဒီများကင်းပျောက်ပြီး၊ တိုက်တည်ရှိခဲ့သော ဂိုဏ်းကြီး ၃ ဂိုဏ်းမှာလည်း တစ်လုံးတစ်စည်းတည်းတည်ရှိလာသဖြင့် သီဟိုဠ်သာသနာတော်သည်လည်း ထေရဝါဒစစ်စစ်အသွင်ဖြင့် သန့်ရှင်းလာရတော့သည်။

ဤနေ့ သီဟိုဠ်သာသနာသန့်ရှင်းရေးကို အပြီးတိုင်ဆောင်ရွက်ခဲ့သော ပရက္ကမဗာဟုမင်း သက္ကရာဇ်ကို ပြရာ၌ အနည်းငယ်ကွဲပြားနေကြသည်ကို တွေ့ရှိရသည်။ ဝိသုဒ္ဓိမဂ် မြန်မာပြန်နိဒါန်း၌ ပရက္ကမဗာဟုမင်း၏ သက္ကရာဇ်ကို အထက်ပါအတိုင်း ဖော်ပြထားသည်။ သာသနာလင်္ကာရစာတမ်းတွင်မူ သီဟိုဠ်သို့ သာသနာတော်ရောက်ရှိပြီးနောက် နှစ်ပေါင်း ၁၄၇၂ နှစ်၊ မြတ်စွာဘုရား ပရိနိဗ္ဗာန်စံပြီးနောက် နှစ်ပေါင်း ၁၇၀၈ နှစ် (အေဒီ ၁၁၆၄ နှစ်)၌ နန်းတက်လာသော သဃ်ဗောဓိပရက္ကမဗာဟု မဟာရာဇာမင်းက ဖော်ပြပါ သာသနာတော်သန့်ရှင်းရေးကို အပြီးတိုင် ဆောင်ရွက်တော်မူခဲ့သည် ဟုဖော်ပြထားသည်။ ၎င်းအပြင် ယင်းမင်းနှင့် ခေတ်ပြိုင် ပုဂံတွင် နရပတိစည်သူမင်း (အေဒီ ၁၁၇၄-၁၂၁၁ နှစ်) နန်းစံလျက်ရှိပြီး၊ သဃ်ဗောဓိပရက္ကမဗာဟု မဟာရာဇာမင်း၊ ဝိဇယဗာဟုမင်း၊ ပရက္ကမဗာဟုမင်း ၃ ပါးတို့လက်ထက်တွင် သာသနာတော် အထူးသန့်ရှင်းလာကြောင်း ဖော်ပြထားသည်။

## မြန်မာနိုင်ငံ သာသနာတော်သန့်ရှင်းရေး

မြန်မာနိုင်ငံရောက် သာသနာသက်တမ်းတစ်လျှောက်ကိုကြည့်လျှင် ရှေးပဒေသရာဇ်မင်းများခေတ်၌ အောက်မြန်မာနိုင်ငံတွင် မွန်ဘုရင်များ၊ အထက်မြန်မာနိုင်ငံတွင် မြန်မာဘုရင်များက ထာဝရဦးစီးဦးကိုင်ပြု၍ ချီးမြှောက်အားပေးခဲ့ကြသောကြောင့် သာသနာတော်သည် အစွန်းအထင်းမရှိ ဖြစ်ခဲ့ရသည်ကို အများအားဖြင့် တွေ့ရှိနိုင်သည်။ သို့ရာတွင် အထက်မြန်မာနိုင်ငံတွင် စင်ကြယ်သော ထေရဝါဒသာသနာတော် မရောက်ရှိမီကာလက မစင်ကြယ်သော ဝဇီရယာနအနွယ် အရည်းကြီးအယူအဆများက ကြီးစိုးလွှမ်းမိုးခဲ့ကြောင်း အထက်၌ဖော်ပြခဲ့ပြီး ဖြစ်သည်။ ယင်းအရည်းကြီး အယူဝါဒသည် အထက်မြန်မာနိုင်ငံ၌ ပုဂံအနော်ရထာမင်းစော (အေဒီ ၁၀၄၄-၁၀၇၇ နှစ်) လက်ထက်တိုင်အောင် နှစ်ပေါင်းများစွာ လွှမ်းမိုးခဲ့သည်။

သို့ရာတွင် အောက်မြန်မာနိုင်ငံ သထုံမှ 'အရှင်ဓမ္မဒဿီ' ခေါ် ရှင်အရဟံ၏ သာသနာပြုကျေးဇူးကြောင့် အမြင်မှန်ရရှိလာသော အနော်ရထာမင်းစောသည် ပုဂံ၊ သရေခေတ္တရာ၊ ဟန်လင်း စသည်တို့၌ ကြီးစိုးလွှမ်းမိုးနေသော ဝဇီရယာနအနွယ် အရည်းကြီးအားလုံး (၆ သောင်းကျော်)ကို လူထွက်စေခြင်း၊ အရည်းကြီးများ၏ ဟောပြောချက်အရ အကြီးအကျယ်တွင်ကျယ်လျက်ရှိသော နတ်ကိုးကွယ်မှုပပျောက်အောင် ဆောင်ရွက်ခြင်း၊ သထုံမှပင့်ဆောင်ခေါ်ယူလာသော ပိဋကတ်တော်များ၊ ရဟန်းရှင်လူများဖြင့် စင်ကြယ်သော ထေရဝါဒဗုဒ္ဓသာသနာတော်အခြေမြစ်ကို ချမှတ်ပြီးခြင်းများဖြင့် သာသနာတော်သန့်ရှင်းရေးလုပ်ငန်းများကို ဆောင်ရွက်တော်မူခဲ့သည်။ အထက်မြန်မာနိုင်ငံတွင် ကာလကြာမြင့်စွာကပင် အမြစ်တွယ်ခဲ့သောအယူအဆတစ်ရပ်ကို တစ်ခဏတွင်း၌ အမြစ်ပြတ်ကင်းအောင် ဆောင်ရွက်တော်မူနိုင်ခဲ့သော အနော်ရထာမင်းမြတ်ကြီး၏စွမ်းပကား မည်မျှထက်မြက်သည်ကို လူတိုင်း ခန့်မှန်းနိုင်ကြပြီ ဖြစ်၍ အကျယ်ချဲ့ရေးရန်ပင် မလိုပြီ။

ဤသို့အားဖြင့် အထက်မြန်မာနိုင်ငံ၌ အနော်ရထာမင်းလက်ထက်မှစ၍ တစ်လုံးတစ်စည်းတည်း တည်ရှိခဲ့သော ရဟန်းသံဃာတော်များသည် နရပတိစည်သူမင်း (အေဒီ ၁၁၇၄-၁၂၁၁ နှစ်) လက်ထက်တွင် အရှင်အရဟံပြီးလျှင် ဒုတိယအထင်ရှားဆုံး သာသနာပြုမထေရ်အဖြစ် ရာမညတိုင်းမှ ကြွရောက်သာသနာပြုနေတော်မူသော

ရှင်ဥတ္တရာဇီဝထေရ်မြတ် ပျံလွန်တော်မူပြီးနောက်ပိုင်းတွင် မင်းယဉ်နရသခံ (နရသူ)လက်ထက်၌ (အေဒီ ၁၁၆၂-၁၁၆၅ နှစ်) ရှင်ဥတ္တရာဇီဝထေရ်မြတ်ကိုယ်တော်တိုင် သီဟိုဠ်သို့ကြွရောက်ရာ၌ပါသွားသော ပုသိမ်မှ ဆပ္ပဒရှာသား ဆပ္ပဒသာမဏေသည် သီဟိုဠ်၌ ၁၇ နှစ်ကြာနေပြီး ပုဂံသို့ပြန်ကြွလာသောအခါ သီဟိုဠ်မှပါလာသော သီဝလိထေရ်, တာမလိန္ဒထေရ်, အာနန္ဒာထေရ်, ရာဟုလာထေရ်တို့ကို နရပတိစည်သူမင်း ကြည်ညိုကိုးကွယ်ခဲ့သည်။ ၎င်း သီဟိုဠ်ပြန်ထေရ်များကိုအစွဲပြု၍ ရှိရင်း 'သထုံနွယ်ဂိုဏ်း'နှင့် 'သီဟိုဠ်နွယ်ဂိုဏ်း' ဟူ၍ ၂ ဂိုဏ်းကွဲပြီး၊ တစ်ဖန် ဆပ္ပဒမထေရ် ပျံလွန်တော်မူပြန်သောအခါ သီဟိုဠ်နွယ်ဂိုဏ်းမှ ရာဟုလထေရ်သည် မလေးရှားသို့ကြွရောက်၍ လူထွက်သွားသော်လည်း၊ ကျန် သီဟိုဠ်ရဟန်း ၃ ပါးကိုအစွဲပြု၍ သီဟိုဠ်နွယ် ၃ ဂိုဏ်း ထပ်မံကွဲခဲ့ပြန်သည်။ သို့ရာတွင် ဘုရင်က အာဏာစက်ဖြင့်ဆောင်ရွက်ရလောက်အောင် ကြီးကျယ်မှုမရှိခဲ့ဘဲ အခိုက်အတံ့မျှသာ ကွဲပြား ခဲ့ကြခြင်း ဖြစ်သည်။

အောက်မြန်မာနိုင်ငံ ရာမညတိုင်းတွင် ဟံသာဝတီ (ပဲခူး)ဘုရင် သီရိပဝရ မဟာဓမ္မရာဇာဓိပတိဘွဲ့ခံ ဓမ္မစေတီမင်း (အေဒီ ၁၄၆၀-၁၄၉၂နှစ်)လက်ထက်တွင် မုတ္တမ ကမ္ဘောဇ သံဃာတစ်ဂိုဏ်း, သီဝလိထေရ်အဆက် သီဟိုဠ်တစ်ဂိုဏ်း, တာမလိန္ဒထေရ်အဆက် သီဟိုဠ်တစ်ဂိုဏ်း, အာနန္ဒာထေရ်အဆက် သီဟိုဠ်တစ်ဂိုဏ်း, မုတ္တမမှ သီဟိုဠ်ပြန် ဗုဒ္ဓဝံသထေရ်အဆက် သီဟိုဠ်တစ်ဂိုဏ်း, မုတ္တမမှပင် သီဟိုဠ်ပြန် မဟာနာဂထေရ်အဆက် သီဟိုဠ်တစ်ဂိုဏ်း အားဖြင့် သံဃာ့ကံအသီးသီးပြုနေကြသော ဂိုဏ်း ၆ ဂိုဏ်း ကွဲပြားမှုရှိနေပြီး မညီမညွတ် ဖြစ်နေကြသည်။ မင်းကြီးကိုယ်တိုင်ကလည်း စာပေကျမ်းဂန်တတ် ရဟန်းထွက်မင်းတရားဖြစ်၍ ဝိနည်းအရာ၌ ကုက္ကုစ္စရှိတော်မူသည့်အားလျော်စွာ 'ရာမညတိုင်းရှိရဟန်းတော်များသည် သာသနာပြုထေရ် ရှင်သောဏနှင့် ရှင်ဥတ္တရတို့၏အဆက်အနွယ်မှ ဆင်းသက်လာကြသည် မှန်သော်လည်း ကာလရှည်လျား၍ အုတ်အရောရော ကျောက်အရောရော ဖြစ်လာရသည်' ဟု သံသယရှိတော်မူပုံရသည်။ ထို့အပြင် ဂိုဏ်းကွဲနေမှုကိုလည်း ညီညွတ်စေလိုပုံရသည်။

ထို့ကြောင့် မင်းကြီးသည် သီဟိုဠ်နိုင်ငံ အနုရာဓမြို့ မြတ်စွာဘုရား ရေသပ္ပာယ်တော်မူရာ ကလျာဏီမြစ် ရေသိမ်၌ ရှင်မဟိန္ဒအနွယ် ရဟန်းတော်များဖြင့် ရဟန်းခံခြင်းကိစ္စကိုဆောင်ရွက်စေရန် ပထမအသုတ်အဖြစ် အရှင်မောဂ္ဂလာန်အမှူးပြုသော ရဟန်းတော် ၁၁ ပါး, သာမဏေ ၁၁ ပါး။ ဒုတိယအသုတ်အဖြစ် အရှင်သောဏမထေရ်အမှူးပြုသော ရဟန်းတော် ၁၁ ပါး, သာမဏေ ၁၁ ပါး တို့ကို 'ရာမဒူတ', 'စိတြဒူတ' အမည်ရှိသော သင်္ဘော ၂ စင်းဖြင့် သီဟိုဠ်ကျွန်းသို့ စေလွှတ်တော်မူခဲ့သည်။ ၎င်းရဟန်းသာမဏေများသည် သီဟိုဠ်ကျွန်းဘုရင် ဘုဝနေကဗာဟုမင်း၏ ပြုစုစောင့်ရှောက်မှုကိုခံယူ၍ မဟာဝိဟာရဝါသီ ရှင်မဟိန္ဒအနွယ်ဝင်ထေရ်ရှင်တို့၏ အစီအစဉ်ဖြင့် သီဟိုဠ်ထုံးစံအတိုင်း အားလုံးလူဝတ်လဲပြီး ကလျာဏီရေသိမ်တွင် ရဟန်းသစ်အဖြစ် ခံယူခြင်းကိစ္စကို ဆောင်ရွက်တော်မူကြပြီးနောက်၊ အပြန်တွင် စိတြဒူတသင်္ဘောပျက်၍ ရဟန်း ၁၀ ပါး အသက်စွန့်ခဲ့ရသည်။ ကျန် ရဟန်း ၁၂ ပါးမှာ ခက်ခဲပင်ပန်းစွာဖြင့် ပြန်တော်မူခဲ့ကြရသည်။

ရာမဒူတသင်္ဘောဖြင့် ကျန်ရဟန်းတော်များ ရှေးဦးစွာ ပြန်လည်ရောက်ရှိလာကြသောအခါ ပဲခူးကလျာဏီ သိမ်အပါအဝင် ရာမညတစ်တိုင်းလုံး၌ သိမ်ပေါင်း ၃၉၇-သိမ်ကိုသမုတ်ပြီး၊ ယိုးဒယားအပါအဝင် ရာမညတစ်တိုင်းလုံးရှိ ရဟန်းသာမဏေများအား ၎င်းသိမ်သစ်များ၌ သီဟိုဠ်မှုအတိုင်း ရဟန်းသစ်ခံယူခြင်းကို ပြုစေခဲ့သဖြင့် ဂိုဏ်းကွဲမှုလည်း ပပျောက်ခဲ့ရတော့သည်။

၎င်းအပြင် ဓမ္မစေတီမင်းမြတ်သည် ရဟန်း, သာမဏေများအား 'ဘိက္ခုပါတိမောက်, ဘိက္ခုနီပါတိမောက်, ခုဒ္ဒသိက္ခာ' ဟူသော ဝိနည်းငယ် ၃ စောင်ကို နှုတ်တက် အာဂုံဆောင်တော်မူကြရန်ကိုလည်း တိုက်တွန်းလျှောက်ထား ခဲ့သည်။ ဝိနည်းငယ် ၃ စောင်ကို နှုတ်တက်အာဂုံဆောင်နိုင်သော သာမဏေ ၆၀၁ ပါးကိုလည်း ရှင်လိင်ပြန်စေပြီး၊

ရှင်လောင်းတစ်ပါးလျှင် ဆင်တစ်စီးစီဖြင့် ရှင်လောင်းလှည့်ကာ ကလျာဏီသိမ်တွင် ၅ ရက်တိုင်တိုင် ပဉ္စင်းခံပွဲကျင်းပတော်မူခဲ့သည်။ မင်းကြီးသည် ထိုအချိန်က ဂိုဏ်းကွဲပြားနေမှုကို တစ်လုံးတစ်စည်းတည်းဖြစ်စေပြီး၊ ဝိနည်းတော်နှင့်အညီမနေထိုင်သော ရဟန်း, သာမဏေများကိုလည်း လူဝတ်လဲစေခြင်းဖြင့် သာသနာတော်သန့်ရှင်းရေးလုပ်ငန်းကို ဆောင်ရွက်တော်မူခဲ့သည်။ 'လူတို့အမြင်၌ ကြည်ညိုဖွယ်မရှိသူများကို ရှင်ရဟန်း မပြုပေးရန်' ကိုလည်း လျှောက်ထားခဲ့သည်။

ဤမျှသာမက မင်းကြီးသည် အိန္ဒိယသို့ ပညာရှင်များကိုစေလွှတ်၍ သီရိဓမ္မာသောကမင်းတည်ထားခဲ့သော ဗုဒ္ဓဝင်ဖြစ်စဉ်များကို မှတ်သားစေခဲ့ပြီး၊ ပဲခူးအနောက်တောင်တစ်ခွင်၌ 'ရွှေဂူကြီး' ခေါ် မဟာဗောဓိဘုရားတည်ခြင်း, နေရဉ္ဇရာမြစ်, မုစလိန္ဒာအိုင်များကို တူးစေခြင်း, သတ္တဋ္ဌာနကို တည်ထားခြင်းလုပ်ငန်းများကို ဆောင်ရွက်တော်မူခဲ့သည်။ 'ရသေ့မြို့' ခေါ် မဟာဝိဟာရကျောင်းတိုက်ကြီးကိုလည်း ပဲခူးအနောက်တောင်ဘက်တွင် တည်ဆောက်ပြီး ရဟန်း ၁ သောင်း ၈ ထောင်တို့အား သီတင်းသုံးစေ၍ ပိဋကတ်တော်များကို သင်ယူစေခဲ့သည်။ 'ဘုရား ၄ ဆူ' ဟုအစ်ပွာယ်ရသော ကျိုက်ပွန်ဘုရားကိုလည်း တည်ထားခဲ့သည့်အပြင်၊ ဇေတရီဘုရင်မ ရှင်စောပု၏ဆန္ဒအရ ရွှေတိဂုံစေတီတော်ကိုလည်း ယခု ဖူးမြော်တွေ့မြင်နေရသည့်အတိုင်း တည်ဆောက်ပြီး၊ ကျောက်စာကိုလည်း မွန်, မြန်မာ, ပါဠိ ၃ ဘာသာဖြင့် ရေးထိုးခဲ့သည်ဟု ကလျာဏီကျောက်စာ၌ ဖော်ပြထားသည်။

ရွှေတိဂုံစေတီတော်သမိုင်းတွင် ဗညားကျန်းမင်း (အေဒီ ၁၄၅၀-၁၄၅၃ နှစ်)သည် ရှေးမင်းအဆက်ဆက်တို့ အပြီးမသတ်ခဲ့သော ရွှေတိဂုံစေတီတော်မြတ်ကြီးကို ယခုရှိရင်း ၃၀၂ ပေ ဉာဏ်တော်အမြင့် (ယခု ပညာရှင်တို့ တိုင်းတာချက်အရ ၃၂၆.၅ပေ) အမြင့်ရှိသည်ကို အပြီးသတ်တည်ထားခဲ့ကြောင်း။ ယခုတွေ့မြင်နေရသော ရွှေတိဂုံစေတီတော်၏ တင့်တယ်သပ္ပာယ်နေဟန်မှာ ရှင်စောပု (အေဒီ ၁၄၅၃-၁၄၆၀ နှစ်) ဘုရင်မကြီး လှူတော်မူခဲ့သည့် အတိုင်းပင်ဖြစ်ကြောင်း ဖော်ပြထားသည်။

## တုံဂိုဏ်း, ရုံဂိုဏ်းပြဿနာ ဖြေရှင်းမှု

တစ်ဖန် မြန်မာနိုင်ငံအထက်ပိုင်းနှင့် အောက်ပိုင်း တတိယအကြိမ် ပြန်လည်စည်းလုံးညီညွတ်ပြီးနောက် ကုန်းဘောင်မင်းဆက် ၆ ဆက်မြောက် ဘိုးတော်ဘုရား (အေဒီ ၁၇၈၂-၁၈၁၉ နှစ်)လက်ထက်၌လည်း ကာလကြာမြင့်စွာကပင် အငြင်းပွားနေခဲ့သော တုံဂိုဏ်း, ရုံဂိုဏ်း အဓိကရုဏ်းကို ဘိုးတော်ဘုရားက စာမေးဆရာတော်တို့အား ဖြေရှင်းစေတော်မူပြီးနောက်၊ ရှုံးနိမ့်သော တုံ(အတင်)ဂိုဏ်း ဆရာတော် အတုလယသအား အဝတ်ဖြူဝတ်စေပြီး ဧရာဝတီမြစ်တွင်းသို့ ဖောင်ဖြင့်မျှောခဲ့ခြင်းလုပ်ရပ်သည်လည်း သာသနာတော်သန့်ရှင်းရေး လုပ်ဆောင်ချက်ဖြစ်သည် ဟုဆိုနိုင်သည်။ သို့ရာတွင် 'သန့်ရှင်းပြီးသာသနာတော်အတွင်း အငြင်းပွားမှုတစ်ရပ်ကို ဖြေရှင်းခြင်း' ဟုဆိုက ပို၍တိကျမည် ဟုယူဆရသည်။

ညောင်ရမ်းဆက် (ဒုတိယအင်းဝဆက်)ဖြစ်သော 'မာရ်အောင်ရတနာဒါယကာ' ခေါ် စနေမင်း (အေဒီ ၁၆၉၈-၁၇၁၄ နှစ်) လက်ထက်၍ အနောက်ဘက် တုံရွာကျောင်းနေ ရှင်ဂုဏာလင်္ကာရသည် သာမဏေတို့ကို ရွာဝင်ရွာသွားသောအခါသင်္ကန်းမရုံဘဲ တစ်ဘက်လက်ကန်တော့တင်စေ၍ ဦးထုပ်တရာဘတ်ကို မဆောင်းမကိုင်စေဘဲ ယပ်ကိုသာ စွဲကိုင်စေလျက် 'တုံတောနေဂိုဏ်း'ကို တည်ထောင်ခဲ့သည်။ ထိုအခါ တောင်ငူမြို့ ရှင်ဗုဒ္ဓင်္ကုရ, ရှင်စိတ္တ၊ တပယင်းမြို့ကျေးရွာ ရှင်သုနန္ဒ၊ တရုတ်မြို့ ငရဲဆိုး ရှင်ကလျာဏ တို့က သာမဏေများကို ရွာဝင်ရွာသွားသောအခါ တစ်ဘက်လက်ကန်တော့မတင်စေဘဲ၊ ဦးထုပ်တရာဘတ်ကို မဆောင်းမကိုင်စေဘဲ ယပ်ကိုသာစွဲကိုင်လျက် 'အရုံတောနေဂိုဏ်း'ကို တည်ထောင်ပြန်သဖြင့်၊ အတင်ဂိုဏ်းနှင့် အရုံဂိုဏ်း ၂ ဂိုဏ်း စတင်ကွဲပြားလာရတော့သည်။ တုံ(အတင်)ဂိုဏ်းကား သီဟိုဠ်ရောက် ရှင်သဒ္ဓမ္မစာရီတို့၏အဆက်အနွယ်ဖြစ်သည် ဟုဆိုသည်။

ထိုစဉ်ကာလအတွင်း၌ ညောင်စဉ် ရွှေကျောင်းဆရာတော်က ဂါမိဝါသီရဟန်းတို့ကိုစု၍ 'ဦးထုပ်ဒေါက်ချာ မဆောင်း၊ အညှန့်အသား မင်္ဂလာမရှိသောရဟန်းတို့ကို မနေစေနှင့်' ဟု တောနေရဟန်းတို့၏ကျောင်းကန်များကို ဖျက်ဆီးကြသဖြင့် တောနေရဟန်းများ ထွက်သွားကြရတော့သည်။ တစ်ဖန် ဂါမဝါသီရဟန်းတို့သည် ဆင်တဲရွာ အရှေ့တောင်၊ သူဌေးကန်အနောက်တောင် တောကျောင်းတွင်နေသော တောနေရဟန်း ၅၀ ကျော်တို့ကိုလည်း နှင်ဦးမည် ဟုနှိုးဆော်ကြပြန်ရာ၊ ထိုအကြောင်းကိုကြားသိသော မာရ်အောင်ရတနာဒါယကာ စနေမင်းက 'အရညဝါသီ ရဟန်းတို့သည် မွေ့လျော်ရာနေထိုင်ကြစေ'ဟု အမိန့်ထုတ်တားမြစ်သောကြောင့် 'အတင်၊အရုံ' ဟူသော တောနေ ရဟန်းတို့ ချမ်းသာရာရကြတော့သည်။

ဤသို့ဖြင့် စနေမင်းလက်ထက်၌ မွေ့လျော်ရာနေခွင့်ရခဲ့ကြသော အတင်၊အရုံတောနေဂိုဏ်း ၂ ဂိုဏ်း ရဟန်းများသည် ဆင်ဖြူရှင် ခေါ် တနင်္ဂနွေမင်း (အေဒီ ၁၇၁၄-၁၇၃၃ နှစ်)လက်ထက်၌ ရှင်ဥက္ကံသမာလာ ဦးဆောင် သော အရုံဂိုဏ်းသားများနှင့် တောင်ဘီလူးဆရာတော် ဦးဆောင်သော အတင်ဂိုဏ်းသားတို့ အဓိကရဏ်း ကြီးထွား လာတော့သည်။ ထို့ကြောင့် ဆင်ဖြူရှင်မင်းက 'မုန်စီး၊ မိုဃ်းထိ၊ လက်ကောင်း၊ ဗုဒ္ဓကုံရ' ဟူသော ဂါမဝါသီ ၄ ပါးကို ဝိနည်းမိုရ်ခန့်၍ ဆုံးဖြတ်စေသော်လည်း မပြီးပြတ်ဘဲရှိခဲ့သည်။

တစ်ဖန် ဟံသာဝတီရောက်မင်း ခေါ် မဟာဓမ္မရာဇာဓိပတိ (အေဒီ ၁၇၃၃-၁၇၅၂နှစ်) လက်ထက်ရောက် သောအခါ ကျော်အောင်စံထားဆရာတော်ဦးဆောင်သော အရုံဂိုဏ်းနှင့် ရှင်ပါသံသဦးဆောင်သော အတင်ဂိုဏ်းတို့ အဓိကရဏ်း ကြီးထွားလာပြန်သဖြင့်၊ အောင်မြေရွှေဘုံဆရာတော်ကို ဝိနည်းမိုရ်ခန့်၍ ဆုံးဖြတ်စေပြန်သော်လည်း မပြီးပြတ်ဘဲ ရှိခဲ့ပြန်သည်။

ဒုတိယအင်းဝခေတ် ပျက်သုဉ်းပြီးနောက် ကုန်းဘောင်မင်းဆက်ကို တည်ထောင်ခဲ့သော အလောင်းဘုရား (အေဒီ ၁၇၅၂-၁၇၆၀ပြည့်နှစ်) လက်ထက်၌ အလောင်းဘုရား၏မိဘများကိုးကွယ်ခဲ့သော အတင်ဂိုဏ်းမှ ရှင်ယသ သည် မဟာအတုလ ယသဓမ္မရာဇဂုရုဘွဲ့ဖြင့် သာသနာပိုင်ဖြစ်လာသဖြင့် အတင်ဂိုဏ်းက အပေါ်စီးရလျက်ရှိသည်။ ထိုအခါ ပလိုင်းရှင်သုဇာတဦးဆောင်သော အရုံဂိုဏ်းက သာမဏေများ ရွာသွားရွာဝင်သင်္ကန်းရုံစေခြင်းသာ ဓမ္မဝါဒ ဖြစ်ကြောင်း' ကျမ်းဂန်ပြ၍ စာဆက်သွင်းဆိုလာသဖြင့်၊ အတုလဆရာတော်ဦးဆောင်သော အတင်ဂိုဏ်းကလည်း 'အဝကောင်းစားစဉ်က ကြာသပတေးမင်းတို့လက်ထက် မာရ်အောင်ရတနာသုမ္မောတွင် ဆရာတော် သံဃာတော်တို့ မျက်မှောက်၌ ဖြတ်တမ်းဖြတ်စာနှင့်ပြီးပြတ်ခဲ့သောအမှုဖြစ်ကြောင်း' စာဆက်သွင်းသဖြင့် အဓိကရဏ်းမပြီးပြတ်ဘဲ ရှိပြန်သည်။

နောင်တော်ကြီးမင်း (အေဒီ ၁၇၆၀-၁၇၆၃ နှစ်)လက်ထက်၌ သာသနာပိုင်ဖြစ်လာသော တောင်တွင်း ကြီး မြို့ကျောင်းပုဂ္ဂိုလ်ကျော် ရှင်ဉာဏသည် အရုံဂိုဏ်းဆရာတော်ဖြစ်လာ၍ 'သာမဏေများ ရွာတွင်းဝင်လျှင် သင်္ကန်းရုံစေသင့်ကြောင်း' စာဆက်သွင်းရာ၊ အတုလဆရာတော်က ယခင်နည်းအတိုင်း 'အဝမင်းတို့လက်ထက်တွင် ပြီးပြေခဲ့သော အမှုဖြစ်ကြောင်း' ပြောဆိုပြန်၍ မပြီးမပြတ်ဘဲ ရှိခဲ့ပြန်သည်။

နောင်တော်ကြီးနောက် နန်းတက်လာသော 'ဆင်ဖြူရှင်' ခေါ် မြေဒူးမင်းလက်ထက်တွင်မူ အတင်အရုံ အဓိကရဏ်းမပေါ်ဘဲ ရှိခဲ့သည်။

တစ်ဖန် မြေဒူးမင်း (ဆင်ဖြူရှင်)၏သား စဉ့်ကူးမင်း (အေဒီ ၁၇၇၆-၁၇၈၂ နှစ်) လက်ထက်တွင်မူ မန်လည်ဆရာတော်က သာသနာပိုင် ဖြစ်လာသည်။ ထိုအခါ ဖန်ဂျီတွင် တိုက်ပေါက်မြင့်ဇာတိဖြစ်သော ရှင်နန္ဒမာလာ ထေရ်သည် စလင်းမြို့ရှေ့ကျောင်း၌ဝါဆို၍ စာပေပို့ချရင်း သာမဏေများအား 'ရွာတွင်းဝင်ရောက်ရာ၌ လက် ကန်တော့တင်စေသော အတင်ဂိုဏ်းသားတို့သည် ဝိနည်းတော်နှင့်မညီကြောင်း' ဆုံးမတော်မူသည်။ ပါဠိ၊အဋ္ဌကထာ၊

ဋီကာလာ အဝတ်အရုံကိုပြု၍ စာပေစီကုံးရေးသားသည်။ အတင်ဂိုဏ်းသားတို့က ယင်းစာကို မင်းနားပေါက်အောင် ပြသဖြင့် စဥ့်ကူးမင်းကြားသောအခါ ရှင်နန္ဒမာလာအားပင့်စေ၍၊ ရွှေမြို့တော် ဒေသနိ (ရာဟုထောင့်)အရပ် ရေနန်းတော်ဝယ် တည်းခိုနေထိုင်စေပြီး၊ မိမိကိုယ်တိုင် ရှင်နန္ဒမာလာမှ ရုံသင့်၊တင်သင့်နှင့်စပ်ဆိုင်သော ဝိနည်းကို သင်ယူခဲ့သည်။ ၄င်းနောက် မင်းကြီးသည် ၂ ဂိုဏ်းသားဆရာတော်များကို ရွှေနန်းတော်တွင် ကျမ်းဂန်အထောက် အထားများဖြင့် စကားဆိုစေရာ အတင်ဂိုဏ်းက ရှုံးနိမ့်ခဲ့သည်။ ထို့ကြောင့် မင်းကြီးသည် သာမဏေများကို 'ရွာသွားရွာဝင် ဝတ်ရုံစေ' ဟု ၁၁၄၂ ခုနှစ် နယုန်လဆန်း ၁၅ ရက်၊ (အေဒီ ၁၈၈၀ ပြည့်နှစ် ဇွန်လ)ခန့်၌ အမိန့် တော်ထုတ်ပြန်ခဲ့ပြီး၊ ရှင်နန္ဒမာလာကိုလည်း နရိန္ဒာဘိဓဇမဟာဓမ္မရာဇာဓိရာဇဂုရုဘွဲ့တံဆိပ်ဖြင့် သာသနာပိုင်ခန့် တော်မူခဲ့သည်။

၄င်းနောက် နောင်တော်ကြီးမင်း၏သား ဖောင်ကားစားမောင်မောင် လုပ်ကြံသဖြင့် စဥ့်ကူးမင်းလည်း ကံတော်ကုန်ခဲ့ရတော့သည်။ ဖောင်ကားစားမောင်မောင်သည် ၇ ရက်မျှနန်းစံပြီးနောက် အလောင်းဘုရား၏ စတုတ္ထသားတော် 'ဗဒုံမင်း' ခေါ် ဘိုးတော်ဦးဝိုင်း (အေဒီ ၁၇၈၂-၁၈၁၉ နှစ်)က တိုင်းပြည်ကို ထိန်းသိမ်းတော် မူခဲ့သည်။ ဘိုးတော်ဘုရားသည် မင်းဖြစ်လျှင်ဖြစ်ချင်း သာသနာရေးကို ဦးစားပေးဆောင်ရွက်တော်မူခဲ့သည်ကို တွေ့ရှိရသည်။ သာသနာပိုင်ကိုလည်း မင်းအို၊ မန်လည်၊ ဆုံထား၊ မင်းရွာ ဆရာတော် ၄ ပါးကို ခန့်ထားတော်မူ ခဲ့သည်။ ၄င်းနောက် သာသနာပိုင် ၄ ပါးအပါအဝင် 'ရွှေတောင်၊ ဗားကရာ၊ ကတိုး၊ မဲထီး၊ မုံတော်၊ စလင်း၊ ဆင်တဲ၊ မောင်းထောင်' ဟူသော ဆရာတော် ၁၂ ပါးကို သာသနာပြုအဖြစ် ခန့်အပ်တော်မူခဲ့ပြန်သည်။ နောက်ပိုင်းတွင် ယင်း သာသနာပြုဆရာတော် ၁၂ ပါးတို့သည် အမှုကိစ္စတစ်ရပ်ကိုဆုံးဖြတ်ရာ၌ မညီမညွတ်ဖြစ်မှုကို တွေ့ရ၍ ၈ ဝါ- ၉ ဝါမျှသာရှိသေးသော မောင်းထောင်ဆရာတော် တစ်ပါးတည်းကို သာသနာပိုင် ခန့်တော်မူခဲ့ ပြန်သည်။

၄င်းအပြင် မင်းကြီးသည် စဥ့်ကူးမင်းလက်ထက်ကပြေငြိမ်းခဲ့သော အတင်၊အရုံကိစ္စ၌ အတင်ဂိုဏ်းက 'ပါဠိ အဋ္ဌကထာ ကျမ်းဂန် မရှိကြောင်း' ဝန်ချသော်လည်း၊ 'မင်းရေးဖြစ်၍ ကြောက်ရွံ့ပြီးဝန်ချခြင်းလည်း ဖြစ် နိုင်သည်' ဟုသဘောပိုက်မိ၍ ပညာရှိစာဆိုတော်ကြီး သုခမိန် တွင်းသင်းဝန်ဦးညိုအား အတင်ဂိုဏ်းသားများ နေထိုင်ရာ ကျောင်းတိုက်များသို့ အချိန်မှန်ယူပြီး ဇွေ့ငအောင်သွားရောက်စေ၍ သဘောထားကို ထပ်မံစုံစမ်းစေခဲ့သည်။ ထိုအခါ ယင်း ဂိုဏ်းသားအားလုံးက ကျမ်းဂန်မရှိကြောင်း ဝန်ခံသဖြင့် 'ရုံစေ' ဟု ထပ်မံ၍အမိန့်ထုတ်ခဲ့ပြန်သည်။

သို့ရာတွင် ၁၁၄၆ ခုနှစ် (အေဒီ ၁၈၈၄)၌ အတုလဆရာတော်က 'စူဠဂဏ္ဌိတွင် သာမဏေတို့ တင်သင့် ကြောင်း' ပါရှိသည်။ '၄င်းကျမ်းကိုလည်း သီဟိုဠ်ကျွန်း အနုရာဓမြို့တော် ပေါဋ္ဌဒ္ဓိဂါမရွာ၌ ရဟန္တာ ရှင်မောဂ္ဂလာန် က ပြုစုခဲ့သည်' ဟူ၍ မင်းတရားထံ ရွှေနားတော်ကြားစာ ဆက်သွင်းခဲ့ပြန်သဖြင့်၊ မင်းတရားက အတုလဆရာ တော်အား 'စာမေးဆရာတော်တို့နှင့် ဆွေးနွေးဟောပြောစေ' ဟု အမိန့်ထုတ်ခဲ့သည်။ သုဓမ္မာဇရပ်တော်တွင် မျက်နှာစုံညီ ဆွေးနွေးဟောပြောကြရာတွင် နောက်ဆုံး၌ အတုလဆရာတော်သည်လိမ်လည်ကြောင်း ပေါ်လာပြီး ရှုံးနိမ့်ခဲ့ရတော့သည်။ ထို့ကြောင့် မင်းတရားက အတုလဆရာတော်အား ပိတ်ဖြူဝတ်စေ၍ ဖောင်ပေါ်တင်ပြီး ဧရာဝတီမြစ်အတွင်း မျှောခဲ့ရာမှ တုံဂိုဏ်း၊ ရုံဂိုဏ်းအဓိကရုဏ်းလည်း အမြစ်ပြတ် ချုပ်ငြိမ်းခဲ့ရတော့သည်။

ဘိုးတော်ဘုရားသည် နောက်ပိုင်း၌ သရဏဂုံရဟန်းကိစ္စနှင့် စပ်လျဉ်း၍ သာသနာပိုင်မောင်းထောင်ဆရာ တော် လူဝတ်လဲခဲ့ရသည်အထိ မှားယွင်းမှုရှိခဲ့သော်လည်း၊ ဤ အတုလယသဆရာတော်ကိစ္စကိုမူ မှန်ကန်၍ သတ္တိ ပြောင်မြောက်စွာဆောင်ရွက်တော်မူကြောင်းအဖြစ် ချီးကျူးထိုက်ပေသည်။

ပန်းရွှေပြည်တအုပ်တိုက်

မင်းတုန်းမင်းလက်ထက်၌ သုဓမ္မာ,ရွှေကျင်ကိစ္စမှအပ ပြဿနာတစ်စုံတစ်ရာမရှိခဲ့သော်လည်း မင်းတုန်းမင်းသည် သာသနာတော်သန့်ရှင်းရေးအတွက် အမိန့်ပြန်တမ်းအရပ်ရပ်ကို ထုတ်ခဲ့ရုံမျှမက၊ 'အလဇ္ဇီဒုဿီလများအား မထောက်ပံ့ရန်'ကိုပင် မိန့်ကြားခဲ့ပါသည်။

ဤသို့ဖြင့် မြန်မာနိုင်ငံ ထေရဝါဒဗုဒ္ဓသာသနာတော်သည် ပဒေသရာဇ်ခေတ်ကာလတစ်လျှောက်၌ ဓမ္မစက်အာဏာစက်တွဲဖက်၍ ဆရာ,ဒကာ ပူးပေါင်းဦးဆောင်မှုများကို ခံယူရရှိခဲ့သောကြောင့် အထက်ဖော်ပြပါ အနော်ရထာမင်း, ဓမ္မစေတီမင်း, ဘိုးတော်ဘုရား, မင်းတုန်းမင်းလက်ထက်တို့၌ သာသနာတော်သန့်ရှင်းရေးလုပ်ငန်းကို ဆောင်ရွက်ခဲ့ရသည်မှလွဲလျှင်၊ သာသနာ့ဘောင်သည် နေရောင် လရောင်ပမာ အစဉ်ပင်ထွန်းပြောင်ခဲ့ရသည်ဟု ဆိုနိုင်သည်။

သို့ရာတွင် မြန်မာနိုင်ငံနှင့် နိုင်ငံသားများသည် ၁၈၂၄ ခုနှစ်, ၁၈၅၂ခုနှစ်, ၁၈၈၅ ခုနှစ်များ၌ အင်္ဂလိပ် - မြန်မာစစ်ပွဲ ၃ ကြိမ်ဖြစ်ပွားပြီးနောက် ဘာသာအယူဝါဒမတူသော တိုင်းတစ်ပါးသားလက်အောက်သို့ နှစ်ပေါင်း ၁၀၀ ကျော်ကျရောက်ခဲ့ရခြင်း၊ ဂျပန်ခေတ်စစ်ဘေးစစ်ဒဏ်များကို အလူးအလဲခံခဲ့ရခြင်း၊ ၁၉၄၈ ခုနှစ် ဇန်နဝါရီလ ၄ ရက်၌ လွတ်လပ်ရေးရခဲ့သော်လည်း ပြည်တွင်းစစ်ဘေးများနှင့် ရင်ဆိုင်ခဲ့ရပြန်ခြင်း စသော အဆိုးလောကဓံတရားများနှင့် ရင်ဆိုင်ခဲ့ရသည်။ ထိုနည်းတူ မြန်မာနိုင်ငံ သာသနာ့ဝန်ထမ်းများသည်လည်း ယင်း အဆိုးလောကဓံတရားကို ကာလရှည်လျားစွာ ထိတွေ့ခံစားရဖန်များလာကြသဖြင့် ရဟန်း, သာမဏေအချို့မှာ သာသနာစိတ်ဓာတ် လျော့ပါးလာကြရာ ဓမ္မစက်,အာဏာစက် တွဲဖက်ဦးဆောင်မှုလည်း ကင်းပြတ်နေသော အခြေအနေများကြောင့် ပရမ်းပတာဖြစ်လာကြတော့သည်။ အချို့မှာ ဝိနည်းတရားတော်ကို အလေးမထားဘဲ သာသနာတော်နှင့်မလျော်သော ကုလဒူသန အနေသန မိစ္ဆာဇီဝအလုပ်များကို ပြုလုပ်လာကြသည်။ အချို့မှာ အဓမ္မကိုပင် ဓမ္မ ဟုအတင့်ရဲ၍ ဟောပြောရေးသားလာကြသည်။ အချို့မှာ မိမိတို့ဝမ်းရေး, လောကီရေးများကို ငဲ့ကွက်ပြီး သိက္ခာမတင်သိမ်မဝင်ဘဲ သက်န်းဝတ်လာကြသည်အထိ ဖြစ်လာခဲ့ရသည်။ ဤအခြေအနေများကြောင့် ရဟန်းသံဃာအချင်းချင်း ပေါင်းသင်းဆက်ဆံရေးပျက်ပြားပြီး ဂိုဏ်းများလည်း ကွဲပြားလာရတော့သည်။

ထို့ကြောင့် ပြည်ထောင်စုဆိုရှယ်လစ်သမ္မတမြန်မာနိုင်ငံ နိုင်ငံတော်ခေါင်းဆောင်များက ပြည်နယ်တိုင်းအသီးသီး, ဂိုဏ်းအသီးသီးမှ သာသနာ့ဦးသျှောင်ဖြစ်တော်မူကြသော သံဃာ့ဝန်ဆောင် ဆရာတော် ၆၆ ပါး၊ အကြံပေးဆရာတော်များအဖြစ် ပထမဆုံးအကြိမ် အဘိဓဇမဟာရဋ္ဌဂုရုဘွဲ့တံဆိပ် ချီးမြှင့်ခြင်းခံရသော ဆရာတော်ကြီး ၄ ပါးနှင့် ၆၆ ပါးတွင် ပါဝင်သော ပြည်ဆရာတော်မှအပ ကျန်တိပိဋကရေဓမ္မဘဏ္ဍာဂါရိက ဆရာတော် ၃ ပါးတို့အား ရန်ကုန်မြို့ ကမ္ဘာအေးကုန်းမြေ ဓမ္မဒီပကျောင်းဆောင်သို့ပင့်၍ သာသနာသက္ကရာဇ် ၂၅၂၄ ခု ကောဇာသက္ကရာဇ် ၁၃၄၂ ခုနှစ်- ခရစ်နှစ် ၁၉၈၀ ပြည့်နှစ် ဖေဖော်ဝါရီလ ၁ ရက်နေ့မှစ၍ သာသနာတော်သန့်ရှင်းတည်တံ့ပြန့်ပွားရေးလုပ်ငန်းများကို စတင် အခြေပျိုးဆောင်ရွက်ခဲ့သည်။

သို့ဖြစ်၍ ယခုအခါ မြန်မာနိုင်ငံသာသနာရေးလောကတွင် ဝိနည်းကျင့်ဝတ်တူသော်လည်း၊ ဆရာကို အစွဲပြု၍ကွဲနေသော သုဓမ္မာ[၁], ရွှေကျင်[၂], ဓမ္မာနုဓမ္မ မဟာဒွါရနိကာယ[၃], ဓမ္မဝိနယာနုလောမ မူလဒွါရ[၄], အနောက်ချောင်းဒွါရ[၅], ဝေဠုဝန်နိကာယ[၆], စတုဘုမ္မိကမဟာသတိပဋ္ဌာန်ငှက်တွင်း[၇], ဂဏဝိမုတ်ကူးတို့[၈], ဓမ္မယုတ္တိနိကာယ မဟာရင်ဂိုဏ်း[၉] ဟူ၍ ဂိုဏ်း ၉ ဂိုဏ်း တည်ရှိမှုကို ခွင့်ပြုထားသည်။ မြန်မာနိုင်ငံရှိ ဂိုဏ်းပေါင်းစုံ သံဃာထုတစ်ရပ်လုံးက ရွေးကောက်တင်မြှောက်ခဲ့သော သံဃာ့ကိုယ်စားလှယ် ၁၂၁၈ ပါးပါဝင်သော ၂၅-၅-၈၀ ရက်နေ့တွင် ကျင်းပသည့် 'ပထမအကြိမ် ဂိုဏ်းပေါင်းစုံ သံဃာ့အစည်းအဝေးကြီး'က အတည်ပြုပြဋ္ဌာန်းထားသော သံဃာ့အဖွဲ့

အစည်း အခြေခံစည်းမျဉ်းအရ တစ်လုံးတစ်စည်းတည်း တည်ရှိနေသောဦးဆောင်သံဃာ့အဖွဲ့အစည်းများအောက်တွင် သံဃာ့ထုတစ်ရပ်လုံး တစ်လုံးတစ်စည်း တည်းတည်ရှိလာရသည်။

ဤသို့ ဓမ္မစက်၊အာဏာစက် တွဲဖက်၍ သာသနာတော် သန့်ရှင်းတည်တံ့ ပြန့်ပွားရေးလုပ်ငန်းများကို ပြန်လည်အကောင်အထည်ဖော် ဆောင်ရွက်လာနိုင်သဖြင့် သာသနာတော်အတွက် အားရကျေနပ်ရပါကြောင်းနှင့် 'ရာဇာပဓာနံ' ဆိုသည့်အတိုင်း အာဏာစက်ဖြင့်ဆောင်ရွက်နိုင်သော သာသနာတော်သန့်ရှင်းရေးကိစ္စမှာ မင်းအံစိုးရသာ ပဓာနဖြစ်၍ သာသနာသန့်ရှင်းရေးကိစ္စ မပြတ်မလပ် ဆောင်ရွက်သွားနိုင်ပါစေ ဟုဆန္ဒပြု ရေးသားတင်ပြလိုက်ရပါသည်။

# အခန်း ၁၀

# ခရစ်ယာန်ဘာသာနှင့် ထေရဝါဒဘုရား

## ခရစ်တော် မွေးဖွားခြင်း

ရောမအင်ပါယာသည် အနှစ် ၂၀၀ အတွင်း အနည်ထိုင်၍ စည်ပင်တိုးတက်ခိုက် ဩဂုစတပ်စ်မင်း လက်ထက် ၄ ဘီစီနှစ်တွင် လက်သမားဆရာ ဂျိုးဇက်နှင့် မာရီတို့မှ ခရစ်တော်ကို ဖွားမြင်ခဲ့သည်။ ရောမ လက်အောက်ခံ 'ဂျူးဒါး' ခေါ် ဂျေရုစလင်မြို့မှ ၅ မိုင်ကွာသော ဗက်သလင်အရပ်၌ ဖွားသည် ဟု တမန်တော် ရှင်မဿဲနှင့် တမန်တော်ရှင်လုကာတို့က ဆိုသည်။ မာရီကမူ 'သူနှင့် ဂျိုးဇက် မပေါင်းသင်းမီကပင် သန့်ရှင်းသော ဝိညာဉ်တော်တန်ခိုးကြောင့် ပဋိသန္ဓေရပြီး ယေရှုကို ဖွားမြင်သည်' ဟုဆိုသည်။

သမိုင်းဆရာအချို့ကမူ ရောမလက်အောက်ခံ ပါလက်စတိုင်းနိုင်ငံ ဂျူးဒါးနယ်တွင်ဖွားမြင်ပြီး၊ အသက် ၃၀ အရွယ် ရှေးကပေါ်ပေါက်ခဲ့သော ပရောဖက်များကဲ့သို့ ဂျူးဒါးနယ်တွင်လှည့်လည်၍ တရားဟောပြောခဲ့ကြောင်း။ ထိုတရားများကို တပည့်ကြီး ၄ ပါးထံမှတစ်ဆင့် ကြားရကြောင်း ဆိုသည်။ ယေ်နာမည်မှာ ယောရှု ဖြစ်သည်။ ဂေလီလီနယ် နာဇရက်မြို့၌နေသည်ကို အစွဲပြု၍ ထိုမြို့မှ 'ယေရှု ဟုခေါ်ခဲ့ကြသည်။ ဟဲရဒ်ဘုရင်သည် 'မင်းလောင်းပေါ်သည်' ဟုကြားသဖြင့် တိုင်းပြည်ရှိ ၂ နှစ် သားအရွယ်ကလေးများကို သတ်စေခဲ့သည်။ ဂျိုးဇက်နှင့် မာရီတို့က အိပ်မက်အရကြိုတင်သိသဖြင့် သားကိုချီ၍ အီဂျစ်သို့ ထွက်ပြေးခဲ့သည်။ ဟဲရဒ် ကံကုန်သောအခါ ပြန်လာပြီး ဂေလီလီနယ်ရှိ နာဇရက်မြို့၌ အခြေချနေထိုင်ခြင်း ဖြစ်သည်။

ဟောင်းပရောဖက်တို့က 'မေဆိုင်းယားဘုရားတစ်ဆူပွင့်မည်' ဟုနိမိတ်ဖတ်ခဲ့ခြင်းကို အကြောင်းပြု၍ ယေရှုက 'မိမိသည်ပင် မေဆိုင်းယား ဖြစ်သည်' ဟုဆိုသည်။ မေဆိုင်းယား မှာ ဂရိဘာသာဖြင့် 'ခရစ်တော်' (ဘိသိက်ခံယူပြီး သူ) ဟု အဓိပ္ပာယ်ရသည်။ သို့သော် ရေဝတီ (ဂျူး)တို့က ယေရှုကို 'ဘုရား' ဟု အသိအမှတ်မပြုခဲ့ကြချေ။ ရေဝတီ (ဂျူး)ဘုန်းကြီးများက ယေရှုကို မနှစ်သက်ကြပေ။ ခရစ်ယာန်ဘာသာဝင်တို့အဆိုအရ ယေရှုသည် သူ့ဖခင်ကဲ့သို့ လက်သမားအလုပ်ကို လုပ်ကိုင်ခဲ့သည်။ အသက် ၃၀ ရှိသောအခါ ဘက်ပတစ်ဂျွန်ထံ ရေနှစ်ခံရန် သွားခဲ့သည်။ ထိုအချိန်၌ ဂျူးဘာသာဝင် တမန်တော် ဘက်ပတစ်ဂျွန်က 'ကယ်တင်ရှင် လာတော့မည်ဖြစ်ကြောင်း' ကြေညာရန် ပြင်ဆင်နေချိန် ဖြစ်သည်။ တစ်နေ့တွင် ဂျော်ဒန်မြစ်ကမ်းပါး၌ ဘက်ပတစ်ဂျွန်က လူအများကို ရေနှစ် မင်္ဂလာပြုပေးပြီးနောက် 'ကယ်တင်ရှင် လာတော့မည့်အကြောင်း'ကို ကြေညာဟောပြောပြီးချိန်တွင် ယေရှု ရောက်လာပြီး၊ ရေနှစ်မင်္ဂလာပြုပေးရန် ပြောသည်။ ထိုအခါ ဂျွန်က ''သင့်ကို ရေနှစ်မင်္ဂလာ ပြုမပေးနိုင်။ သင်ကသာ ကျွန်ုပ်ကို ရေနှစ်မင်္ဂလာ ပြုပေးရမည်ဖြစ်သည်'' ဟုပြန်ပြောခဲ့သည်။ သို့သော် ယေရှု၏ တောင်းပန်မှုကြောင့် ဂျွန်က ယေရှုကို ရေနှစ်မင်္ဂလာ ပြုပေးလိုက်သည်။ ယေရှု အိမ်ပြန်ရောက်သောအခါ သဲကန္တာရထဲသို့သွား၍ တရားကို ဆင်ခြင်ခဲ့သည်။ ပဆိုဗာပွဲချိန်တွင် ဂျေရုစလင်ရှိ ဘုရားကျောင်းတော်သို့

သွားခဲ့သည်။ ပဆိုဗာပွဲတော်ပြီး၍ အိမ်ပြန်ရောက်သောအခါ ယေရှုသည် သဲကန္တာရထဲမှ ဆင်ခြင်ခဲ့သောတရားကို နာဇရက်မြို့၌ လူအများအား စတင်ဟောကြားခဲ့သည်' ဟုဆိုသည်။ ယေရှုသည် အသက် ၁၂ နှစ်အရွယ်တွင် ပညာရှိပုဂ္ဂိုလ်များနှင့် ဘုရားကျောင်းအတွင်း၌ တရားဆွေးနွေးကြောင်း သမ္မာကျမ်းစာ၌ ဖော်ပြထားသည်။ ထို့နောက် အသက် ၃၀ ကျမှ ပြန်ပေါ်လာပြီး တရားစတင်ဟောကြောင်း ဆိုသည်။ အသက် ၁၂ နှစ်မှ ၃၀ နှစ် အတွင်း ယေရှု၏ဘဝကို သမ္မာကျမ်းစာတွင် မတွေ့ရသော်လည်း ခရစ်ယာန်စာရေးဆရာများက 'ထိုကာလအတွင်း တွင် ယေရှုသည် ဖခင်ယောသပ်နှင့်အတူ လက်သမားဘဝဖြင့် အသက်မွေး၍နေလျက်ရှိမည်ဖြစ်ကြောင်း' ရေးသားဖော်ပြကြသည်။ ခရစ်ယာန်မဟုတ်သော ပညာရှင်အချို့ကမူ 'ထိုကာလအတွင်းတွင် ယေရှုသည် အိန္ဒိယ ပြည်သို့ လာရောက်နေထိုင်ပြီး အိန္ဒိယအတွေးအခေါ်များကို လေ့လာနေကြောင်း' သုတေသနပြုလုပ် ရေးသားထား ကြသည်။ ရှင်အရိယဓမ္မကမူ 'ယေရှုသည် တိဗက်သို့ ရောက်ရှိနေခဲ့သည်' ဟု 'ဗုဒ္ဓဝါဒပြဿနာများ' စာအုပ်တွင် ရေးသားဖော်ပြထားသည်။

## ခရစ်တော် ဟောပြောချက်များ

သခင်ယေရှုသည် ရောမဘုရင် သြဂုစတုစ် နောက်တက်လာသော သြဂုစတုစ်၏ မယားပါသားလည်းဖြစ်၊ မွေးစားသားလည်းဖြစ်သော တီဂေးရီးယုစ် (အေဒီ ၁၄-၃၇)လက်ထက်၌ စတင်လှည့်လည် တရားဟော၍ မကျန်းမာသောဒုက္ခသည်များကို ရှာဖွေပြုစုရင်း မိမိဘာသာကို ဖြန့်ချိခဲ့သည်။

သခင်ယေရှုက 'ကမ္ဘာပေါ်တွင် တစ်ဆူတည်းသော ဘုရားသာ ရှိသည်။ ထိုဘုရားသည် ကောင်းကင်ဘုံ၌ ရှိသည်။ ဘုရားသခင်သည် မေတ္တာတရား ကြီးမား၍ ဘုရားသခင်၏ရှေ့မှောက်ဝယ် ဆင်းရဲသူ၊ ချမ်းသာသူ ဟူ၍မရှိဘဲ၊ မေတ္တာအရာတွင် အညီအမျှသာ ဖြစ်သည်။ ရန်သူကိုပင် မေတ္တာတရား ထားရမည်။ ကိုယ်ကျင့်တရား ကောင်းအောင် စောင့်ထိန်းရမည်။ လူသား ဟူသမျှ အတန်းအစားမခွဲခြားဘဲ ညီရင်းအစ်ကိုကဲ့သို့ ချစ်ခင်ရမည်။ ဘုရားသခင်၏နိုင်ငံတော်ကို လူတို့၏အသည်းနှလုံး၌ ထူထောင်ရမည်။ ဘုရားသခင်၏နိုင်ငံတော်တွင် သူ့ပစ္စည်း ကိုယ့်ပစ္စည်း မရှိ။ အဆင့်အတန်း ခွဲခြားမှု မရှိ။ မာန်မာနလည်း မရှိ'' ဟု ဟောပြောခဲ့သည်။

၎င်းအပြင် ယေရှုသည် တစ်နေ့တွင် တောင်ကုန်းတစ်ခုပေါ်တွင် ကြီးမားသောလူစုလူဝေးကြီးအား ထင်ရှား ကျော်ကြားသော တောင်ပေါ်တရားတော်ကို ဟောကြားခဲ့သည်။ ယင်း တောင်ပေါ်တရားကား လူသားအချင်းချင်း ငဲ့ညှာရေး၊ သနားကြင်နာရေး၊ သည်းခံရေး၊ စိတ်ကောင်းထားရေး သဘောတရားများကို အခြေခံထား၍ ဟော ကြားထားသောတရား ဖြစ်သည်။ ဤတရားတော်တွင် ပါဝင်သော အချက်အလက်အများစုမှာ သမ္မာကျမ်းစာ ဟောင်း၌ပါဝင်သော ပညတ်ချက်များနှင့် ဆန့်ကျင်နေသည်ကို တွေ့ရှိရသည်။

## ၃ ပါး ၁ ဆူ အယူအဆ

ခရစ်ယာန်ဘာသာတွင်လည်း ဗြာဟ္မဏ (ဟိန္ဒူ)ဘာသာကဲ့သို့ ၃ ပါး ၁ ဆူဝါဒကို အယူရှိခဲ့သည်။ ဗြာဟ္မဏဘာသာ၌ '၃ ပါး' ဟူသည်မှာ ဣသွာရကိုယ်ပွား 'ဗြဟ္မာ၊ ဗိဿနိုး၊ သီဝဘုရား' ဖြစ်ပြီး၊ ခရစ်ယာန် ဘာသာ၌ '၃ ပါး' ဟူသည်ကား 'ခမည်းတော်၊ သားတော်၊ သန့်ရှင်းသောဝိညာဉ်တော်' တို့ဖြစ်သည်။ ယင်း ၃ ပါး သည် ထာဝရဘုရားသခင် ၁ ဆူတည်းသာဖြစ်၍၊ 'ပုဂ္ဂိုလ် ၃ ပါး ဘုရား ၁ ဆူ' ဟုဆိုခြင်းဖြစ်သည်။ ယင်း ပုဂ္ဂိုလ် ၃ ပါးအနက် ဖခမည်းတော်သည် ပထမပုဂ္ဂိုလ် ဖြစ်သည်။ သူသည် မည်သူကိုမျှ မှီခိုနေရခြင်းမရှိချေ။

သားတော်သည် ခမည်းတော်ကိုမှီရသော ဒုတိယပုဂ္ဂိုလ် ဖြစ်သည်။ သန့်ရှင်းသောဝိညာဉ်တော်ကား ခမည်းတော်ထံမှ လည်းကောင်း၊ သားတော်ထံမှ လည်းကောင်း ထာဝရဘုရားသခင်၏အရည်အချင်းတို့ကို ခံယူရရှိသော တတိယပုဂ္ဂိုလ် ဖြစ်သည်။ ယင်း ၃ ပါးစလုံးသည် အနန္တတန်ခိုးရှင်အဖြစ် ထာဝရတည်ရှိနေသော ဘုရားသခင် တစ်ပါးတည်းသာ ဖြစ်သည်။

## တရားစီရင်ဆုံးဖြတ်ခြင်း

လူသားတို့သည် သေလွန်ပြီးသောအခါ ရှင်ပြန်ထမြောက်သောကာလအထိ မရဏာနိုင်ငံသို့ ရောက်ရှိကြရသည်။ ထာဝရဘုရားရှင်၏ သက်သေများ (ပရိုတက်စတင့်)၏အယူအဆအရ 'ခရစ်တော်သည်လည်း လက်ဝါးကပ်တိုင်၌ အသတ်ခံရပြီးနောက် ရှင်ပြန်ထမြောက်သည့်အချိန်အထိ ၃ ရက်လုံးလုံး ဤမရဏာဘုံသို့ ရောက်ရှိခဲ့သည်' ဟုဆိုသည်။

'ထာဝရဘုရား၏တရားဆုံးဖြတ်မည့်နေ့ ရောက်သောအခါ ဤလူတို့သည် ရှင်ပြန်ထမြောက်လာကြပြီး ဘုရားသခင်၏ တရားဆုံးဖြတ်ရာကို ခံယူကြရသည်။ တရားဆုံးဖြတ်ရာတွင် လူသားများပြုလုပ်ခဲ့သော အပြစ်ရှိ၊ မရှိမှုအားလျော်စွာ ကောင်းကင်ဘုံသို့ လည်းကောင်း၊ ငရဲဘုံသို့ လည်းကောင်း သွားကြရသည်။ ထိုအခါ အပြစ်ရှိသူများသည် ငရဲဖြစ်သောမီးကန်ထဲသို့ ပစ်ချခြင်းကိုခံကြရပြီး ဒုတိယအကြိမ် ပြန်လည်သေဆုံးကြရသည်။ အပြစ်ကင်းစင်သူများသည် ကောင်းကင်ဘုံသို့ ရောက်ကြရသည်။ ထို့ကြောင့် ခရစ်တော်၏ အသင်းတော်အဖွဲ့ဝင်ပေါင်း ၁ သိန်း ၄ သောင်း ၄ ထောင် တို့သည် ခရစ်တော်ကဲ့သို့ရှင်ပြန်ထမြောက်သောအခါ ဝိညာဉ်အားဖြင့် ကောင်းကင်ဘုံသို့ ရောက်ရှိသွားကြမည်။ ကျန်သောလူသားများသည် သင့်တော်သောလူသားအသွင်ဖြင့် ပြန်လည်ရှင်သန် ထမြောက်လိမ့်မည်' ဟုဆိုသည်။

## ခရစ်တော် အသတ်ခံရခြင်း

သခင်ယေရှုသည် ၃ နှစ်ခန့် တရားဟောပြီးနောက် အေဒီ ၃၉ တွင် ရေဝတီ(ဂျူး)ဘုန်းကြီးများက သခင်ယေရှုကိုဖမ်း၍ ရောမဘုရင်ထံသို့ပို့ရာ ရောမဘုရင်က လက်ဝါးကပ်တိုင်တင်၍ သေဒဏ်ပေးခဲ့သည်၊ သေဒဏ်ပေးအပ်ခြင်းအကြောင်းမှာ ပဆိုဗာပွဲတော်မတိုင်မီ တစ်ညတွင် ယေရှုသည် တပည့်တစ်ယောက်၏အိမ်၌ လက်ရွေးစင် တပည့်ကြီး ၁၂ ယောက်နှင့်အတူ ညစာစားပြီးနောက် မြို့အပြင်ရှိ သွားနေကျဥယျာဉ်သို့ သွားကြသည်။ ဥယျာဉ်ရောက်၍ မကြာမီပင် တပည့်ကြီးများ အိပ်ပျော်သွားကြသည်။ သို့ရာတွင် 'ဂျူဒအစ္စကယ်ရီရော့' အမည်ရှိသော တပည့်ကြီးမှာမူ ညစာစားပြီး ခပ်စောစောကပင် တစ်နေရာသို့ ထွက်သွားသည်။ ညသန်းခေါင်ကျော်အချိန်တွင် ၄င်းတပည့်ကြီးနှင့်အတူ လက်နက်ကိုင်များရောက်ရှိလာပြီး၊ ယေရှုအား ဖမ်းဆီး၍ ဂျူးဘုန်းကြီးဂိုဏ်းချုပ်ကျောင်းသို့ ခေါ်သွားပြီး အင်န့်ခဲ့ကြသည်။ ဂျူးဘုန်းကြီးက ယေရှုအား ဘုရားသခင်ကို ပုတ်ခတ်ဟောပြောသော ပြစ်ချက်၊ ဘာသာတရားကို ပုတ်ခတ်ဟောပြောသော ပြစ်ချက်တို့ဖြင့် စွဲချက်တင်၍ တရားစွဲခဲ့သည်။ ဘုရင်ခံ ပီလိတ်က ဂျူးဘာသာတရား၌ စိတ်မဝင်စားသည့်အပြင်၊ ယေရှုတွင် အပြစ်မရှိကြောင်း တွေ့သဖြင့် လွှတ်ပစ်ရန် ဆန္ဒရှိသော်လည်း၊ ဂျူးဘုန်းကြီးများက ပီလိတ်အား မရမနေ သေဒဏ်အမိန့် ချခိုင်းကြသည်။ ထို့ကြောင့် ဘုရင်ခံပီလိတ်က သေဒဏ်ပေး၍ လက်ဝါးကပ်တိုင်တွင် အသတ်ခံခဲ့ရခြင်း ဖြစ်သည်။

'ကောင်းကင်ဘုံရှိကြောင်း၊ ထာဝရဘုရား၏ ကောင်းကင်နိုင်ငံ ထူထောင်ရန်အကြောင်းများကို အဓိကထားဟော၍ ပုန်ကန်ရန် ကြံစည်သူ' ဟူသော စွဲချက်ဖြင့် ရောမဘုရင်ခံ ပွန်တီယပ်စ်ပီလိတ် (ပစ်လေး)က 'ဂျေစပ်' ခေါ် ယေရှုကို လက်ဝါးကပ်တိုင်၌ သေဒဏ်ပေးခဲ့သည် ဟု သမိုင်းဆရာတို့က ဆိုသည်။ 'ခရစ်တော်သည် အသတ်ခံရပြီးနောက် ၃ ရက်မြောက်တွင် ရှင်သန်ထမြောက်ခဲ့သည်' ဟု ခရစ်ယာန်တို့က ဆိုသည်။

အမေရိကန်နိုင်ငံ ချီကာဂိုမြို့မှ ပါမောက္ခ ဂိုးရစ်ကမူ 'သခင်ယေရှုသည် ၁၂ အရွယ်၌ ဂျူးဘာသာဂိုဏ်းချုပ်ဖြစ်သော်လည်း၊ အမှန်တရားကိုရှာဖွေရင်း တိဗက်သို့ရောက်ခဲ့ကြောင်း။ တိဗက်မှုန်ဆရာတော် ရှင်အရိယပုဗ္ဗာမထေရ်ထံတွင် ဗုဒ္ဓစာပေများကို သင်ကြားရင်း တစ်ဘက်မှ သမထကမ္မဋ္ဌာန်းများကို ပွားများခဲ့ရာ လောကီချာန်အဘိညာဏ်တန်ခိုးကို ရရှိခဲ့ကြောင်း။ အသက် ၃၀ အရွယ်တွင် မိမိ၏လူမျိုးဖြစ်သော ဣသရေလအမျိုးသားများအား အမှန်တရားဟောကြားရန် ပြန်လာပြီး ဗုဒ္ဓတရားတော်များကို ဟောကြားကြောင်း။ သခင်ယေရှုသည် မိမိဟောသော တရားများမှာ ဂျူးဘာသာနှင့် ဆန့်ကျင်ဘက်ဖြစ်၍ ဂျူးများမနှစ်သက်သည်ကို သိရသောအခါ 'မိမိသည် ဂျူးဘာသာဘုရား ယေဟိုးဝါ၏သားတော်ဖြစ်ပြီး၊ မိမိဟောသော တရားမှာလည်း ယေဟိုးဝါ၏ နှုတ်ကပါတ်တော်ဖြစ်သည်' ဟု ဟောပြောမိသောကြောင့် (ဂျူး)ဘုန်းကြီးများက တရားစွဲပြီး ကားစင်တင်အသတ်ခံခဲ့ရကြောင်း' များကို 'ခရစ်တော်၏ မသိသေးသောဟောပြောချက်များ'စာအုပ်တွင် သုတေသနပြုပြီးရေးသားထားသည် ဟု ရှင်အရိယဓမ္မဖြေကြားသော 'ဗုဒ္ဓဝါဒပြဿနာများ'စာအုပ်တွင် ဖော်ပြထားသည်။

## ခရစ်ယာန်ဘာသာ

မည်သို့ပင်ဖြစ်စေ၊ ခရစ်တော်အသတ်ခံရပြီးနောက် 'ရှင်ပေါလု' ခေါ် ရေဝတီတစ်ယောက်က ဟေဗြဲ (ဂျူး)ဘာသာကို စွန့်၍ ခရစ်ယာန်ဘာသာကို ဖြန့်ဖြူးဟောကြားခဲ့သည်။ ခရစ်ယာန်ဘာသာသည် ခရစ်တော်၏ ဟောပြောချက်များကို ခံယူသည့်အပြင် ဟေဗြဲ (ဂျူး)ဘာသာ၏ 'ဘိုင်ဘယ်' ခေါ် သမ္မာကျမ်းစာဟောင်း အယူအဆများကိုလည်း လက်ခံသည်။ ယခုအခါ ခရစ်ယာန်ဘာသာ၌ ဖော်ပြထားသော ကျမ်းစာများမှာ သမ္မာကျမ်းစာဟောင်း ၃၉ ကျမ်း၊ သမ္မာကျမ်းစာသစ် ၂၇ ကျမ်း ဖြစ်သည်။ အုပ်ရေအားဖြင့် တစ်အုပ်တည်း စုပေါင်းထားသည်။

## ခရစ်ယာန်များ အနှိမ်ခံရခြင်း

ဂျေရုစလင်၌ ခရစ်ယာန်ဘာသာ ပေါ်ပြီးနောက် ရောမသို့ ပျံ့နှံ့သွားခဲ့သည်။ ဆင်းရဲသားအများအပြား ခရစ်ယာန်ဘာသာကို ယုံကြည်သက်ဝင်ခဲ့ကြသည်။ အေဒီ ၆၆ ၌ ရောမအင်ပါယာတွင် ရေဝတီ (ဂျူး)များ ပုန်ကန်ကြ၍၊ အေဒီ ၇၀ တွင် ဂျေရုစလင်ကို ရောမတို့ ဖျက်ဆီးပစ်လိုက်ကြသည်။ ထိုအခါ ဂျူးဘာသာနှင့်နွယ်နေသော ခရစ်ယာန်ဘာသာဝင်များသည်လည်း ရောမအာဏာပိုင်များ၏မသင်္ကာမှုကို ခံခဲ့ရသည်။ နီရိုဘုရင် (အေဒီ ၅၄-၆၀)လက်ထက်၌ ရောမမြို့ လူနေအိမ်များသောရပ်ကွက်ကို မီးလောင်ရာ 'ခရစ်ယာန်များ မီးရှို့ပစ်သည်' ဟု စွပ်စွဲပြီး ခရစ်ယာန်ဘာသာဝင်လူပေါင်းများစွာကို သတ်ခဲ့သည် ဟုဆိုသည်။

ဒေကီယပ် ဒေချီယုစ်လက်ထက် (အေဒီ ၂၅၀-၂၅၁)မှစ၍ ခရစ်ယာန်များ ဖိနှိပ်ခံခဲ့ရပြန်သည်။ အေဒီ ၃၀၃ နောက်ပိုင်းကာလ ဒေကရာဇ်ဒိုင်အိုကလီရှန် လက်ထက်၌မူ ခရစ်ယာန်များ အနှိပ်စက်ခံရရုံမက ကျမ်းစာများပါ မီးရှို့ဖျက်ဆီးခံခဲ့ရသည်။ ခရစ်ယာန်ဘာသာများဆိုင်ရာ ပစ္စည်းများသည်လည်း မင်းဘဏ္ဍာအဖြစ် သိမ်းဆည်းခံခဲ့ရသည်။

သမိုင်းဆရာအချို့က ခရစ်ယာန်သို့ကူးပြောင်းလာသော ရောမများသည် ယခင်က ကိုးကွယ်နေကျဖြစ်သော ဧကရာဇ်အား ဘုရား ၁ ဆူအဖြစ် ကိုးကွယ်ရန်ကို ငြင်းဆိုကြသည့်အပြင်၊ 'ရောမနိုင်ငံပင် ပျက်မည်' ဟု နိမိတ်ဖတ်ကြသောကြောင့် ၎င်းတို့ကို 'နိုင်ငံတော် သစ္စာဖောက်များဖြစ်သည်' ဟု စွပ်စွဲလျက် ရက်စက်စွာ နှိပ်ကွပ်ခဲ့သည် ဟုဆိုသည်။ သို့ရာတွင် ခရစ်ယာန်များသည် 'အက်တလီးစီးယား' ခေါ် အဖွဲ့ငယ်များဖွဲ့ကာ ဘာသာရေးလုပ်ငန်းကို စည်းလုံးစွာကျင့်ဆောင်ခဲ့ကြသည်။ 'အက်တလီးစီးယား' ဟူသည် 'လူထုအဖွဲ့အစည်း' ဟု အဓိပ္ပာယ်ရလျက်၊ ယခုအခေါ်အားဖြင့် ကျောင်းတော်(ချာ့ချ်)ပင် ဖြစ်သည်။

## ခရစ်ယာန်ဘာသာ ထွန်းကားလာခြင်း

အေဒီ ၃၁၃ ခုနှစ် (အချို့အဆို ၃၁၁)၌ ဒိုင်အိုကလီရှန်၏ အိမ်ရှေ့မင်းသား ဂါလီရီယုစ် ဘုရင်လက်ထက်၌ ခရစ်ယာန်ဘာသာကိုးကွယ်မှုကို ရောမအစိုးရက အသိအမှတ်ပြုခဲ့သည်။ အေဒီ ၃၂၃ ခုနှစ် ကွန့်စတန်တင် ဘုရင်လက်ထက်၌မူ ခရစ်ယာန်ဘာသာသည် နိုင်ငံတော်ဘာသာပင် ဖြစ်လာသည်။ အေဒီ ၃၃၀ ၌ ကွန့်စတန်တင် ဘုရင်က ကွန့်စတန်တီနိုပယ်မြို့ကို တည်ထောင်သည်။ ထိုအချိန်၌ ခရစ်ယာန်ဘာသာသည် နိုင်ငံတော်ဘာသာ ဖြစ်လာသည်အားလျော်စွာ ခရစ်ယာန်သမ္မာကျမ်းစာလည်း အမြောက်အမြား ထွက်ပေါ်လာသည်။ ထို့ကြောင့် ခရစ်ယာန်ဘာသာခေါင်းဆောင်များက အေဒီ ၃၉၇ ခုနှစ်တွင် ညီလာခံအစည်းအဝေး ကျင်းပ၍ သမ္မာကျမ်းစာ အစစ်၊ အတုခွဲခြားပြီး၊ အစစ်များကို သမ္မာကျမ်းစာအသစ် တစ်အုပ်တည်းဖြစ်အောင် စုစည်းခဲ့ကြသည်။

သမ္မာကျမ်းစာကို ဤအချိန်ကျမှ စာအုပ်တစ်အုပ်တည်းအဖြစ် စုစည်းနိုင်ခြင်းမှာ-

၁- သမ္မာကျမ်းစာသစ်ထဲ၌ ပါဝင်သော စာစောင်အသီးသီးတို့သည် စာအုပ်အနေဖြင့် မပြုစုရသေးဘဲ ဘာသာတူအုပ်စုအသီးသီးတို့ ရှိနေကြခြင်း။ ဥပမာ ပထမကျမ်းစာစောင်ဖြစ်သော မဿဲဧဝံဂေလိကျမ်းကို ခရစ်တော် ကွယ်လွန်ပြီးနောက် ၁၀ နှစ်ကြာမှ ရေးသားခဲ့သည်။ အချို့အဆိုအရ မာကု- အေဒီ ၇၀ ခန့်၊ လုကာ- အေဒီ ၈၀ ခန့်၊ မဿဲ- ၄င်းနောက် နှစ်အနည်းငယ်အကြာ၌ ရေးသားခဲ့သည် ဟုဆိုသည်။ ရှင်ယောဟန် ဧဝံဂေလိကျမ်းနှင့် ဗျာဒိတ်တော်ကျမ်းကို အေဒီနှစ် ၁၀၀ ခန့်ကြာမှ ရေးခဲ့သည်။

၂- အေဒီ ၁ ရာစု၊ ၂ ရာစု၊ ၃ ရာစုနှစ်များ၌ ခရစ်ယာန်များ အပြင်း အထန် အနှိပ်စက်ခံနေရခြင်း၊

ဤအကြောင်း ၂ ချက်ကြောင့် ယင်းသမ္မာကျမ်းစာ စုစည်းမှုကို မဆောင်ရွက်နိုင်ဘဲ အေဒီ ၃၁၃ ခုနှစ် ဘာသာရေးလွတ်လပ်ခွင့် ရလာသောအချိန်မှစ၍ ယင်းကိစ္စကို အစပြုခဲ့ရခြင်းဖြစ်သည် ဟု ဆိုသည်။

သမိုင်းဆရာအချို့က 'သခင်ယေရှုကွယ်လွန်ခဲ့ပြီးနောက် ခရစ်ယာန်ဘာသာကို စတင်ဖြန့်ဖြူးသော ရှင်ပေါလု က 'ဂျေစပ်'ခေါ် သခင်ယေရှု၏အတ္ထုပ္ပတ္တိကို အာရမစ်ဘာသာဖြင့် ရေးသားခဲ့ကြောင်း။ ယင်းမူလကျမ်း ပျောက်ဆုံး သွားသော်လည်း ၄င်းကိုမှီး၍ နောက်ထပ်ဆွေးနွေးသော အကြောင်းအရာများကို ဂရိဘာသာဖြင့် ရေးသားခဲ့ကြောင်း။ နောက်ဆုံးတွင် 'ဂျေစပ်' ခေါ် သခင်ယေရှု၏ အတ္ထုပ္ပတ္တိ ၄ ကျမ်းကို စုစည်း၍ သမ္မာကျမ်းစာသစ် ၄ ကျမ်းတွဲ ပေါ်လာကြောင်း' ဆိုသည်။

## ဘုန်းတော်ကြီးများကြီးစိုးသောကာလ (အလယ်ခေတ်)

ကွန့်စတန်တင် ဘုရင်လက်ထက်မှစ၍ ရောမဂိုဏ်းချုပ်သည် ဘုရင်အား ဘာသာရေးဆိုင်ရာ အကြံပေးသူ ဖြစ်လာသည်။ ဧကရာဇ် တတိယ ဗာလင်တီနီယန်ဘုရင်လက်ထက်တွင် ရောမဂိုဏ်းချုပ် လေယို (အေဒီ ၄၄၀-၄၆၁) က အခြားဘာသာရေးအဖွဲ့ခေါင်းဆောင်များအား ကွပ်ကဲနိုင်ခဲ့သည်။ ထိုအခါမှစ၍ လေယိုအား ဘာသာရေးအဖွဲ့ခေါင်းဆောင်များအပေါ် ကွပ်ကဲအုပ်ချုပ်သော 'ပုပ်'ဟူသော ဘွဲ့ထူးဖြင့် ပထမဆုံး ခေါ်ဝေါ်လာ ခဲ့ကြသည်။ သို့သော် ကာသိုလစ်ဘာသာ၌ ဖော်ပြထားသော ပုပ်ဘုန်းကြီးစာရင်းဦးရေ ၂၆၄ တွင် ယောနဓ၏သား ရှိမုန်ပေတရူး၊ သို့မဟုတ် စီမောင်၊ သို့မဟုတ် သံပေတရူး (အေဒီ ၂၉-၆၇)က 'ပထမပုပ်ဘုန်းကြီး'ဖြစ်ပြီး၊ လေယို (အေဒီ ၄၄၀-၄၆၁)ကို '၄၅ ဆက်မြောက် ပုပ်ဘုန်းကြီး' ဟု ဖော်ပြထားသည်။ သို့ရာတွင် ယင်း အေဒီ (၄၄၀-၄၆၁) ကာလကို 'လေယို' ဟု ဖော်ပြထားခြင်းမဟုတ်ဘဲ 'သံလေအို ၁' ဟု ဖော်ပြထားသည်ကို

တွေ့ရှိရသည်။ မည်သို့ပင်ဖြစ်စေ အမည်ဖော်ပြမှု ကွဲပြားသော်လည်း ကာလသတ်မှတ်ချက်တူနေသဖြင့် လေယိုနှင့် သံလေအို ၁ သည် တစ်ဦးတည်းဖြစ်သည် ဟု ယူဆနိုင်သည်။ ဤသို့ ကာသိုလစ်ဘာသာဝင်တို့သည် လေယို မတိုင်မီရှိခဲ့သော ဘာသာရေးခေါင်းဆောင်များကိုလည်း ပုပ်ဘုန်းကြီးအဖြစ် ရေတွက်ထားသောကြောင့် ဤသို့ ကွာခြားရခြင်း ဖြစ်သည်။

နောက်ပိုင်း၌ ကေရာဇ်မင်း၏နန်းတော်ကို ကွန်စတန်တီနိုပယ်မြို့သို့ ပြောင်းရွှေ့သွားသည်မှစ၍ ရောမ အုပ်ချုပ်ရေးသည် ပုပ်ဘုန်းကြီးလက်ထဲသို့ ကျရောက်သွားတော့သည်။ ထိုအခါမှစ၍ ရောမတွင် ဘာသာရေး အုပ်ချုပ်မှု ပေါ်လာတော့သည်။

အဆိုတစ်ရပ်ကမူ မင်းနေပြည်ကို အရှေ့ဘက်ကွန်စတန်တီနိုပယ်မြို့သို့ ပြောင်းရွှေ့လိုက်ပြီးသော အနှစ် ၃၀ အတွင်း၌ ရောမ ၂ ခြမ်းကွဲလာသည်။ အရပ်အတွင်းရှိလူများ စီမံအုပ်ချုပ်ရေးတွင် ပါဝင်ခွင့်မရသဖြင့် ရောမပျက်စီးခြင်း၏အကြောင်းတစ်ရပ် ဖြစ်ခဲ့ရတော့သည်။ ထိုအတွင်း ခရစ်ယာန်ဘာသာ စည်ပင်လာ၍ ကျောင်း တော်၏တန်ခိုးသြဇာ တိုးတက်လာသည်။ ကျောင်းတော်အရာရှိများသည် ခရစ်ယာန်ဘာသာ ပြန့်ပွားရေးနှင့် ဘာသာဝင်များ သက်သာချောင်ချိရေးကို အမြဲမပြတ် အားထုတ်ခဲ့ကြသည်။ ထိုလူစုကို 'ဘုန်းကြီး' ဟုခေါ်ပြီး၊ အရန်ဘာသာဝင်များကို 'ဝတ်ကြောင်' ခေါ်ကြသည်။ မြို့ရွာများစွာမှ ကျောင်းတော်များကို ပေါင်း၍ အုပ်ချုပ်ရသော 'ဂိုဏ်းချုပ်' လည်း ပေါ်လာသည်။ ဤကျောင်းတော်များကို စည်းရုံးပုံသည် ရောမအစိုးရဖွဲ့စည်းပုံအတိုင်း ဖြစ်သည်။ ကွန်စတန်တင်ဘုရင် လွန်၍ နှစ်ပေါင်းများစွာ နန်းလုကြပြီးနောက် တူဖြစ်သူ ဂျူလီယန် (အေဒီ ၃၆၁-၃၆၃) က နန်းရလာသောအခါ ဂရိယဉ်ကျေးမှုထွန်းကားရန် အာရုံစိုက်လာသဖြင့် ခရစ်ယာန်များ နှိပ်ကွပ်ခံခဲ့ရပြန်သည်။ တစ်ဖန် အရှေ့ဂရိဘာသာရေးကျောင်းတော်နှင့် အနောက်လက်တင်ဘာသာရေးကျောင်းတော် အယူအဆလည်း ကွဲလာကြသဖြင့် ကျောင်းတော်ဂိုဏ်းလည်း ၂ ဂိုဏ်း ကွဲလာတော့သည်။ အဆိုတစ်ရပ်ကမူ ယင်း အရှေ့ဘက်ဂိုဏ်း ကို 'အိုသိုဒေါက်အသင်းဂိုဏ်း' ဟုခေါ်ပြီး၊ ၁၀၅၄ ခုနှစ်တွင် ခွဲထွက်လာကြောင်း ဆိုသည်။ သို့ရာတွင် ရောမမြို့သည် အလွန်ပင် ကြီးကျယ်ခမ်းနားလှသည်။ ကွန်စတန်တင်နိုပယ်မြို့နှင့် အလက်ဇန္ဒရီးယား ၂ မြို့သာ အနည်းငယ် တုပနိုင်၊ ယှဉ်ပြိုင်နိုင်သည်။ ထို့ကြောင့် ရောမဂိုဏ်းအုပ်သည် အခြားဂိုဏ်းအုပ်ဘုန်းကြီးများထက် လူထုကြည်ညိုမှုကို ခံရသည်။ သို့ရာတွင် ဩဂတ်စတင်း (အေဒီ ၃၅၄-၄၃၀) လက်ထက်၌ ခရစ်ယာန်များ ပြန်လည် ဦးထောင်လာသည်။ ဩဂတ်စတင်းက ရောမကျောင်းတော်ကို အနောက်ဘက်ကျောင်းတော်အပေါင်း၏ ခေါင်းဆောင်အဖြစ် အသိအမှတ်ပြုလိုက်သဖြင့် ရောမကျောင်းတော်က သြဇာအာဏာ တိုးတက်လာသည်။ ခရစ်တော်၏တပည့် ပီတာကိုယ်တိုင် ဂိုဏ်းအုပ်အဖြစ် ရောမကျောင်းတော်ကို တည်ထောင်ခဲ့သောကြောင့် ပီတာကို ခရစ်တော်က အထူးအခွင့် အရေးများပေးခဲ့သည် ဟု ယုံကြည်ကြသည့်အပြင်၊ ထိုအခွင့်အရေးကို ပီတာက ၎င်းအားဆက်ခံသော ရောမဂိုဏ်းချုပ်များအား အဆင့်ဆင့်လွှဲအပ်ခဲ့သည် ဟုယုံကြည်ကြသောကြောင့် အခြား ကျောင်းတော်မှ ဂိုဏ်းအုပ်များက ရောမကျောင်းတော်မှ ဂိုဏ်းအုပ်ကို ပို၍ ရိုသေကြသည်။ ဤသို့ဖြင့် ရောမ ကျောင်းတော်ဂိုဏ်းအုပ်သည် အနောက်ဘက် ခရစ်ယာန်ဘာသာဝင်အပေါင်း၏ခေါင်းဆောင် ဖြစ်ခဲ့ရသည်။

ကေရာဇ် သေအိုဒေါစီယပ်စ်လက်ထက်တွင် ရှေးဘုရားကျောင်းများ ပိတ်ထားသည့်အမိန့်ကို ရုတ်သိမ်းခဲ့ သဖြင့် ပို၍ ထွန်းတောက်လာသည်။ အေဒီ ၅၂၇ ၌ နန်းတက်သော ကေရာဇ် ဂျပ်စတီနီယန်ကမူ ကျောင်းတော်၏ စနက်ကြောင့် အေသင်မြို့တော်မှ ဂရိတတ္တသိုလ်များကို 'မိစ္ဆာဒိဋ္ဌိသင်တန်းများ' ဟူ၍ပင် ကင်ပွန်းတပ်လျက် ပိတ်စေခဲ့သည်။ ဤသို့ဖြင့် လူတို့၏ယုံကြည်မှုကို အစိုးရနှင့် ကျောင်းတော်က ကြိုးကိုင်ခဲ့သောကြောင့် ခေတ် ဟောင်း၏ မှန်မြတ်သော လွတ်လပ်စွာ တွေးခေါ်ယုံကြည်မှုလည်း တိမ်ကောခဲ့ရတော့သည်။

ယန်းရွှေပြည်သာအုပ်တိုက်

တစ်ဖန် ရောမဂိုဏ်းအုပ် မဟာဂရယ်ဂေါ်ရီ (အေဒီ ၅၉၀-၆၀၄)က ရောမကျောင်းတော် တန်ခိုးအာဏာ နိုင်ခံ့၍ ပျံ့နှံ့စေရန် ဆောင်ရွက်ခဲ့ပြန်သည်။ ကေရာဇ် ဂျပ်စတီနီယန်သည် အီတလီ၏ အရှေ့ဘက် ဂေါနိုင်ငံကို ဖျက်ဆီးပစ်၍ အီတလီသည် မင်းမဲ့တိုင်းပြည်ဖြစ်ချိန်၌ လွမ်ဗတ်အရိုင်းများ လာရောက်တိုက်ခိုက်ခဲ့ခြင်းကို ခံရပြန်သည်။ ထို့ကြောင့် ဂရယ်ဂေါ်ရီက အလွန်ပါးနပ်သောအစီအစဉ်ဖြင့် နိုင်ငံရေးအာဏာကိုအရယူ၍ အီတလီကို အရိုင်းတို့ရန်မှ ထိန်းသိမ်းကာကွယ်ခဲ့သည်။ ၄င်းအပြင် ဖရင်းအရိုင်းမင်းဆက်များနှင့် မဟာမေဒင်စစ်တပ်များကို အောင်နိုင်ခဲ့သော ချားလ်မာတယ်၏မြေး ရှားလမိန်းက ကျယ်ပြန့်သောနိုင်ငံတော်ထူထောင်နိုင်မှုကို အကြောင်းပြု၍ အေဒီ ၈၀၀ တွင် ရောမဂိုဏ်းချုပ်က ရောမကေရာဇ် ဘွဲ့ထူး ပေးအပ်သည်မှစ၍၊ 'ပုပ်ဘုန်းကြီးက ကေရာဇ်ကို ခန့်ထားရသည်' ဟူသောအစဉ်အလာ ဖြစ်ခဲ့သည်ဟု ဆိုသည်။

မည်သို့ပင်ဖြစ်စေ၊ ပုပ်ဘုန်းကြီးများသည် အုပ်ချုပ်မှုအရှိန်အဝါဖြင့် စီးပွားရေးကိုလည်း လုပ်ကိုင်လာသဖြင့် အေဒီ ၆၀၀ ၌ ပုပ်ဘုန်းကြီးများသည် အီတလီမြေယာများကို အကျယ်အဝန်းစတုရန်းမိုင် ၁,၈၀၀ ခန့်အထိ ပိုင်လာသည်။ ယင်း လယ်ယာမြေများကို လုပ်ကိုင်လိုသူများသည် ပုပ်လက်အောက်၌ စစ်မှုထမ်းကြရသည်။ ထို့ကြောင့် ပုပ်သည် အင်အားကောင်းသော စစ်တပ်ကိုလည်း လက်ကိုင်ပြုထားနိုင်လာခဲ့သည်။

အေဒီ (၁၁၉၈-၁၂၁၆) အင်နိုးဆင့်-၃ ဘွဲ့ခံ ပုပ်ဘုန်းကြီးလက်ထက်၌ ပို၍ တန်ခိုးထက်မြက်ပြီး ဘာသာရေးသာမက နိုင်ငံရေးပါ အာဏာလွှမ်းမိုးလာသည်။ ပုပ်ဘုန်းကြီးများသည် ဘုရားသခင်၏ ကိုယ်စားလှယ် ဖြစ်သဖြင့် ပုပ်ဘုန်းကြီး၏တရားဥပဒေများသည် လောကီတရားဥပဒေထက် မြင့်မြတ်သည်။ ထီးဆောင်းမင်းသည် ပုပ်ဘုန်းကြီး၏ အာဏာစက်အောက်၌ အေးချမ်းစွာနေရမည်။ ဘုရင်မှုးကို ထီးနန်းအပ်ခြင်း၊ ဖြုတ်ချခြင်းတို့ကို ပုပ်ဘုန်းကြီးက ဆောင်ရွက်နိုင်သည် ဟု ပုပ်ဘုန်းကြီး အင်နိုးဆင့်-၃ က ဆိုသည်။ အင်နိုးဆင့်-၃ သည် ၁၇၆ ယောက်မြောက် ပုပ်ဘုန်းကြီးဖြစ်သည် ဟု ကာသိုလစ်ဘာသာ ပုင်စာရင်း၌ ဖော်ပြထားသည်။

## ပုပ်ဘုန်းကြီးသြဇာ ကျဆင်းလာခြင်း

အေဒီ ၁၃၀၀ ကျော်လွန်သောအခါ ပုပ်ဘုန်းကြီးသြဇာတန်ခိုးလည်း ကျဆင်းလာတော့သည်။ ကေရာဇ်မင်းနှင့် ပုပ်ဘုန်းကြီးတို့ ပဋိပက္ခဖြစ်မှုများလာတော့သည်။ အမှန်မှာ ကေရာဇ်ဘုရင်နှင့် ပုပ်တို့ ပဋိပက္ခဖြစ်လာသည်မှာ ပုပ်ဘုန်းကြီး ဂရေဂေါ်ရီ-၇ (အေဒီ ၁၀၇၃-၁၀၈၅) နှင့် ဂျာမန်ကေရာဇ် ဟင်နရီ-၄ တို့လက်ထက်မှ စခဲ့သည်။ ထိုအခါ ပုပ်ဘုန်းကြီး ဂရေဂေါ်ရီ-၇ သည် ဟင်နရီ-၄ ဘုရင်အား ခရစ်ယာန်ဘာသာမှ ကြဉ်လိုက်ရာ ဘုရင်ကလည်း ပုပ်ဘုန်းကြီး သီးသန့်ခန့်ထားခဲ့သည်။ ထို့ကြောင့် ကေရာဇ်နှင့် ပုပ်ဘုန်းကြီးတို့ အာဏာပြိုင်မှုသည် ထိုအချိန်မှစခဲ့သည် ဟု ဆိုခြင်းဖြစ်သည်။ သို့သော် ပုပ်ဘုန်းကြီး အင်နိုးဆင့်-၃ (အေဒီ ၁၁၉၈-၁၂၁၆)လက်ထက်၌ ပုပ်ဘုန်းကြီး၏တန်ခိုးအာဏာသည် အထွတ်အထိပ်သို့ ပြန်ရောက်ခဲ့ပြီးနောက်၊ အေဒီ ၁၃၀၀ ကျော်သောအခါ ပြန်လည်ကျဆင်းခဲ့ရပြန်သည်။ ထိုအခါ၌ ပုပ်ဘုန်းကြီးသည် ကေရာဇ်ကို အတိုက်အခံပြုရန် ပြင်သစ်ဘုရင်များ၏ အကူအညီကို တောင်းခံခဲ့ရသည်။ ထို့ကြောင့် ပြင်သစ်ဘုရင်များ၏သြဇာသည် ပုပ်ဘုန်းကြီးများကို လွှမ်းမိုးလာတော့သည်။ နောက်ဆုံး၌ ပုပ်ဘုန်းကြီးသည် ရောမမှထွက်ကာ ပြင်သစ်ပြည် အေဗီနွန်မြို့သို့သွားရောက်၍ ရှောင်တိမ်းနေခဲ့ရသည်။ ထိုမြို့တွင် အနှစ် ၇၀ မျှနေပြီးနောက် ရောမသို့ပြန်လာခဲ့သည်။ သို့သော် တစ်ချိန်တည်း၌ ပုပ်ဘုန်းကြီးမှယ ၃ ဦးဖြစ်နေ၍ အချင်းချင်းစိတ်ဝမ်းကွဲကာ အာဏာလုမှု ဖြစ်ခဲ့ရသည်။

## ခရူးဆိတ်စစ်ပွဲနှင့် ပေါင်းစည်းညီညွတ်ရေး

ဤသို့ ခရစ်ယာန်ဘာသာဝင်အချင်းချင်း ပဋိပက္ခပြင်းထန်နေသည့်အချိန်၌ပင် (အေဒီ ၁၀၇၆)သို့ ရောက်သောအခါ ခရစ်တော်မွေးဖွားရာ ပါလက်စတိုင်း ဂျေရုစလင်သို့ဘုရားဖူးသွားသော ခရစ်ယာန်များအား ဆဲလ်ဂျတ်တပ်ခ်လူမျိုး မွတ်စလင်များက နှောင့်ယှက်ခြင်း၊ နှိပ်စက်ခြင်း ပြုသည်ဟုဆိုကာ ပုပ်ဘုန်းကြီး အာဘန်-၂ က 'ခရစ်ယာန်အချင်းချင်းတိုက်ခိုက်မှုကို ရပ်ဆိုင်း၍ ဂျေရုစလင်မြို့ကို ကယ်တင်သင့်ကြောင်း' တိုက်တွန်းခဲ့သည်။ ထို့ကြောင့် ခရစ်ယာန်တို့သည် ဂျေရုစလင်မြို့ကိုကယ်တင်သော ခရူးဆိတ်စစ်ပွဲကို တူရကီတို့နှင့် တိုက်ခိုက်ခဲ့ကြသည်။ စစ်ပွဲကြီး ၈ ကြိမ်- နှစ်ပေါင်း ၂၀၀ ကျော်ခန့် စစ်ဖြစ်ပွားခဲ့ပြီးနောက်၊ ၁၂၇၀ ပြည့်နှစ်လောက်တွင် ခရစ်ယာန်များ နောက်ဆုံးတွင်အရှုံးဖြင့် စစ်ပွဲလည်း ပြီးဆုံးခဲ့တော့သည်။ စစ်ပွဲပြီးဆုံးသောအခါ စစ်ပွဲအတွေ့အကြုံမှ ခရစ်ယာန်ဘာသာရေးအတွက် ရရှိလိုက်သောအမြတ်အစွန်းမှာ 'စစ်ပွဲတွင်ကိုယ်ကျိုးရှာသော ခရစ်ယာန်ခေါင်းဆောင်များ၏အပြုအမူများကို ငယ်သားများ တွေ့မြင်သိရှိရသောအခါ ကြည်ညိုသဒ္ဓါပျက်၍ ခရစ်ယာန်ဘာသာအပေါ် သံသယစိတ်များဝင်လာစေခြင်း' ပင် ဖြစ်သည်။

## အလယ်ခေတ် မှတ်ချက်

အလယ်ခေတ်တွင် လူရိုင်းများ၏ တိုက်ခိုက်ဖျက်ဆီးမှုရန်ကို ခံနေရသည်ကတစ်ကြောင်း၊ ကျောင်းတော်၏ ဩဇာအာဏာ လွှမ်းမိုးနေသည်ကတစ်ကြောင်း တို့ကြောင့် ဂရိ၊ ရောမတို့၏ အတွေးအခေါ်ပညာများ တိမ်ကောသဖြင့် အသိပညာများ ခေါင်းပါးလာကြသည်။ ကျောင်းတော်အကြီးအကဲ ပုပ်ဘုန်းကြီး၏စကားကို ဇကန်အနေဖြင့် ယုံကြည်ခဲ့ကြသည်။ အဘယ့်ကြောင့်ဆိုသော် 'ပုပ်ဘုန်းကြီးသည် လူ၏ဝိညာဉ်ကို ပိုင်သည်' ဟု ယုံကြည်ပြီး၊ 'ပုပ်ဘုန်းကြီးကို ဘုရားသခင်၏ကိုယ်စားလှယ်တော်' ဟု ထင်မှတ်ယူဆကြသောကြောင့် ဖြစ်သည်။ ၎င်းအပြင် ထိုအချိန်၌ အနောက်ဥရောပတွင် လက်တင်ဘာသာကိုသုံးရာ လူအများတို့က ထိုဘာသာကိုမတတ်ကြသဖြင့် ထိုဘာသာကိုကျွမ်းကျင်သော ဘုန်းကြီးများ၊ တရားဟောဆရာများ၊ ကျောင်းတော်၌အမှုထမ်းသော စာရေးစာချီများ၏စကားကို ယုံကြည်နေကြခြင်း ဖြစ်သည်။ တစ်ဖန် ထိုအချိန်က ခရစ်ယာန်များသည် 'ဤဘဝမှလွန်လျှင် ကောင်းကင်ဘုံ၌ ကောင်းစွာနေရမည်' ဟူသောအချက်ကို အလေးအနက်ထားကြလွန်းကြသည်ကို တွေ့ရှိရသည်ဟု သမိုင်းဆရာတို့က မှတ်ချက်ပြုကြသည်။

## ရီနေဆန့်ခေတ်

အလယ်ခေတ်၌ အနောက်နိုင်ငံများတွင် ခရစ်ယာန် ဘာသာရေးအုပ်ချုပ်မှုသာ ကြီးစိုးခဲ့သည်။ အသိသစ်၊ အမြင်သစ်၊ စိတ်ကူးသစ်များဖြင့် တီထွင်ကြံဆလုပ်ကိုင်မှုများကို ဘာသာရေး၏အန္တရာယ်အဖြစ် သတ်မှတ်ထားကြသည်။ 'ခရစ်ယာန်ဘုန်းကြီးအဖွဲ့အစည်းသည်သာလျှင် အရာခပ်သိမ်းကို အကြွင်းမဲ့ တတ်သိနားလည်သည်' ဟု ဆိုထားသောကြောင့် တိုးတက်ကြံဆတီထွင်လိုသူများအဖို့ လွတ်လပ်စွာတွေးခေါ်ယူဆရန် မလွယ်ကူလှချေ။ ထို့ကြောင့် ထိုအလယ်ခေတ်ကို 'အမှောင်ခေတ်' ဟု သမိုင်းဆရာတို့ ကင်ပွန်းတပ်ခဲ့ကြသည်။ သို့သော် အချို့သမိုင်းဆရာများကမူ 'ရောမကျ၍ တန်းအနွယ် 'အာဗာ' ခေါ် လူရိုင်းများကြီးစိုးချိန်ကို အမှောင်ခေတ်' ဟုဆိုသည်။ လူရိုင်းများသည် စာအုပ်များကို မီးရှို့ကြသည့်အပြင် စာသင်ကျောင်းများလည်း ပိတ်ထားရသောကြောင့် ခရစ်ယာန်ဘာသာရေးကျောင်းများက လူများအား အစစကူညီနေရသည်ဟု ဆိုသည်။

မည်သို့ပင်ဖြစ်စေ၊ ထိုအလယ်ခေတ်ကို ကျော်လွန်သောအခါ ဘာသာရေးအာဏာပိုင်များသြဇာ ကျဆင်းလာသည်။ ခရစ်ယာန်ဘာသာရေးအဖွဲ့သည် အဘက်ဘက်မှထိုးနှက်ချက်ကို ခံနေခဲ့ရတော့သည်။ ဘုန်းကြီးများ၏ လုပ်ဆောင်ချက်များထဲမှ မှားယွင်းမှုများ၊ မြေပိုင်မှုများ၊ နယ်ပယ်အုပ်ချုပ်ရေး၌ စွက်ဖက်မှုများ၊ ငွေကြေးကိစ္စစသော လောကရေးရာနှင့်မကင်းသော အချက်များကို လူထုက ဖော်ထုတ်ဝေဖန်လာကြသည်။ ဘာသာရေးဆိုင်ရာ အဖွဲ့အစည်းကို ဝေဖန်ဆန်းစစ်ခြင်းသည်။ ထိုခေတ်ဘုန်းကြီးများကို ဆန့်ကျင်ရေးသာ ဖြစ်သည်။ ဘာသာရေးကို ဆန့်ကျင်ခြင်းမဟုတ်။ ဘာသာရေးကို ဘာသာရေးသန့်သန့်အဖြစ်ဖြင့်သာ လုပ်ဆောင်ရန်' ရည်ညွှန်းပြောဆိုလာကြသည်။ ထို့ကြောင့် ထိုခေတ်ကို 'ရီနေဆန့်ခေတ်' (ပြန်လည်ဆန်းသစ်တီထွင်ခေတ်) ဟုခေါ်ခဲ့ကြသည်။

## ရီနေဆန့်ခေတ် အတွေးအခေါ်ပညာရှင်များ

### ၁- ဒန်တေး၊ ၁၂၆၅-၁၃၂၁ ခုနှစ်

အီတလီပြည် ဖလောရင့်နယ်သား ဖြစ်သည်။ သူက 'လူသည် ဘုရင်အုပ်စိုးမှု အာဏာရပ်ဖြစ်စေ၊ ဘာသာရေးအုပ်ချုပ်မှု အာဏာရပ်ဖြစ်စေ၊ တစ်ခုတည်းသောအာဏာရပ်၏ ချုပ်ကိုင်မှုအောက်တွင် တညီတညွတ်တည်းရှိရမည်' ဟုဆိုသည်။ ဒန်တေးသည် ဘုရင်အုပ်ချုပ်မှုကို ပို၍လိုလားသူ ဖြစ်သည်။

### ၂- ဝီကလစ်ဖ်၊ ၁၃၂၀-၁၃၈၄ ခုနှစ်

အင်္ဂလန်ပြည် အောက်စဖို့ဒ်မှ ဖြစ်သည်။ သူက 'ဘာသာရေးတွင် ငွေကြေးကိစ္စ၊ နယ်ပယ်ကိစ္စများ ပေါ်ပေါက်က အစိုးရက ဖြေရှင်းချုပ်ကိုင်ရမည်။ နိုင်ငံနှင့် ဘာသာရေးကို ဘုရားသခင်က စိုးပိုင်၍ ပုပ်ဘုန်းကြီးတို့သည် နိုင်ငံရေး၌ စွက်ဖက်ခွင့်မရှိ' ဟုဆိုသည်။

၄င်းအပြင် ဝီကလစ်ဖ်သည် 'ဘုရားသခင်၏ အလိုတော်အတိုင်း လူတိုင်းသည် အညီအမျှဖြစ်ရမည်' ဟူသော ခရစ်ယာန်ဘာသာအပေါ်၌အခြေခံသော နိုင်ငံရေးအယူအဆကို ဟောပြောခဲ့သည်။

'ဆင်းရဲသားများက ဘာသာရေးအဖွဲ့များအား အခွန်ဆောင်ရန် မလို။ လူတိုင်းသည် ဘုရားသခင်ထံ၌သာ တိုက်ရိုက်ယုံကြည်မှု ရှိသည်။ အဆင့်ဆင့်အုပ်စိုးနေသော ဘုန်းကြီးများအတွက် ကျွန်ခံရန်မလို။ ခရစ်ယာန်သမ္မာကျမ်း (ဘိုင်ဘယ်)ကို ယုံကြည်သည်။ ကာသိုလစ်ဘုန်းကြီးများ၏ကျမ်းများကို ဆန့်ကျင်သည်' ဟု အတိအလင်း ပြောဆိုခဲ့သည်။

### ၃- ဂျွန်ဟုစ်၊ ၁၃၆၉-၁၄၁၅ ခုနှစ်

ဂျာမဏီအနီးရှိ ဘိုဟီးမီးယားနယ်သား ဖြစ်သည်။ သူသည် ဝီကလစ်၏ဘာသာရေးအယူအဆကို လက်ခံသည်။ ဟုစ်က ချက်လူမျိုးများ၏ ကိုယ်ပိုင်လွတ်လပ်သော ဘာသာရေးအဖွဲ့အစည်းကို ရောမအနှောင်အဖွဲ့မပါဘဲ တည်ထောင်လိုသည်။ ထို့ကြောင့် ဟုစ်အား ရောမပုပ်ဘုန်းကြီးက ဘာသာရေးမှ ကြဉ်လိုက်သည်။ ဘုရင်ကလည်း ဟုစ်ကို ပါမောက္ခချုပ်ရာထူးမှ ဖယ်ရှားလိုက်သည်။ ဟုစ်နှင့် အဖော်များသည် ၁၄၁၄ ခုနှစ်၌ ဘာသာရေးကောင်စီသို့ ထုချေရန်အတွက်သွားရာ သေဒဏ် အပေးခံခဲ့ရသည်။ ဟုစ် အသတ်ခံရသဖြင့် ချက်များ မကျေမနပ်ဖြစ်ကာ

ဘိုဟီးမီးယားပြည်ရှိ ကာသိုလစ်ဘုရားရှိခိုးကျောင်းများကို ချိုးဖဲ့ဝင်ရောက်ကြပြီး၊ ဘုန်းကြီးများအား နှင်ထုတ်ခဲ့ကြသည့်နည်းတူ ဂျာမန်တို့ကိုလည်း တော်လှန်ခဲ့ကြသည်။ နောက်ဆုံး၌ ဘိုဟီးမီးယားတွင် သီးခြားလွတ်လပ်သော ခရစ်ယာန်ဘာသာရေးအဖွဲ့ကို ဖွဲ့စည်းရန် ခွင့်ပြုခဲ့ရပေသည်။

## ၄- မာတီယာဗယ်လီ၊ ၁၄၆၉-၁၅၂၇ ခုနှစ်

အီတလီပြည် ဖလောရင့်နယ်သား ဖြစ်သည်။ သူသည် ဘာသာရေး သဘာဝဥပဒေရပ်များနှင့် ဘုန်းကြီးများ၏အယူအဆကို လက်မခံဘဲ၊ လက်တွေ့ကိုနှစ်သက်သူ ဖြစ်သည်။ မာတီယာဗယ်လီက 'နိုင်ငံ၏အဓိက အနှောင့်အယှက်မှာ ဘာသာရေးဖြစ်သည်' ဟုဆိုသည်။

## ဘုရင်များ၏ တောင်းဆိုချက်များ

ယခင်ကပင် ဘုရင်နှင့် ဘာသာရေးအာဏာပိုင်များ ပဋိပက္ခဖြစ်ကြရာမှ ဤခေတ်သို့ရောက်ရှိသောအခါ ဘုရင်များက 'ဘာသာရေးအာဏာပိုင်များရော ဘုရင်များပါ ဘုရားသခင်၏ ကိုယ်စားလှယ်များဖြစ်ကြ၍၊ ဘုရင်များလည်း ဘုရားသခင်အလိုအတိုင်း အုပ်ချုပ်ပိုင်ခွင့်ရှိသည်' ဟု တောင်းဆိုလာကြသည်။ နောက်ပိုင်း၌ ဘုရင်များသည် တိုင်းပြည်အုပ်ချုပ်မှုတွင် ဘာသာရေးအာဏာပိုင်များကို ဖယ်ရှားလာကြတော့သည်။

## ကာသိုလစ်ဂိုဏ်းကို တော်လှန်ခြင်း

၁၅၁၁-ခုနှစ်တွင် ဟောလန်ပြည်သား ဒတ်ချ်လူမျိုး 'အီရပ်စမတ်'ဆိုသူက ရောမမြို့တွင် အကျင့်ပျက်ပြား နေကြသော ခရစ်ယာန်ဘုန်းကြီးများအကြောင်းကို အပြင်းအထန်ကဲ့ရဲ့ရှုတ်ချပြီး၊ အသိဉာဏ်ခေါင်းပါးသော ဘုန်းကြီးများနှင့် ၎င်းတို့အား ကြည်ညိုသောလူများအား သရော်လှောင်ပြောင် ပြက်ရယ်ပြုရေးသားထားသော စာအုပ်တစ်အုပ်ကို ရေးသားထုတ်ဝေခဲ့သည်။ လူများစွာက ၎င်းစာအုပ်ကို ဝယ်ယူဖတ်ရှုကြပြီး၊ အီရပ်စမတ်ကို ထောက်ခံချီးမွမ်းခဲ့ကြသည်။

ထိုကာလအတွင်း၌ ရောမမြို့၌ တည်ဆောက်ဆဲဖြစ်သော စိန့်ပီတာဘုရားရှိခိုးကျောင်းကြီးအတွက် ငွေလိုနေသဖြင့် ပုပ်ဘုန်းကြီးက အလှူငွေကောက်ခံရန် ဥရောပအရပ်ရပ်သို့ အလှူခံဘုန်းကြီးများကို စေလွှတ်လိုက်သည်။ 'လူတစ်ယောက်သည် မကောင်းမှုဒုစရိုက်ကိုကျူးလွန်မိလျှင် ငရဲမကျစေရန် ပုပ်ဘုန်းကြီးက အပြစ်လွှတ်နိုင်သည်။ ငရဲမကျလိုလျှင် ပုပ်ရောင်းခိုင်းသော ဤ အပြစ်လွှတ်အလှူခံဖြတ်ပိုင်းများကို ဝယ်ယူကြလော့' ဟုဆိုပြီး အလှူခံဖြတ်ပိုင်းကို ရောင်းခဲ့သည်။

၎င်းအပြင် ထိုအချိန်၌ ဂျာမနီ၊ ဟော်လန်၊ အင်္ဂလန် စသော ဥရောပမြောက်ဘက်ရှိ နိုင်ငံများတွင် ဘာသာရေးမကျေနပ်မှုများ အလွန်များပြားနေချိန် ဖြစ်သည်။ အထူးသဖြင့် မိမိတို့ထံမှ ကောက်ခံရရှိသော အလှူငွေများဖြင့် ရောမမြို့တွင်စည်းစိမ်ခံနေကြသော အီတလီဘုန်းကြီးများကို လည်းကောင်း၊ အီတလီအမျိုးသား ဘုန်းကြီးများက ရောမမြို့မှနေ၍ အမျိုးမျိုးသြဇာပေးနေခြင်းကို လည်းကောင်း မကျေနပ်ကြခြင်း ဖြစ်သည်။ ထို့ကြောင့် ၁၅၁၇ ခုနှစ်တွင် ပုပ်ဘုန်းကြီးက အလှူခံစေလွှတ်လိုက်သော ဘုန်းကြီးများ ဂျာမနီသို့ရောက်လာသောအခါ 'မာတင်လူသာ' အမည်ရှိသော ဂျာမနီအမျိုးသားဘုန်းကြီးတစ်ပါးက ကန့်ကွက်ကာ ပုပ်ဘုန်းကြီးနှင့်တကွ ကာသိုလစ်ခရစ်ယာန်အဖွဲ့တစ်ဖွဲ့လုံးကို အတိအလင်း ပုန်ကန်လေတော့သည်။ မာတင်လူသာသည် အလွန်

ဘုရားတရားကြည်ညိုသော ဘုန်းကြီးတစ်ပါးဖြစ်သည်။ 'ရောမမြို့ရှိ ပုပ်ဘုန်းကြီးနှင့် ခရစ်ယာန်ဘုန်းကြီးများသည် သူ့ထက် အဆပေါင်းပေါင်းများစွာ ဘုရားတရားကြည်ညိုကြလိမ့်မည် ဟုအထင်ကြီးခဲ့သည်။ သို့ရာတွင် သူသည် ရောမမြို့သို့ ဘုရားဖူးရောက်စဉ် ဘုန်းကြီးများ နေထိုင်ပြုမူပုံများနှင့် ဂုဏ်သိက္ခာ ကင်းမဲ့ပုံများကို ကိုယ်တိုင်မြင်တွေ့ရသောအခါ အလွန်စိတ်ပျက်ခဲ့ရသည်။ ဤသို့ စည်းမဲ့ကမ်းမဲ့နေထိုင်ကြသော ဘုန်းကြီးများ၏ ဟောပြောသော တရားများသည် မှန်ချင်မှ မှန်မည် ဟု သံသယဖြစ်လာကာ သူကိုယ်တိုင် ကျမ်းစာများကို လေ့လာခဲ့သည်။

ထိုအခါ သူက 'လူတစ်ယောက်သည် အလှူလှူခြင်း၊ ဆုတောင်းခြင်း၊ အာဟာရဖြတ်ခြင်း စသော အကျင့်တရားအားဖြင့် အပြစ်မှ မလွတ်မြောက်နိုင်။ ကယ်တင်ခြင်းကို မရနိုင်။ သခင်ခရစ်တော်ကို အကြွင်းမဲ့ ယုံကြည်ကိုးစားခြင်းအားဖြင့်သာလျှင် အပြစ်မှလွတ်မြောက်နိုင်ပြီး ကယ်တင်ခြင်းကို ခံရလိမ့်မည်' ဟု ထင်မြင်ယူဆ ယုံကြည်သည်။ ထို့ကြောင့် မာတင်လူသာသည် ဂျာမနီပြည်တွင် အပြစ်လွတ်ဖြတ်ပိုင်းများကို ဘုန်းကြီးများ လာရောက်ရောင်းသောအခါ ဤသို့ လူထုကိုလှည့်စား၍ အလှူခံခြင်းမှာ မတရားကြောင်း၊ ကျမ်းစာနှင့် မညီညွတ်ကြောင်း' စသည်ဖြင့် သူ၏ထင်မြင်ချက်ကို စာတန်းထိုးပြီး အများပြည်သူတို့မြင်နိုင်သောနေရာ ဘုရားရှိခိုးကျောင်း တံခါးတွင် ကပ်ထားလေသည်။ ဤတွင် ပုပ်ဘုန်းကြီးက မာတင်လူသာအား 'ရောမမြို့သို့ လာရောက်၍ ထုချေရန်' အမိန့်ထုတ်ကာ ဆင့်ခေါ်လိုက်သည်။ သို့သော် မာတင်လူသာသည် ထိုအမိန့်ကို မနာခံသောကြောင့် ပုပ်ဘုန်းကြီးက သူ့အား ခရစ်ယာန်အသင်းတော်မှထုတ်ပယ်ကာ သပိတ်မှောက်လိုက်သည်။ ဤသို့ အသင်းမှ ထုတ်ပယ်သော ပုပ်ဘုန်းကြီး၏စာကို မာတင်လူသာသည် လူအများရှေ့တွင် မီးရှို့ပစ်လိုက်သည်။ ဤနည်းအားဖြင့် မာတင်လူသာသည် ကာသိုလစ်ဘာသာကို တော်လှန်လေသည်။

## တော်လှန်ပြုပြင်ရေးသမားများနှင့် ပရိုတက်စတင့်ဂိုဏ်း

မာတင်လူသာခေါင်းဆောင်သော ဘာသာရေးတော်လှန်မှုသည် ဂျာမနီပြည်တွင် အထူးအောင်မြင်သည်။ 'မာတင်လူသာ၏ ဘာသာရေးအယူအဆ ထင်မြင်ချက်များ မှန်ကန်သည်' ဟု ယုံကြည်ကြသော လူပေါင်းများစွာတို့သည် မာတင်လူသာကို ထောက်ခံအားပေးပြီးလျှင်၊ မာတင်လူသာတည်ထောင်သော 'လူသာရင်'ဂိုဏ်းသို့ ဝင်ကြသည်။ ဂျာမနီပြည်မြောက်ပိုင်းရှိ ပြည်နယ်ကြီးများကိုအုပ်ချုပ်သော မင်းညီမင်းသားများသည် သူတို့၏နယ်များတွင်ရှိသော ဘုန်းကြီးအဖွဲ့ပိုင် မြေယာ ဥစ္စာပစ္စည်းများကို လိုချင်မျက်စိ ရှိခြင်းကြောင့် လည်းကောင်း၊ ပုပ်ဘုန်းကြီးအား နှစ်စဉ်နှစ်တိုင်းပေးဆောင်နေရသော အလှူငွေနှင့် အထောက်အပံ့ကြေးငွေများကို မပေးလို၍ လည်းကောင်း မာတင်လူသာကို အားပေးအားမြှောက်ပြုလုပ်ကြသည်။ ၎င်းအပြင် စာပုံနှိပ်စက်များ ပေါ်ထွန်းနေပြီးဖြစ်သောကြောင့် မာတင်လူသာသည် သူ၏ ဘာသာရေးအယူအဆ အတွေးအခေါ်များကို လူအများသိအောင် စာအုပ်ငယ်များ ရိုက်နှိပ်ဝေငှနိုင်သဖြင့် သူ့ဂိုဏ်းတွင် ဂိုဏ်းဝင်များ တိုးတက်လာတော့သည်။

ဘာသာရေးတော်လှန်မှုများသည် ဂျာမနီမှအစပြုပြီး ဆွစ်ဇာလန်၊ ဟော်လန်၊ နော်ဝေ၊ ဆွီဒင်၊ စကော့တလန်၊ အင်္ဂလန်ပြည်များသို့ ပျံ့နှံ့သွားလေသည်။ ဆွစ်ဇာလန်ပြည်၊ ပြင်သစ်ပြည်မြောက်ပိုင်းနှင့် စကော့တလန်ပြည်သားတို့သည် ဂျွန်ကဲလ်ဗင်၏ ဘာသာရေးအယူအဆများကို နှစ်သက်ကြသဖြင့် ကဲလ်ဗင်ဂိုဏ်းဝင်များ ဖြစ်လာကြသည်။ နောင်ကာလတွင် အင်္ဂလန်ပြည်၌ပေါ်ပေါက်လာသော ပြူရီတန်ဂိုဏ်း၊ 'ဘက်ပတစ်' ခေါ် နှစ်ခြင်းဂိုဏ်းများသည် များသောအားဖြင့် ကဲလ်ဗင်ဂိုဏ်းမှပေါက်ဖွားလာသော ဂိုဏ်းဂဏများ ဖြစ်ကြသည်။

အလားတူ၊ အင်္ဂလန်တွင် ဟင်နရီဘုရင်သည် မိဖုရားကက်သရင်း၌ သားယောကျ်ား မထွန်းကားသောကြောင့် သူ၏မင်းဆက် တည်တံ့ခိုင်မြဲရန် ထီးနန်းအမွေကိုဆက်ခံမည့် သားယောကျ်ားလိုနေသဖြင့် ကက်သရင်းကိုကွာရှင်းပြီး နန်းတွင်းသူတစ်ယောက်ကို မိဖုရားမြှောက်ခဲ့သည်။ ဥရောပတွင် နိုင်ငံအသီးသီး၌ ဘာသာရေးတော်လှန်မှုများ ဖြစ်ပွားနေစဉ် ပုပ်ဘုန်းကြီးနှင့် သူ၏ကာသိုလစ်ဂိုဏ်းကို မားမားမတ်မတ်ထောက်ခံနေသူမှာ စပိန်ဘုရင် ချားလ်စ်-၅ ဖြစ်သည်။ အင်္ဂလန်မင်း ကွာရှင်းလိုက်သော မိဖုရားကက်သရင်းသည် စပိန်ဘုရင်၏မရီး ဖြစ်သည်။ ထို့ကြောင့် ပုပ်ဘုန်းကြီးသည် ဟင်နရီနှင့် ကက်သရင်းကို ကွာရှင်းခွင့်မပြုခဲ့ပေ။ သို့ဖြစ်၍ ဟင်နရီဘုရင်သည် ကာသိုလစ်ဂိုဏ်းမှထွက်ပြီး သူကိုယ်တိုင်ခေါင်းဆောင်သော အင်္ဂလန်ဂိုဏ်းကို တည်ထောင်ခဲ့သည်။

တော်လှန်ပြုပြင်ရေးသမားများသည် ၎င်းတို့၏ ပြုပြင်ရေးဝါဒကိုလက်ခံသော မင်းညီမင်းသားတို့၏အကျိုးကို ဆောင်ရွက်ရင်း ဘုရင့်အာဏာနှင့် ဘာသာရေးအာဏာတို့၏ကြားကို လုံးဝ ကွဲပြားစေခဲ့သည်။ ထို့အပြင် နောက် ပေါ်ပေါက်လာမည့် ဘုရင်အာဏာကို တိုင်းသူပြည်သားများက ကန့်သတ်ခြင်း၊ တုပြိုင်ခြင်းအတွက်ကိုပါ လမ်းစ ထွင်ခဲ့ကြသည်။

ထင်ရှားသော တော်လှန်ပြုပြင်ရေးသမားများမှာ ဂျာမနီမှ မာတင်လူသာ ၁၄၈၂-၁၅၄၆ ခုနှစ်၊ ဖိလစ်မေလန်ခသွန် ၁၄၉၇-၁၅၆၀ ပြည့်နှစ်၊ ဆွစ်အမျိုးသား ဇွင်လီ ၁၄၈၄-၁၅၃၁ ခုနှစ်၊ ဆွစ်ဇာလန် (အချို့အဆိုပြင်သစ်)မှ ဂျွန်ကာလ်ဗင် ၁၅၀၉-၁၅၆၄ ခုနှစ်တို့ ဖြစ်ကြသည်။ ၎င်းတို့၏ ပြုပြင်ရေးအယူအဆများကို ဖော်ပြသောဂိုဏ်းများကို အင်္ဂလိပ်ဘာသာအားဖြင့် 'ပရိုတက်စတင့်ဂိုဏ်း' ဟုခေါ်သည်။ ပရိုတက်စတင့်၏ အဓိပ္ပာယ်မှာ 'ကာသိုလစ်အယူဝါဒကို ကန့်ကွက်သူများ' ဟု အဓိပ္ပာယ်ရသည်။ ယခု တစ်ကွဲတစ်ပြားစီယုံကြည်နေကြသော ပရိုတက်စတင့်အသင်းများမှာ ၄၀၀ ခန့် ရှိသည်။

## အင်နာဘက်တစ် (ဘုံဝါဒဆန်သော) ဘာသာရေးဂိုဏ်း

ဘုံဝါဒဆန်သော ဘာသာရေးအဖွဲ့တို့၏လှုပ်ရှားမှုများသည် ဘိုဟီမီးယားနယ်မှ ဂျာမနီပြည်တွင်းသို့ ပျံ့နှံ့လာခဲ့သည်။ ထိုဒေသရှိ လယ်သမားများက မြေရှင်ကြီးများနှင့် ဘာသာရေးအာဏာပိုင်တို့၏ ခေါင်းပုံဖြတ်မှု၊ မတရားငွေညှစ်မှုဒဏ်ကို အပြင်းအထန် ခံစားနေရကြသည်။ မြို့ပေါ်ရှိ အလုပ်သမားများကလည်း စက်ရုံပိုင်ရှင်တို့၏သွေးစုပ်မှုကို အလူးအလှိမ့်ခံနေကြရသည်။ ထိုအခြေအနေများကြောင့် လယ်သမားတို့သည် မာတင်လူသာ၏ သဘောတရားကိုခံယူကာ ပုန်ကန်ကြတော့သည်။ သို့သော် လက်နက်မပြည့်စုံသည့်အပြင် စည်းလုံးမှုလည်း မရှိသဖြင့် စစ်တပ်၏ဖြိုခွင်းမှုကို ခံခဲ့ရသည်။ သို့ရာတွင် ၎င်းတို့၏ ဘာသာရေးအစွဲအလမ်းအပေါ်၌ အခြေပြုသော ဘုံဝါဒဆန်ဆန်သဘောတရားများသည် လူ့အဖွဲ့အစည်းအတွင်း၌ အမြစ်စွဲကျန်ရစ်ခဲ့သည်။ ထိုအဖွဲ့အစုများကို 'အင်နာဘက်တစ်' ဟုခေါ်သည်။

နယ်သာလန်၌ ၎င်းအဖွဲ့အစည်းများ အများအပြားပေါ်ပေါက်ခဲ့သည်။ ၎င်းအဖွဲ့များ၏ ခံယူချက်များသည် ဘာသာရေးကို သွေဖည်သည့် 'တရားမဝင် ဖိ,မဆက်ဆံရေးပြုသည်' ဟူ၍ အာဏာပိုင်များ စွပ်စွဲကာ အဖွဲ့ဝင်များကို ဖမ်းဆီးနှိပ်ကွပ်ခဲ့သည်။ ၁၅၂၆ ခုနှစ်၌ ထိုအဖွဲ့ဝင်များသည် မိုရားဗီးယားနယ်ထဲသို့ အစုလိုက်အပြုံလိုက်ဝင်လာပြီး မြို့ရွာများ အခိုင်အခံ့တူထောင်နေကြရာ၊ နှစ်ပေါင်း ၁၀၀ ခန့်တိုင် သက်တမ်းရှည်ခဲ့သည်။ အင်နာဘက်တစ်များသည် စာပေကို မလိုလားကြပေ။ လက်မှုလုပ်ငန်းများကို အထူးအလေးပေးပြီး ပစ္စည်းကို ဘုံပိုင်အဖြစ် ထားသည်။ သီးသန့်မိသားစုစနစ်ကိုလည်း ပယ်ဖျက်ကာ အိမ်ထောင်စုအများအပြားကို တစ်စုတစ်ဖွဲ့တည်းဖြစ်အောင် စုပေါင်း၍

နေထိုင်ကြသည်။ အကြီးအကဲများက ထိမ်းမြားမင်္ဂလာ ပြုလုပ်စီစဉ်ပေးပြီး၊ မွေးလာသောကလေးငယ်ကို ငယ်စဉ်ကပင် မိဘနှင့်ခွဲ၍ ဘုံအဖွဲ့သို့ အပ်နှံရသည်။ အဖွဲ့က စည်းကမ်းသတ်မှတ်၍ မွေးမြူကြီးထွားစေသည်။ အကြီးအကဲများကိုလည်း ဒီမိုကရေစီနည်းအရ ရွေးကောက်တင်မြှောက်၍ အုပ်ချုပ်စေသည်။ ၎င်းတို့သည် စီးပွားရေး အထူးအောင်မြင်ခဲ့ကြသည်။

ဤ ဘုံဆန်သော ဘာသာရေးအဖွဲ့ဝင်များအနေဖြင့် အစိုးရများကို 'မရှိလျှင်မဖြစ်၍သာ လက်ခံထားရသော နတ်ဆိုး' ဟု သဘောထားကြသည်။ 'မိမိတို့၏ ယုံကြည်ချက်နှင့် မဆန့်ကျင်သေးသော အတိုင်းအတာအထိသာ အစိုးရအမိန့်ကို လက်ခံရမည်'ဟု ယူဆကြသည်၊ 'တရားရုံး၌ ကျမ်းကိုင်ခြင်း၊ အစိုးရရာထူးများ လက်ခံခြင်းတို့သည် ခရစ်ယာန်ဘာသာနှင့်ဆန့်ကျင်သည်' ဟုဆိုသည်။ ၎င်းတို့သည် စစ်ကိုမလိုလားသည့်အပြင်၊ လက်နက်ကိုပင် ကိုင်ဆောင်မှု မပြုကြပေ။ နောက်ဆုံး၌ သူတို့သည် လက်နက်ဖြင့်ပင် အကြမ်းဖက်ဖြိုခွဲမှုကို ခံခဲ့ကြရတော့သည်။ သို့သော် ၎င်းတို့၏အယူအဆများသည် ဥရောပတစ်ခွင်၌ အတန်အသင့်ကျန်ရစ်ခဲ့သည်။

၁၉၈၅ ခုနှစ် စက်တင်ဘာလ၌ ဖိလစ်ပိုင်နိုင်ငံတောင်ပိုင်း တောင်ပေါ်ကျေးရွာတွင်နေထိုင်သော တာတာ လူမျိုးစုအကြီးအကဲက 'ဘုရားသခင်နှင့် တွေ့ရမည်' ဟုပြောဆိုချက်အရ ပိုးသတ်ဆေးပါသော ယာဂုကိုသောက်၍ လူ ၇၀ မျှ အစုလိုက်အပြုံလိုက် သေပွဲဝင်ခဲ့ကြသော ဘာသာရေးအယူသည်းသမားများနှင့် ၁၉၇၉-၈၀ ပြည့်နှစ်ခန့်၌ အမေရိကန်ပြည်သွားလာရန် ခက်ခဲသောဒေသတစ်ခုတွင် အယူသည်းဘာသာရေးခေါင်းဆောင် ဂျင်ဂျုံး၏ ဦးဆောင်ချက်အရ လူပေါင်း ၉၀၀ ကျော် အဆိပ်သောက်၍ အစုလိုက်အပြုံလိုက် သေပွဲဝင်ခဲ့ကြသော ဘာသာရေး သမားတို့သည်လည်း ဤ အင်နာဘက်တစ် (ဘုံဝါဒဆန်သော) ဘာသာရေးအယူအဆ ရှိကြသူများဖြစ်သည်။

## ကာသိုလစ်ဘာသာ ပြုပြင်ပြောင်းလဲမှုများ

ပရိုတက်စတင့်ဂိုဏ်းကွဲများကြောင့် ကာသိုလစ်ဘာသာဝင်ဦးရေ ယုတ်လျော့ခဲ့သည့်နည်းတူ ပုပ်ဘုန်းကြီးနှင့် ကာသိုလစ်ဘုန်းကြီးများ၏ သြဇာအာဏာများလည်း ယုတ်လျော့ခဲ့သည်။ ယင်း ယုတ်လျော့မှုများကို ပြန်လည်ဆယ်တင်နိုင်ရန် ပုပ်ဘုန်းကြီးနှင့် ကာသိုလစ်ဘုန်းကြီးများ ကြံစည်ခဲ့ကြသည်။ ရှေးဦးစွာ ကာသိုလစ်ဂိုဏ်းတွင် ချို့ယွင်းနေသောအချက်များကိုပြုပြင်ရန်နှင့် နောက်ပိုင်းတွင် တော်လှန်သူများနှင့် သူတို့၏အယူဝါဒများကို တိုက်ဖျက်ရန် လိုသည်။ ထို့ကြောင့် ပုပ်နှင့် သူ၏ဘုန်းကြီးအဖွဲ့သည် အစည်းအဝေးပြုလုပ်ပြီး အသင်းတော်၏ ဖွဲ့စည်းအုပ်ချုပ်ပုံ စည်းမျဉ်းများကို ပြင်ဆင်ခြင်း၊ ဟောကြားလေ့ရှိသောတရားများကို ပြန်လည် စစ်ဆေးသုတ်သင်ခြင်းကို ဆောင်ရွက်ကြသည့်အပြင်၊ ကာသိုလစ်ဘုန်းကြီးအဖွဲ့အစည်းအတွင်း၌ ညစ်ညမ်းမှုများကို ပပျောက်အောင် ဆောင်ရွက်ကြသည်။ ဤသို့ဖြင့် ကာသိုလစ်ဘာသာရေးသည် အတော်ပင်သန့်ရှင်းလာပြီး ပရိုတက်စတင့်ခေါင်းဆောင်များနှင့် သူတို့၏ ဝါဒများကို နည်းအမျိုးမျိုးနှင့် တိုက်ဖျက်ခဲ့လေသည်။

ဤသို့တိုက်ဖျက်ရာတွင် စပိန် ပြည်သား သူကောင်းမျိုး 'လွိုင်အိုလား' ဆိုသူတည်ထောင်သော 'ဂျက်စွပ်' ခေါ် သခင်ယေရှုအသင်းတော်သည် ဘာသာရေး၊ ပညာရေး၊ နိုင်ငံရေးသင်တန်းများကို စည်းကမ်းတကျ သင်ကြားပေးခြင်း၊ ဆေးပညာသင်ပေးခြင်း၊ နိုင်ငံတကာသို့စေလွှတ်၍ ဘာသာပြန့်ပွားရေးဆောင်ရွက်ခြင်း၊ စာသင်ကျောင်းများ၊ ဆေးရုံများ ဖွင့်လှစ်တည်ထောင်ခြင်းများကို ပြုလုပ်သဖြင့် အချို့တိုင်းပြည်များတွင် ဂျက်စွပ်ကာသိုလစ် ဘုန်းကြီးများသည် မင်း၏ ကြည်ညိုလေးစားမှုကို ခံရသောကြောင့် သြဇာရှိလာကြသည်။

ဂျက်စွပ်ဘုန်းကြီးများသည် ပုပ်ဘုန်းကြီး၏အမိန့်ဩဇာကို တစ်သဝေမတိမ်းလိုက်နာဆောင်ရွက်ကြပြီး၊ 'ကာသိုလစ်ခရစ်ယာန်ဘာသာ တစ်ကမ္ဘာလုံးတွင် ထွန်းကားပြန့်ပွားအောင် ဆောင်ရွက်ပါမည်' ဟု သစ္စာပြုထားကြသူများ ဖြစ်သည်။ ထို့ကြောင့် ထိုဘုန်းကြီးများသည် ဥရောပဋ္ဌသာမဟုတ်၊ အာရှ, အာဖရိက, အမေရိကတိုက်များသို့လည်း အများအပြားသွားရောက်ကြ၍ ကာသိုလစ်ခရစ်ယာန်ဘာသာရေး ပြန့်ပွားအောင် ဆောင်ရွက်ခဲ့ကြသည်။ သူတို့ရောက်လေရာဒေသများတွင် စာသင်ကျောင်းများ ဖွင့်လှစ်တည်ထောင်ကြပြီး ကျောင်းသားသူငယ်များကို တဖြည်းဖြည်းသွေးဆောင်ကြသည်။ တောကြိုတောင်ကြားတွင် ဒုက္ခအဆင်းရဲခံပြီး ကိုယ်ကျိုးမငဲ့ကွက်ဘဲ သူတို့၏ဘာသာအတွက် ဖွဲ့,သတ္တိ,စေတနာနှင့် ဘာသာရေးတာဝန်ကိုထမ်းဆောင်ကြသော ဂျက်စွပ်ကာသိုလစ်ဘုန်းကြီးများကို ချီးမွမ်းထိုက်ပေတော့သည်။

# အခန်း ၁၁

## အစ္စလာမ်ဘာသာနှင့် အလ္လာဟ်ဘုရား

### မိုဟာမက်ကို မွေးဖွားခြင်း

အာရှနှင့် အာဖရိကတိုက်ကြားရှိ အာရေဗီးယားကျွန်းဆွယ်၌ အခြေစိုက်နေထိုင်ကြသော ဆေးမီးတအနွယ် ဘေဒိုးအင်လူမျိုးများသည် ဒေသကြမ်းသည့်အလျောက် စိတ်လည်း ကြမ်းကြသည်။ ထွားလည်း ထွားကျိုင်းကြသည်။ ၎င်းတို့နေသော အာရေဗီးယားကျွန်းဆွယ်ကိုအစွဲပြု၍ ၎င်းတို့ကို 'အာရပ်' ဟုခေါ်ကြသည်။ မက္ကာမြို့တွင် 'ကအာဗာ' အမည်ရှိသောဘုရားကျောင်း ရှိသည်။ ၎င်းတွင် ရုပ်တုပေါင်း ၃၆၀ ရှိသော်လည်း၊ အာရပ်တို့သည် ကျောက်နက်တုံးကိုသာ ကိုးကွယ်နေကြသောသူများ ဖြစ်ကြသည်။ 'ကအာဗာ' ဟူသည် ကျောက်နက်တုံး ဖြစ်သည်။ ယင်းကို ကမ္ဘာဦးလူ တမန်တော်အာဒမ်က ကောင်းကင်ဘုံမှယူခဲ့ပြီးလျှင် ဤ မက္ကာမြို့ဖြစ်လာမည့်နေရာ၌ ကျောင်းဆောက်ကာ သိမ်းဆည်းထားခဲ့ခြင်းဖြစ်သည် ဟုဆိုသည်။ မက္ကာသို့ ကမ္ဘာ့နိုင်ငံအနှံ့အပြားမှ ဘုရားဖူးသွားကြသူများသည် ဤကျောက်နက်တုံးကို ဖူးမြော်ရန် သွားကြခြင်းဖြစ်သည်။

အမှန်မှာ အာရေဗျနိုင်ငံ မက္ကာမြို့သည် တမန်တော်မိုဟာမက်မပေါ်မီ အေဒီ ၆ ရာစု အစပိုင်းကတည်းက လူများ သွားလာစည်ကားလျက်ရှိသည်။ ယင်းစည်ကားမှုကား ဘာသာရေးအရမဟုတ်ဘဲ၊ တောင်ဘက်, အရှေ့ဘက်၌ အိန္ဒိယနှင့် ပါရှား၊ မြောက်ဘက်၌ ဆီးရီးယား၊ အနောက်မြောက်ဘက်တွင် အီဂျစ်နိုင်ငံများရှိရာ ကုန်သွယ်ရေးလမ်းကြောင်းဗဟို၌တည်ရှိ၍ စီးပွားရေးအရအချက်အချာကျသောကြောင့် စည်ကားနေခြင်း ဖြစ်နိုင်သည်။ နိုင်ငံရပ်ခြားစီးပွားရေးသမားများသည် ဘာသာရေးသမားများစုဝေးရာဖြစ်သော ကအာဗာ ဝတ်ကျောင်းတော်နှင့် အစ္စမေးလ်၏ ရေကြည်တော်တွင်းတို့၌ လူစည်ကားနေသည်ကို တွေ့ရသောအခါ စီးပွားရေးလာဘ်မြင်သူများ ဖြစ်ကြသည့်အတိုင်း စီးပွားရေးအမြတ် ထုတ်လာကြတော့သည်။ ထို့ကြောင့် မက္ကာသည် ဈေးမြို့ဖြစ်လာရုံမျှမက၊ ကအာဗာဝတ်ကျောင်းတော်တစ်ဝိုက်သည်လည်း ဈေးရပ်ကွက်သဖွယ် ဖြစ်လာရသည် ဟုဆိုသည်။ ဤလူမျိုးစုံသောနေရာ၌ ကောင်းမှုပြုသူ, မကောင်းမှုပြုသူများ စုံလင်ကြသည့်နည်းတူ ကိုးကွယ်မှုမျိုးစုံလာကာ ကိုးကွယ်စရာရုပ်တုလည်း များပြားလာခြင်းဖြစ်သည်ဟု ယူဆရပေသည်။ ထို့ကြောင့် ကအာဗာဝတ်ကျောင်းတွင် ရုပ်တုပေါင်း ၃၆၀ ခန့် ရှိရခြင်း ဖြစ်သည်။

ယင်း မက္ကာမြို့၌ 'ကူရာ'ရှိမည်သော အာရပ်မျိုးနွယ်တစ်ရပ်က ကြီးစိုးနေကြသည်။ ဘုရားဖူးများအား အခွန်စည်းကြပ်၍ စီးပွားရှာလျက် ရှိကြသည်။ ၎င်းမျိုးနွယ်တွင် ဘုရားဖူးများကို ရေရောင်းချ၍ စီးပွားရှာနေသော 'အာနုဟာတ်' မည်သောအိမ်ထောင်စုလည်း ပါဝင်သည်။ ယင်းအိမ်ထောင်စုမှ အေဒီ ၅၇၀ ဧပြီ ၂၀ ရက် တနင်္လာနေ့တွင် မိုဟာမက်ကို ဖွားမြင်ခဲ့သည်။ အမည်ရင်းမှာ 'ကူတမ်'ဖြစ်ပြီး၊ နောင်တွင် လူအများက သူ့အား 'ချီးကျူးခြင်းခံရသူ' ဟု အဓိပ္ပာယ်ရှိသော 'မိုဟာမက်'အမည်ဖြင့် ခေါ်ဝေါ်ခဲ့ကြသည်။ သူ၏မိခင်မှာ အာမေနတ်, ဖခင်မှာ အဗ္ဗဒူလာ ဖြစ်သည်။ ဖခင်သည် မိုဟာမက်မမွေးခင်ကလေးတင် ကွယ်လွန်၍၊ မိခင်မှာ မိုဟာမက် ၆

နှစ်အရွယ်တွင် ကွယ်လွန်ခဲ့သည်။ ၈ နှစ်အရွယ်တွင် ဘိုးတော် ကွယ်လွန်ပြန်သဖြင့် ဘထွေးတော် အဘူကာလစ်က မွေးစားခဲ့ရသည်။ မိုဟာမက်သည် ငယ်စဉ်ကပင် မိဘမဲ့ဖြစ်ခဲ့သဖြင့် ဆွေမျိုးတို့၏ သိုး၊ ဆိတ်၊ ကုလားအုတ်များကို ထိန်းကျောင်းရင်း အတန်ငယ်အရွယ်ရောက်လာသောအခါ ယီမင်နှင့် ဆီးရီးယားသို့ ကုန်ကူးသွားသမားများ၏ကုလားအုတ်ကိုမောင်းသူ(လမ်းပြသူ)အဖြစ် လိုက်ပါလေ့ရှိသည်။ အချို့က မိုဟာမက်သည် ဆီးရီးယား၊ အီဂျစ်၊ ပါလက်စတိုင်း စသောနိုင်ငံများသို့ သွားရောက်ရပြီး၊ ဂျူး၊ ခရစ်ယာန်၊ ဇိုရိုအက်စတာ ဘာသာဝင်များနှင့် နီးနှောဆွေးနွေးခဲ့ရသဖြင့် ၎င်းတို့၏အယူဝါဒများကို သိရှိနားလည်ခဲ့ရသည် ဟုဆိုသည်။ အရွယ်ရောက်သောအခါ ကလေး ၃ ယောက်မိခင် 'ကာဒီဂျာ'အမည်ရှိသော ချမ်းသာသောမုဆိုးမတစ်ဦးထံ၌ အခစား (ကိုယ်စားလှယ်အဖြစ်) လုပ်ကိုင်ရင်း၊ ၎င်း ကာဒီဂျာနှင့် အိမ်ထောင်ကျခဲ့သည်။ အိမ်ထောင်ကျချိန်၌ ကာဒီဂျာမှာ အသက် ၅၀ နှစ်ရှိပြီး၊ မိုဟာမက်မှာ အသက် ၂၅ နှစ်သာ ရှိသေးသည်။

## တရား စတင်ဟောခြင်း

မိုဟာမက်သည် အိမ်ထောင်ကျပြီးနောက် ၁၅ နှစ်တိုင်တိုင် စီးပွားရေးလုပ်ငန်းကို လုပ်ကိုင်ခဲ့သည်။ ထို့နောက် တိတ်ဆိတ်သော ဟီရာတောင်ကုန်းရှိဂူများသို့ သွားရောက်ဂူအောင်းပြီး ဘာသာတရားကို ဆင်ခြင်ခဲ့သည်။ အထူးသဖြင့် မက္ကာ၏ လက်ရှိဘာသာရေးအခြေအနေကို ဘဝင်မကျသဖြင့်၊ ဘာသာရေးတိုးတက်ကောင်းမွန်ရေးကို ပြုပြင်ပေးနိုင်သည့်နည်းလမ်းအား အပြန်အပြန်အလှန်အလှန်ဆင်ခြင်သုံးသပ်ခဲ့သည်။

တစ်ညတွင် ကောင်းကင်တမန် ဂေဗရိယယ် (ဂါဗြေလ) သူ့ရှေ့၌ပေါ်လာပြီးလျှင် ဘုရားသခင်ဗျာဒိတ်တော်ကိုပေး၍ အဖတ်ခိုင်းခဲ့သည် ဟုဆိုသည်။ ထိုနေ့ကား မိုဟာမက် အသက် ၄၀ စေ့၍ တစ်ရက်အလွန်၊ ရန့်မဇန်လ ၂ ရက် သောကြာနေ့သာ ဖြစ်သည်။ သူသည် အိမ်သို့ချက်ချင်းပြန်လာကာ ဇနီးကာဒီဂျာအားပြောပြရာ၊ ကာဒီဂျာက အကြွင်းမဲ့ယုံကြည်သည် ဟုဆိုသည်။

မိုဟာမက်သည် ထိုအချိန်မှစ၍ မိမိကိုယ်ကို ဘုရားသခင်၏အလိုတော်ကို ဖော်ပြနိုင်သော တမန်တော်အဖြစ် ယုံကြည်ယူဆကာ၊ အသက် ၄၀ အရွယ် (အေဒီ ၆၁၀ ပြည့်)၌ သူ့မိသားစုနှင့်ဆွေမျိုးများကို တရား စတင်ဟောခဲ့သည်။ သူ၏ဇနီး ကာဒီဂျာ၊ မွေးစားသား အလီ၊ မိတ်ဆွေ အဘူဘာကာရ်နှင့် 'ဇိဒ်' အမည်ရှိ ကျွန်တို့က ရှေးဦးစွာယုံကြည်လာကြသည် ဟုဆိုသည်။ နောက်ပိုင်း၌ မိုဟာမက်သည် ကအာဗာဘုရားဝတ်ကျောင်းတော်သို့ သွား၍ ဘုရားဖူးများအား တရားဟောသည်။ သူက အလ္လာဟ်အရှင်မြတ်မှတစ်ပါး ဘုရားမရှိ။ မိုဟာမက်သည် အလ္လာအရှင်မြတ်၏တမန်တော်ဖြစ်သည် ဟုဟောပြောခဲ့သည်။ လူများသည် ၎င်း၏တရားကို မယုံကြည်သည့်အပြင် ပြောင်လှောင်ပြက်ရယ်ပြုခဲ့ကြသည်။

## မိုဟာမက် ဟောပြောချက်များ

မိုဟာမက်က ဘုရား တစ်ဆူတည်းသာ ရှိသည်။ ထိုဘုရားသည် 'အလ္လာဟ်' ဟူသော ကောင်းကင်ဘုံမှ ဘုရားပင် ဖြစ်သည်။

'ထိုဘုရားသည်ပင် လူသားနှင့် အရာအားလုံးကို ဖန်ဆင်းသည်။ ထိုဘုရားသည်ပင် လူသားကို တရားစီရင်မည့်တန်ခိုးရှင် ဖြစ်သည်။ ရုပ်တုနှင့် ဝတ္ထုကိုးကွယ်မှုသည် မှားယွင်းသည်။ သေလွန်ချိန်၌ ဘုရားသခင်အဆုံးအဖြတ်အတိုင်း ကောင်းကျိုး၊မကောင်းကျိုးအရ 'ပရစ်စ်ထား' ခေါ် ကောင်းကင်ဘုံနှင့် ငရဲဘုံသို့ ရောက်မည်' ဟု ဟောပြောသည်။

## 'အီမန်' ခေါ် ယုံကြည်ချက် ၅ ချက်

အစ္စလာမ်ဘာသာတွင် အီမန်ယုံကြည်မှုရှိသူကိုမှ 'မွတ်စလင်' ခေါ်သည်။ အီမန်နှင့် မွတ်စလင်သည် အတူတူပင်ဖြစ်သည် ဟုဆိုသည်။

ပဓာနအားဖြင့် ယုံကြည်ရသောအချက်ကြီးများမှာ-

၁- ကမ္ဘာကိုဖန်ဆင်းအုပ်စိုးသော အလ္လာဟ်အရှင်မြတ်ကို ယုံကြည်ရမည်။

၂- အလ္လာဟ်အမိန့်အတိုင်းဆောင်ရွက်ရသော ကောင်းကင်တမန်တော်များကို ယုံကြည်ရမည်။

၃- တမန်တော်ကြီး၊တမန်တော်လေးများကို ယုံကြည်ရမည်။ တမန်တော်ကြီးများမှာ အာဒမ်၊ နောဧ၊ အေဗရာဟင်၊ မိုးဇက်၊ ယေရှု တို့ဖြစ်ကြသည်။ မိုဟာမက်မှာ အကြီးဆုံးတမန်တော် ဖြစ်သည်။

၄- တရားဆုံးဖြတ်မှုကို ယုံကြည်ရမည်။ တရားဆုံးဖြတ်ရမည့်နေ့တွင် လူသားအားလုံး သေရာမှ ပြန်ရှင်လာကြပြီး အလ္လာဟ်အရှင်မြတ်အထံ၌ တရားအဆုံးဖြတ် ခံရမည်။

၅- တစ်လောကလုံး ဖြစ်ပျက်သမျှသည် အလ္လာဟ်အရှင်မြတ်၏အလိုတော်အတိုင်းသာ ဖြစ်ပျက်နေခြင်းဖြစ်သည်။ [အချို့က ယုံကြည်ချက် ၇ ချက်ပြပြီး၊ အမှတ် ၁- ၂- ၃- ၄ အထိမှာ အထက်ဖော်ပြပါ ၁- ၂- ၃- ၄ တို့နှင့်တူပြီး၊ အောက်ပါအတိုင်း ၅- ၆- ၇ ဟု ဖြည့်သည်။]

၅- အလ္လာဟ်အရှင်၏ ကျမ်းတော်များကို ယုံကြည်ရမည်။

၆- တမလွန်ဘဝကို ယုံကြည်ရမည်။

၇- ကောင်းမှု၊မကောင်းမှုတို့သည် အလ္လာဟ်အရှင်မှ ကျလာသည်ဟု ယုံကြည်ရမည်ဖြစ်ကြောင်း ၇ ချက် ဖော်ပြကြသည်။

## တမန်တော်အင်္ဂါ ၇ ချက်

တမန်တော်များနှင့် ပတ်သက်၍ တမန်တော်များပြည့်စုံရသည့် အင်္ဂါ ၇ ချက်ကိုလည်း ဖော်ပြထားသည်။ ၎င်းတို့မှာ-

၁- ဘာသာဝင်များ၏ မိုနိုရာဖြစ်ခြင်း၊

၂- အလ္လာဟ်အရှင်၏အရေးကိုသာ ဦးစားပေးခြင်း၊

၃- ဆက်သွယ်မှုရှိခြင်း၊

၄- တရားမျှတခြင်း၊

၅- အပြစ်ကင်းခြင်း၊

၆- အသိပညာနှင့် ပြည့်စုံခြင်း၊

၇- တမန်တော်အဖြစ်မှ ဆုတ်ယုတ်လျော့ကျမှုမရှိခြင်း တို့ဖြစ်သည်။

တစ်ဖန် တမန်တော်တို့တွင် 'ကျမ်းဆောင်'နှင့် 'ကျမ်းမဆောင်' ဟူ၍ ၂ မျိုးရှိပြီး ရှရီအတ် တရားတော်အသစ်ကို ဆောင်ယူလာသောတမန်တော်ကို ရစူလ်တမန်တော်။ ယခင်ရှိပြီးသော တရားတော်ကိုပင် လူများလိုက်နာရန် တိုက်တွန်းနှိုးဆော်သော တမန်တော်ကို နဗီတမန်တော် ဟုခေါ်သည်။ ၎င်း ၂ မျိုး ကွဲပြားမှုမရှိ အတူတူပင်ဖြစ်သည်။ တစ်မျိုးမျိုးကို မယုံက ၂ မျိုးလုံးကို မယုံသည်ပင် မည်သည်။

ပေါ်ပေါက်ခဲ့ပြီးသော တမန်တော်အရေအတွက်ကို အတိအကျ မသိရသော်လည်း၊ ၁ သိန်း ၂ သောင်း ၄ ထောင်ကျော် ရှိသည် ဟုဆိုသည်။ ၎င်းတို့အနက် ၃၁၃ သို့မဟုတ် ၃၁၅ ဦးတို့မှာ ရစူလ်တမန်တော်များဖြစ်၍ ၎င်းတို့အနက် 'အမြင့်မြတ်ဆုံးတမန်တော် ၆ ဦးမှာ အာဒမ်၊ နောဧ၊ အီဗရာဟင်၊ မူစာ(မောရှေ)၊ အီစာ(ယေရှု)၊ မိုဟာမက်တို့ ဖြစ်သည်' ဟုဆို၏။

## မဒီနာသို့ ထွက်ခွာခြင်း

တမန်တော် မိုဟာမက်သည် မက္ကာမြို့၌ မိမိ၏တရားကို စတင်ဟောပြောသောအခါ မိုဟာမက် ဟောပြောချက်ကို မက္ကာမြို့သားများက မယုံသည့်အပြင် ပြောင်လှောင်ပြက်ရယ် ပြုခဲ့ကြသည်။ ထို့ကြောင့် ကာဒီဂျာ ကွယ်လွန်ပြီးနောက် မိုဟာမက်သည် မက္ကာမြို့မှ မိုင် ၂၇၀ ဝေးသော မဒီနာမြို့သို့ အေဒီ ၆၂၂ ၌ တိမ်းရှောင်ခဲ့သည်။ အဆိုတစ်ရပ်အရ မိုဟာမက်က 'မိမိသည် ကောင်းကင်ဘုံရှင် ဘုရားသခင် တမန်တော်ဖြစ်သည်' ဟု ကြေညာသောအခါ မက္ကာမြို့သားတို့က သူ့အား 'စိတ်မနှံ့သူ အရူး' ဟု ထင်မှတ်ကြသည်။ သို့သော် မိုဟာမက်ဟောပြောချက်များကို လက်ခံယုံကြည်သူဦးရေက တစ်နေ့တခြား တိုးတက်များပြားလာသောအခါ မက္ကာမြို့အာဏာပိုင်တို့က ထိတ်လန့်လာကြသည်။ ၎င်းအပြင် မိုဟာမက်၏ ဟောပြောမှုများသည် ရုပ်တုကိုးကွယ်မှုကို ဆန့်ကျင်နေသဖြင့် လက်ရှိဘာသာရေးအာဏာပိုင်တို့က မခံမရပ်နိုင်ဖြစ်ကြပြီး မိုဟာမက်နှင့် အဖွဲ့ဝင်များအား သပိတ်မှောက်ခြင်း၊ ၎င်းတို့၏ပစ္စည်းကိုသိမ်းခြင်း ပြုသည့်အပြင် မိုဟာမက်အား သေဒဏ်ပေးရန် ကြေညာခဲ့သည်။ ထို့ကြောင့် မိုဟာမက်နှင့် နောက်လိုက်များစွာတို့သည် အေဒီ ၆၂၂ ၌ မဒီနာမြို့သို့ ထွက်ခွာခဲ့ကြရသည် ဟုဆိုသည်။

နောက်အဆိုတစ်ရပ်ကမူ 'တမန်တော်မိုဟာမက်သည် ရုပ်တုဆန့်ကျင်ရေးတရား၊ လောင်းကစား ဆန့်ကျင်ရေးတရားများကို ဟောသည့်အပြင်၊ ကအာဗာ ဝတ်ကျောင်းအတွင်း၌ အစ္စမေးလ် ရေကြည်တော်တွင်းကိုမှီ၍ စီးပွားရှာသမားများ၏ မှုမမှန်လုပ်ရပ်များကိုပါ ပုတ်ခတ်ထိပါး ဟောကြားလာသောကြောင့် အထိပါးခံရသူများက တမန်တော်ကိုသတ်ရန် စီစဉ်ကြံစည်ကြသည်။ တမန်တော်ကြိုတင်သိသဖြင့် သတ်မည့်ညတွင် ကုလားအုတ်စီးပြီး နောက်ပါအချို့နှင့် ယသရစ်မြို့သို့ ပြောင်းရွှေ့လွတ်မြောက်ခဲ့ကြောင်း။ ယသရစ်မြို့ကိုလည်း 'မဒီနတ် အယ်နဗီ' (တမန်တော်၏မြို့တော်) ဟု အမည်ပြောင်းခဲ့ပြီး၊ နောက်ပိုင်းတွင် 'မဒီနာ' ဟုခေါ်ခဲ့ကြကြောင်း။ ယင်းသို့ ထွက်ခွာလာသောနှစ်မှာ အေဒီ ၆၂၂ ဖြစ်ပြီး၊ တမန်တော်အသက်မှာ ၅၃ နှစ်ဖြစ်ကြောင်း' ဆိုသည်။

မွတ်စလင်များ၏အဆိုအရမူ 'မွတ်စလင်များကိုဆန့်ကျင်သူများက သဲကန္တာရ၌ နာရီပေါင်းများစွာ ထားခြင်း၊ သံတွေခဲဖြင့် တို့ခြင်း၊ ခြေကျင်းခတ်၍ အကျဉ်းချခြင်း စသည်ဖြင့် ညှဉ်းပန်းခဲ့ကြသည်။ နောက်ဆုံး၌ မွတ်စလင်များသည် တမန်တော်၏တိုက်တွန်းချက်အရ 'အဘီးဆီးနီးယား' ခေါ် အီသီယိုပီးယားသို့ ထွက်ခဲ့ကြသည်။ သို့ရာတွင် ကျန်သူများကား နှိပ်စက်ခံရဆဲပင် ဖြစ်သည်။ တမန်တော်အား သေဒဏ်ပေးရန်တောင်းဆိုလာကြရာ မရသဖြင့် တမန်တော်ဆွေမျိုးစုအား သပိတ်မှောက်ကြပြန်သည်။ ဤဆင်းရဲဒဏ်ကို ၃ နှစ်ခန့် ခံစားရပြီးနောက် တမန်တော်၏ ဇနီးကာဒီဂျာနှင့် ဘထွေးတော်တို့ သေဆုံးခဲ့သည်။ ထိုအတွင်း 'တမန်တော်သည် ကောင်းကင်ဘုံသွား၍ အလ္လာဟ်အရှင်နှင့် တွေ့ခဲ့ရသည်' ဟူသောသတင်းကြောင့် မယုံကြည်သူများက ပို၍ရန်ရှာလာကြသည်။ ထိုကာလအတွင်း မက္ကာမြို့သို့ ဟာဂျ်ပြုလုပ်သော ယသရစ်မြို့သား ၁၂ ဦးတို့ အစ္စလာမ်ဘာသာ ကူးပြောင်းလာပြီး၊ နောက် ၁ နှစ်တွင် ၇၄ ဦး ဖြစ်လာ၍ တမန်တော်အား ယသရစ်မြို့သို့ လာရောက်နေထိုင်ကြရန် တောင်းဆိုကြသည်။ ထို့ကြောင့် မွတ်စလင်များသည် အဖွဲ့ငယ်များဖွဲ့၍ ယသရစ်မြို့သို့ လျှို့ဝှက်ထွက်ခွာသွားကြသည်။ မကြာမီ ဆန့်ကျင်သူများက ညတစ်ည၌ တမန်တော်အားသတ်ရန်စီစဉ်နေစဉ် ၎င်းအချိန်မတိုင်မီ တမန်တော်သည် လျှို့ဝှက်စွာ

မက္ကာမှထွက်ခွာသွားခဲ့သည်။ ၄င်းနေ့ကား အေဒီ ၆၂၃ စက်တင်ဘာ ၁၃ ရက် ကြာသပတေးနေ့ ဖြစ်သည်။ နောင် သစ္စာရှိမိတ်ဆွေ အဘူဘာကာရ်ကိုခေါ်၍ သူ၏ကုလားအုတ်ဖြင့် စတုတ္ထနေ့၌ ၄င်းတို့ ၂ ဦးတို့သည် ယသရစ်မြို့သို့ ထွက်ခွာခဲ့ကြသည်’ ဟုဆိုသည်။

ယသရစ် (မဒီနာ) မြို့သားများက မိုဟာမက်ကို ကောင်းစွာကြိုဆိုကြသည်။ မိုဟာမက် ဟောပြောမှုကိုလည်း လက်ခံကြသည်။ မိုဟာမက်ဟောပြောချက် ယုံကြည်သူများကို ‘မဟာမေဒင်’ သို့မဟုတ် ‘မွတ်စလင်’ ဟု ခေါ် သကဲ့သို့ နေ, လ, ကြယ်တာရာ စသည်တို့ကိုလည်း အလ္လာဟ်အရှင်၏ဖန်ဆင်းမှုကို နာခံရသောကြောင့် ‘မွတ်စလင်’ ဟုပင်ခေါ်ပြီး၊ ဘာသာကို ‘အစ္စလာမ်ဘာသာ’ ဟုခေါ်သည် ဟုဆိုသည်။

‘အစ္စလာမ်’ ဟူသော အာရပ်ဝေါဟာရ၏အဓိပ္ပာယ်ကား ‘ဘုရားသခင်မအား နာခံခြင်း, ကျိုးနွံခြင်း, မာန်လျှော့ခြင်း, ခိုလှုံခြင်း’ ဟူ၍ ဖြစ်သည်။

နောက်ဆုံးအဆိုတစ်ရပ်ကမူ ဘာသာကို ‘အစ္စလာမ်’ ဟူ၍ လည်းကောင်း, မိုဟာမက်တည်ထောင်သော ဘာသာဖြစ်၍ ‘မဟာမေဒင်’ဘာသာ ဟူ၍လည်းကောင်းခေါ်၍၊ ၄င်းဘာသာကိုးကွယ်သူများကို ‘မွတ်စလင်’ ခေါ်ကြောင်း ဟူ၍လည်း ဆိုကြသည်။

အမှန်မှာ အစ္စလာမ်ဘာသာသည် ဂျူး၊ သို့မဟုတ် ခရစ်ယာန်ဘာသာမှဖြာထွက်လာသော ဘာသာပင် ဖြစ်သည်။ အနောက်နိုင်ငံမှ သမိုင်းဆရာတစ်ဦးရေးပြီး မြန်မာဘာသာပြန်ထားသော ‘တော်လှန်သောအတွေးအခေါ်’ စာအုပ်တွင်မူ ‘ခရစ်ယာန်ဘာသာမှ ဖြာထွက်လာသည်’ ဟုဖော်ပြထားသည်ကို တွေ့ရှိရသည်။

ကိုရမ်ကျမ်းပေါက် ဗလီဆရာတစ်ဦးက ‘မိုဟာမက်၏ဦးလေးတစ်ဦးမှာ ခရစ်ယာန်တရားဟောဆရာဖြစ်ကြောင်း’ ပြောပါသည်။

မဟာမေဒင်များသည် ဗလီများကိုပါတည်ဆောက်၍ ဝတ်ပြုကြသည်။ မဟာမေဒင်ဘာသာ ခုနှစ်ကိုလည်း မိုဟာမက် ထွက်ခွာတိမ်းရှောင်လာခဲ့သောနေ့ကို အစပြု၍ ရေတွက်ခဲ့ကြသည်။ ထို့ကြောင့် ၆၂၂ မှစ၍ ဟိဂျရစ်နှစ် အရ ၁ နှစ် ဟု ရေတွက်လာကြသည်။ မိုဟာမက် တိမ်းရှောင်လာသောနေ့ကို ‘ဟာဂျီယာ’ဟု မဟာမေဒင်တို့က ခေါ်ကြသည်။

မိုဟာမက်သည် ပထမ မိမိ၏တရားကို အေးချမ်းစွာဟောပြောခဲ့သည်။ နောက်လိုက်များလာသောအခါ မဒီနာမြို့ကို အုပ်စိုးလာနိုင်သည်။ အေဒီ ၆၃၀ ၌ မက္ကာမြို့ကို ချီတက်သိမ်းပိုက်ခဲ့ကြသည်။ မိုဟာမက်သည် ဘာသာရေးခေါင်းဆောင်တစ်ဦး ဖြစ်သည်သာမက၊ စစ်သူကြီး, နိုင်ငံပြုသူခမိန်လည်း ဖြစ်သည်။ အင်ပါယာ တည်ဆောက်ခဲ့သူလည်း ဖြစ်သည်။ သူ၏ နောက်လိုက်များကိုလည်း အစ္စလာမ်ဘာသာဖြန့်ချိရန် ဩဝါဒပေးခဲ့သည် ဟု ဆိုသည်။

အဆိုတစ်ရပ်ကမူ ‘မဒီနာမြို့၌ မိုဟာမက်၏တရားကို လူအများအပြား လက်ခံကြသော်လည်း၊ ဂျူးများက လက်မခံကြကြောင်း။ မဒီနာမြို့သားများကလည်း တမန်တော်ကို အကြီးအကဲမြှောက်ခဲ့ကြောင်း။ မက္ကာမှ ရန်သူတို့ ကလည်း တမန်တော်ကို မဒီနာအထိ လိုက်သတ်ရန် စီစဉ်သောကြောင့် တမန်တော်က စစ်တပ်ဖွဲ့၍ ပြန်လည် တိုက်ခိုက်ခဲ့ရကြောင်း၊ အေဒီ ၆၃၀ ဟိဂျရစ် (အစ္စလာမ်နှစ်) ၈ နှစ်၌ မိုဟာမက်သည် တပ်သား ၁ သောင်းပါ တပ်မဖြင့် မက္ကာသို့ချီတက်သွားရာ မက္ကာမြို့သားတို့ ကြောက်လန့်၍ထွက်ပြေးကြပြီး တမန်တော်သည် မည်သူကိုမျှ ရန်မပြုဘဲ ကအာဗာဝတ်ကျောင်းသို့သွားကာ ၃၆၀ သောရုပ်တုတို့ကိုဖျက်ဆီး၍ အေးဆေးစွာ ဝတ်ပြုနေခဲ့ကြောင်း’ ဆိုသည်။

အေဒီ ၆၃၂ (အချို့အဆို အေစီ ၆၃၁)၌ မိုဟာမက်ကွယ်လွန်သောအခါ ဆက်ခံသူတပည့် အဘူဘာကာရ်က မိုဟာမက်ဟောပြောချက်များကိုစုစည်း၍ ကျမ်းတစ်ကျမ်း ပြုခဲ့သည်။ အဆိုတစ်ရပ်ကမူ မိုဟာမက်သည် စာရေး စာဖတ်မတတ်သော်လည်း ကောင်းကင်တမန် ဂေဗရီယယ် လာရောက် ပြောကြားသောတရားတော်များကို တစ်ဆင့် ပြောပြ၍ တပည့်များကို ရေးသားစေခဲ့ကြောင်း။ သူကွယ်လွန်သောအခါ မူကွဲများရှိလာသဖြင့် ဆက်ခံသူ အဘူ ဘာကာရ်က တစ်မူတည်းဖြစ်အောင် ရေးသားစေခဲ့ကြောင်း ဆိုသည်။ ၎င်းကျမ်းကို 'ကိုရမ်ကျမ်း' ဟုခေါ်သည်။ 'ကိုရမ်' ဟူသောအဓိပ္ပာယ်မှာ 'ရွတ်ဖတ်ခြင်း၊ ဖတ်ရှုသင့်သောအရာ' ဟုအဓိပ္ပာယ်ရသည်။ ရွတ်ဆိုရန် ဟောကြား ချက်များပါသည့်ကျမ်း ဖြစ်သည် ဟုဆိုလိုသည်။ ကိုရမ်ကျမ်းသည် ခရစ်ယာန်တို့၏သမ္မာကျမ်းစာလောက်ပင် ရှည်လျားပြီး၊ အုပ်ရေအားဖြင့် ပထမအုပ်၊ ဒုတိယအုပ် ခွဲခြားထားသည်။

### အစ္စလာမ်ဘာသာကျင့်ဝတ်နှင့် ပညတ်ချက်များ

ကိုရမ်ကျမ်းစာအုပ်တွင် မက္ကာ၌နေစဉ်ဟောကြားသော အခန်း ၉၂ ခန်းနှင့် မဒီနာ၌နေစဉ် ဟောသော အခန်း ၂၂ ခန်း စုစုပေါင်း ၁၁၄ ခန်း ခွဲထားပြီး၊ ပိုဒ်ပေါင်း ၆,၂၄၀ ရှိသည်။ ဤကျမ်းတွင် မိုဟာမက်၏ဟောပြော ချက်များ၊ ဘုရားရှိခိုးခန်းများ၊ စကားပုံများ ပါဝင်သည့်အပြင်၊ သမ္မာကျမ်းစာဟောင်းပါပုဂ္ဂိုလ်များနှင့် မိုဟာမက်၏ ဘဝကြေးမုံလည်း ပါဝင်သည်။ အဓိကအားဖြင့် ကိုရမ်ကျမ်းပါ ဝါဒရေးရာနှင့် ဥပဒေသများမှာလည်း ဂျူးနှင့် ခရစ်ယာန်ဘာသာကျမ်းများလာ အချက်အလက်များပင် ဖြစ်သည်။

အချုပ်အားဖြင့် ဂျူးဘာသာအယူအဆများကို ခရစ်ယာန်ရော အစ္စလာမ်ဘာသာပါ ယူငင်ထားခြင်း ဖြစ်သည်။ သို့ရာတွင် ခရစ်ယာန်များက သခင်ယေရှု ဟောကြားသောဓမ္မသစ်များကို အဓိကထားခဲ့သော်လည်း၊ အစ္စလာမ်များ ကမူ ဂျူးဓမ္မဟောင်းနှင့် မိုဟာမက်ဟောသောဓမ္မသစ် ၂ မျိုးစလုံးကို အဓိကထားခဲ့ကြသည်။

၎င်းအပြင် ကိုရမ်ကျမ်းစာတွင် ဘာသာဝင်တိုင်းလိုက်နာရမည့်စည်းမျဉ်းများကိုလည်း သတ်မှတ်ပေးထား သည်။ အစ္စလာမ်ဘာသာဝင်များသည် ရုပ်တု မကိုးကွယ်ရ။ အရက်သေရည်နှင့် ဝက်သားကို ရှောင်ရမည်။ မိဘများကို ရိုသေရမည်၊ ဆင်းရဲသားများအား ပေးကမ်းစွန့်ကြဲရမည်။ မုဆိုးမများနှင့် မိဘမဲ့ကလေးများကို ထိန်းသိမ်းစောင့်ရှောက်ရမည်။ သို့သော် အစ္စလာမ်ဘာသာဝင် ၁ ဦးအား ဇနီး ၄ ယောက်အထိ ယူခွင့်ပေးထားသည်။

ကိုရမ်ကျမ်းစာအရ အစ္စလာမ်ဘာသာဝင်တစ်ဦးသည် အောက်ပါပညတ်ချက်များကို တိကျစွာလိုက်နာရမည်-

၁- 'အလ္လာဟ်သည် ၁ ဆူတည်းသောဘုရားသခင် ဖြစ်သည်။ ထိုဘုရားသခင်၏ တမန်တော်သည် မိုဟာမက် ဖြစ်သည်' ဟူ၍ နေ့စဉ်ရွတ်ဆိုရမည်။

၂- တစ်နေ့လျှင် ၅ ကြိမ်ကျ ဝတ်ပြုရမည်။

၃- ရန်မဇန်ရက်အတွင်း ရန်မဇန်ကျင့်ဝတ် ပြုကျင့်သောအခါ နေထွက်မှ နေဝင်သည်အထိ လုံးဝ စားသောက် ခြင်း မပြုရချေ။ (ရန်မဇန်လတွင် နေ့အခါအစာရှောင်ခြင်းကို ဆိုလိုသည်။)

၄- ဆင်းရဲနွမ်းပါးသူတို့အား ပေးကမ်းစွန့်ကြဲရမည်။

၅- အစ္စလာမ်ဘာသာဝင်တစ်ဦးသည် မက္ကာသို့ အနည်းဆုံး တစ်ကြိမ်မျှ ဘုရားဖူးသွားရမည်။

### အစ္စလာမ်ဘာသာ ၂ ဂိုဏ်းကွဲခြင်း

အစ္စလာမ်သမိုင်း အကျဉ်းချုပ် ကောက်နုတ်ချက်အရ တမန်တော် မိုဟာမက် အသက်ထင်ရှားရှိစဉ်၌ ထင်ရှားသောတပည့်ကြီးများမှာ ၁- ဟဇရက်အဘူဘာကာရ်။ ၂- ဟဇရက်အူမာရ်။ ၃- ဟဇရက်အွတ်စမာန်။ ၄- ဟဇရက်အဘူဆူဖိယန်။ ၅- ဟဇရက်မိုအာဗီယာ တို့ ဖြစ်သည်။

အလားတူ အခြား ထင်ရှားသောတပည့်တစ်ဦးမှာ 'မော်လာအလီ' ဖြစ်သည်။ သူသည် တမန်တော်၏ ညီဝမ်းကွဲဖြစ်သည့်အပြင်၊ တစ်ဦးတည်းသောသမီးတော် ဖွာတေမာ၏ ကြင်ရာတော်လည်းဖြစ်သည်။

အစ္စလာမ်ခုနှစ် ၁၀ (အေဒီ ၆၃၂)တွင် တမန်တော်မြတ်နှင့် မွတ်စလင် ၁ သိန်းကျော်တို့သည် မဒီနာမြို့မှ ခရီးထွက်ကာ မက္ကာမြို့တွင် နောက်ဆုံး ဟာဂျ် ပြုခဲ့ကြသည်။ ယင်းဟာဂျ်မှအပြန် လမ်းခရီး ဂဒီရေခမ်းတွင် မိမိနှင့်ပါလာသော ဟာဂျီ ၁ သိန်းကျော်ကိုရပ်စေလျက် တမန်တော်မြတ်က ဩဝါဒစကား မိန့်ကြားနေစဉ် ကျမ်းတော်မြတ် ကုရ်အာန်ပါ မုက္ခပတ်တော် ၅း၆၇ ဗျာဒိတ်တော် ကျရောက်လာသဖြင့်၊ ဖော်ပြပါလူထုကြီးအား-

"ငါသည် သင်တို့အပေါ် အရှင်သခင်ဖြစ်သလို၊ မော်လာအလီသည်လည်း သင်တို့အပေါ် အရှင်သခင်ဖြစ်သည်။ ငါသည် ပညာ၏မြို့တော်ဖြစ်သကဲ့သို့၊ မော်လာအလီသည် ယင်းမြို့တော်၏တံခါးဝ ဖြစ်သည်"ဟူ၍ မိန့်တော်မူခဲ့သည်။

ညီတော် မော်လာအလီမွေးဖွားစဉ်က တမန်တော်မြတ်သည် ကလေးငယ်ကိုရေချိုးပေးရင်း "ငါသည် သူ့ကို ယနေ့ရေချိုးပေးသကဲ့သို့ ငါကွယ်လွန်သည့်အချိန်တွင် သူသည် ငါ့အား နောက်ဆုံးရေချိုးပေးသူဖြစ်ပြီး၊ ထိုအချိန်၌ ငါ၏ကိုယ်တော်ကို အခြားသူတစ်ဦးဦးမြင်လျှင် ယင်းသူ၏မျက်စိပင် ကွယ်သွားနိုင်အံ့" ဟူ၍ ဩဝါဒတော် ရှိခဲ့သည်။ ဖော်ပြပါ နောက်ဆုံး ဟာဂျ်မှအပြန် ၃ လ အတွင်း မဒီနာမြို့တွင် တမန်တော်မြတ်သည် အလ္လာဟ်အရှင်မြတ်၏အမိန့်တော် ခံယူခဲ့သည်။ တမန်တော်မြတ်၏ရုပ်ကလာပ်ကို မော်လာအလီက ဆောင်ရွက်နေခိုက်တွင် မဒီနာမြို့တော်၏ဆင်ခြေဖုံးဖြစ်သော 'စကီဖာရေ ဘနီဆာဒါ၌ တပည့်ကြီးများက အစည်းအဝေး ကျင်းပလျက် တမန်တော်မြတ်ကြီးနောက် အစ္စလာမ်ဘာသာကိုထိန်းသိမ်းရန်အတွက် အငြင်းအခုံဖြစ်ခဲ့ရာမှ ပထမ ခလီဖွာသမ္မတကြီးအဖြစ် ဟဇရက်အာဗူဘာကာရ်အား တင်မြှောက်လိုက်ကြသည်။

ထိုအချိန်မှစပြီး မော်လာအလီ၏ဘက်တော်သား (ရှီအာဟ်)များမှာ မကျေနပ်မှု စတင်ဖြစ်ခဲ့ကြသည်။ 'ရှီအာဟ်' ဟူသည့် ဝေါဟာရမှာ 'နောက်လိုက်'ကိုခေါ်ခြင်း ဖြစ်သည်။ ဤနေရာတွင် 'ရှီအာဟ်' ဟူသည် 'မော်လာအလီ၏ နောက်လိုက်များ'ကို ဆိုခြင်း ဖြစ်သည်။

## မွတ်စလင်အင်ပါယာ

မိုဟာမက်ကို ဆက်ခံသူများဖြစ်သော အာဗူဘာကာရ် ဦးဆောင်သည့်အစုကို ကာလစ်ဖ် (ခလီဖွာ) ခေါ်သည်။ ကာလစ်ဖ်များသည် လက်ရုံးရည်၊ နှလုံးရည်ပြည့်သူများဖြစ်၍ သဲကန္တာရသား နောမက်များကို ဘာသာရေးအရ စည်းရုံး၍ စစ်တပ် ထူထောင်ခဲ့ကြသည်။ ၎င်းနောက် ရောမအင်ပါယာ အင်အားနည်းချိန်တွင် မဟာမေဒင်တို့သည် နယ်ချဲ့လာနိုင်ကြသည်။ မဟာမေဒင်တို့သည် ပထမ ပါလက်စတိုင်း၊ ဆီးရီးယားတို့ကို တိုက်ခိုက်အောင်မြင်သည်။

အေဒီ ၆၆၁ နှစ်တွင် ၎င်းတို့သည် မိမိတို့၏မြို့တော်ကိုလည်း မဒီနာမှ ဒမတ်စကတ်သို့ပြောင်းပြီး၊ တစ်ဖန် အေဒီ ၇၆၀ တွင် ဒမတ်စကတ်မှ ဘဂ္ဂဒက်သို့ ပြောင်းရွှေ့ခဲ့ပြန်သည်။ ၎င်းတို့သည် ဘဂ္ဂဒက်မြို့တော်ကို 'ဘုရားပေးသော မြို့တော်' ဟုခံယူကြသည်။

အေဒီ ၆၄၀ ၌ အီဂျစ်နှင့် အီရန်(ပါးရှား)တို့ ကျသည့်အပြင် အာဆေးနီးယား၊ ဂျော်ဂျီယာတို့ကိုလည်း သိမ်းသွင်းနိုင်ခဲ့သည်။ မဟာမေဒင်တို့သည် စစ်ရှုံးနိုင်ငံအားလုံးကို 'ကိုရမ်ကျမ်းစာ လက်ခံမည်လော၊ အခွန်ဘဏ္ဍာ ပေးမည်လော၊ သို့မဟုတ် ဓားရှည်ကို ရွေးချယ်မည်လော' ဟုမေးကြသည်။ စစ်ရှုံးနိုင်ငံတို့သည် ပထမနှင့် ဒုတိယကိုသာ ရွေးချယ်ခဲ့ကြသည် ဟုဆိုသည်။

နောက် အာဖဂန်နစ္စတန်ကိုသိမ်းပြီးနောက် အိန္ဒိယပြည် ပန်ဂျပ်နှင့် ဆင်းနယ်တို့ကိုပါ တိုက်ခိုက်အောင်မြင်ခဲ့ပြန်သည်။ အရှေ့ဘက်တွင်လည်း တရုတ်ပြည်၊ တာကစ္စတန်၊ တားရင်းမ်နယ်တို့ကို သိမ်းသွင်းနိုင်ခဲ့သည်။ တောင်ဘက်တွင် အာဖရိကကမ်းခြေတစ်လျှောက်ရှိ အာဘီဆီးနီးယားနှင့် မိုဇမ်ဘစ်တို့အကြား၌ ခြေကုပ်ယူပြီး အေဒီ ၇၁၁ တွင် ဂျီဘရော်လတာကိုသိမ်း၍ စပိန်ကိုပင် ချီတက်သိမ်းယူသည့်အပြင်၊ ပြင်သစ်ကိုပါကျူးကျော်ရန် ပြင်ဆင်လျက်ရှိသည်။

သျှားလ်မာတယ် ခေါင်းဆောင်သော မရင်းလူမျိုးတို့က တိုက်ထုတ်သဖြင့် အေဒီ ၇၃၂ ခုနှစ်၌ မွတ်စလင်ထိုးစစ် နောက်ထိုင်သွားရတော့သည်။

မည်သို့ပင်ဖြစ်စေ၊ မွတ်စလင်အင်ပါယာသည် ၈ ရာစုအလယ်ပိုင်းသို့ရောက်သောအခါ အနောက်ဥရောပတွင် စပိန်ပြည်နှင့် ပီရိန်နီတောင်တန်းအထိ၊ မြောက်အာဖရိကတိုက်၊ အီဂျစ်၊ အရေးဗီးယားကျွန်းဆွယ်၊ အရှေ့အလယ်ပိုင်းနိုင်ငံများ၊ ပါးရှား၊ အိန္ဒိယ၊ တရုတ်နယ်နိမိတ်များအထိ ကျယ်ဝန်းလာလေသည်။ မွတ်စလင်တို့သည် နယ်ချဲ့တိုက်ခိုက်အောင်မြင်ခဲ့သည့်နေရာတိုင်း၌ ရှေးဟောင်းအဆောက်အအုံများကို ဖျက်ဆီးပစ်ကြသည်။ စာကြည့်တိုက်၊ ပိဋကတ်တိုက်များကိုလည်း မီးရှို့ခဲ့ကြသည်။ သစ်တောများပြုန်းတီးအောင် ခုတ်လှဲ၍ ရှေးဟောင်းယဉ်ကျေးမှုကို ဖျက်ဆီးကာ မွတ်စလင်ယဉ်ကျေးမှုကို အသစ်ထူထောင်ခဲ့ကြသည်။

ဤ မွတ်စလင်အင်ပါယာကို အိုမေယာဒ်မိသားစုက အုပ်စိုးခဲ့သည်။ အေဒီ ၇၅၀ ပြည့်၌ မိုဟာမက်၏ဦးရီးအာဘတ်စ်က အိုမေယာဒ်မင်းဆက်ကို နှိမ်နင်း၍ မင်းဆက်သစ်ကို ထူထောင်ခဲ့သည်။ အိုမေယာဒ်မင်းဆက်မှ အသက်မသေဘဲလွတ်မြောက်ခဲ့သော ခလီဖွာတစ်ဦးသည် စပိန်ကောဒိုဗာ၌ သီးခြားမင်းဆက် တည်ထောင်ခဲ့သည်။ အီဂျစ်၌ မိုဟာမက်၏သမီး ဖွာစောမာ၏အနွယ်က အေဒီ ၉ ရာစုတွင် ဘဂ္ဂဒက်အုပ်စိုးမှုအောက်မှခွဲ၍ သီးခြား ထီးနန်းထူထောင်ခဲ့သည်။ နောင်အခါ ဆီးရီးယားသည် ဖွာစောမာမင်းဆက်၏လက်အောက်ခံ ဖြစ်ခဲ့သည်။ အစ္စလာမ်ဘာသာသည် အီဂျစ်၊ ဆီးရီးယား စသည့်အပြင်၊ နောက်ဆုံး၌ စူမတြာ၊ ဂျားဗား စသည်တို့အထိ ပျံ့နှံ့လာသည်။

တစ်ဖန် တာ့ခ်လူမျိုး မွတ်စလင်များသည် တစ်စခန်းထလာကြကာ အာရှမိုင်းနားကို ဝင်ရောက်စီးနင်းတိုက်ခိုက်ကြပြီး၊ တူရကီနိုင်ငံအဖြစ် ထူထောင်ခဲ့ကြသည်။ ၎င်းတို့သည် နောက်ပိုင်း၌ ဂျေရုစလင်ကိုပါ သိမ်းယူပြီး ခရစ်ယာန်များကို မထီမဲ့မြင်ပြုခဲ့ကြသည်။ ထို့ကြောင့် ခရစ်ယာန်များ မကျေနပ်မှုဖြစ်လာကြသည်။ တာ့ခ်မွတ်စလင်တို့သည် နောက်ဆုံး၌ ခရစ်ယာန်နိုင်ငံဖြစ်သော ဘိုင်ဇန်တီယန်အင်ပါယာ ခေါ် အရှေ့ရောမကိုပါ ခြိမ်းခြောက်လာသဖြင့်၊ အေဒီ ၁၀၉၄ နှစ်၌ အရှေ့ရောမဧကရာဇ် အာလက်ယီယုစ်က ဒုတိယပုပ်ဘုန်းကြီးအာဘန်အား အကူအညီတောင်းခဲ့သည်။ ထိုကိစ္စနှင့်ပတ်သက်၍ အေဒီ ၁၀၉၅ နှစ်တွင် ပြင်သစ် ကလဲယားမောင့်၌ ဘုန်းကြီးများနှင့် နယ်စားပယ်စားအားလုံး ဘာသာရေးစည်းဝေးပွဲတစ်ရပ် ကျင်းပခဲ့ကြသည်။ ထိုအစည်းအဝေးအပြီး၌ ပုပ်ဘုန်းကြီးက မွတ်စလင်ရန်ကိုနှိမ်နင်းရန် ဘာသာရေးစစ်ပွဲ (ကရူးဆိတ်)တစ်ရပ် ဆင်နွှဲရန် တိုက်တွန်းခဲ့သည်ကို အစည်းအဝေးတက်ရောက်သူအားလုံးက သဘောတူညီခဲ့ကြသည်။ ထို့ကြောင့် ခရစ်ယာန်တို့သည် မွတ်စလင်များအား ၁၀၉၆ နှစ်၌ ကရူးဆိတ်စစ်ပွဲကို ဆင်နွှဲခဲ့တော့သည်။ ယင်း ကရူးဆိတ်စစ်ပွဲသည် နှစ်ပေါင်း ၂၀၀ နီးပါးမျှ ကြာညောင်းခဲ့သည်။

## ရှီအာဟ်နှင့် စွန်နီမွတ်စလင် ၂ ဂိုဏ်း အခြေအနေများ

အစ္စလာမ်သမိုင်းအကျဉ်းချုပ် ကောက်နုတ်ချက်အရ ရှီအာဟ်နှင့် စွန်နီဂိုဏ်း ၂ ခုသည် တမန်တော်ကွယ်လွန်သည့်အချိန်မှစ၍ ကွဲခဲ့ကြောင်း အထက်၌ပြခဲ့ပြီး ဖြစ်သည်။ သို့ရာတွင် ရှီအာဟ်တို့ခေါင်းဆောင် မော်လာအလီမှာ စတုတ္ထမြောက်ခလီဖွာ ဖြစ်လာပြီး၊ အစ္စလာမ်ခုနှစ် ၃၅ မှ ၄၀ နှစ်အထိ အုပ်ချုပ်ခဲ့သည်။ အစ္စလာမ်ခုနှစ် ၄၀ တွင် အီရတ်ပြည် ကူဖာဝတ်ကျောင်းတော်၌ ဝတ်ပြုနေစဉ် မူအာဝိယာ၏လုပ်ကြံခြင်းကို ခံခဲ့ရသည်။ ရှီအာဟ်များ

သည် ယင်းတို့၏ခေါင်းဆောင် မော်လာအလီလုပ်ကြံခြင်း ခံရသည်မှာ ခလီဖွာအမှတ်စဉ် ၆ မူအာဝီယာ၏ပယောဂကြောင့် ဖြစ်သည်ဟု ယုံကြည်ကြသည်။ မူအာဝီယာ၏ဖခင် အဘူစူဖိယန်မှာလည်း တမန်တော်မြတ်နှင့် အစ္စလာမ်ကိုဖျက်ဆီးရန် အမြဲတစေတိုက်ပွဲဆင်ခဲ့သူ ဖြစ်သည်။ ထို့အပြင် အထက်ဖော်ပြပါ မူအာဝီယာ၏ သားခလီဖွာအမှတ်စဉ် ၇ ယဇီးဒ်သည် တမန်တော်မြတ်၏မြေးတော် မော်လာအလီ၏သား အေမာမ်ဟူစိုင်အား အစ္စလာမ်ခုနှစ် ၆၁ တွင် ကရ်ဗလ္လာမြေပြင်၌ ရက်စက်စွာသတ်ဖြတ်ခဲ့သူ ဖြစ်သည်။ ထို့ကြောင့် ရှီအာဟ်များမှာ ၄င်းတို့မျှော်လင့်ထားသည့်အတိုင်း တမန်တော်မြတ်ကွယ်လွန်သည့်နောက်တွင် မော်လာအလီမှာ ဘာသာရေးဦးသျှောင် မဖြစ်ခဲ့သည့်အပြင်၊ မြေးတော်ကိုပါ ယင်းကဲ့သို့ ရက်ရက်စက်စက်သတ်ဖြတ်သဖြင့် နာကျည်းချက်ပိုမိုပြင်းထန်၍ ယင်းကိစ္စများနှင့်ပတ်သတ်ပြီး ကမ္ဘာအရပ်ရပ်တွင် ဝမ်းနည်းရင်ထုမှာ ကြေကွဲခြင်း ဘာသာရေးအထိမ်းအမှတ်ပွဲများ ယနေ့တိုင် ကျင်းပလျက်ရှိသည်။ စွန်နီများမှာ မော်လာအလီ၏နောက်လိုက်များ မဟုတ်။ သို့ရာတွင် မော်လာအလီအား စတုတ္ထခလီဖွာအဖြစ် အသိအမှတ်ပြုကြသည်။

## ခလီဖွာ (သမ္မတ) ပေါင်း ၅၆-ဦး

စွန်နီတို့အယူအဆအရ အစ္စလာမ်ခုနှစ် ၁၁ တွင် ခန့်အပ်ခြင်းခံရသော ပထမခလီဖွာ အဘူဘာကာရ်မှစ၍ ၆၄၀ ပြည့်နှစ် တူရကီနိုင်ငံ၌နောက်ဆုံးရှိခဲ့သော ခလီဖွာအထိ စုစုပေါင်း 'ခလီဖွာ ၅၆ ဦး ရှိခဲ့သည်' ဟုဆိုသည်။

သို့ရာတွင် ရှီအာဟ်မှတ်စလင်များမှာမူ တမန်တော်မြတ်ကွယ်လွန်ပြီးနောက်ပိုင်းတွင် အောက်ဖော်ပြပါ အနွယ်တော်ဝင် ၁၂ ဦးနှင့် ပထမ ခလီဖွာ ဟဇရက် အဘူဘာကာရ် (အစ္စလာမ်နှစ် ၁၁-၁၄)၊ ဒုတိယ ဟဇရက်အူမာရ် (အစ္စလာမ်နှစ် ၁၄-၂၃)၊ တတိယ ဟဇရက်အူစမာန် (အစ္စလာမ်နှစ် ၂၃-၃၂)၊ စတုတ္ထ ဟဇရက်မော်လာအလီ (အစ္စလာမ်နှစ် ၃၅-၄၀) တို့မှလွဲ၍ ကျန်ခလီဖွာ ၅၅ ဦးတို့အား လက်မခံပါ။ သမိုင်းအရ ၄င်းတို့အား 'နိုင်ငံရေးခေါင်းဆောင်များ' ဟုသတ်မှတ်ကြသည်။ သို့ရာတွင် ယင်း ခလီဖွာများအနက် မျှတသော ခလီဖွာများ ပါဝင်သည်ဟုလည်း ရှီအာဟ်မှတ်စလင်များက လက်ခံကြသည် ဟုဆိုသည်။

ရှီအာဟ်များတွင်လည်း ဂိုဏ်းဝင် ၄ မျိုးခန့်ရှိရာ၊ ၄င်းအနက် အများစုမှာ ရှီအာဟ်အစ်သနာအရှာရီ ဖြစ်သည်။ 'အစ်သနာအရှာရီ' ဟူသည် အာရဗီ ဝေါဟာရအရ '၁၂' ဟူ၍ အဓိပ္ပာယ်ပေါက်သည်။ ထို့ကြောင့် ရှီအာဟ်တို့သည် မော်လာအလီအပါအဝင် တမန်တော်မြတ်၏မြေးတော်အစဉ်အဆက် အေမာမ် ၁၂ ဦးတို့၏ ညွှန်ကြားချက်ဖြင့် အစ္စလာမ်ကို လက်ခံသူများ ဖြစ်ကြသည်။

## အေမာမ်ခေါင်းဆောင် ၁၂ ဦး

၁- အေမာမ်အလီ (အေဒီ ၆၀၁-၆၆၁)၊ ၂- အေမာမ်ဟာစန် (အေဒီ ၆၂၃-၆၇၀)၊ ၃- အေမာမ်ဟူစိုင် (အေဒီ ၆၂၄-၆၈၀)၊ ၄- အေမာမ်ဇိုင်နက်အာဗေဒိန် (အေဒီ ၆၅၈-၇၁၃)၊ ၅- အေမာမ်မုဟမ္မဒ်ဘာကာရ် (အေဒီ ၆၇၈-၇၃၂)၊ ၆- အေမာမ်ဂျာဖရ်ဆွဒစ်(က်) (အေဒီ ၇၀၂-၇၆၅)၊ ၇- အေမာမ်မူစာကာဇင် (မ်) (အေဒီ ၇၄၅-၇၉၉)၊ ၈- အေမာမ်ရာဇာ (အေဒီ ၇၆၅-၈၁၈)၊ ၉- အေမာမ်မုဟမ္မဒ်တာကီ (အေဒီ ၈၁၀-၈၃၅)၊ ၁၀- အေမာမ်မုဟမ္မဒ်နကီ (အေဒီ ၈၂၇-၈၆၈)၊ ၁၁- အေမာမ်ဟာစန်အစ်ဂရီ (အေဒီ ၈၄၆-၈၇၀)၊ ၁၂- အေမာမ်မဟ်ဒီ (အေဒီ ၈၇၀၊ ၄-နှစ်သားအရွယ်တွင် ပျောက်သွားသည်။)

အေမာမ် ၁ မှ ၁၁ တို့မှာ ခလီဖွာများ၏လက်ချက်ဖြင့် အသတ်ခံခဲ့ရသည်။

အထက်ဖော်ပြပါ အေမာမ်ခေါင်းဆောင် ၁၂ ဦးအား 'ဘာသာရေးဦးသျှောင်' ဟူ၍ လေးလေးနက်နက်ခံယူသလို၊ ခလီဖွာများကို တမန်တော်မြတ်၏နောက်ပိုင်းတွင် 'နိုင်ငံရေးမှပေါက်ဖွားလာသည်' ဟူ၍ ခံယူကြသည်။

## စွန်နီအသင်း ၄ သင်းနှင့် ၎င်းတို့၏ခေါင်းဆောင်များ

၁- ဟာနဖီစွန်နီများ ။ ။ 'အေမာမ် အဗူဟာနီဖာနိုဖန်ဗင်တာဗစ်'၏ ဓမ္မသတ်ကိုလက်ခံသူများ ဖြစ်သည်။ အဗူဟာနီဖာမှာ ကူဖာမြို့တွင် အစ္စလာမ်နှစ် ၈၀ တွင်မွေးဖွား၍၊ ၁၅၀ တွင် ကွယ်လွန်ခဲ့သည်။

၂- မာလဏီစွန်နီများ။ ။ 'အေမာမ် မာလစ်က်ဗင်နင်အရှာဗီ'၏ဓမ္မသတ်ကို လက်ခံသူများ ဖြစ်ကြသည်။ မာလစ်က်ဗင်အရှာဗီမှာ မဒီနာမြို့တွင် အစ္စလာမ်နှစ် ၉၃ တွင် မွေးဖွား၍ အစ္စလာမ်နှစ် ၁၇၈ တွင်ကွယ်လွန်ခဲ့သည်။

၃- ရှာဖီစွန်နီများ ။ ။ အေမာမ် ရှာဖီ၏ဓမ္မသတ်ကို လက်ခံသူများဖြစ်ကြသည်။ ရှာဖီမှာ ဂျေရုစလင်မြို့ (ပါလက်စတိုင်း)တွင် အစ္စလာမ်နှစ် ၁၅၀ အစ္စလာမ်နှစ် တွင်မွေးဖွား၍ အီဂျစ်ပြည်၌ အစ္စလာမ်နှစ် ၂၀၄ တွင်ကွယ်လွန်ခဲ့သည်။

၄- ဟမ်ဗလီစွန်နီများ ။ ။ 'အေမာမ် အမဒ်ဗင်ဟမ်ဗာလ်၏ဓမ္မသတ်ကို လက်ခံသူများဖြစ်ကြသည်။ ဟမ်ဗာလ်မှာ အီရတ်တွင် အစ္စလာမ်နှစ် ၁၆၄ ၌မွေးဖွား၍ ဘဂ္ဂဒက်မြို့တွင် အစ္စလာမ်နှစ် ၂၄၁ တွင်ကွယ်လွန်ခဲ့သည်။

'အယ်လေစွန်နတ် ဝါလ်ဂျမာအာဟ်'ဆိုသည်မှာ အထက်ပါစွန်နီဂိုဏ်းကြီး ၄ ခု ဖြစ်သည့် 'ဟာနဖီ၊ မာလဏီ၊ ရှာဖီ၊ ဟမ်ဗလီ' ဟူသော ဂိုဏ်း ၄ ခုပူးပေါင်း၍ အစ္စလာမ်နှစ် ၂၅၀ ကျော်၌ ဖွဲ့စည်းထားသော အသင်းဝင်များ ဖြစ်သည်။ ယင်းအသင်းဝင်းများကို တမန်တော်ကလုပ်ဆောင်ခဲ့သော 'စွန်နတ်' ခေါ် လုပ်ဆောင်ချက်များ၊ လုပ်ထုံးလုပ်နည်းများကိုလိုက်နာပြုလုပ်သူများ ဖြစ်ကြသောကြောင့် 'စွန်နီ' ဟုခေါ်သည်။

## ရှီအာဟ်မွတ်စလင်ဂိုဏ်းဝင်များ

ရှီအာဟ်မွတ်စလင်များတွင် ၁- ရှီအာဟ်အစ်သနာအရှရီယာ၊ ၂- ဒါဝဒ္ဒီရှီအာဟ်၊ ၃- ဇိုင်ဒီရှီအာဟ်၊ ၄- အာဂါခါနီရှီအာဟ်၊ ၅- အလွှဝိရှီအာဟ်မွတ်စလင် တို့ ပါဝင်သည်။

ကမ္ဘာ့မွတ်စလင်များအနက် စွန်နီမွတ်စလင်များမှာ ရာခိုင်နှုန်း ၇၈ ကျော်ရှိပြီး၊ ရှီအာဟ် မွတ်စလင်များမှာ ရာခိုင်နှုန်း ၂၁ ကျော်ရှိသည်။ စွန်နီမွတ်စလင်များနှင့် ရှီအာဟ်မွတ်စလင်များကြားဝယ် အစ္စလာမ်၏ အခြေခံများကို လက်ခံကျင့်သုံးရာတွင် လုံးဝကွဲလွဲခြင်း မရှိ။ သို့ရာတွင် တမန်တော်မြတ် ကွယ်လွန်ပြီးနောက် အစ္စလာမ်ကိုအသေးစိတ်ကျင့်သုံးရာတွင် မိမိတို့၏ဘာသာရေးခေါင်းဆောင်များမှ ညွှန်ကြားသည့်အတိုင်း ကျင့်သုံးကြသဖြင့် ကွဲလွဲမှုရှိကြသည်ဟု ဆိုသည်။

# ဘဟာအီသာသနာ

## ဘဟာအီသာသနာနှင့် ဘဟာအွလ္လာဘုရား

ဘဟာအီဘာသာဝင်များသည် ဘဟာအွလ္လာအရှင်မြတ်ကိုယ်တော်တိုင်ဟောကြားသော ဩဝါဒတရားဒေသနာများကို 'အဆုံးအမသာသနာ' ဟုခေါ်ဆိုကြပြီး၊ မိမိတို့ဘာသာကို 'ဘဟာအီကမ္ဘာ့သာသနာ' ဟုကင်ပွန်းတပ်ထားကြသည်။ ဘဟာအီဘာသာသည် တိုင်းပြည်နှင့် လူမျိုး တသီးတခြား တကွဲတပြားဖြစ်နေမှုကို ပယ်ရှားပြီး ကမ္ဘာကြီးကို တိုင်းပြည်တစ်ခုတည်းအဖြစ်၊ လူသားအားလုံးကို ညီရင်းအစ်ကိုများအဖြစ် ချစ်ခင်ညီညွတ်နေထိုင်မှုကို အဓိကထားဟောကြားသော အဆုံးအမဖြစ်သောကြောင့် 'ဘဟာအီကမ္ဘာ့သာသနာ' ဟု ကင်ပွန်းတပ်ကြခြင်းဖြစ်သည်။

'ဘဟာအီ' အဓိပ္ပာယ်မှာ 'အလင်းကိုဆောင်ယူသူ' ဟုဆိုလိုသည်။ ထို့ကြောင့် ဘဟာအီဘာသာဝင်များသည် အလင်းကိုဆောင်ယူသူ သက်ရှိထင်ရှား ဘဟာအွလ္လာအရှင်မြတ်အား ဘုရားအဖြစ်ကိုးကွယ်ခဲ့ကြခြင်းဖြစ်သည်။ ဤသို့သော အလင်းကိုဆောင်ယူသူ သက်ရှိထင်ရှားအရှင်မြတ်များသည်လည်း တစ်ဆူတည်းသာရှိသည်မဟုတ်ဘဲ၊ တစ်ဆူပြီးတစ်ဆူ အဆူဆူပေါ်ပွင့်ဆဲ၊ပွင့်ပြီး၊ ပွင့်လတ္တံ့ရှိကြောင်း ယူကြသည်။

ဘဟာအီသာသနာသည် 'ပါရှား' ခေါ် အီရန်မှ စတင်ပေါ်ထွန်းခဲ့သောဘာသာ ဖြစ်သည်။ ၁၈၄၄ ခုနှစ်တွင် ဘာဗ်ဘုရားရှင် ပွင့်ထွန်းတော်မူလာပြီး ဘဟာအီသာသနာပြုလုပ်ငန်းများကို မဆုတ်မနစ်သော လုံ့လဝီရိယဖြင့် ဆောင်ရွက်တော်မူခဲ့သည်။ သို့ရာတွင် 'ပါရှား' ခေါ် အီရန်တွင် ဘာသာရေးအယူသည်းမှု ရှိနေသည်နှင့်အညီ ဘာသာရေးအယူသည်းသူတစ်စု၏ ညှဉ်းပန်းနှိပ်စက်မှုအမျိုးမျိုးကိုခံရပြီး၊ ၁၈၅၀ ပြည့်နှစ်တွင် မိမိအသက်ကို ပေးလှူသွားခဲ့ရသည်။ ဘာဗ်ဘုရားရှင် အသက်စွန့်ခဲ့ရသော်လည်း ဘာဗ်ဘုရားရှင် ဗျာဒိတ်ထား မိန့်ကြားတော်မူခဲ့သော စကားတော်တစ်ရပ်ကား 'ပါးရှား' ခေါ် အီရန်တွင် ရှင်သန်ကျန်ရစ်ခဲ့သည်။ ယင်း ဗျာဒိတ်စကားတော်ကား 'မကြာမီကာလအတွင်း၌ ဘုန်းတန်ခိုးကြီးမြတ်လှသော ကမ္ဘာ့အလင်းတော်အရ အရှင်မြတ်တစ်ဆူ ကြွလာပွင့်လာတော်မူမည်' ဟူသော ဗျာဒိတ်စကားပင် ဖြစ်သည်။

## ဘဟာအွလ္လာဘုရား ပွင့်ထွန်းတော်မူခြင်း

ဘာဗ်ဘုရားရှင်၏ ဗျာဒိတ်စကားတော်အရ ၁၈၆၃ ခုနှစ်တွင် 'ပါရှား' ခေါ် အီရန်၌ ဘဟာအွလ္လာဘုရားရှင် ပွင့်ထွန်းပေါ်ပေါက်လာသည်။ ကိုယ်တော်က 'အစောင်စောင်သောကျမ်းစာအသီးသီးတွင် 'ပွင့်ထွန်းတော်မူရန်ရှိသည်' ဟု ဗျာဒိတ်ထားတော်မူခဲ့သောအရှင်သည် မိမိသာဖြစ်ကြောင်း' အတိအလင်းကြေညာတော်မူခဲ့သည်။

ဘဟာအီသာသနာသည် ဘဟာအွလ္လာဘုရားရှင် တည်ထောင်တော်မူခဲ့သောသာသနာ ဖြစ်သည်။ ယနေ့ဘဟာအီဘာသာဝင်များကလည်း ဘဟာအွလ္လာဘုရားရှင် ဟောကြားတော်မူခဲ့သော ဩဝါဒစကား တရားဒေသနာ

များကိုပင် လိုက်နာကျင့်သုံးလျက် ရှိကြသည်။ အထူးသဖြင့် ဘဟာအီသာသနာသည် အတိတ်က ကြွလာပွင့်တော်မူလာပြီးသော, ဘာသာသာသနာအသီးသီးကို တည်ထောင်တော်မူခဲ့ကြသော အရှင်များသည်လည်း ခေတ်ကာလအလျောက် မှန်သည် ဟုလက်ခံယုံကြည်နိုင်ပြီး၊ ဘာသာသာသနာအားလုံးနှင့် ကြည်ဖြူစွာလက်တွဲနိုင်သော သာသနာဖြစ်ကြောင်း သိရှိရသည်။

## ဘဟာအွလ္လာဘုရားဟောကြားသော တရားချုပ်

၁- ကမ္ဘာကြီးသည် တစ်ခုတည်းသော တိုင်းပြည်ဖြစ်ပြီး၊ လူသားအားလုံးသည် ၎င်း၏တိုင်းသူပြည်သားဖြစ်၍ တစ်အိမ်ထောင်တည်းမှ ပေါက်ဖွားလာသော ညီအစ်ကိုမောင်နှမများ ဖြစ်သည်။

၂- လူသားများသည် အမှန်တရားကိုရှာရာတွင် မိရိုးဖလာအယူအဆကို မငဲ့ကွက်ဘဲ မိမိတို့၏ကိုယ်ပိုင်ဉာဏ်ဖြင့် လွတ်လပ်စွာ ရှာဖွေကြရမည်။

၃- ဘုရားရှင်တို့၏ တရားတော်အနှစ်သာရကား အမှန်တရားတစ်ခုတည်းသာဖြစ်ပြီး၊ ဘာသာတရားအားလုံးတို့၏ အခြေခံအနှစ်သာရသည်လည်း ထပ်တူထပ်မျှပင်ဖြစ်သည်။

၄- ပွင့်ထွန်းတော်မူလာကြကုန်သော အလင်းတော်ရဘုရားရှင်တို့သည် လူသားအားလုံးကို ချစ်ခြင်းမေတ္တာဖြင့် စည်းလုံးမှုရှိရန်သာဟောကြားပြီး၊ စည်းလုံးမှုရှိမှသာ 'ဘုရားရှင်တို့၏သာသနာ' ဟုခေါ်ထိုက်သည်။

၅- လူဟူက အားလုံး အတူတူဖြစ်၍၊ မိန်းမများအား နှိမ့်ချခြင်းမပြုဘဲ တန်းတူအခွင့်အရေး ပေးရမည်။

၆- အယူသည်းမှုသည် စည်းလုံးညီညွတ်ခြင်း၏ဆန့်ကျင်ဘက်ဖြစ်၍၊ လူမျိုးရေး, တိုင်းပြည်ရေး, ဘာသာရေးနှင့်ပတ်သက်သော အယူသည်းမှုကို ပယ်ရှားရမည်။

၇- လူမျိုးအချင်းချင်း, အစိုးရအချင်းချင်း, ဘာသာရေးအချင်းချင်း ငြိမ်းချမ်းသာယာမှု ရှိစေရမည်။

၈- ပညာသင်ကြားခြင်းသည် လူသားတို့၏ တိုးတက်မှုအခြေခံတစ်ရပ်ဖြစ်၍၊ ယောက်ျား, မိန်းမ မခွဲခြားဘဲ မသင်မနေရပညာရေးစနစ်ကို တည်ထောင်ရမည်။

၉- လူသားအားလုံး သက်သာချောင်ချိရေးနှင့် ချမ်းသာသုခရရှိရေးအတွက် အလွန်အမင်းချမ်းသာခြင်း, အလွန်အမင်းဆင်းရဲခြင်း မရှိစေဘဲ၊ ချမ်းသာသူများက ချမ်းသာသုခကို ခံစားကြသကဲ့သို့ ဆင်းရဲသူများကိုလည်း ကြည့်ရှုကူညီ စောင့်ရှောက်ကြရမည်။

၁၀- လူသားအားလုံးနှင့် ချစ်ခင်ရင်းနှီးစွာဆက်ဆံနိုင်ရေးအတွက် ကမ္ဘာသုံးဘာသာစကားတစ်ရပ်ကို ထူထောင်ပြီး အပြည်ပြည်ရှိကျောင်းတိုင်း၌ သင်ကြားပေးကြရမည်။

၁၁- နိုင်ငံအချင်းချင်း မကျေနပ်ရေး, စီးပွားရေး, ဘာသာရေးမှစ၍ ပြဿနာအရပ်ရပ်ကို ဖြေရှင်းပေးနိုင်ရန်နှင့် အဘက်ဘက်မှချို့တဲ့နေသော နိုင်ငံငယ်ကလေးများကို မြှင့်တင်ပေးနိုင်ရန်အတွက် ကမ္ဘာပေါ်ရှိလူသားအားလုံးကို ကာကွယ်စောင့်ရှောက်ပေးစွမ်းနိုင်သော နိုင်ငံပေါင်းစုံပါဝင်သည့် အဖွဲ့ချုပ်ကြီးတစ်ခုကို တည်ထောင်ရမည်။

## ပျံလွန်ကြွမြန်းတော်မူခြင်း

အီရန်တွင် ဘဟာအွလ္လာဘုရား ဟောကြားသော အဆုံးအမသာသနာကို သက်ဝင်ယုံကြည်သူ တဖြည်းဖြည်းများပြားလာသောအခါ ရှေး ဘာဗ်ဘုရားကဲ့သို့ပင် ဘာသာရေးအယူသည်းသူတို့၏ အန္တရာယ်ပြုမှုကို ခံတော်မူခဲ့ရသည်။

ပါရှားအာဏာပိုင်များက ဘဟာအွလ္လာဘုရားကို ရှေးဦးစွာ ဘဂ္ဂဒက်သို့ ပြည်နှင်ဒဏ်ပေးခဲ့ကြသည်။ ၎င်းနောက် ဘဂ္ဂဒက်မှ ကွန်စတန်တီနိုပယ်မြို့သို့ ပို့ခဲ့ကြပြန်သည်။ တစ်ဖန် ကွန်စတန်တီနိုပယ်မြို့မှ အယ်ဒရီယားနိုပယ်မြို့သို့ ပို့ခဲ့ကြပြီး၊ နောက်ဆုံးတွင် အက္ကာမြို့သို့ ပို့ခဲ့ကြပြန်သည်။ ကိုယ်တော်သည် ဤသို့ ဒေသတစ်ခုမှ ဒေသတစ်ခုသို့ ပို့ခံခဲ့ရပြီးနောက်၊ ၁၈၉၂ ခုနှစ်တွင် ပါလက်စတိုင်းပြည် အက္ကာမြို့၌ ပျံလွန်ကြွမြန်းတော်မူခဲ့သည်။

## ဘဟာအီသာသနာအခြေအနေ

ပါရှားအာဏာပိုင်များသည် ဘဟာအွလ္လာဘုရားကို ပြည်နှင်ဒဏ်ပေးခဲ့ရုံမျှမက၊ ဘာသာရေးအယူသည်းသူများကလည်း ဘဟာအွလ္လာဘုရားရှင်၏အဆုံးအမသာသနာ၌ သက်ဝင်ယုံကြည်သူများကို လိုက်လံနှိပ်စက် ကွပ်မျက်ခဲ့ကြသဖြင့် ဘဟာအီသာသနာအဆုံးအမ ယုံကြည်သူများမှာ လျှို့ဝှက်စွာနေထိုင်ခဲ့ကြရသည်။ အချို့လည်း ပြည်ပသို့ ထွက်ပြေးတိမ်းရှောင်ခဲ့ကြရသည်။ သို့ရာတွင် ဘဟာအီသာသနာကား ကမ္ဘာတစ်လွှားတွင် စွင့်စွင့်ကားကား ဖူးပွင့်ဝေဆာလျက်ပင် ရှိခဲ့ပါသည်။ ယခုအခါ ကမ္ဘာအရပ်ရပ်တွင် ဘဟာအီဘာသာဝင်ပေါင်း ၆ သန်းခန့်ရှိပြီး၊ မြန်မာနိုင်ငံတွင် ၃ သောင်းခန့်ရှိကြောင်း သိရှိရသည်။

ဘဟာအီသာသနာအဆုံးအမ ယုံကြည်သူပေါင်း ဤမျှပွားများလာရခြင်းမှာ ဘဟာအွလ္လာဘုရားပျံလွန်ကြွမြန်းတော်မူပြီးနောက် ဘဟာအီတရားတော်များကို သားတော် အဗ္ဗဒွလ်ဘဟာသူမြတ်က ဆက်လက်ထိန်းသိမ်း ဖြန့်ဖြူးခဲ့သောကြောင့်ပင် ဖြစ်သည်။ သားတော် အဗ္ဗဒွလ်ဘဟာသူမြတ်သည် ဘဟာအီသာသနာ၏ ပဋိညာဉ်သစ္စာတော်မဏ္ဍိုင် အရှင် ဖြစ်သည်။ ခမည်းတော် ဘဟာအွလ္လာဘုရားရှင် ပျံလွန်ကြွမြန်းတော်မူပြီးနောက် ၁၉၂၁ ခုနှစ်အထိ သာသနာ့အမှုတော်ကို ပဋိညာဉ်သစ္စာတော်အရ ထမ်းဆောင်ခဲ့သည်။ ၁၉၂၁ ခုနှစ် နိုဝင်ဘာလ ၂၈ ရက်နေ့တွင် ကွယ်လွန်ပြီးနောက်၊ မြေးတော် ရှော်ဂီအီဖန္ဒီအား သာသနာထိန်းအဖြစ်ခန့်အပ်ကာ ဘဟာအီသာသနာတော်ကို ထိန်းသိမ်းစောင့်ရှောက်စေခဲ့သည်။ သာသနာထိန်းကြီး၏ သာသနာ့အမှုတော်ကို ကြိုးကြိုးစားစား ထမ်းရွက်သည်းပိုးခဲ့ခြင်းကြောင့် ဘဟာအီသာသနာတော်သည် ကမ္ဘာတစ်လွှားတွင် ယခုကဲ့သို့ စနစ်ကျစွာ ပြန့်ပွားခဲ့ရသည်။ ၁၉၅၇ ခုနှစ် နိုဝင်ဘာလ ၄ ရက်နေ့တွင် သာသနာထိန်းကြီးကွယ်လွန်ပြီးနောက် ဘဟာအွလ္လာဘုရားရှင်၏ တရားတော်နှင့်အညီ ဘဟာအီသာသနာတော်၏ အုပ်ချုပ်စီမံပုံအရ ဘဟာအီသာသနာ ကမ္ဘာ့သမာဓိအဖွဲ့ချုပ်ကြီးကို ၁၉၆၃ခုနှစ်တွင် ဖွဲ့စည်းတည်ထောင်၍ ဘဟာအီသာသနာကို ဆက်လက်ထိန်းသိမ်း ဖြန့်ဖြူးခဲ့သည်။

ထူးခြားမှုကား ဘဟာအီသာသနာပြက္ခဒိန်မှာ ၁၉ ရက်ကို ၁ လ၊ ၁၉ လကို ၁ နှစ် ဟူ၍ သတ်မှတ်ထားခြင်းပင် ဖြစ်သည်။ စုစုပေါင်း ၃၆၁ ရက်ရှိပြီး၊ ပြက္ခဒိန်လွတ် ၄ ရက်ကို လျှုဒါန်းနေ့အဖြစ် သတ်မှတ်ထားသည်။ မတ်လ ၂ ရက်မှ ၂၀ ရက်နေ့အထိကို ဥပုသ်နေ့အဖြစ် သတ်မှတ်ထားသည်။

အချုပ်အားဖြင့် ဘဟာအီသာသနာ၏ အရေးကြီးဆုံးနှင့် အထူးခြားဆုံးအချက်မှာ ဘဟာအီသာသနာ အုပ်ချုပ်စီမံပုံပင် ဖြစ်သည်။ ၎င်းကို 'ဘဟာအီသာသနာ၏ အုပ်ချုပ်ပုံစည်းမျဉ်းဥပဒေ၊ သို့မဟုတ် ဘဟာအွလ္လာဘုရားရှင်၏ ကမ္ဘာ့အစီအစဉ်သစ်ကြီး' (The New world order of Bagha'u'llah ) ဟု ခေါ်တွင်ကြောင်း သိရှိရပါသည်။

# ဒီယနိကာယ် မဟာဝဂ်ပါဠိတော် ပါယာသိသုတ်လာ စကားလက်ဆောင်

'တစ်ပါးသောလောက မရှိ။ သေပြီးနောက် တစ်ဖန်ဖြစ်ပေါ်မှု မရှိ။ ကောင်းမှု၊မကောင်းမှုကံအကျိုး မရှိ' ဟု ယုတ်မာသောအယူကို စွဲကိုင်ထားသူ ပါယာသိမြို့စားအား အရှင်ကုမာရကဿပထေရ်မြတ် ဟောကြားပြသော ဥပမာပေါင်းများစွာတွင် ပိုက်ဆံလျှော်ထုပ်ထမ်းသူ ဥပမာတစ်ခု ပါဝင်ပါသည်။

အခါတစ်ပါး မိတ်ဆွေသူငယ်ချင်း ၂ ဦးသည် ရွာပျက်များသို့ ပစ္စည်းရှာဖွေရန် တိုင်ပင်၍ သွားခဲ့ကြသည်။ ပထမဦးဆုံးရောက်သွားသော ရွာပျက်တွင် ပိုက်ဆံလျှော်ကိုတွေ့၍ ထမ်းနိုင်သမျှ ထုပ်ပိုးစည်းနှောင်၍ ထမ်းခဲ့ကြရာ၊ ဒုတိယရွာပျက်သို့ ရောက်သောအခါ ပိုက်ဆံလျှော်ချည်ကို တွေ့ကြပြန်သည်။

ထိုအခါ တစ်ဦးက ထမ်းယူလာသောလျှော်ကိုပစ်၍ အသစ်တွေ့သောချည်ကို စည်းနှောင်ထုပ်ပိုး၍ ယူသည်။ တစ်ဦးကမူ 'ပိုက်ဆံလျှော်ကို စည်းနှောင်ထုပ်ပိုးပြီးလည်း ဖြစ်သည်။ အဝေးမှ ထမ်းယူလာခဲ့ရပြီးလည်း ဖြစ်သည်' ဟူသောအကြောင်းပြချက်ဖြင့် လျှော်ကို မစွန့်ပစ်ခဲ့ပါ။

ဤသို့ဖြင့် ရှေ့ဆက်၍ ရွာပျက်များသို့ရောက်ရှိသွားသောအခါ ပိုက်ဆံလျှော်အထည်၊ ဂုန်လျှော်၊ ဂုန်လျှော်ချည်၊ ဂုန်လျှော်အထည်၊ ဝါ၊ ဝါချည်၊ ဝါချည်အထည်၊ သံ၊ ကြေး၊ ခဲပုပ်၊ ခဲဖြူ၊ ငွေ၊ ရွှေတို့ကို တစ်ခုပြီး တစ်ခု တွေ့၍၊ အထက်ပါအတိုင်း တစ်ဦးက အဟောင်းအဟောင်းများကိုစွန့်၍ အသစ်အသစ်များကို လဲလှယ်ယူခဲ့သည်။ နောက်ဆုံး ရွှေကိုထမ်း၍ အိမ်သို့ ရောက်လာသောအခါ မိသားစု ဆွေမျိုးဉာတကာများ ဝမ်းသာကြရသည်။

အခြားတစ်ဦးကမူ 'ထုပ်ပိုးပြီးဖြစ်သည်။ အဝေးမှ ထမ်းလာရသည်' အကြောင်းပြချက်ဖြင့် မူလထမ်းလာသော ပိုက်ဆံလျှော်ကို မစွန့်ဘဲ အိမ်အရောက်ထမ်းလာသဖြင့် မိသားစု ဆွေမျိုးဉာတကာများ ဝမ်းနည်းကြေကွဲခဲ့ကြသည်။

ပစ္စုပ္ပန်၊သံသရာ ဘဝ ၂ ဖြာ တိုးတက်မြင့်မားရေးအတွက် ယိုယွင်းနေသောအဟောင်းကို အကောင်းဖြင့် အစားထိုး လဲလှယ်နိုင်ကြပါစေ။

# အခန်း ၁၂

## နိဂုံး

### ဘုရားရှာခြင်း

ဤအခန်းသည် နိဂုံးပိုင်းဖြစ်သည့်အားလျော်စွာ ဤစာအုပ်ကို အဆုံးသတ်ရန်သာ ဖြစ်သည်။ စာအုပ်ကို အဆုံးမသတ်မီ အခန်း ၁ မှ အခန်း ၁၁ အထိ ရေးသားဖော်ပြထားသော လူ့အဖွဲ့အစည်းများနှင့် ဘာသာရေးအဖွဲ့အစည်းများ၏ ကိုးကွယ်ယုံကြည်မှုများကို ပြန်လည်သုံးသပ်၍ 'ကမ္ဘာပတ်၍ ဘုရားရှာခြင်း' ဟူသောအမည်နှင့် လိုက်ဖက်မှုရှိစေရန်အတွက် 'ဘုရား' ဟူသောဝေနတ္တနှင့် အမြင့်မြတ်ဆုံးသော အကိုးကွယ်ခံအရာ ဘုရားကိုဖော်ပြရန် လိုအပ်သည်။ သို့မဖော်ပြမီ 'ဘုရား' ဟူသော အဓိပ္ပာယ်ဝေနတ် မည်သို့အဆုံးအဖြတ်ရှိသည်ကို ရှေးဦးစွာသိရှိရန် လိုအပ်လာပြန်သည်။ သို့ဖြစ်၍ 'ဘုရား' ဟူသောဝေါဟာရ၏အဓိပ္ပာယ်ကို ရှေးဦးစွာ ရှင်းပြရန် လိုအပ်သည်။

### ဘုရား အဓိပ္ပာယ်

ဖော်ပြခဲ့ပြီးသော ရှေးဦးလူ့အဖွဲ့အစည်းများနှင့် ဗုဒ္ဓဘာသာမှတစ်ပါးသော ဘာသာရေးအဖွဲ့အစည်းများက ၎င်းတို့၏ သက်ဆိုင်ရာဘုရားများကို မည်ကဲ့သို့ အဓိပ္ပာယ်ဖွင့်ဆို သတ်မှတ်ကြသည်ကို အတိအကျမသိရသော်လည်း၊ '၎င်းဘုရားများသည် ကောင်းကျိုးဆိုးပြစ်များကို ပြုနိုင်စွမ်းသည်' ဟူသော ယုံကြည်မှုအရ ကိုးကွယ်ကြခြင်းတွင်တူညီနေကြကြောင်း တွေ့ရှိနိုင်သည်။

တစ်ဖန် 'ဘုရား' ဟူသောဝေါဟာရနှင့်ပတ်သက်၍ အခေါ်ဝေါ်ကွဲပြားကြသော်လည်း လူတို့မြင်နိုင်စွမ်းမရှိသော တန်ခိုးရှင်၊ဖန်ဆင်းရှင်အဖြစ် ယုံကြည်ကိုးကွယ်မှုတွင် တူညီနေကြကြောင်း တွေ့ရှိရပြန်သည်။ ထို့ကြောင့် ထိုထို ရှေးဦးလူ့အဖွဲ့အစည်းများနှင့် ထိုထို ဘာသာရေးများ၏ အယူအဆအရ 'ဘုရား' ဟူသောဝေါဟာရကို အဓိပ္ပာယ်ဖွင့်ရလျှင် 'လူတို့ မြင်နိုင်စွမ်းမရှိသော အနန္တတန်ခိုးရှင် ထာဝရဝိညာဉ်တော်' ဟူသော ဖွင့်ဆိုသတ်မှတ်ချက်သည်သာ ၎င်းတို့ဆိုလိုရင်း အဓိပ္ပာယ်နှင့် အနီးစပ်ဆုံးဖြစ်သည် ဟု ယူဆနိုင်သည်။

### ဗုဒ္ဓဘာသာအရ ဘုရားအဓိပ္ပာယ်

'သတ္တလောကတွင်၊ သို့မဟုတ် ဗြဟ္မာ၊နတ်၊လူ ၃ ဘုံသူတွင် အမြင့်မြတ်ဆုံးသောပုဂ္ဂိုလ်ကို 'ဘုရား' ဟု ခေါ်ကြောင်း' ဗုဒ္ဓစာပေများတွင် အဓိပ္ပာယ်ဖွင့်ဆိုထားသည်ကို တွေ့ရှိနိုင်သည်။ ထို့ကြောင့် မြန်မာဝေါဟာရ ဘုရားကို အဘယာရာမဆရာတော် အရှင်အဂ္ဂမဟာဘိဝံသက အဘိဓာန်နိဿယသစ်တွင် 'မြတ်သောသူအဖြစ် ဝရပုဒ်မှ ဗရ၊ ဗရး၊ ဗရား၊ ဘုရား ဟု အဆင့်ဆင့်ပြောင်းလဲခေါ်ဝေါ်ခဲ့သော ဝေါဟာရဖြစ်ကြောင်း' ကြံဆထားသည်။

အချို့ကမူ 'ဘုရား'ကို သစ္စာ ၄ ပါးကိုသိသော ပညာရှိ ပုဂ္ဂိုလ်ထူးပုဂ္ဂိုလ်မြတ်အဖြစ် 'ပုညဝန္တပုဒ်မှ ပုညား၊ ဘုရား'ဟု အဆင့်ဆင့်ပြောင်းလဲခေါ်ဝေါ်ခဲ့သော ဝေါဟာရဖြစ်ကြောင်း ကြံဆကြသည်။

## ပုဂ္ဂိုလ် ၁၂ မျိုး

ဗုဒ္ဓဘာသာဝင်တို့ ကိုးကွယ်နေကြသော သတ္တလောကတွင် အမြင့်မြတ်ဆုံးသောပုဂ္ဂိုလ် (ဘုရား)ကို သိရှိနိုင်ရန် အောက်ပါပုဂ္ဂိုလ် ၁၂ ပါးကို ရှေးဦးစွာ ပိုင်းခြားသိထားရန် လိုအပ်သည်။

၁- ဒုဂ္ဂတိ အဟိတ်ပုဂ္ဂိုလ် = ငရဲ၊ ပြိတ္တာ၊ အသူရကာယ်၊ တိရစ္ဆာန်များ။

၂- သုဂတိအဟိတ်ပုဂ္ဂိုလ် = ပဋိသန္ဓေအားဖြင့် ဆွံ့၊ အ၊ ပင်း၊ ကန်း၊ ကျီး၊ ရူး၊ အင်္ဂါမစုံသောလူများ၊ နပုံး၊ ပဏ္ဍုက်၊ ဥဘတောဗျည်းများ၊ ဘုမ္မစိုး၊ ရုက္ခစိုး စသော လူ့ဘုံရှိ ဝိနိပါတိကာနတ်များ။

(ပဋိသန္ဓေအားဖြင့် ကန်း၊ ပင်း စသည်မှာ ပဋိသန္ဓေအတွင်း သက်ဆိုင်ရာ အင်္ဂါအစိတ်အပိုင်းများ ဖြစ်ချိန် မဖြစ်ခြင်းကို ဆိုလိုသည်။ ဖြစ်ချိန်၌ ဖြစ်ပြီး နောက် ပိုး၊လေ စသည်တို့ကြောင့် ပင်းလျက်၊ ကန်းလျက်စသည်ဖြင့် မွေးလာရသူများကို သုဂတိအဟိတ် ဟု မဆိုနိုင်ပါ။)

၃- ဒွိဟိတ်ပုဂ္ဂိုလ် = တရားထူးမရနိုင်သေးဘဲ ပါရမီမျိုးစေ့ကို ချပျိုးနိုင်သော လူ့ဘုံနှင့် နတ်ပြည် ၆ ထပ်ရှိ သာမန်လူ၊နတ်များ။

၄- တိဟိတ်ပုဂ္ဂိုလ် = တရားထူးရနိုင်သော လူ့ဘုံ၊ နတ်ဘုံ၊ ဗြဟ္မာဘုံရှိ လူ၊နတ်၊ဗြဟ္မာများ။

၅- သောတာပတ္တိမဂ္ဂဋ္ဌာန်ပုဂ္ဂိုလ်=သောတာပန်ဖြစ်သောလမ်းကြောင်းပေါ်သို့ ရောက်ရှိနေသူ။

၆- သောတာပတ္တိဖလဋ္ဌာန်ပုဂ္ဂိုလ် = 'လောဘ၊ ဒေါသ၊ မောဟ၊ မာန၊ ဒိဋ္ဌိ၊ ဝိစိကိစ္ဆာ၊ ထိန၊ ဥဒ္ဓစ္စ၊ အဟိရိက၊ (သောတာပန်ပုဂ္ဂိုလ်) အနောတ္တပ္ပ' ဟူသော အပူစာတ်အညစ်အကြေးကိလေသာ ၁၀ မျိုးအနက် ဒိဋ္ဌိနှင့် ဝိစိကိစ္ဆာကို အကြွင်းမဲ့ပယ်ထားပြီးသူ ဖြစ်သည်။ ဟိမဝန္တာမှ စီးဆင်းလာသောရေသည် မဟာသမုဒ္ဒရာအရောက် စီးဆင်းသွားပြီး ဟိမဝန္တာသို့ ပြန်လည် စီးတက်လာမှု မရှိသကဲ့သို့ ၊ သောတာပန်ပုဂ္ဂိုလ်တို့၌ ဖြစ်ပွားနေသော မဂ္ဂင် ၈ ပါးသည် ရဟန္တာဖြစ်သည်အထိဖြစ်ပွားပြီး ပုထုဇဉ်ပြန်ဖြစ်ရန် မရှိသောပုဂ္ဂိုလ် ဖြစ်သည်။

ဒိဋ္ဌိအရ 'ခန္ဓာကို အတ္တ' ဟု စွဲယူသော သက္ကာယဒိဋ္ဌိအပြင်၊ 'အတ္တ မြဲသည်' ဟုယူသော သဿတဒိဋ္ဌိ၊ 'သေလျှင်ပြတ်သည်' ဟု ယူဆသော ဥစ္ဆေဒဒိဋ္ဌိ၊ 'ကောင်းမှု၊မကောင်းမှုကံ အကျိုးမရှိ' ယူခြင်း- နတ္ထိကဒိဋ္ဌိ၊ 'ကောင်းမှု၊ မကောင်းမှုကံ ကြောင်းကျိုးမရှိ' ဟု ယူခြင်း- အဟေတုကဒိဋ္ဌိ၊ 'ကောင်းမှု၊ မကောင်းမှုပြုသော်လည်း ပြုသည်မမည် ကံအကြောင်းမရှိ' ဟုယူခြင်း အကိရိယ ဒိဋ္ဌိ ၅ မျိုးကို ယူရသည်။

သောတာပန်ပုဂ္ဂိုလ်သည် ဒိဋ္ဌိနှင့် ဝိစိကိစ္ဆာကိုပယ်ပြီးသူဖြစ်၍ အကုသိုလ်စိတ် ၁၂ ပါးတွင် ဒိဋ္ဌိဂတသမ္ပယုတ်စိတ် ၄ ပါးနှင့် ဝိစိကိစ္ဆာစိတ်များ မဖြစ်ကြသော်လည်း ကျန်ဒိဋ္ဌိဂတဝိပ္ပယုတ်စိတ် ၄ ပါး၊ ဒေါသစိတ် ၂ ပါး ဥဒ္ဓစ္စသဟဂုတ်စိတ်များကား ဖြစ်ကြသေးသည်။ သို့ရာတွင် ၄င်း ကျန်စိတ်များ၏ အပါယ်ကျစေနိုင်သော သတ္တိ

အင်အားကို မဂ်တရားက ဖျက်ချိုးထားပြီးဖြစ်သောကြောင့် သောတာပန်ပုဂ္ဂိုလ်၌ ဣဿာ, မစ္ဆရိယ စသော အကုသိုလ်အကြမ်းစားများ မဖြစ်နိုင်ပြီ။ ထို့ကြောင့် အပါယ်မကျနိုင်ပါ။ တစ်ဖန် သောတာပန်မဖြစ်မီက ပြုခဲ့သော အကုသိုလ်များလည်း အဝိဇ္ဇာ, တဏှာ ဟူသော ဝဋ်မြစ်ကို အဖော်ရမှ အပါယ်ကျနိုင်ကြသည်။ သောတာပန် တို့သန္တာန်၌ရှိသော အဝိဇ္ဇာ,တဏှာဟူသော ဝဋ်မြစ်တို့မှာလည်း အပါယ်ကျစေနိုင်သော အစွမ်းသတ္တိမရှိသောကြောင့် ယခင်ကပြုခဲ့သော အကုသိုလ်များလည်း အဝိဇ္ဇာ တဏှာ အဖော်မရသဖြင့် အပါယ်မကျနိုင်ပြီ။ ထို့ကြောင့် သောတာပန်အဆင့်သို့ရောက်သော ပုဂ္ဂိုလ်သည် အပါယ်ဘေးမှကင်းဝေးရန် သေချာနေတော့သည်။ အပါယ်တံခါး ပိတ်တော့သည်။

အထူးမှာ သောတာပန်ပုဂ္ဂိုလ်သည် ဒိဋ္ဌိ, ဝိစိကိစ္ဆာကို ပယ်ချင်းတူသော်လည်း နုံးညံ့သောသဒ္ဓိန္ဒြေ စသော ဣန္ဒြေ ၅ ပါးရှိသော မုဒိန္ဒြိယပုဂ္ဂိုလ်၊ ၎င်း ဣန္ဒြေ ၅ ပါး အလယ်အလတ်ရှိသော မဇ္ဈိမိန္ဒြိယပုဂ္ဂိုလ်၊ ၎င်း ဣန္ဒြေ ၅ ပါး ထက်မြက်သော တိက္ခိန္ဒြိယပုဂ္ဂိုလ် ဟု ဣန္ဒြေချင်း ခြားနားသောကြောင့်၊ ၇ ဘဝ ပဋိသန္ဓေနေရ သော သတ္တက္ခတ္တုပရမသောတာပန်၊ ၂ ဘဝမှ ၆ ဘဝတိုင် ပဋိသန္ဓေနေရသော ကောလံကောလသောတာပန်၊ တစ်ဘဝသာ ပဋိသန္ဓေနေရသော ဧကဗီဇီသောတာပန် ဟူ၍ ၃ မျိုး ကွဲပြားလာရသည်။ ဤ ၃ မျိုးသော သောတာပန်ပုဂ္ဂိုလ်မှာ လူ့ပြည်,နတ်ပြည်၌ အရေအားဖြင့်ပဋိသန္ဓေနေသော သောတာပန်ပုဂ္ဂိုလ်အတွက်သာ ဖြစ်သည်။ အထက်နတ်ပြည်, ဗြဟ္မာပြည်တို့၌ ဘုံစဉ်စံပြီးလျှင် အကနိဋ္ဌဗြဟ္မာဘုံ၌ ပရိနိဗ္ဗာန်ဝင်စံမည့် သိကြားမင်း စသည်ကဲ့သို့ သောတာပန်မျိုးနှင့် လူ့ပြည်၌ချည်းသက်သက် ၇ ကြိမ်အထိ, နတ်ပြည်၌ချည်းသက်သက် ၇ ကြိမ် အထိ ပဋိသန္ဓေနေရသော သောတာပန်မျိုးကား ၎င်း ၃ မျိုးတွင် ပါဝင်ချေ။ ဧကဗီဇီသောတာပန်မှာလည်း လူ့ပြည်၌ တစ်ကြိမ် ပဋိသန္ဓေနေရသော သောတာပန်မျိုးကိုသာ ဆိုလိုသည်။

တစ်ဖန် အထက်ဖော်ပြပါ သောတာပန် ၃ မျိုးကို မဟာသောတာပန်ခေါ်ပြီး၊ ဝိသုဒ္ဓိ ၇ ပါးတွင် ကင်္ခါ ဝိတရဏဝိသုဒ္ဓိအဆင့်ရှိပြီးသော ပုဂ္ဂိုလ်များကိုမူ 'စူဠသောတာပန်' ဟု ခေါ်သည်၊ စူဠသောတာပန်သည် လောကီ, သီလ, သမာဓိ, ပညာ ဟူသော သမ္ပဒါ ၃ မျိုးနှင့် ပြည့်စုံသဖြင့် မဟာသောတာပန်ကဲ့သို့ ဘဝဆက်တိုင်း သုဂတိမြဲသည်ဟု မဆိုနိုင်သော်လည်း ဒုတိယဘဝ၌မူ သုဂတိမြဲသည်ဟု ဝိသုဒ္ဓိမဂ် မဟာဋီကာ၌ ဖွင့်ဆိုထားသည်။ အင်္ဂုတ္တရအဋ္ဌကထာ နဝကနိပါတ် သီဟနာဒဝဂ် သဉပါဒိသေသသုတ် အဖွင့်၌ကား သရဏဂုံတည်သူ, နှစ်စဉ် မဟာဒုက်မဲ ချလှူသူ, ၅ ပါးသီလမြဲသူ, လဆန်း ၁ ရက်- လဆုတ် ၁ ရက်၌ ဝတ်မပျက်ရည်စူးလှူသူ, နှစ်စဉ် ဝါဆိုသင်္ကန်းတစ်ထည် လှူသူ, နှစ်စဉ် ကထိန်ခင်းလှူသူ, ကျောင်းကန်ဘုရား ဇရပ် တံတား ရေတွင်း လမ်းခင်း ဥယျာဉ်ခြံမြေ လယ်ယာလှူခြင်း စသော နေ့စဉ်လစဉ်နှစ်စဉ် ဝတ်မြဲအောင် လှူသူ, ကာလ ကြာရှည်တည်တံ့သော သစ်ပင် စသည်ကို အလှူသဘောစိုက်ပျိုးခြင်း နိဗဒ္ဓထာဝရကုသိုလ် ရှိသူမှန်သမျှ စူဠသောတာပန်ဖြစ်၍၊ ဒုတိယဘဝ၌ သုဂတိမြဲသည် ဟုဆိုသည်။

၇- **သကဒါဂါမိ မဂ္ဂဋ္ဌာန်ပုဂ္ဂိုလ်** = သကဒါဂါမိဖြစ်ရန် လမ်းကြောင်းပေါ် ရောက်ရှိနေသူ။

၈- **သကဒါဂါမိ ဖလဋ္ဌာန်ပုဂ္ဂိုလ်** = ဒိဋ္ဌိ, ဝိစိကိစ္ဆာ ဟူသော ကိလေသာ ၂ ပါးကို အကြွင်းမဲ့ပယ်ပြီးသည့်အပြင်၊
**(သကဒါဂါမိပုဂ္ဂိုလ်)**
ကာမ,ရာဂ ဟူသော လောဘ, ဒေါသနှင့် ဒိဋ္ဌိဂတဝိပ္ပယုတ်၌ ယှဉ်သော မောဟကိလေသာတို့ကို ခေါင်းပါးအောင်ပြုလုပ်ပြီးသူ။ လူ့ပြည်သို့ တစ်ကြိမ် သာ လာမည့်သူ။

ဝဋ်၌ ကျင်လည်နေရသော လူအံပေါင်းတွင် ထူထပ်သောကိလေသာများ အမြဲမပြတ် ဖြစ်နေသကဲ့သို့ မဟုတ်ဘဲ သကဒါဂါမိပုဂ္ဂိုလ်တို့၌ ၄င်းကာမရာဂ, ဒေါသနှင့်မောဟတို့ တစ်ခါတစ်ရံသာ ဖြစ်သည်။ ဖြစ်သော်လည်း ကျဲကျဲပါးပါးသာ ဖြစ်သည်။ ထို့ကြောင့် သကဒါဂါမိပုဂ္ဂိုလ်တို့သည် အိမ်ထောင်သားမွေးခြင်း ရှိကြသော်လည်း ထူထပ်သောကိလေသာရာဂကြောင့် ဖြစ်သည် မဟုတ်ချေ။ ကိုယ်အင်္ဂါကို သုံးသပ်ကာမျှဖြင့်လည်း သားမွေးခြင်း ဖြစ်နိုင်သဖြင့် ကိလေသာထူထပ်မှု မရှိကြောင်း သိနိုင်သည်။ သကဒါဂါမိသည် အောက်ပါအတိုင်း ၆ မျိုးရှိသည်။

- ဤလူ့ပြည်၌ သကဒါဂါမိဖြစ်၍ ဤလူ့ပြည်၌ပင် ဘဝမခြားဘဲ အနာဂါမိရဟန္တာဖြစ်ကာ ပရိနိဗ္ဗာန်ပြုသူ။
- ဤလူ့ပြည်၌ သကဒါဂါမိဖြစ်၍ ဒုတိယဘဝနတ်ပြည်၌ အနာဂါမိရဟန္တာဖြစ်ကာ ပရိနိဗ္ဗာန်ပြုသူ။
- နတ်ပြည်၌ သကဒါဂါမိဖြစ်၍ ထိုနတ်ပြည်၌ပင် အနာဂါမိရဟန္တာဖြစ်ကာ ပရိနိဗ္ဗာန်ပြုသူ။
- နတ်ပြည်၌ သကဒါဂါမိဖြစ်၍ ဒုတိယဘဝလူ့ပြည်၌ အနာဂါမိရဟန္တာဖြစ်ကာ ပရိနိဗ္ဗာန်ပြုသူ။
- လူ့ပြည်၌ သကဒါဂါမိဖြစ်၍ ဒုတိယဘဝနတ်ပြည်၌ ပဋိသန္ဓေနေပြီးနောက် တတိယဘဝတွင် ဤလူ့ပြည်၌ အနာဂါမိရဟန္တာဖြစ်ကာ ပရိနိဗ္ဗာန်ပြုသူ။
- နတ်ပြည်၌ သကဒါဂါမိဖြစ်၍ ဒုတိယဘဝလူ့ပြည်၌ ပဋိသန္ဓေနေပြီးနောက် တတိယဘဝတွင် နတ်ပြည်၌ အနာဂါမိရဟန္တာဖြစ်ကာ ပရိနိဗ္ဗာန်ပြုသူ။

၉- **အနာဂါမိ မဂ္ဂဋ္ဌာန်ပုဂ္ဂိုလ်** =အနာဂါမ်ဖြစ်သောလမ်းကြောင်းပေါ် ရောက်ရှိနေသူ။

၁၀- **အနာဂါမိဖလဋ္ဌာန်ပုဂ္ဂိုလ် (အနာဂါမ်ပုဂ္ဂိုလ်)** =သကဒါဂါမ်ဘဝ၌ ခေါင်းပါးအောင်ပြုထားသော ကာမ,ရာဂ ဟူသော လောဘ, ဒေါသနှင့် ဒိဋ္ဌိဂတဝိပ္ပယုတ် စိတ်၌ယှဉ်သော မောဟကိလေသာတို့ကို အကြွင်းမဲ့ပယ်ပြီးသူ။ လူ့ပြည်သို့ ပြန်မလာသူ။

အနာဂါမ်ပုဂ္ဂိုလ်သည် ကာမရာဂကို (ဝါ) ကာမတဏှာကို အကြွင်းမဲ့ပယ်ထားပြီး ဖြစ်သောကြောင့် ကာမဘုံ၌ ပဋိသန္ဓေမနေရတော့ပြီ။ သို့ရာတွင် ရူပရာဂ, အရူပရာဂ ဟူသော လောဘကိလေသာကို မပယ်ရသေးသဖြင့် ရူပ, အရူပဗြဟ္မာဘုံတို့၌ ပဋိသန္ဓေ နေနိုင်သေးသည်။ ထို့ကြောင့် လူ့ဘုံက အနာဂါမ်ပုဂ္ဂိုလ်သည် ဤဘဝ၌ပင် ရဟန္တာ ဖြစ်လျှင်ဖြစ်၊ မဖြစ်က ရူပ,အရူပဘုံတို့၌ ပဋိသန္ဓေနေ၍ ထိုမှတစ်ဆင့် ရဟန္တာအဖြစ်ကိုယူကာ ပရိနိဗ္ဗာန်ပြုနိုင်သည်။ အနာဂါမ်မှာလည်း အောက်ပါအတိုင်း ၅ မျိုးရှိသည်။

- ရောက်ရှိရာဘုံသက်တမ်း ထက်ဝက်အတွင်း၌ ရဟန္တာဖြစ်၍ ပရိနိဗ္ဗာန်ပြုခြင်း။
- ရောက်ရာဘုံသက်တမ်း ထက်ဝက်လွန်ပြီး နောက်ထက်ဝက်သို့ရောက်သောအခါ၌ ရဟန္တာဖြစ်၍ ပရိနိဗ္ဗာန်ပြုခြင်း။
- အလွန်အားထုတ်ရခြင်းမရှိဘဲ ရဟန္တာဖြစ်၍ ပရိနိဗ္ဗာန်ပြုခြင်း။
- အလွန်အကဲအားထုတ်ခြင်းဖြင့် ရဟန္တာဖြစ်၍ ပရိနိဗ္ဗာန်ပြုခြင်း။
- မိမိဖြစ်ရာ သုဒ္ဓါဝါသဘုံမှ အကနိဋ္ဌဘုံတိုင်ဆန်တက်၍ အကနိဋ္ဌဘုံ၌ ရဟန္တာဖြစ်၍ ပရိနိဗ္ဗာန်ပြုခြင်း။

၁၁ အရဟတ္တ မဂ္ဂဋ္ဌာန်ပုဂ္ဂိုလ် = ရဟန္တာဖြစ်သောလမ်းကြောင်းပေါ် ရောက်ရှိနေသူ။

၁၂ အရဟတ္တ ဖလဋ္ဌာန်ပုဂ္ဂိုလ် (ရဟန္တာပုဂ္ဂိုလ်) = ကိလေသာ ၁၀ ပါးအနက် သောတာပန်၊ သကဒါဂါမ်၊ အနာဂါမ်ဘဝ၌ မပယ်နိုင်သေးသော 'ရူပရာဂ၊ အရူပရာဂ' ဟူသော လောဘတစ်စိတ်။ ဥဒ္ဓစ္စ၊ သဟဂုတ်စိတ်၌ရှိသော မောဟတစ်စိတ်နှင့် မာန၊ ထိန၊ ဥဒ္ဓစ္စ၊ အဟိရိက၊ အနောတ္တပ္ပ ဟူသော ကိလေသာတို့ကို အကြွင်းမဲ့ပယ်လိုက်ပြီးသူ။ ကိလေသာ ၁၀ ပါးစလုံးကို လုံးဝပယ်ပြီးသူ ဟူလိုသည်။ လူ၊နတ်၊ ဗြဟ္မာ၊သတ္တဝါတို့၏ ပူဇော်အထူးကိုခံယူတော်မူထိုက်သူ အဆင့်သို့ ရောက်ရှိပြီးသူ ဖြစ်သည်။

အထက်ဖော်ပြပါ ပုဂ္ဂိုလ် ၁၂ ပါးတွင် ရဟန္တာပုဂ္ဂိုလ်ကို အမြင့်ဆုံး၊ အမြတ်ဆုံးအဖြစ် တွေ့ရှိနိုင်သည်။ လူ၊နတ်၊ဗြဟ္မာများသည် မိမိတို့၏ ပါရမီအားလျော်စွာ ရဟန္တာအဖြစ်ကို ရရှိနိုင်သည်။ ရဟန္တာဖြစ်သောပုဂ္ဂိုလ်သည် ဘဝသံသရာ၌ နောက်ထပ်တစ်ဖန် ပြန်လည်ဖြစ်ရန် မရှိတော့သဖြင့် နိဗ္ဗာန်ကိုရရှိသော ပုဂ္ဂိုလ်လည်း ဖြစ်သည်။ ပရိနိဗ္ဗာန်မပြုသေးက ခန္ဓာကိုယ်အကြွင်းရှိသော သဉပါဒိသေသနိဗ္ဗာန်ကို ရရှိသည် မည်၏။ ပရိနိဗ္ဗာန်ပြုပြီးက ခန္ဓာကိုယ်အကြွင်းမရှိသော အနုပါဒိသေသနိဗ္ဗာန်ကို ရရှိသည် မည်၏။ နိဗ္ဗာန်ရရှိသောပုဂ္ဂိုလ်သည် ကိလေသာ အပူဓာတ်များ မရှိသောကြောင့် အမြဲထာဝရ ငြိမ်းအေးချမ်းသာမှု (သန္တိသုခ)ကို ခံစားရတော့သည်။

ဗုဒ္ဓမြတ်စွာသည်လည်း ပုဂ္ဂိုလ် ၁၂ ပါးတွင် ရဟန္တာအဆင့်ရှိသောပုဂ္ဂိုလ်ပင် ဖြစ်သည်။ သို့သော် ရဟန္တာပုဂ္ဂိုလ်မှာလည်း ပု၊ ဒိ၊ အာ ခေါ် ပုဗ္ဗေနိဝါသာနုဿတိ (ဘဝဟော ်း အောက်မေ့နိုင်သောဉာဏ်)၊ ဒိဗ္ဗစက္ခု-(သေးသေးလျှို့ဝှက်အရုံကို နတ်မျက်စိကဲ့သို့ မြင်နိုင်သောဉာဏ်)၊ အာသဝ က္ခယ (အာသဝေါတရား ကုန်ခန်းသောဉာဏ်) ဟူသော ဝိဇ္ဇာ ၃ ပါးရရှိသော တေဝိဇ္ဇာပတ္တရဟန္တာ၊ 'ဓမ္မ၊ အတ္ထ၊ နိရုတ္တိ၊ ပဋိဘာန' ဟူသော ပဋိသမ္ဘိဒါဉာဏ် ၄ ပါး ရရှိသော ပဋိသမ္ဘိဒါပတ္တရဟန္တာ၊ အဘိညာဉ် ၆ ပါးတို့ကိုရရှိသော ဆဠဘိညရဟန္တာ၊ ဈာန်ရရှိသော ဈာနလာဘီရဟန္တာ၊ ရိုးရိုးဖြစ်သော၊ ဈာန်အစေးမကပ်သော သုက္ခဝိပဿကရဟန္တာ စသည်ဖြင့် အမျိုးမျိုးရှိပြန်ရာ ဗုဒ္ဓမြတ်စွာဘုရားသည် ပါရမီ ၁၀ ပါးတို့ကို ၄ အသင်္ချေနှင့် ကမ္ဘာ ၁ သိန်းမျှ ဖြည့်ကျင့်ဆည်းပူးတော်မူခဲ့ရပြီးနောက်၊ 'ဘုရား' ဟု သတ်မှတ်ခေါ်ဝေါ်နိုင်သော သမ္မာသမ္ဗောဓိဉာဏ် (ဝါ) ဣန္ဒြိယပရောပရိယတ္တိ-သတ္တဝါတို့ ဣန္ဒြေနုရင့်ကို သိခြင်း၊ အာသယာနုသယ-သတ္တဝါတို့၌ ကိန်းနေသောကိလေသာကို သိခြင်း၊ ယမက ပါဋိဟာရိယ-ရေ၊မီးအစုံအစုံ တန်ခိုးပြနိုင်စွမ်း၊ မဟာကရုဏာသမာပတ္တိ-မဟာကရုဏာသမာပတ်ဝင်စားမှု၊ သဗ္ဗညုတ-တရားအလုံးစုံသိနိုင်စွမ်းနှင့် အနာဝရဏ - တရားအားလုံး သိနိုင်ရေးအတွက် အပိတ်အပင်မရှိအောင် ကူပံ့ပေးသောဉာဏ် ဟူသော အများနှင့်မဆက်ဆံသော အသာဓာရဏဉာဏ်တော် ၆ ပါးကို ရရှိတော်မူသောကြောင့် အခြားသော လူ၊နတ်၊ဗြဟ္မာ ရဟန္တာအမျိုးမျိုးတို့ထက် သာလွန်မြင့်မြတ်လာရပြန်သည်။

တစ်နည်းအားဖြင့် သတ္တလောကတွင် (ဝါ) ဗြဟ္မာ၊နတ်၊လူ ၃ဘုံသူတွင် အမြင့်မြတ်ဆုံးသောပုဂ္ဂိုလ် ဖြစ်တော့သည်။ ထို့ကြောင့် ဗုဒ္ဓဘာသာဝင်များက ဗုဒ္ဓမြတ်စွာကို အမြင့်မြတ်ဆုံးသူ 'ဘုရား'အဖြစ် အထွတ်အမြတ်ပြု၍ ကိုးကွယ်ကြခြင်းဖြစ်သည်။ မြတ်စွာဘုရားလောက် ပါရမီမဖြည့်ဆည်းရသော (ဝါ) ပါရမီ ၁၀ ပါးကို ၂ အသင်္ချေနှင့် ကမ္ဘာ ၁ သိန်းမျှ ဖြည့်ကျင့်ဆည်းပူးခဲ့ရပြီး ပစ္စေကဗောဓိဉာဏ်ကို ရရှိတော်မူသော ရဟန္တာအရှင်များကိုမူ 'ဘုရားငယ်' သို့မဟုတ် 'ပစ္စေကဗုဒ္ဓါ' ခေါ်ကြသည်၊ ဤ ပစ္စေကဗုဒ္ဓါခေါ်သော ဘုရားငယ်များသည် မိမိတို့ကိုယ်တိုင် သစ္စာတရား ၄ ပါးကို ပိုင်းခြားထင်ထင်သိမြင်တော်မူကြသော်လည်း သတ္တဝါတို့အား ဟော

ချတ်နိုင်ခြင်း မရှိပါ။ ၎င်းအပြင် 'ပစ္စေကဗုဒ္ဓါ' ခေါ်သော ဘုရားငယ်အရှင်မြတ်များသည် သာသနာတွင်းအခါ၌ ပွင့်တော်မူခြင်း မရှိဘဲ၊ သာသနာပအခါ၌သာ ပွင့်တော်မူကြသည်။ ကျန်ရဟန္တာအရှင်မြတ်များမှာမူ အထိုက်အလျောက်သာ ပါရမီဖြည့်ကျင့်ကြရပြီး၊ ယင်းပါရမီအလိုက် အဂ္ဂသာဝက၊ မဟာသာဝက စသည်ဖြင့် ကွဲပြားလာရပြန်သည်။

## ဘုရား ဟူသည်

အထက်ဖော်ပြပါ ဗုဒ္ဓဘာသာဝင်တို့၏ အဓိပ္ပာယ်ဖွင့်ဆိုချက်အရ ဘုရားကိုရှာလျှင် ဗုဒ္ဓဘာသာတွင် ဗုဒ္ဓမြတ်စွာကိုသာ တွေ့ရမည်ဖြစ်သည်။ အဘယ်ကြောင့်ဆိုသော် ဗုဒ္ဓမြတ်စွာသည် လူ၊နတ်၊ပြဟ္မာနှင့် ဖော်ပြပါ ပုဂ္ဂိုလ် ၁၂ ပါးစလုံး၏ ဦးညွှတ်ရာ အမြင့်မြတ်ဆုံးသောပုဂ္ဂိုလ် ဖြစ်သောကြောင့် ဖြစ်သည်။ သို့ဖြစ်၍ ဗုဒ္ဓဘာသာတွင် ဗုဒ္ဓထက်မြင့်မြတ်သောပုဂ္ဂိုလ် တစ်ဦးတစ်ယောက်မျှ၊ တန်ခိုးရှင် တစ်ဦးတစ်ယောက်မျှ မရှိပြီ။ ဗုဒ္ဓသည်ပင် အမြင့်မြတ်ဆုံးတန်ခိုးရှင် ဖြစ်ပါတော့သည်။ ဗုဒ္ဓမြတ်စွာဘုရား၏ ဟောကြားဆုံးမချက်များကိုသာ ဗုဒ္ဓဘာသာဝင်တို့က လိုက်နာကျင့်ကြံ အားထုတ်လျက်ရှိကြသည်။

ယင်း အဓိပ္ပာယ်ဖွင့်ဆိုချက်များအရ အခြားဘာသာအယူဝါဒများတွင် အမြင့်မြတ်ဆုံးသောသူ (ဘုရား) ကိုရှာလျှင် ထိုထိုဘာသာအယူဝါဒများကို ချမှတ်ဟောကြားခဲ့ကြသော ဝါဒရှင်ပုဂ္ဂိုလ်များကိုသာ အမြင့်မြတ်ဆုံးသောသူ (ဘုရား)အဖြစ် သတ်မှတ်ရမည် ဖြစ်ပေသည်။ ဤသို့ သတ်မှတ်လျှင် ဗြာဟ္မဏ(ဟိန္ဒူ)ဘာသာတွင် ဗြာဟ္မဏဘာသာဆိုင်ရာကျမ်းပြုဆရာ ရသေ့များ၊ ဂျူးဘာသာတွင် မောရှေ၊ ဖာရစီဘာသာတွင် ဇိုရိုအက်စတာ၊ ခရစ်ယာန်ဘာသာတွင် သခင်ယေရှု၊ အစ္စလာမ်ဘာသာတွင် မိုဟာမက်၊ ဆစ်ဘာသာတွင် ဂုရုနာနတ်၊ ဂျိန်းဘာသာတွင် မဟာဝီရ၊ ကွန်ဖြူးရှပ်အယူဝါဒတွင် ကွန်ဖြူးရှပ်၊ တာအိုအယူဝါဒတွင် လောင်ဇူသုခမိန် စသော ပုဂ္ဂိုလ်ထူးများသည် ထိုထိုဘာသာများအတွက် အမြင့်မြတ်ဆုံးသူ (ဘုရား)များပင် ဖြစ်နိုင်သည်။

သို့ရာတွင် သက်ဆိုင်ရာ ထိုထိုဘာသာဝင်များ၊ ထိုထိုအယူဝါဒများ နောက်လိုက်များသည် ထိုထိုဘာသာအယူဝါဒများကို ချမှတ်ဟောကြားခဲ့ကြသော ထိုပုဂ္ဂိုလ်ထူးများကို အမြင့်မြတ်ဆုံးသောသူ (ဘုရား)အဖြစ် မသတ်မှတ်ကြသည့်နည်းတူ၊ ထိုထိုဘာသာအယူဝါဒကို ချမှတ်ဟောပြောခဲ့ကြသော ပုဂ္ဂိုလ်ထူးများကလည်း အိန္ဒိယအယူဝါဒရှင် အနည်းအကျဉ်းမှလွဲ၍ မည်သူမျှ အမြင့်မြတ်ဆုံးသောသူ (ဘုရား)အဖြစ် မခံယူကြပေ။ ထိုထိုပုဂ္ဂိုလ်များသည် မိမိတို့ထက်မြင့်မြတ်သော အနန္တတန်ခိုးရှင် (ဘုရား)ရှိကြောင်း ခံယူဟောပြောခဲ့ကြသည်။ ထို့ကြောင့် ထိုထိုဘာသာဝင်များ၊ ထိုထိုအယူဝါဒနောက်လိုက်များကလည်း အနန္တတန်ခိုးရှင်ကိုသာ အမြင့်မြတ်ဆုံးသူ (ဘုရား) အဖြစ် သတ်မှတ်ကိုးကွယ်နေကြသည်ကို တွေ့ရှိရခြင်းဖြစ်သည်။

သို့ဆိုလျှင် 'ထိုအနန္တတန်ခိုးရှင်ကို မည်သူ မြင်ဖူးသနည်း' ဟု မေးဖွယ်ရှိလာသည်။ ဆိုဗီယက် အကယ်ဒမီ သိပ္ပံပညာရှင်များက အခြားစကြဝဠာမှ အချိန်မှန်ထုတ်လွှင့်နေသော ရေဒီယိုဓာတ်လှိုင်းများကို ဖမ်းမိနေသည်ကို ထောက်ဆ၍ အခြားစကြဝဠာများတွင် လူသားထက် အဆက်ဆက်မှာသာလွန်မြင့်မြတ်သော သက်ရှိများ ရှိနိုင်သည် ဟု လွန်ခဲ့သော ၁၀ နှစ်ကျော်က ထုတ်ပြန်ကြေညာချက်တစ်ရပ်ကို မြန်မာသတင်းစာအသီးသီး၌ ရေးသားဖော်ပြထားသည်ကို ဖတ်ရှုခဲ့ရဖူးသည်။

တစ်ဖန် ယနေ့ သိပ္ပံပညာရှင်များအား ဦးနှောက်ခြောက်စေသော ကိစ္စတစ်ရပ်မှာ စာစောင်အသီးသီးတွင် ရေးသားဖော်ပြနေကြသဖြင့် စာဖတ်ပရိသတ်များနှင့် ရင်းနှီးနေပြီးဖြစ်သော 'ယူဖိုး' ခေါ် ပန်းကန်ပြားပျံကိစ္စပင် ဖြစ်သည်။ ယင်း ပန်းကန်ပြားပျံကိစ္စနှင့်ပတ်သက်၍ သိပ္ပံပညာရှင်များက အဖြေကို အတိအကျမရရှိသေးသော်

လည်း ယင်းပန်းကန်ပြားပျံများသည် လူသားများထက် အဘက်ဘက်မှာ သာလွန်အစွမ်းထက်သော အခြားကမ္ဘာမှ စွမ်းအားရှင်များဖြစ်ကြောင်းကိုမူ အားလုံးက လက်ခံနေကြသည်။ ယခုအခါ ကနေဒါအနောက်ပိုင်းပြည်နယ်ဖြစ်သော ဗြိတိသျှကိုလံဘီယာတွင် ပန်းကန်ပြားပျံကိုစောင့်ကြည့်သော စခန်းတစ်ခုပင် ရှိသည်။ ယင်း စွမ်းအားရှင်များသည် လူသား၏ ရုပ်ပိုင်းဆိုင်ရာများကိုသာမက စိတ်ပိုင်းဆိုင်ရာများကိုပါ လွှမ်းမိုးနိုင်ကြောင်း၊ တစ်နည်းအားဖြင့် လူသား၏စိတ်ကို ၄င်းတို့လိုသလို ဖန်တီးနိုင်ကြောင်း သိရှိရပြန်သည်။

၄င်းအပြင် ဤစွမ်းအားရှင်များသည် လူ့ဘောင်လောက၌ ဖြစ်ပေါ်လာမည့်အချက်များကိုလည်း ကြိုတင်သိရှိပြီး သတိပေးလေ့ရှိသည် ဟု ဆိုပြန်သည်။ ယနေ့သိပ္ပံပညာရှင်များသည် အဏုမြူဗုံးကိုတီထွင်နိုင်သော ရေဒီယန်ဒြပ်စင်ကို ရှာမတွေ့နိုင်မီအချိန်က ဆိုဗီယက်တွင် အကြောင်းရှာမတွေ့သော ပေါက်ကွဲမှုတစ်ရပ်ဖြစ်ခဲ့ပြီး အဏုမြူဗုံးပေါက်သကဲ့သို့ မှိုပွင့်သဏ္ဌာန်ရှိသောအခိုးအငွေ့များ ကောင်းကင်သို့ လွင့်တက်ခဲ့သည် ဟုဆိုသည်။ ၄င်းကိစ္စဖြစ်ပွားပြီးနောက် မကြာမီ ဒုတိယကမ္ဘာစစ်အတွင်း၌ ဂျပန်ပြည် ဟီရိုးရှီးမားနှင့် နာဂါဆာကီးမြို့တို့တွင် အဏုမြူဗုံး ၂လုံးပေါက်ကွဲဖြစ်ပွားမှုများသည်။ ဆိုဗီယက်နိုင်ငံ၌ပေါက်ကွဲမှုနှင့် တစ်ထပ်တည်းရှိသည်ကို တွေ့ရှိရသည်ဟု အဆိုရှိသည်။ ထို့ကြောင့် ဆိုဗီယက်၌ပေါက်ကွဲမှုသည် အဆိုပါစွမ်းအားရှင်များက လူ့ဘောင်လောက၌ ဖြစ်ပေါ်လာမည့်ကိစ္စရပ်ကို ကြိုတင်သတိပေးခြင်း ဖြစ်သည်ဟု ပညာရှင်တို့ ယူဆကြသည်။ ယင်းစွမ်းအားရှင်များ၏ စွမ်းအားနှင့်စပ်လျဉ်း၍ ကမ္ဘာလောကတွင် အလားတူဖြစ်ပျက်မှု အများအပြားပင်ရှိသည်။

ဤ၌ ယင်းစွမ်းအားရှင်များကိုပင် အနန္တတန်ခိုးရှင် (ဘုရားသခင်)ဟု ယူဆနိုင်၊ မယူဆနိုင်ကိစ္စကို စဉ်းစားလျှင်၊ မယူဆနိုင်ကြောင်း တွေ့ရှိနိုင်သည်။ အဘယ်ကြောင့်ဆိုသော် အနန္တတန်ခိုးရှင် (ဘုရားသခင်)သည် ပရမတ္ထမဝိညာဉ်တော်၊ သို့မဟုတ် မဟာဝိညာဉ်တော်ဖြစ်၍ လူသားတို့ မြင်နိုင်စွမ်း မရှိသောကြောင့်ဖြစ်သည်။

အမှန်မှာ ဤစွမ်းအားရှင်များသည် ဗုဒ္ဓဘာသာ၌သတ်မှတ်ထားသော နတ်၊ဗြဟ္မာများ ဖြစ်သည် ဟုဆိုလျှင် ပို၍ နီးစပ်မှုရှိနိုင်သည်။ သို့ရာတွင် ယင်း နတ်၊ဗြဟ္မာတစ်မျိုးမျိုးသည်လည်း မည်မျှပင် အစွမ်းထက်သောတန်ခိုးစွမ်းအားရှိကြစေကာမူ 'သီလ၊ သမာဓိ၊ ပညာ' ဟူသော သိက္ခာ ၃ ပါးနှင့်ပြည့်ဝသော လူသားအား ဦးညွှတ်ခြင်း၊ စောင်မခြင်းများကို ပြုကြရသည်သာ ဖြစ်သည်။ အထူးမှာ အနန္တတန်ခိုးရှင် (ထာဝရဘုရားသခင်)သည် ဤသို့ ဝိညာဉ်တော်ဖြစ်သောကြောင့်လည်း ထိုထိုဘာသာဝင်များ၊ ထိုထိုအယူဝါဒနောက်လိုက်များနှင့် ထိုထိုဘာသာ အယူဝါဒများကို ချမှတ်ဟောပြောခဲ့ကြသော ပုဂ္ဂိုလ်ထူးအများစုမှာ ယင်းဝိညာဉ်တော်ကို မြင်တွေ့ရသည်ဟု မည်သူမျှ မဆိုကြခြင်း ဖြစ်သည်။

သို့ရာတွင် ဂျူးဘာသာအယူဝါဒကို ချမှတ်ဟောပြောခဲ့သော မောရှေ (မိုးဇက်)သည် 'ဆိုင်းနိုင်းတောင်ထိပ်၌ ဘုရားသခင်နှင့်တွေ့ရပြီး၊ ပညတ်တော် ၁၀ ပါးကို ပေးခဲ့ကြောင်း' မိမိ၏နောက်လိုက်များအား ဟောပြောထားသည်ကို တွေ့ရှိရသည်။

အလားတူ အစ္စလာမ်ဘာသာအယူဝါဒကို ချမှတ်ဟောပြောခဲ့သော တမန်တော် မိုဟာမက်ကလည်း 'ဘုရားသခင် (အလ္လာဟ်)အရှင်မြတ်နှင့် တွေ့ခဲ့ကြောင်း' ဝန်ခံထားသည်ကို တွေ့ရှိရပြန်သည်။

အချုပ်အားဖြင့် ဘုရားသခင်ကို တွေ့ရသည်ဖြစ်စေ၊ မတွေ့ရသည်ဖြစ်စေ၊ ယင်း 'တွေ့မြင်သည်' ဟုဆိုမှုကို ယုံကြည်ဖွယ်ရှိသည်ဖြစ်စေ၊ မရှိသည်ဖြစ်စေ၊ ယနေ့ထင်ပေါ်နေသော ကမ္ဘာ့ဘာသာကြီး ၄ ရပ်အနက် ဟိန္ဒူဘာသာတွင် ဗြဟ္မာဗိဿနိုးနှင့် သီဝတို့ကို လည်းကောင်း၊ ခရစ်ယာန်ဘာသာတွင် ထာဝရသခင်ကို လည်းကောင်း၊ အစ္စလာမ်ဘာသာတွင် အလ္လာဟ်အရှင်ကို လည်းကောင်း ဘုရားများအဖြစ် ယုံကြည်ကိုးကွယ်နေကြောင်း တွေ့ရှိ

ရသည်။ သက်ဆိုင်ရာဘာသာဝင်များသည်လည်း မိမိတို့၏ ဘာသာအယူဝါဒ ပညတ်ချက်များနှင့် ဘုရားသခင်ကို ယုံကြည်ချက်အပြည့်အဝဖြင့် လိုက်နာဆည်းကပ် ကိုးကွယ်ဝပ်တွားလျက်ပင် ရှိကြသည်။ ကိုးကွယ်မှုဆိုင်ရာတွင် ယုံကြည်မှုသည် ရှေ့တန်းကပြဋ္ဌာန်းနေသဖြင့် 'ယုံကြည်ချက်ဖြင့်ကိုးကွယ်မှု'ကို အပြစ် ဟု မဆိုသာသည့်အပြင်၊ အကျိုးပင်ရရှိနိုင်သည်ဟုသာ ယူဆရပေတော့သည်။

## ဘုရား ရှိ၊မရှိပြဿနာ

ကိုးကွယ်မှုဆိုင်ရာကိစ္စရပ်နှင့် စပ်လျဉ်း၍ မျက်မှောက်ခေတ်အထိ သမိုင်းတစ်လျှောက်တွင် အထိုက် အလျောက်အငြင်းပွားမှုများ ရှိခဲ့သည်။ ယင်းအငြင်းပွားမှုမှာလည်း အခြားမဟုတ်။ 'ဘုရား ရှိ၊မရှိ' ပြဿနာပင် ဖြစ်သည်။ ဤ ဘုရားရှိ၊မရှိ အငြင်းပွားမှုသည် ဂရိ၊ ရောမ၊ အိန္ဒိယတို့တွင် ၆ ရာစုဘီစီမှစ၍ အငြင်းပွားခဲ့ကြ သည်ကို တွေ့ရှိနိုင်သည်။ တစ်ဖန် ခရစ်ယာန်ဘာသာ ပေါ်ပေါက်လာပြီးနောက် ရောမတို့ လက်ခံလာသောအခါ ရောမတို့၏တန်ခိုးဩဇာ အရှိန်အဝါကြောင့် ခရစ်ယာန်ဘာသာလည်း တစ်ဟုန်ထိုးတိုးတက်ပြန့်ပွားလာသည်ကို တွေ့ရှိရသည်။ သို့ရာတွင် နောက်ပိုင်းကာလများ၌ ရောမကျောင်းတော်၏ဩဇာအာဏာ အစွန်းရောက်မှုကြောင့် အချင်းချင်း အယုံအကြည်ကင်းခဲ့ကြရမှ ဘုရားကိုလည်း ဆန်းစစ်လာကြတော့သည်။ ဤနည်းဖြင့် 'ရီနေဆန့်' ခေါ် အတွေးအခေါ်ဆန်းသစ်သောခေတ်သို့ ရောက်ရှိလာသောအခါ၊ 'ဘုရား ရှိ၊မရှိ' ဟူသောအငြင်းပွားမှု ပြဿနာရပ်သည် ပို၍ကြီးထွားလာရတော့သည်။ ယင်းအငြင်းပွားမှုကား ထိုခေတ်ထိုကာလ၌ပင် ရပ်တန့်ခဲ့ရသည် မဟုတ်ဘဲ၊ ယနေ့မျက်မှောက်ခေတ်၌လည်း အငြင်းပွားလျက်ပင် ရှိသေးသည်ကို တွေ့ရှိနိုင်သည်။ ထို့ကြောင့် 'ဘုရား ရှိသည်'ဟုလက်ခံသော ပညာရှင်များနှင့် 'ဘုရား မရှိပါ'ဟုဆိုသော ပညာရှင်များသည် မျက်မှောက်ခေတ် ကမ္ဘာ့အတွေးအခေါ်ရှင်များသမိုင်းတွင် ထင်ရှားလာရတော့သည်။ ဤ၌ 'ဘုရား ရှိ၊မရှိ' ဟူသည်မှာ အနန္တ တန်ခိုးရှင် မဟာဗိညာဉ်တော် (ဝါ) ပရမတ္တဗိညာဉ်တော်ဘုရားကို ဆိုလိုကြောင်း သတိပြုစေလိုသည်။

## ဘုရားရှိသည်ကို လက်ခံသောပညာရှင်များ

ယခုဖော်ပြမည့် ဘုရား ရှိသည်၊မရှိသည်ကို ထုတ်ဖော်ပြောကြားကြသော ပညာရှင်များကား အလယ်ခေတ် အစ အေဒီ ၄ ရာစုခန့်မှစ၍ ယနေ့မျက်မှောက်ခေတ် ၂၀ ရာစု ကုန်လုနီးပါးကာလအထိဖြစ်သော အချိန်ကာလ အတွင်း၌ ပေါ်ပေါက်ခဲ့ကြသော ပညာရှင်များ ဖြစ်သည်။ ၎င်းတို့တွင် ရှေးဂရိတွေးခေါ်ရှင်အချို့ကဲ့သို့ အသတ်ခံရပြီး ဖိနှိပ်ခံရခြင်းများကို ခံခဲ့ရသူများလည်း ပါဝင်သည်။

ဘုရားရှိသည်ကို လက်ခံသည့် ထင်ရှားသောပညာရှင်အချို့မှာ အောက်ပါအတိုင်း ဖြစ်သည်-

ဩဂတ်စတင်း။ အေဒီ ၃၅၄-၄၃၀ ခုနှစ်။ 'ထာဝရဘုရားနှင့် မိမိအကြောင်းကိုသိခြင်းသည် သိသင့်သော ပညာရပ်ဖြစ်သည်' ဟုဆိုခြင်းဖြင့် ဘုရားရှိမှုကို လက်ခံသည်။

သောမတ်အကွိုင်နက်။ ၁၂၂၅ ခုနှစ်တွင် နေပယ်မြို့အနီး၌ မွေးသည်။ ကာသိုလစ်ဘာသာ အတွေးအခေါ်များကို လေးလေးနက်နက်လိုက်စားခြင်းဖြင့် ဘုရားရှိမှုကို လက်ခံသည်။

ဘာကလေ။ ၁၆၈၅-၁၇၅၃ ခုနှစ်။ အိုင်ယာလန်ခရစ်ယာန်ဂိုဏ်းအုပ် ဖြစ်သည့်အားလျော်စွာ ရုပ်ဝါဒကိုတိုက် ရန် သန္နိဋ္ဌာန်ချခြင်းဖြင့် ဘုရားရှိမှုကို လက်ခံသည်။

အင်မယ်နယူဝယ် ကန့်။ ၁၇၂၄-၁၈၀၄ ခုနှစ်။ ဟယ္ယွမ်း၏ ဆန့်ကျင်ဘက် ဂျာမန်တွင် ဝိညာဏဝါဒကို စတင် ချပြီး ဟောပြောခြင်းဖြင့် ဘုရားရှိမှုကို လက်ခံသည်။

ဂျွန် ဂေါ့ ဘလိဘ် ဖိချ်တေ။ ၁၇၂၆-၁၈၁၄ ခုနှစ်။ကန့်၏ဝိညာဏဝါဒကို တိုးတက်စေခြင်းဖြင့် ဘုရားရှိမှုကို လက်ခံသည်။

ဖရက်ဒရစ်ဝီလျံရှယ်လင်း။ ၁၇၇၅-၁၈၅၄ ခုနှစ်။ ကန့်၏ ဝိညာဏဝါဒကို တိုးတက်စေခြင်းဖြင့် ဘုရားရှိမှုကို လက်ခံသည်။

ဂျော့ ဝီလ်ယန် ဖရက်ဒရစ် ဟေဂယ်လ်။ ၁၇၇၀-၁၈၃၁ ခုနှစ်။ သဘာဝနှင့် လူ့အဖွဲ့အစည်းတို့၏ အခြေခံသည် အနန္တဝိညာဉ်တော် ဖြစ်သည် ဟူ၍ အနန္တဝိညာဉ်တော်ဝါဒကို ချမှတ်ခြင်းဖြင့် ဘုရားရှိမှုကို လက်ခံသည်။

ကဲကီဂတ်။ ၁၈၁၃-၁၈၅၅ ခုနှစ်။ ဒိန်းမတ်ပြည်သား။ ဘုရားရှိသည် ဟုယုံကြည်သော ဖြစ်တည်ခြင်းပဓာနဝါဒကို ချမှတ်ခြင်းဖြင့် ဘုရားရှိမှုကို လက်ခံသည်။

ဝီလျံဂျိမ်းစ်။ ၁၈၄၂-၁၉၁၀ ပြည့်နှစ်။ အမေရိကန်ပြည်သား 'ဘုရားရှိသည် ဟုယုံကြည်ခြင်းဖြင့် စိတ်ချမ်းသာမှုကိုရလျှင် မြတ်ပြီ' ဟုဆိုခြင်းဖြင့် ဘုရားရှိမှုကို လက်ခံသည်။

ဂျွန်ဂျူဝီ။ ၁၈၅၉-၁၉၅၂ ခုနှစ်။ အမေရိကန်ပြည်သား။'လက်တွေ့ဝါဒဖြစ်သော်လည်း ယုံကြည်မှုသည် သဘာဝကျသည်' ဟုဆိုခြင်းဖြင့် ဘုရားရှိမှုကို လက်ခံသည်။

ရုဒေါ့ကားနက်ပ်။ ၁၈၉၁ ခုနှစ်၌ ဂျာမန်တွင် ဖွားမြင်သည်။ 'ထာဝရအမှန်တရား အနန္တဝိညာဉ် စသည်တို့သည် ရုပ်လောကကိုလွန်သော တတ္တကဝါဒဖြစ်သည်' ဟုဆိုခြင်းဖြင့် ဘုရားရှိမှုကို လက်ခံသည်ဟု ယူဆရသည်။

အာနိုးရဂျ်။ ဘုရားမဲ့ဝါဒကို လက်မခံဘဲ 'လူသား၌ ဘာသာရေးတမ်းတချက်တစ်ခု ရှိသည်' ဟုဆိုခြင်းဖြင့် ဘုရားရှိမှုကို လက်ခံသည်။

မက်စစ်စတန်နား။ 'အတ္တသည် လူသားအား သူ၏ရုပ်သဏ္ဌာန်အတိုင်း ဖန်ဆင်းထားသည်' ဟုဆိုခြင်းဖြင့် ဘုရားရှိမှုကို လက်ခံသည်။

မိုးဆက်ဟက်ခ်။ 'ဘာသာရေး၏အနှစ်သာရသည် ကိုးကွယ်ဝတ်ပြုခြင်း ဖြစ်သည်။ ကျင့်ဝတ်သည် ဘဝ၏ တကယ့်လိုအပ်မှုဖြစ်ပြီး၊ ကျင့်ဝတ်၏အနှစ်သာရမှာလည်း လိပ်ပြာသန့်မှု ဖြစ်သည်' ဟုဆိုခြင်းဖြင့် ဘုရားရှိမှုကို လက်ခံသည်။

## ဘုရားရှိသည်ကိုလက်မခံသော ပညာရှင်များ

အနောက်ကမ္ဘာခြမ်းတွင် ထင်ရှားသော ခေတ်သစ်ပညာရှင်များအနက် ဘုရားတည်ရှိမှုကိုလက်ခံသော ပညာရှင်များရှိသကဲ့သို့၊ ဘုရားတည်ရှိမှုကိုငြင်းဆိုသော ပညာရှင်များလည်း ရှိသည်။ ခရစ်ပေါ်ပြီး ဒုတိယရာစုအတွင်း၌လည်း ရောမပညာရှင် လူရှန်သည် ထိုခေတ်ကဘာသာရေးကို လှောင်ပြောင်ရေးသားခဲ့ဖူးသည့်နည်းတူ၊ တိုက်ဘားရီးယပ်စ် ဘုရင်ဧကရာဇ်ကလည်း 'အကယ်၍ ဘုရားများအား အစော်ကားခံရသည် ဟုဆိုလျှင် ထိုကိစ္စကို ၎င်းတို့ကိုယ်တိုင် ဖြေရှင်းပါစေ'ဟု မိန့်ကြားခဲ့ခြင်းဖြင့် ဘုရားရှိမှုကို ငြင်းဆိုခဲ့ဖူးသည်။

ဘုရားရှိမှုကို လက်မခံသော ခေတ်သစ်ပညာရှင်များမှာ အောက်ပါအတိုင်း ဖြစ်သည်။

အဗားရိုးစ်။ ၁၂ရာစု။ စပိန်မှ မွတ်စလင်ပညာရှင်။ ရုပ်သည်သာ အမြဲထာဝရတည်ရှိကြောင်းကို သင်ကြားပြီး၊ ဝိညာဉ်၏ အမြဲတည်ရှိမှုကိုငြင်းဆိုခြင်းဖြင့် ဘုရားတည်ရှိမှုကို ငြင်းဆိုသည်။ သူသည် ကလစ်ဖ (သမ္မတ)နန်းတော်မှ နှင်ထုတ်ခြင်းခံခဲ့ရသည်။

ဝီလျံက။ အေဒီ ၁၃၀၀ မှ ၁၄၀၀။ ဘုရားကျောင်းတော်က လက်ခံသောပရမတ္ထဝါဒနှင့် ဆန့်ကျင်သော ပညတ္တိဝါဒကို ချမှီးခြင်းဖြင့် ဘုရားတည်ရှိမှုကို ငြင်းဆိုခဲ့သည်။ ပရမတ္ထဝါဒကား ပြောင်းလဲမှုမရှိဟု ယူဆသော်လည်း၊ ပညတ္တိဝါဒကား ပြောင်းလဲကြောင်း ထုတ်ဖော်ခဲ့သည်။

ကိုးပါးနီးကပ်စ်။ ၁၄၇၃-၁၅၄၃ ခုနှစ်။ 'ကမ္ဘာသည် စကြဝဠာ၏ဗဟိုဖြစ်၍ နေနှင့်အခြားဂြိုဟ်များက ကမ္ဘာကို လှည့်ပတ်နေသည်' ဟု ခရစ်ယာန်ကျောင်းတော်က အလယ်ခေတ်တစ်ခေတ်လုံး သင်ကြားချက်ကို ဆန့်ကျင်ခဲ့၍၊ 'ကမ္ဘာသည် နေကို လှည့်ပတ်နေကြောင်း' ထုတ်ဖော်ခြင်းဖြင့် ကျောင်းတော်ကို ဆန့်ကျင်ခဲ့သည်။ ကိုးပါးနီးကပ်သည် ဘာသာရေးဝန်ထမ်းများ၏ ဝိုင်းဝန်းဖိနှိပ်မှုကို ခံခဲ့ရသည်။ သို့ရာတွင် မအောင်မြင်ဘဲ၊ ကက်ပလာ၊ တိုင်ချို ကရား၊ ဘရုန်နို၊ ဂယ်လီလီယို တို့က ၎င်းအယူအဆကို ဖြန့်ဖြူးနိုင်ခဲ့သည်။

ဖရန့်စစ်ဘေကွန်။ ၁၅၆၁-၁၆၂၆ ခုနှစ်။ 'တွေးခေါ်မှုသဘောတရားသည် ဘာသာရေးကျမ်းပယောဂ ကင်းလွတ်၍ သဘာဝတရားကို လေ့လာရမည်ဖြစ်ပြီး၊ သဘာဝတရားမှ အဖြေရှာရမည်' ဟုပြောခြင်းဖြင့် ဘုရားရှိမှုကို ငြင်းဆိုခဲ့သည်။

သောမတ်စ်ဟော့။ ၁၅၈၈-၁၆၇၉ ခုနှစ်။ အင်္ဂလန်။ ယန္တရားရုပ်ဝါဒကို ချမှီးခြင်းဖြင့် ဘုရားရှိမှုကိုငြင်းဆိုသည်။

ရဲနေဒေးကား။ ၁၅၉၆-၁၆၅၀ ပြည့်နှစ်။ ပြင်သစ်။ စိတ်နှင့် ရုပ်တည်ရှိမှု (ဒွိတ္တဝါဒ)နှင့် ဆင်ခြင်တုံဝါဒ (တက္ကိတဝါဒ)ကို ချမှတ်ခြင်းဖြင့် ဘုရားတည်ရှိမှုကို ငြင်းဆိုသည်။

စပင်နိုဇာ။ ၁၆၃၂-၁၆၇၇ ခုနှစ်။ ဒတ်ချ်။ ဒေးကား၏ ဒွိတ္တဝါဒကိုပယ်၍ 'အရာအားလုံး၏ အခြေခံတရားသည် ရုပ်သာဖြစ်ကြောင်း၊ ဖန်ဆင်းရှင်က ဖန်ဆင်းထားခြင်း မဟုတ်ကြောင်း' ထုတ်ဖော်ပြောခြင်းဖြင့် ဘုရားရှိမှုကို ငြင်းပယ်သည်။ ၎င်းသည် ဂျူးနှင့် ခရစ်ယာန်တို့၏ ဝိုင်းပယ်ခြင်းကို ခံခဲ့ရသည်။

လိုင်ဗနိ။ ၁၆၄၆-၁၇၁၆ ခုနှစ်။ ဂျာမနီ။ စပင်နိုဇာ၏ ဝါဒလွှမ်းမိုးခံရပြီး၊ ခရစ်ယာန်ဘာသာကို မယုံကြည်ခြင်းဖြင့် ဘုရားရှိမှုကို ငြင်းပယ်သည်။

ဂျွန်လော့။ ၁၆၃၂-၁၇၀၄ ခုနှစ်။ အင်္ဂလန်။ ခရစ်ယာန်ဘာသာကို မနှစ်သက်ကြောင်း ဆိုခြင်းဖြင့် ဘုရားရှိမှုကို ငြင်းဆိုသည်။

ဒေးဗစ်ဟယူမ်း။ ၁၇၁၁-၁၇၇၆ ခုနှစ်။ စကော့တလန်။ 'ဘုရားသခင်ကို အာရုံအားဖြင့် မသိနိုင်။ ထို့ကြောင့် ဘုရားမရှိနိုင်' ဟုဆိုခြင်းဖြင့် ဘုရားရှိမှုကို ငြင်းဆိုသည်။

ဒေဒါးရော့။ ၁၇၁၃-၁၇၈၄ ခုနှစ်။ ပြင်သစ်။ ဘာသာရေးဆန့်ကျင်သော အရေးအသားများဖြင့် ဘုရားရှိမှုကို ငြင်းပယ်သည်။

ဟိုးလ်ဘာက်ချ်။ ၁၇၇၀ ပြည့်။ ပြင်သစ်။ 'ကမ္ဘာသည် အလိုအလျောက်ရွေ့လျားနေသော ရုပ်ဒြပ်များပင်ဖြစ်ကြောင်း' ဆိုခြင်းဖြင့် ဘုရားရှိမှုကို ငြင်းပယ်သည်။

လာမက်ထရီ။ ၁၈ ရာစု။ ပြင်သစ်။ ဒေးကား၏ စိတ်နှင့်ရုပ် ယှဉ်တွဲတည်ရှိမှုကိုလက်မခံဘဲ၊ 'ရုပ်တစ်ခုသာ ရှိကြောင်း' ဆို၍ ဘုရားရှိမှုကို ငြင်းဆိုသည်။

ယန်းပေါဆတ်။ ပြင်သစ်။ 'ထာဝရဘုရား မရှိ' ဟု ကြေညာခြင်းဖြင့် ဘုရားရှိမှုကို ငြင်းပယ်သည်။

ဒါလင်းဘတ်။ ၁၇၁၇-၁၇၈၃ ခုနှစ်။ ပြင်သစ်။ ဆင်ခြင်တုံဝါဒီဖြစ်၍ ဘုရားရှိမှုကို ငြင်းဆိုခဲ့သည်။

ပါမောက္ခဒေးဗစ် ဖရက်ဒရစ်စထရော့စ်။ ဂျာမနီ။ 'ယေရှုဘဝ' စာအုပ်တွင် ခရစ်ဝင်ကျမ်းလာ အဖြစ်အပျက်များကို လေ့လာဖော်ပြပြီး၊ 'ဘာသာရေးဟူသည်မှာ ဒဏ္ဍာရီကို ဖန်ဆင်းတတ်သောသူတို့၏ လက်ရာဖြစ်သည်' ဟုဆို၍ ဘုရားရှိမှုကို ငြင်းဆိုသည်။ သူသည် ပါမောက္ခရာထူးလည်း ပြုတ်ခဲ့ရသည်။

ပါမောက္ခ ဘရန်နိုဘောဝါး။ ဂျာမနီ။ ဘာသာမဲ့အသင်းကို ထူထောင်ရန် ကြိုးပမ်းခြင်းဖြင့် ဘုရားရှိမှုကို ငြင်းပယ်သည်။

လပ်ဒွစ်ဖွားဘက်ချ်။ ၁၈၁၄-၁၈၇၂ ခုနှစ်။ ဂျာမနီ။ 'လူသားအပြင်ဘက်ရှိအရာကား ဖန်ဆင်းရှင်ဘုရား မဟုတ်။ သဘာဝတရားသာ ဖြစ်သည်' ဟုဆို၍ ဘုရားရှိမှုကို ငြင်းဆိုသည်။

ဒပ်ဖွန်။ ၁၇၄၉ ခုနှစ်။ ပြင်သစ်။ ကမ္ဘာ့ဖြစ်ပေါ်ပုံကို တင်ပြခြင်းဖြင့် ဘုရားရှိမှုကို ငြင်းပယ်သည်။ သူသည် ဘာသာရေးဖိနှိပ်မှုခံရ၍၊ ၎င်းစာအုပ်ကို မှားသည် ဟုဆိုပြီး ပြန်လည်ရုပ်သိမ်းခဲ့ရသည်။ ဆွီဒင်မှ လင်းနေယပ်စ်ကလည်း အလားတူဖိနှိပ်မှု ခံခဲ့ရသည်။

လက်ပလေ့။ နက်ဗျူလာသဘောတရားကိုတင်ပြပြီး၊ 'ဘုရား မလိုကြောင်း' ဆိုခြင်းဖြင့် ဘုရားရှိမှုကိုငြင်းဆိုသည်။

လိုင်းယဲလ်။ ၁၈၆၃ ခုနှစ်။ 'လူသည် သမ္မာကျမ်းစာတွင်လာသောအချိန်ထက် များစွာစော၍ ကမ္ဘာပေါ်တွင် နေထိုင်ခဲ့ကြောင်း' သက်သေပြခြင်းဖြင့် ဘုရားရှိမှုကို ငြင်းဆိုခဲ့သည်။

၁၇ ရာစုခေတ်က အင်္ဂလိပ်ဘုန်းတော်ကြီး လိုက်ဖုတ်က 'ဘုရားသခင်သည် လူသားကို ၄၀၀၄ ဘီစီခုနှစ် အောက်တိုဘာလ ၂၃ ရက်နေ့ နံနက် ၉ နာရီအချိန်တွင် ဖန်ဆင်းခဲ့သည်' ဟု တွက်ချက်ဖော်ပြခဲ့သည်။

ချားလ်စ်ဒါဝင်။ ၁၈၀၉-၁၈၈၂ ခုနှစ်။ အင်္ဂလန်။ တစ်စစဖြစ်ပေါ်မှု သဘောတရားကို တင်ပြခြင်းဖြင့် ဘုရားရှိမှုကို ငြင်းဆိုခဲ့သည်။ ဤသဘောတရားကို ဒါဝင် မတိုင်မီ ဘပင် လာမက်နှင့် ဝေါလေ့စ်တို့က ချပြူးခဲ့သည် ဟုဆိုသည်။

ဟားဗက်စပင်ဆာ။ ၁၈၂၀-၁၉၀၃ ခုနှစ်။ အင်္ဂလန်။ ဒါဝင်ဝါဒကို ဖြန့်ဖြူးခြင်းဖြင့် ဘုရားရှိမှုကို ငြင်းပယ်သည်။

သတ္တဗေဒပါမောက္ခ ဟက်ကဲလ် ဂျင်နား။ 'တစ်စစဖြစ်ပေါ်မှု သဘောတရားသည် သဘာဝတွင်သာမက လူ့ယဉ်ကျေးမှုနှင့် စိတ်ပိုင်းဆိုင်ရာ၌ပါ အကျိုးသက်ရောက်သည်' ဟုဆိုခြင်းဖြင့် ဘုရားရှိမှုကို ငြင်းပယ်သည်။

ကားလ်မတ်စ်။ ၁၈၁၈-၁၈၈၃ ခုနှစ်။ ဂျာမနီမှ ဂျူးအမျိုးသား။ သိပ္ပံနည်းကျရုပ်ဝါဒကို ထူထောင်ခြင်းဖြင့် ဘုရားရှိမှုကို ငြင်းပယ်ခဲ့သည်။

အိန်ဂျဲလ်။ အင်္ဂလန်။ မတ်စ်ဝါဒကို ဖြန့်ဖြူးခြင်းဖြင့် ဘုရားရှိမှုကို ငြင်းပယ်ခဲ့သည်။

ဘာထရန်ရပ်ဆယ်။ ၁၈၇၂ ခုနှစ်။ 'ကျွန်ုပ်တို့ ဘာကြောင့် ခရစ်ယာန်မဖြစ်သနည်း' စာအုပ်ကို ရေးသားထုတ်ဝေခဲ့သည့်အပြင်၊ 'လောကပြင်ပရှိ အပိုရုပ်ကို ဖယ်ထုတ်ရမည်' ဟုဆိုခြင်းဖြင့်၊ တစ်နည်းအားဖြင့် ဒိဋ္ဌဓမ္မဝါဒီတစ်ဦးအဖြစ်ဖြင့် ဘုရားရှိမှုကို ငြင်းဆိုခဲ့သည်။

ချားလ်စ်ဘရက်ဒလပ်ဖ်။ 'မကောင်းမှုရှိနေခြင်းသည် ဘုရားရှိဝါဒီတို့အတွက် အခိကအခက်အခဲ ဖြစ်၏' ဟုရေးခြင်းဖြင့် ဘုရားရှိမှုကို ငြင်းပယ်ခဲ့သည်။

ဒေါက်တာအိုင်စတိုင်း။ 'ဘုရားသခင်သည် လူအား အပြစ်ဒဏ်နှင့် ဆုလာဘ်ပေးခြင်းမှာ သူ့ကိုယ်သူ အားပေးရာရောက်နေပေသည်' ဟုဆိုခြင်းဖြင့် ဘုရားရှိမှုကို ငြင်းပယ်ခဲ့သည်။

အထက်ပါ အနောက်တိုင်းမှ ပညာရှင်များအပြင် မြန်မာပြည်မှ ထင်ရှားသော ဗုဒ္ဓဘာသာဆရာတော်ကြီး ၂ ပါး၏ မိန့်ကြားချက်ကိုလည်း ဖော်ပြအပ်ပါသည်။

လယ်တီဆရာတော်ဘုရား။ 'ဘုရားသခင်သည် မိုက်သူများ၊ ဆင်းရဲသူများ၊ ရောဂါဆိုးများ၊ အနာဆိုးများ စသည်နှင့် မိမိအား မယုံကြည်မကိုးကွယ်သူများကို အဘယ်ကြောင့် ဖန်ဆင်းခဲ့သနည်း' ဟု မိန့်ကြားတော်မူခြင်းဖြင့် ဖန်ဆင်းရှင်ဘုရားကို ငြင်းပယ်တော်မူခဲ့သည်။

မဟာစည်ဆရာတော်။ 'ဘုရားသခင်သည် ကလေးငယ်များ စောစောစီးစီးသေအောင်နှင့် ၎င်းတို့၏မိခင်များ သောကမီးပွားအောင် အဘယ်ကြောင့် ဖန်ဆင်းရသနည်း' ဟု မိန့်ကြားတော်မူခြင်းဖြင့် ဖန်ဆင်းရှင်ဘုရားကို အလားတူငြင်းပယ်တော်မူခဲ့သည်။

အတ္တ အမြဲတည်ရှိမှုနှင့် ပတ်သက်၍ ငြင်းဆိုသော အောက်ပါပညာရှင်တို့၏ အဆိုအမိန့်များကိုလည်း ဖော်ပြအပ်ပါသည်။

- ဟယ်ယူးမ်။ ကမ္ဘာကျော်တွေးခေါ်ပညာရှင်။ 'အတ္တသည် လျင်မြန်စွာပြောင်းလဲနေသောစိတ်အစဉ်ကိုပင် လူတို့က မှားယွင်းစွာသမုတ်ထားခြင်း ဖြစ်ကြောင်း၊ ထို့ကြောင့် အတ္တဆိုသည်မှာ အယူမှားပင် ဖြစ်ကြောင်း၊ အတ္တ အမြဲတည်ရှိမှုကို စဉ်းစားနေခြင်းမှာ လူဖျင်းတို့၏အလုပ်ပင် ဖြစ်ကြောင်း၊ အတ္တတည်ရှိမှုကိုပြရန် သက်သေအထောက်အထား မရှိကြောင်း' ဆိုသည်။
- ဝီလျံဂျိမ်း။ အမေရိကန်တွေးခေါ်ရှင်၊ စိတ်ပညာကျော်။ 'အတွေးများသည်ပင် တွေးသူများ ဖြစ်ကြသည်' ဟု ရေးသားခဲ့သည်။ အဓိပ္ပာယ်ကား 'အတွေးများ၏နောက်ကွယ်တွင် သီးခြားတွေးသူ (အတ္တ) မရှိကြောင်း' ဆိုလိုရင်း ဖြစ်သည်။
- ဘရက်စလေ။ 'အတ္တဆိုသည်မှာ စိတ်အစဉ်တို့၏ အဖြစ်အပျက်မျှသာဖြစ်ကြောင်း' မှတ်ချက်ပြုခဲ့သည်။
- ဘာ့ဂ်ဆန်။ 'ရွေ့လျားခြင်း၊ ပြောင်းလဲခြင်း၊ ဖြစ်ပေါ်လာခြင်း၊ ပျက်စီးသွားခြင်းတို့မှအပ အခြား ဘာမျှမရှိ' ဟုဆိုသည်။
- ဟပ်စ်လေ။ 'ဤကိစ္စတွင် ဂေါတမဗုဒ္ဓသည် ခေတ်သစ်အတွေးအခေါ်ရှင်တို့ထက် နက်နဲကြောင်း' ဝန်ခံခဲ့သည်။

## ဗုဒ္ဓမြတ်စွာဘုရား

ဖော်ပြခဲ့ပြီးသော ပညာရှင်များ၏ ဘုရား ရှိ၊မရှိပြဿနာတွင် ဗုဒ္ဓမြတ်စွာဘုရားမပါဝင်သဖြင့် ဗုဒ္ဓဘာသာဝင်များအဖို့ မည်သို့မျှ တုန်လှုပ်ချောက်ချားဖွယ် မရှိပါ။ ဗုဒ္ဓမြတ်စွာဘုရားသည် ၎င်းတို့အငြင်းပွားနေကြသော အနန္တဝိညာဉ်တော်ဘုရား မဟုတ်ဘဲ၊ လူသားစင်စစ်မှ တရားအနှစ်ကိုရှာရင်း ဘုရားအဖြစ်ကိုပေးစွမ်းနိုင်သော ဉာဏ်အမြင်ကို ရရှိတော်မူသောကြောင့် ဘုရား ဖြစ်တော်မူလာခြင်း ဖြစ်သည်။

ဗုဒ္ဓမြတ်စွာဘုရားသည် လူသားဖြစ်သော်လည်း သာမန်လူသား မဟုတ်ဘဲ၊ ကိုယ်တော်မြတ်၏ 'သီလ၊ သမာဓိ၊ ပညာ' ဟူသော သိက္ခာတော် ကြီးမြတ်ခြင်း၊ စိတ်ထား ကြီးကျယ်မြင့်မြတ်တော်မူခြင်း၊ ခန္တီ၊ မေတ္တာ၊ ကရုဏာ၊ သစ္စာ၊ ပညာဉာဏ်အမြင် ကြီးမြင့်တော်မူခြင်း၊ ဟောကြားတော်မူခဲ့သော တရားများမှာလည်း လူသားတစ်ရပ်လုံးအတွက် ဘက်စုံမှ လမ်းညွှန်သဖွယ်ဖြစ်သည့်အပြင် နက်နဲသိမ်မွေ့ စုံစေ့ပြည့်ဝ တိကျမှန်ကန်ပြီး လူသာမန်တို့ ယနေ့တိုင်မဖော်ထုတ်နိုင်သော တရားတော်များဖြစ်ခြင်း စသောအချက်များကို ထောက်ဆက

လူ၊ နတ်၊ ဗြဟ္မာ ဟူသော သတ္တလောကတွင် မည်သူတစ်စုံတစ်ဦးမျှ မတုပနိုင်သော (အတုလ)အတုမရှိသည့် မဟာလူသားဘုရား ဖြစ်တော်မူသည်မှာ ယုံမှားဖွယ်မရှိပြီ။ ၎င်းအပြင် ဗုဒ္ဓမြတ်စွာဘုရားသည် အောက်ဖော်ပြပါ ဘုရားဂုဏ်တော် ၉ ပါးနှင့်လည်း ပြည့်စုံတော်မူသည်။

**ဘုရားဂုဏ်တော် ၉ ပါး**

၁ - - အရဟံဂုဏ်တော် ။ လူ၊နတ်၊ဗြဟ္မာ၊သတ္တဝါတို့၏ ပူဇော်အထူးကို ခံယူတော်မူထိုက်ခြင်း။

- အ-ရဟံဂုဏ်တော် ။ မကောင်းမှုပြုရန် ဆိတ်ကွယ်ရာ ရှိတော်မမူခြင်း။ (မကောင်းမှု မပြုခြင်း)
- အရ-ဟံဂုဏ်တော် ။ သံသရာစက်အကန့်ကို ဖျက်ဆီးတော်မူတတ်ခြင်း။ (သံသရာ၌ နောက်ထပ်တစ်ဖန် ပြန်မဖြစ်တော့ခြင်း)

ဝိသုဒ္ဓိမဂ်လာ အောက်ပါအနက် ၂ ချက်နှင့်ပေါင်းက အရဟံအနက် ၅ ချက် ဖြစ်သည်။

- အရဟံ ဂုဏ်တော် ။ ကိလေသာတို့မှ ဝေးကွာတော်မူခြင်း၊
- အရဟံ ဂုဏ်တော် ။ ကိလေသာရန်သူတို့ကို သတ်တော်မူခြင်း။

၂ - သမ္မာသမ္ဗုဒ္ဓဂုဏ်တော် ။

- သင်္ခါရ
  (စိတ်စေတသိက် ဟူသော နာမ်တရားနှင့် နိပ္ဖန္နရုပ်များ)
- ဝိကာရ
  (လဟုတာ၊ မုဒုတာ၊ ကမ္မညတာ၊ ကာယဝိညတ်၊ ဝစီဝိညတ် ဟူသော ဝိကာရရုပ် ၅ ပါး)
- လက္ခဏ
  (ဥပစယ၊ သန္တတိ၊ ဇရတာ၊ အနိစ္စတာ ဟူသော လက္ခဏရုပ် ၄ ပါး)
- ပညတ်
  (လူ၊ နတ်၊ ဗြဟ္မာ၊ ဆင်၊ မြင်း၊ ကျွဲ၊ နွား၊ တော၊ တောင်၊ ရေ၊ မြေ စသော ပညတ်များ)
- နိဗ္ဗာန်
  (ကိလေသာ အညစ်အကြေးကင်းစင်ပြီး ရုပ် ၂၈ ပါး၊ နာမ်စေတသိက် ၅၃ ပါးနှင့် ပညတ်မှတစ်ပါးသော ငြိမ်းအေးချမ်းသာမှု ဓာတ်ကြီးတစ်မျိုး)။ ။ ဟူသော ဉေယျဓမ်တရား ၅ ပါးကို မဖောက်မပြန်တတ်သော သယမ္ဘူ ဉာဏ်ဖြင့် မိမိအလိုလို ကိုယ်တော်တိုင် သိမြင်တော်မူခြင်း။ (ဤ၌ အနိပ္ဖန္န ရုပ်တစ်ပါးဖြစ်သော ပရိစ္ဆေဒရုပ်မှာ ရုပ်ကလာပ်တို့ကို တစ်ခုနှင့်တစ်ခု မရောယှက်လေအောင် ပိုင်းခြားတတ်သောအာကာသ (အကြား)ကိုသာ ပရိစ္ဆေဒရုပ် ဟုခေါ်သဖြင့် ပရမတ်အစစ် မဟုတ်ပါ။ ရုပ်ကလာပ် ၂ ခု ဖြစ်ပေါ်သောအခါ အလိုလိုပေါ်လာရသော ပညတ်မျှသာ ဖြစ်သည်။ သို့ဖြစ်၍ ၎င်းရုပ်ကို 'ပညတ်'ဟူသော ဉေယျဓမ်၌ ပါဝင်ပြီးဖြစ်၍ သီးခြား မဖော်ပြတော့ခြင်း ဖြစ်သည်။)

၃ - ဝိဇ္ဇာစရဏသမ္ပန္နဂုဏ်တော် ။ ပုဗ္ဗေနိဝါသာနုဿတိဉာဏ်, ဒိဗ္ဗစက္ခုဉာဏ်, အာသဝက္ခယဉာဏ် ဟူသော ဝိဇ္ဇာ ၃ ပါး။

ပုဗ္ဗေနိဝါသာနုဿတိ, ဒိဗ္ဗစက္ခု, အာသဝက္ခယ, ဝိပဿနာ, စေတောပရိယ, မနောမယိဒ္ဓိ, ဒိဗ္ဗသောတ, ဣဒ္ဓိဝိဓဉာဏ် ဟူသော ဝိဇ္ဇာ ၈ ပါး၊ သဒ္ဓါ, သတိ, ဟိရီ, ဩတ္တပ္ပ, ဝီရိယ, သုတ, ပညာ, ဘောဇနေမတ္တညုတာ, ဇာဂရိယာနုယောဂ, သီလ, ဣန္ဒြိယသံဝရ, ပဌမဈာန်, ဒုတိယဈာန်, တတိယဈာန်, စတုတ္ထဈာန် ဟူသော စရဏတရား ၁၅ ပါးနှင့် ပြည့်စုံတော်မူခြင်း။

၄ - သုဂတဂုဏ်တော် ။ ရှေးရှေးကဘုရားများကဲ့သို့ ကောင်းသောအလာဖြင့် လာတော်မူခြင်း၊ ကောင်းသောစကား (မှန်,အကျိုးရှိ), သူတစ်ပါးနှစ်သက်စကား (မှန်, အကျိုးရှိ), စကား ၂-ခွန်းကိုသာ ဆိုတော်မူတတ်ခြင်း။

၅ - လောကဝိဒူဂုဏ်တော် ။ သက်ရှိ (သတ္တလောက), သတ္တဝါများတည်ရာ သက်မဲ့ (ဩကာသလောက) နှင့် ယင်း သတ္တလောက, ဩကာသလောကတို့ ဖြစ်ခြင်း, ပျက်ခြင်း (သင်္ခါရလောက) တည်းဟူသော လောက ၃ ပါးကို သိတော်မူခြင်း။

၆ - အနုတ္တရောပုရိသ ဒမ္မသာရထိ ။ သတ္တလောက သတ္တဝါဟူသမျှ၏ လိုအင်ဆန္ဒနှင့် သဒ္ဓါ၊ ပညာ စသော ဣန္ဒြေတို့၏အနုအရင့်ကို နှိုင်းချင့်ခွဲခြမ်း သိနိုင်စွမ်းတော်မူကာ ထိုသတ္တဝါများ၏အလိုကျအောင် သင့်လျော်သောတရားတော်ကို ဟောပြောပြသဆုံးမတော်မူနိုင်ခြင်း၊ (ဝါ) မယဉ်ကျေးသောသူတို့အား ယဉ်ကျေးအောင် ဆုံးမတော်မူတတ်ခြင်း။

၇ -သတ္ထာဒေဝ မနုဿာနဂုဏ်တော် ။ မကောင်းမြစ်တာ ကောင်းရာညွှန်ကြားတော်မူသဖြင့်၊ တစ်နည်းအားဖြင့် လူ,နတ်,ဗြဟ္မာ သတ္တဝါတို့၏အလို အဇ္ဈာသယကိုလိုက်၍ ကောင်းကျိုးဆိုက်အောင် ဟောပြောတော်မူတတ်သဖြင့် သတ္တဝါတို့၏ဆရာ ဖြစ်တော်မူခြင်း။

၈ - ဗုဒ္ဓဂုဏ်တော် ။ သုမေဓာရသေ့ဘဝက ဒီပင်္ကရာဘုရားရှင်ကို ဖူးတွေ့ခါစ၌ သတ္တဝါတို့ကို ကယ်တင်လိုသော ဆန္ဒာဓိပတိ ပြင်းပြမှုရှိသဖြင့် 'တရားကို ကိုယ်တိုင်သိသောအခါဝယ် သတ္တဝါတို့ကိုလည်း သိစေတော်မူမည်' ဟူသော အဓိဋ္ဌာန်ချက်ဖြင့် ဒုက္ခ,သမုဒယ, နိရောဓနှင့် မဂ္ဂမည်သာ ၄ သစ္စာကို ဦးစွာပိုင်ပိုင် သိမြင်နိုင်ပြီး သုံးဆိုင်ဝေနေ များဗိုလ်ခြေကို မကြွေအတူ သိစေတော်မူနိုင်ခြင်း။

၉ - ဘဂဝါဂုဏ်တော် ။ က - သိမ်မွေ့သောရုပ်အဆင်းကို ဖန်ဆင်းနိုင်သော အဏိမာဘုန်း၊
- ကောင်းကင်၌ ဈာန်ပျံကြွသွားနိုင်သော လဃိမာဘုန်း၊
- ကိုယ်တော်ပုံကို ကြီးမားစွာဖန်ဆင်းနိုင်သော မဟိမာဘုန်း၊
- လိုရာခရီးကို တစ်ခဏဖြင့်ကြွရောက်နိုင်သော ပတ္တိဘုန်း၊
- အဆင်းပုံသဏ္ဌာန်အမျိုးမျိုးဖြင့် ဖန်ဆင်းနိုင်သော ပါကမ္မဘုန်း၊
- လူမင်း၊နတ်မင်းတို့၏စိတ်ဓာတ်ကို အုပ်စိုးလွှမ်းမိုးနိုင်သော ဣသိတာဘုန်း၊
- အဘိညာဉ်၊ ဈာန်သမာပတ်၊ ဖလသမာပတ်ကို တစ်ခဏဖြင့် ဝင်စားလိုက ဝင်စားနိုင်သော ဝသိတာဘုန်း၊
- ကိစ္စတစ်ခုကိုပြီးစေလိုလျှင် တစ်ခဏဖြင့်ပြီးစေနိုင်သော ယတ္ထကာမာဝသာယိတာဘုန်း။ ။ ဤ ဘုန်းတော် ၈ ပါးကို အစိုးရနိုင်ခြင်းဟူသော ဣဿရိယဘုန်းတော်။

ခ - ကိလေသာရန်ကို ပယ်ဖျက်နိုင်သည့် မဂ် ၄ တန်၊ ဖိုလ် ၄ တန် နိဗ္ဗာန်ဖြစ်သော လောကုတ္တရာတရား ၉ ပါး ဟူသော ဓမ္မဘုန်းတော်၊

ဂ - ဟုတ်တိုင်းမှန်စွာ ဖြစ်ပေါ်လာ၍ ကမ္ဘာတိုက်ပေါင်း သောင်းလောကဓာတ် ပွဲတင်ထပ်မျှ နှံ့စပ်သတင်း ကျော်စောနိုင်ခြင်းဟူသော ယသဘုန်းတော်၊

ဃ - ကိုယ်တော်ပုံနေ ကျက်သရေမင်္ဂလာ စုဝေးကာဖြင့် လွန်စွာတင့်တယ် သပ္ပာယ်တော်မူသော သိရီဘုန်းတော်၊

င - အလိုတော်အတိုင်း တောင့်တတိုင်းပင် မဆိုင်းမတွ ပြီးစီးရသည့် ကာမဘုန်းတော်၊

စ - တစ်လောကလုံး ညွတ်ရုံးကိုးစား အားထားဖို့ရာ လွန်စွာကြိုးကုတ် အားထုတ်တော်မူသော ပယတ္တဘုန်းတော်။ ။ ယင်း ဘုန်းတော် ၆ ပါးနှင့် ပြည့်စုံတော်မူခြင်း။

**တရားဂုဏ်တော် ၆ ပါး**

တစ်ဖန် ဗုဒ္ဓမြတ်စွာဘုရားသည် ၄၅ ဝါကာလပတ်လုံး လူ၊နတ်၊ဗြဟ္မာများအား ဟောကြားတော်မူခဲ့သော တရားတော်များမှာလည်း အထက်မှချပေးသော တရားတော်မျိုး မဟုတ်ဘဲ၊ ဗုဒ္ဓမြတ်စွာကိုယ်တော်တိုင် ကျင့်ကြံကြိုးကုတ် အားထုတ်ရမှုရရှိလာသောသဗ္ဗညုတဉာဏ်တော်ဖြင့် ထိုးထွင်းသိမြင်တော်မူသော တရားတော်များသာ ဖြစ်သည်။ တရား ဟူသည် ယင်းကိုကျင့်ကြံသူအား အပါယ်ဆင်းရဲသို့ မကျရောက်အောင် ရွက်ဆောင်တတ်သော သဘော ဖြစ်သည်။ ထို့ကြောင့် ဗုဒ္ဓမြတ်စွာဘုရား ဟောကြားတော်မူသော တရားတော်များသည် အောက်ပါ ဂုဏ်တော် ၆ ပါးနှင့်လည်း ပြည့်စုံခဲ့ရသည်။

၁ - သွာက္ခာတဂုဏ်တော် ။ 'မဂ် ၄ တန်၊ ဖိုလ် ၄ တန်၊ နိဗ္ဗာန်၊ ပရိယတ္တိ' ဟူသောတရား ၁၀ ပါးကို ကြားနာရခြင်းဖြင့် အစ၏ ကောင်းခြင်း၊ ကြားနာရ၍ ကျင့်ကြံအားထုတ်ရသဖြင့် အလယ်၏ ကောင်းခြင်း၊ ကျင့်ကြံရ၍ သန္တိသုခ (ငြိမ်းအေးချမ်းသာမှု) နိဗ္ဗာနဓာတ်ကိုရ၍ ခံစားရသဖြင့် အဆုံး၏ ကောင်းခြင်းဖြင့် ကောင်းစွာဟောတော်မူခဲ့အပ်သော တရားတော်ဖြစ်ခြင်း။

၂- သန္ဒိဋ္ဌိကဂုဏ်တော် ။ ကျင့်ကြံသူအား 'မဂ် ၄ တန်, ဖိုလ် ၄ တန်, နိဗ္ဗာန်' ဟူသော လောကုတ္တရာ တရား ၉ ပါးကို မျက်ဝါးထင်ထင် ကိုယ်တိုင်သိမြင်နိုင်ခြင်းကို ပေးစွမ်းနိုင်သော တရားတော်ဖြစ်ခြင်း။

၃- အကာလိကဂုဏ်တော် ။ လောကုတ္တရာတရား ၉ ပါးကို ကျင့်ကြံသူများအား (ဝါ) တရားအားထုတ်သူများအား မဂ်ကုသိုလ်စိတ် ဖြစ်သည်နှင့် ဖိုလ်စိတ် ဟူသောအကျိုးတရားကိုလည်း တစ်ဆက်တည်းရရှိနိုင်ခြင်းကို ပေးစွမ်းနိုင်သော တရားတော်ဖြစ်ခြင်း။ (လောကီကုသိုလ်များကဲ့သို့ ရက်ခြား,ဘဝခြားပြီးမှ အကျိုးခံစားရမှုမျိုး မဟုတ် ဟုဆိုလိုသည်။)

၄- ဧဟိပဿိကဂုဏ်တော် ။ တကယ်လုပ်က အဟုတ်ပင် သန္တိသုခ (ငြိမ်းအေးချမ်းသာမှု) အကျိုးတရားကို ခံစားရသောတရားဖြစ်၍ 'လာပြီးရှုကြပါ။ ကျင့်ကြံကြပါ' ဟုခေါ်ပြထိုက်သော တရားတော်ဖြစ်ခြင်း။

၅- ဩပနေယျိကဂုဏ်တော် ။ လောကုတ္တရာတရား ၉ ပါးသည် ပုထုဇဉ်တို့၏သန္တာန်၌ တစ်ကြိမ်မျှဖြစ်ပေါ်လာလျှင် (အနည်းဆုံး သောတာပန်ဖြစ်လျှင်) အပါယ်တံခါး ပိတ်မည်ဖြစ်၍ ကျင့်ကြံအားထုတ်ထိုက်သော တရားတော်ဖြစ်ခြင်း။

၆- ပစ္စတ္တံဝေဒိတဗ္ဗဂုဏ်တော် ။ လောကုတ္တရာတရား ၉ ပါးသည် ပုထုဇဉ်နှင့်မဆိုင်။ အရိယာ သူတော်ကောင်းတို့သာ ရရှိခံစားအပ်သော တရားတော်ဖြစ်ခြင်း (ဝါ) ပြောသံကြားဖြင့် မှန်းဆသိရသော တရားမဟုတ်။ ကိုယ်တိုင် ရရှိသိမြင်နိုင်သော တရားတော်ဖြစ်ခြင်း။

**သံဃာ့အဖွဲ့အစည်း**

ဗုဒ္ဓမြတ်စွာဘုရားသည် ကိုယ်တော်တိုင်ထိုးထွင်းသိမြင်၍ ဟောကြားဆုံးမ ချမှတ်ထားတော်မူခဲ့သော သာသနာ (အခံုးအမ) ၃ ရပ်တွင် 'တရားစာပေ'တည်းဟူသော ပရိယတ္တိသာသနာကို လေ့လာသင်ကြားကြသဖြင့် နိဗ္ဗာန်ရောက်ကြောင်း အကျင့်ကောင်းများ (ပဋိပတ္တိသာသနာ)ကို သိရှိကြရပြီး၊ သိရှိရသည့်အတိုင်း ကျင့်ကြံကြိုးကုတ်အားထုတ်ကြခြင်းဖြင့် ဘဝပန်းတိုင်ဖြစ်သည့် သန္တိသုခ နိဗ္ဗာနဓာတ် တည်းဟူသော ပဋိဝေဓသာသနာတော်ကို ရရှိခံစားကြရမည် ဟု ဟောကြားတော်မူခဲ့သည်။ ထို့ကြောင့် ဗုဒ္ဓမြတ်စွာဘုရားသည် ယင်း 'ပဋိဝေဓ' ဟူသော ဘဝပန်းတိုင်ရရှိရေးအတွက် အဓိကလိုအပ်လှသော ပရိယတ္တိသာသနာ, ပဋိပတ္တိသာသနာတော် ၂ ရပ်ကို (ဝါ) 'ဂန္ထဓုရ (စာပေသင်ကြားမှု), ဝိပဿနာဓုရ (ကျင့်ကြံအားထုတ်မှု)' ဟူသော လုပ်ငန်းတာဝန် ၂ ရပ်ကို ထမ်းဆောင်ထိန်းသိမ်းနိုင်ရန် သံဃာ့အဖွဲ့အစည်းကြီးကို ခွင့်ပြု ထူထောင်တော်မူခဲ့ရခြင်းဖြစ်သည်။

အထူးမှာ 'သံဃာ့အဖွဲ့အစည်းအတွင်း၌ ဇာတ်အနိမ့်,အမြင့်၊ အမျိုးအနွယ်အယုတ်,အလတ်,အမြတ် ခွဲခြားမှုမရှိဘဲ ထေရ်စဉ်ဝါစဉ် ကြီးငယ်အလိုက်သာ ရှိခိုးမှု, ခရီးဦးကြိုမှုများကို ခံယူကြရမည်' ဟု ပညတ်ထားတော်ခဲ့ခြင်း ဖြစ်သည်။ တစ်ဖန် သံဃာ့အဖွဲ့အစည်းအတွင်း၌ ရဟန်းသံဃာတော်များသည် စောင့်ထိန်းရမည့် ဝိနည်းသိက္ခာပုဒ်တော်များမှာ အကျဉ်းအားဖြင့် ၂၂၇ သွယ်၊ အကျယ်အားဖြင့် ကုဋေ ၉၀၀၀ ကျော် (၉၁,၈၀၅,၀၃၆,၀၀၀)ကို စောင့်ထိန်းခြင်း တူကြသော်လည်း၊ ကျင့်ကြံအားထုတ်မှုအပေါ်အခြေပြု၍ ပုထုဇဉ်ရဟန်းသံဃာတော်များ, မဂ္ဂဋ္ဌာန် ၄, ဖလဋ္ဌာန် ၄ ဟူသော အရိယာ (ပရမတ္ထ) ရဟန်းသံဃာတော်များ ဟူ၍ ကွဲပြားပါဝင်လျက်ရှိသည်။

## သံဃာ့ဂုဏ်တော် ၉ ပါး

'သံဃာ' ဟူသည်မှာ 'ကိလေသာကို ပယ်သတ်သူ'ဟု အဓိပ္ပာယ်ရသည်။ ထို့ကြောင့် သံဃာ့ဂုဏ်တော် ၉ ပါးနှင့်ပြည့်စုံသော သံဃာတော်အရ ပရမတ္ထသံဃာတော်များဖြစ်သည့် 'မဂ္ဂဋ္ဌာန် ၄, ဖလဋ္ဌာန် ၄' ဟူသော အရိယာသံဃာတော် ၈ ပါးကိုသာ ယူရမည်။ သမုတိသံဃာများကိုလည်း အရိယာဖြစ်ရန် အားထုတ်နေသူများဖြစ်၍ သမီပူပစာအားဖြင့် 'သံဃာ' ဟူ၍ ခေါ်ယူနိုင်ပါသည်။

ယင်းပရမတ္ထသံဃာ၏ ဂုဏ်တော် ၉ ပါးမှာ အောက်ပါအတိုင်း ဖြစ်သည်။

၁ - သုပ္ပဋိပန္နဂုဏ်တော် ။ မြတ်စွာဘုရား ဟောကြားတော်မူသည့် 'သီလ, သမာဓိ, ပညာ' ဟူသော သိက္ခာ ၃ ရပ်ကို အတိမ်းအစောင်းမရှိဘဲ ကျင့်ကြံတော်မူခြင်း။

၂ - ဥဇုပ္ပဋိပန္နဂုဏ်တော် ။ ဂုဏ်ပကာသန စသည်ကိုမငဲ့ကွက်ဘဲ ဖြောင့်မတ်စွာကျင့်တော်မူခြင်း။

၃ - ဉာယပ္ပဋိပန္နဂုဏ်တော် ။ နိဗ္ဗာန်အကျိုးငှာသာ ကျင့်ကြံတော်မူခြင်း။

၄ - သာမီစိပ္ပဋိပန္နဂုဏ်တော် ။ လှူအများအရိုအသေပြု၍ ပေးကမ်းလှူဒါန်းခြင်း၌ ထိုက်တန်အောင် ကျင့်ကြံတော်မူခြင်း။

၅ - အာဟုနေယျဂုဏ်တော် ။ ဤသို့ ကျင့်ကြံနေသူများဖြစ်၍ လှူဒါန်းသူအား တုံ့ပြန်အကျိုးပေးသဖြင့် အနီး၌ မဆိုထားဘိ၊ အဝေး၌ရှိသော လှူဖွယ်များကိုပင် ယူ၍လှူဒါန်းထိုက်တော်မူခြင်း။

၆ - ပါဟုနေယျဂုဏ်တော် ။ ဧည့်ဝတ်အဖြစ်ထားရှိသော ပစ္စည်းများကိုလည်း ခံယူထိုက်တော်မူခြင်း။

၇ - ဒက္ခိဏေယျဂုဏ်တော် ။ တမလွန်ဘဝ၌ မိမိချမ်းသာရေးအတွက် သေလွန်ပြီးသော မိဘ,ဆွေမျိုးများ ချမ်းသာသုခရရှိရေးအတွက် လှူဒါန်းအပ်သော ဒက္ခိဏေယျအလှူကိုလည်း ယူထိုက်တော်မူခြင်း။

၈ - အဉ္ဇလိကရဏီယဂုဏ်တော် ။ တစ်လောကလုံးရှိ လူ,နတ်,ဗြဟ္မာအားလုံး၏ လက်အုပ်ချီမိုး ရှိခိုးခြင်းကိုလည်း ခံယူထိုက်တော်မူခြင်း။

၉ - အနုတ္တရပုညခေတ္တဂုဏ်တော် ။ 'ကုသိုလ်' တည်းဟူသောမျိုးစေ့များကို စိုက်ပျိုးရာ လယ်ယာမြေကောင်းနှင့် တူတော်မူခြင်း။

## ခေတ်သစ်ကမ္ဘာ့အတွေးအမြင်နှင့် ဗုဒ္ဓဝါဒ

ယနေ့ ကမ္ဘာ့အတွေးအခေါ် မြော်မြင်ရေးဆိုင်ရာဒဿနအမြင်များကို ဆန်းစစ်ကြည့်လျှင် အချုပ်အားဖြင့် 'ဝိညာဏဆိုင်ရာ အတွေးအမြင်၊ ရုပ်ဝါဒဆိုင်ရာ အတွေးအမြင်၊ ဗုဒ္ဓဝါဒဆိုင်ရာ အတွေးအမြင်' ဟူ၍ အတွေးအမြင် (ဒဿန) ၃ မျိုးကို တွေ့ရှိနိုင်သည်။ သို့ရာတွင် ဖော်ပြခဲ့ပြီးသော အနောက်တိုင်းမှ ခေတ်သစ် တွေးခေါ်မြော်မြင်ရေး ပညာရှင်များသည် ဝိညာဏဝါဒဆိုင်ရာနှင့် ရုပ်ဝါဒဆိုင်ရာအတွေးအမြင် ၂ ရပ်ကိုသာ အခြေပြု၍ အတွေးအခေါ်စစ်ပွဲကို ဆင်နွှဲခဲ့ကြကြောင်း လေ့လာတွေ့ရှိနိုင်သည်။ တစ်ဖန် ၄င်းတို့သည် မိမိတို့တွေ့ထိသိရှိနေရသော ဘာသာအယူဝါဒအပေါ်အခြေခံ၍ ဖော်ပြပါ ဝိညာဏနှင့် ရုပ်ဝါဒ ၂ ရပ်ဖြင့် ဆန်းစစ်တွေးခေါ် ငြင်းခုံနေကြကြောင်းကိုလည်း ဆက်စပ်သိရှိနိုင်ပြန်သည်။

ထို့ကြောင့် ယင်း အနောက်တိုင်းအတွေးအမြင် အယူဝါဒ ၂ ရပ်ကို တွေးခေါ်ဖြန့်ဖြူးရာ၌ အထင်ရှားဆုံးဖြစ်သော အဓိကပညာရှင် ၂ ဦးဖြစ်သည့် ဝိညာဏဝါဒီ တွေးခေါ်ရှင် ဟေဂယ်နှင့် ရုပ်ဝါဒီ တွေးခေါ်ရှင် ကားလ်မတ်စ် ၂ ဦးအနက်၊ ကားလ်မတ်စ်က 'မိမိ၏ သိပ္ပံနည်းကျရုပ်ဝါဒအတွေးအမြင်မှာ ဦးခေါင်းဖြင့်ရပ်တည်နေသော ဟေဂယ်၏အတွေးအမြင်ကို ခြေထောက်ဖြင့် ပြန်လည်တည့်မတ် ရပ်တည်ပေးလိုက်ခြင်းသာဖြစ်ကြောင်း' ထုတ်ဖော်ပြောဆိုခဲ့ခြင်း ဖြစ်သည်။ ဤကမ္ဘာကျော် ရုပ်ဝါဒတွေးခေါ်ပညာရှင် ကားလ်မတ်စ်၏စကားသည် 'ကမ္ဘာပေါ်တွင် လူအများ၏ အတွေးအမြင်ဆိုင်ရာဒဿနပညာရပ်သည် ဝိညာဏဝါဒကိုအခြေခံသော အတွေးအမြင်ဖြစ်လျှင် ဖြစ်၊ ၄င်းမဖြစ်က ရုပ်ဝါဒကိုအခြေခံသော အတွေးအမြင်သာဖြစ်ရမည်'ဟု ဖော်ပြနေကြောင်း ထင်ရှားသည်။

ထို့ကြောင့် အနောက်တိုင်းမှ ခေတ်သစ်အတွေးအခေါ်ပညာရှင်များသည် ထိုအချိန်က ဝိညာဏဝါဒနှင့် ရုပ်ဝါဒကိုသာ အဓိကထား တွေးခေါ်နေကြသောကြောင့် ၄င်းတို့နှင့် ရင်းနှီးမှုမရှိသေးသော ဗုဒ္ဓဝါဒကို အတွေးအမြင် (ဒဿန)ပညာရပ်တွင် မထည့်သွင်းမရေတွက်ကြခြင်းအတွက် မဆန်းပြားလှပါပေ။

သို့ရာတွင် ဗုဒ္ဓဝါဒအတွေးအမြင်သည် ယင်း အနောက်တိုင်းအတွေးအမြင် ၂ ရပ်ကြားတွင် မားမားမတ်မတ်ရပ်တည်လျက် ရှိနေပါသည်။ ဥပမာအားဖြင့် ဘဝပြဿနာကို တွေးခေါ်ကြရာတွင် ဝိညာဏဝါဒီများက 'လူများသေဆုံးကြသော်လည်း ဝိညာဉ်ကောင် (အတ္တ) မသေဘဲ ထာဝရတည်မြဲနေသည်' ဟု ယူဆကြသည်။ ရုပ်ဝါဒီများကမူ 'လူသေလျှင် ဘာမျှမကျန်သည့်အပြင်၊ နောက်ဘဝလည်း မရှိ' ဟုယူဆကြသည်။

ဗုဒ္ဓဝါဒီများကား 'ဝိညာဏဝါဒအတွေး အမြင်ကို သဿတဒိဋ္ဌိ။ ရုပ်ဝါဒ အတွေးအမြင်ကို ဥစ္ဆေဒဒိဋ္ဌိအဖြစ်ပယ်ပြီး၊ သတ္တဝါတို့တွင် ရုပ်ပိုင်း၊ နာမ်ပိုင်း ၂ ပိုင်းရှိရာ သေလျှင် ၂ ပိုင်းလုံး သေဆုံးခဲ့ရကြောင်း။ သို့ရာတွင် သတ္တဝါတို့သည် ၄င်းတို့ပြုခဲ့သမျှသော ကံစွမ်းအင် အားလျော်စွာ ထိုထိုဘုံဘဝတို့၌ ပြန်လည်မွေးဖွားလာရပြန်ပြီး သံသရာလည်နေရသည်' ဟုယူပါသည်။

၄င်းအပြင် ယင်း ရုပ်ပိုင်း၊ နာမ်ပိုင်းတို့သည် သတ္တဝါတို့အသက်ရှင်စဉ်၌ပင်လျှင် ဖြစ်၊တည်၊ပျက် (ဥပါဒ်၊ဋ္ဌီ၊ဘင်) သဘောဖြင့် ခဏမပြတ် တရစပ်သေကျေပျက်စီးခြင်း၊ ပြန်လည်မွေးဖွားခြင်း သံသရာလည်လျက်သာ ရှိနေရသည် ဟူ၍လည်း ယူဆကြသည်။ ထိုသဘောတရားကြောင့် ရုပ်ပိုင်းဆိုင်ရာများသည် ငယ်ရာမှကြီး၊ ပျိုရာမှအို၊ နုရာမှရင့်၊ သစ်ရာမှဟောင်းမှုများကို မျက်ဝါးထင်ထင် တွေ့မြင်နေရသည့်နည်းတူ၊ နာမ်ပိုင်းတွင်လည်း စိတ်အကြံအစည်များ အာရုံအရ တစ်မျိုးပြီးတစ်မျိုးဖြစ်ပေါ်နေကြသည်ကို သိရှိနေရခြင်း ဖြစ်သည်။ ထို့ကြောင့် ယနေ့ကမ္ဘာပေါ်တွင် 'ဝိညာဏဝါဒဆိုင်ရာအတွေးအမြင်၊ ရုပ်ဝါဒဆိုင်ရာအတွေးအမြင်၊ ဗုဒ္ဓဝါဒဆိုင်ရာအတွေးအမြင်' ဟူ၍ အတွေးအမြင် (ဒဿန) ၃ ရပ်ရှိကြောင်း တင်ပြလိုက်ရခြင်း ဖြစ်သည်။

ဤသို့ ဗုဒ္ဓဝါဒကို 'အတွေးအမြင် (ဒဿန) ပညာရပ်' ဟုဆိုလိုက်သဖြင့်၊ ဗုဒ္ဓမြတ်စွာဘုရားအား ခေတ်သစ် ခေတ်ဟောင်း အတွေးအခေါ်ပညာရှင်များအဆင့်မျှသာ ရှိသည် ဟုယူဆလိုက်ပါက မဟာအမှားကြီး မှားသွားမည် ဖြစ်ပါသည်။ ဗုဒ္ဓမြတ်စွာဘုရားသည် သတ္တဝါအမျိုးမျိုးအား ၄၅ ဝါပတ်လုံး ဟောကြားတော်မူခဲ့သော ၅ ရပ် နိကာယ်, ၃ သွယ်ပိဋကတ် တရားတော်မြတ်များကို အခြားသော ခေတ်ဟောင်းခေတ်သစ် အတွေးအခေါ် ပညာရှင်များကဲ့သို့ တွေးခေါ်ကြံဆပြီး ဟောတော်မူခဲ့သည် မဟုတ်ဘဲ၊ နာယူမည့်ပုဂ္ဂိုလ်၏ စရိုက်နှင့် အဇ္ဈာသယ များ အားလျော်စွာ ထိုးထွင်းသိအပ်သောဉာဏ်အမြင်ဖြင့် ရှုတ်ခြည်းဟောတော်မူသော တရားတော်များသာဖြစ် ပါသည်။ ထို့ကြောင့် ဗုဒ္ဓမြတ်စွာဘုရားသည် 'လူ့,နတ်,ဗြဟ္မာ' ဟူသောသတ္တလောကတွင် အတုမရှိသော(အတုလ) ဘုရားရှင်သာဖြစ်ကြောင်း ထင်ရှားလှပါသည်။

တစ်ဖန် အချို့က ထေရဝါဒကို ဘာသာရေးအဖြစ် မရေတွက်လိုကြဘဲ၊ အတွေးအခေါ် (ဒဿန) ဆိုင်ရာ ပညာရပ်တစ်ရပ်အဖြစ်ဖြင့်သာ ထားလိုကြသည်။ ဤသို့လည်း ဗုဒ္ဓဝါဒသည် ဘာသာရေး ဟုတ်,မဟုတ် သိရှိ နိုင်ရေးအတွက် 'ဘာသာရေး' ဟူသောဝေါဟာရအဓိပ္ပာယ်ကို စိစစ်ရန် လိုအပ်လာရပြန်သည်။

ဘာသာရေး ဝေါဟာရအဓိပ္ပာယ်ကို ဖွင့်ပြရာ၌ ဂျိမ်းစ်ကာ့ဒ်က 'ဘာသာရေး ဟူသည် ထာဝရဘုရားအား ကိုးကွယ်ခြင်းဖြစ်သည်' ဟု အဓိပ္ပာယ် ဖွင့်ဆိုခဲ့သည်။ ဤအဓိပ္ပာယ်ဖွင့်ဆိုမှုကို အမှန်ယူဆက ထေရဝါဒဗုဒ္ဓဝါဒ သည် ဘာသာရေး မဟုတ်ပါ။ အဘယ်ကြောင့်ဆိုသော် ထေရဝါဒဗုဒ္ဓဝါဒ၌ ထာဝရဘုရားကိုးကွယ်မှု မရှိသော ကြောင့် ဖြစ်သည်။

ဘားနတ်ကမူ 'ဘာသာရေးဟူသည် စိတ်၏သန့်ရှင်းစင်ကြယ်မှုဖြစ်သည်' ဟု အဓိပ္ပာယ်ဖွင့်ဆိုသည်။ ဤအဓိပ္ပာယ်ဖွင့်ဆိုချက်မှာ သဘာဝယုတ္တိကျလှသဖြင့် ပညာရှင်အများက လက်ခံထားသောအဆိုလည်း ဖြစ်သည်။ ယင်း အဓိပ္ပာယ်ဖွင့်ဆိုချက်အရ ဆိုပါမူ ထေရဝါဒဗုဒ္ဓဝါဒသည် စိတ်ပိုင်းဆိုင်ရာ ဖြူစင်သန့်ရှင်းရေးသာမက စိတ်ပိုင်းဆိုင်ရာ အထက်တန်းကျရေးအတွက် ဆောင်ရွက်ပုံဆောင်ရွက်နည်းများကိုပါ အစွမ်းကုန်အားပေး အဓိက ထား၍ ဘက်ပေါင်းစုံမှ ညွှန်ပြဟောကြားထားသော ဝါဒဖြစ်သောကြောင့် ဘာသာရေးအစစ်ပင် ဖြစ်သည်။

ရှင်အာနန္ဒာ၏ မေးမြန်းလျှောက်ထားချက်အရ မြတ်ဗုဒ္ဓက 'ဓမ္မက္ခန္ဓာပေါင်း ၈ သောင်း ၄ ထောင်သည် သင်တို့၏ဆရာ ဘုရားများပင်ဖြစ်ကြောင်း၊ လူသားများသည် မဂ္ဂင် ၈ ပါး (သီလ, သမာဓိ, ပညာ) ကျင့်စဉ်ပါ သော ဘာသာကို ကိုးကွယ်ထိုက်ကြောင်း' ဟောကြားတော်မူခဲ့ဖူးပါသည်။ ထို့ကြောင့် မဂ္ဂင် ၈ ပါးကျင့်စဉ်ပါသော ထေရဝါဒဗုဒ္ဓဝါဒသည် ဘာသာရေးအစစ်ဖြစ်ကြောင်း ထင်ရှားလှတော့သည်။ အထူးသဖြင့် ထေရဝါဒဗုဒ္ဓဝါဒသည် ပစ္စုပ္ပန်,သံသရာ ဘဝ ၂ ဖြာ၌ သတ္တဝါတို့၏ဘဝ မြင့်မားရေးအတွက် လမ်းညွှန်ပေးသည့်အဘိဓမ္မာ (အတွေးအမြင် ဒဿန) တရားပါသော ဘာသာရေးလည်းဖြစ်ကြောင်း သိရှိအပ်ပေသည်။

## ဗုဒ္ဓ၊ ဗုဒ္ဓဝါဒနှင့်စပ်လျဉ်း၍ ပညာရှင်အဆိုအမိန့်များ

ဤသို့ ဗုဒ္ဓနှင့် ဗုဒ္ဓဝါဒအား ထင်မြင်ချက်ပေးကြရာ၌ ဗုဒ္ဓမြတ်စွာဘုရားနှင့်စပ်လျဉ်း၍ လည်းကောင်း၊ ဗုဒ္ဓမြတ်စွာဘုရားဟောကြားချက် တရားတော်များနှင့်စပ်လျဉ်း၍ လည်းကောင်း အောက်ပါပညာရှင်များ၏ အဆိုအမိန့်များကိုလည်း သိသင့်သဖြင့် တင်ပြလိုက်ရပေသည်-

- ဂျွန်ဝေါလ်တာက

'သူ(ဗုဒ္ဓမြတ်စွာ)သည် အကြီးမြတ်ဆုံးသောလူသား ဖြစ်သည်' ဟုဆိုသည်။

- စိန့်ဟီးလဲယားက

'သီလအားလုံး၏ပုံစံမှန်များကို သူ(ဗုဒ္ဓမြတ်စွာ)က ဟောကြားတော်မူခဲ့ပြီး၊ သူ (ဗုဒ္ဓမြတ်စွာ)၏ ဘဝတွင်လည်း ၄င်းသီလများအပေါ် အစွန်းအထင်းမရှိ (၄င်းသီလများ မကျိုးမပေါက် မပြောက်မကျား) ဖြစ်ခဲ့ပါသည်' ဟု မှတ်ချက်ပြုခဲ့သည်။

- ဖောက်စ်ဘောက

'ကျွန်ုပ် သူ့(ဗုဒ္ဓမြတ်စွာ)အကြောင်းကို သိလေလေ ကျွန်ုပ် သူ့(ဗုဒ္ဓမြတ်စွာ)ကို ပို၍ ကြည်ညိုလေလေ ဖြစ်သည်' ဟု ပြောခဲ့သည်။

- သီဟိုမှ နာရဒထေရ်က

'ဖောက်စ်ဘောက အထက်ပါအတိုင်းပြောလျှင် ဗုဒ္ဓ၏နောက်လိုက်များ၊ ဗုဒ္ဓဘာသာဝင်များက 'ကျွန်ုပ် သူ့အကြောင်းကိုသိလေလေ သူ့ကို ပို၍ကြည်ညိုလေလေ၊ သူ့ကို ပို၍ကြည်ညိုလေလေ သူ့အကြောင်းကို ပို၍သိလေလေ'ဟု ဆိုကြမည်' ဟုရေးခဲ့သည်။

- ရှရီရာဒါကရစ္စနားက

'ဂေါတမဗုဒ္ဓတွင် ကမ္ဘာ့အရှေ့များမှ ၂ ယောက်မရှိ ပြိုင်ဘက်ကင်းသော၊ လူ့ဘောင်လောကနှင့် ဆက်စပ်သော ဘဝနှင့် အတွေးအမြင်များပေါ်တွင် ဩဇာသက်ရောက်ရာ၌ ကြီးကျယ်မြင့်မြတ်သော (ဝါ) ဘုရားတစ်ဆူ ဟုခေါ်လောက်သော စိတ်ဓာတ်ရှိတော်မူ၍၊ အခြားသော မည်သူတစ်ဦးတစ်ယောက် အောက်မျှ မလျော့နည်းသော နက်နဲကျယ်ဝန်းသည့်ဘာသာယဉ်ကျေးမှုတစ်ခုကို စတင် တည်ထောင်သူအနေဖြင့် အားလုံးသောလူ့အပေါင်း၏ အလေးမြတ်ပြုခြင်းကို ခံယူရသူ ဖြစ်ပေသည်။ သူသည် ထိုးထွင်းသိမြင်မှု၊ ကိုယ်ကျင့်သီလ ဖြိုးထောင်မှုနှင့် ဝိပဿနာဉာဏ်အမြင် ရှိမှုများဖြင့် ယဉ်ကျေးသောလူအားလုံး၏ အထွေထွေ အမွေအနှစ်များကို ပေးဆောင်သော ကမ္ဘာ့အတွေးခေါ်ရှင်များသမိုင်းတွင် ပါဝင်သော ပုဂ္ဂိုလ်ထူးလည်း ဖြစ်ပါသည်။ သူသည် သမိုင်းတွင် အကြီးမြတ်ဆုံးသောပုဂ္ဂိုလ်တစ်ပါးဖြစ်သည်မှာ ယုံမှားဖွယ် မရှိပါ' ဟု အလွန်ရိုသေစွာဖြင့် ပြောကြားခဲ့သည်။

- အိပ်ချ်ဂျီဝဲလ် က

'ဗုဒ္ဓမြတ်စွာတွင် ယောကျ်ားကောင်းပီသခြင်း၊ ရိုးဖြောင့်ခြင်း၊ ဘာသာရေးခေါင်းဆောင် ပီသခြင်း၊ သဗ္ဗညုတဉာဏ်အလင်းအတွက် ကြိုးစားခြင်း၊ လူသားဆန်သော ထင်ရှားမြင့်မြတ်သည့် စိတ်ဓာတ်ရှိခြင်း၊ အတွေးအခေါ်သမား မဟုတ်ဘဲ လက်တွေ့ကိုယ်တိုင် ကျင့်ကြံသူဖြစ်ခြင်းများကို တွေ့ရှိနိုင်ပါသည်။ ၄င်းအပြင် သူသည် လူသားများအား အထွေထွေစာရိတ္တပြုပြင်ရေးတရားများကိုလည်း ဟောကြားတော်မူခဲ့ပါသည်။ ကျွန်ုပ်တို့၏ခေတ်သစ်၌ အကောင်းဆုံးသော အတွေးအခေါ်စိတ်ကူးမှုများသည် ဗုဒ္ဓမြတ်စွာ ဘုရား၏တရားတော်အတွင်း၌ ပါဝင်ညီညွတ်ပြီး ဖြစ်ပါသည်။ အားလုံးသော ဆင်းရဲဒုက္ခများနှင့် ရောင့်ရဲနိုင်မှု မရှိခြင်းများသည် တစ်ကိုယ်ကောင်းဆန်ခြင်းကြောင့်၊ သို့မဟုတ် အတ္တစွဲကြောင့်ဖြစ်ကြောင်း ဟောကြားတော်မူသည်။ လူတစ်ယောက်သည် ငြိမ်းအေးမှု (နိဗ္ဗာန်)မရမီ သူသည် အာရုံ၊ ကာမဂုဏ်ခံစားမှု၊ ကိုယ်ကျိုး ကြည့်မှု (အတ္တစွဲမှုများ)ကို ဖြတ်တောက်ရမည်။ ထိုအခါ သူသည် ကြီးမားမြင့်မြတ်သောလူသားတစ်ယောက် ဖြစ်လာနိုင်တော့သည်။ ယင်းကဲ့သို့သော လူသားများကို ဗုဒ္ဓမြတ်စွာက အခြားဘာသာရေးများနှင့် မတူသော အားဖြင့် အတ္တစွဲပြုတ်စေရန်၊ သို့မဟုတ် အနတ္တအမြင် ရှိစေရန် ခရစ်မပေါ်မီ နှစ်ပေါင်း ၅၀၀ ကတည်းကပင်

ဦးဆောင်ညွှန်ပြတော်မူခဲ့ပါသည် တစ်နည်းအားဖြင့် ဗုဒ္ဓမြတ်စွာသည် ကျွန်ုပ်တို့နှင့်တကွ ကျွန်ုပ်တို့၏ လိုအပ်ချက်နှင့် ပို၍နီးစပ်သူလည်း ဖြစ်ပါသည်။ သူသည် ကျွန်ုပ်တို့တစ်ဦးချင်းစီ၏ အရေးကြီးသော လွတ်မြောက်ရေးအတွက် ဆောင်ရွက်ချက်များနှင့်ပတ်သက်၍ ဟောကြားရာတွင် ခရစ်တော်ထက် ပို၍ ရှင်းလင်းသည့်အပြင်၊ မသေနိုင်မှု (အမြဲထာဝရတည်နိုင်မှု)ကို ရှင်းပြရာ၌လည်း ရှုပ်ထွေးမှုမရှိ' ဟု ရေးသားခဲ့သည်။

- ဒေါက်တာ အိုင်စတိုင်းက

'ဗုဒ္ဓမြတ်စွာဘုရား ဟောကြားတော်မူသော တရားတော်များသည် သဘာဝတရားနှင့် ကိုက်ညီသော တရားတော်များသာ ဖြစ်သည်။ နောင်တွင် သဘာဝတရားနှင့်ကိုက်ညီသော ဘာသာတစ်ခုသာလျှင် လူ့လောကတွင် တည်ရှိလာရမည်' ဟုရေးသားခဲ့သည်။

- တီ အိတ်ချ် ဟတ်စလေက

'ဗုဒ္ဓဘာသာသည် အနောက်တိုင်းသားတို့အမြင်တွင် ပေါ်လွင်နေသော ထာဝရဘုရားသခင်ကို မသိသော၊ လူတွင် အတ္တ(အသက်၊ လိပ်ပြာ၊ ဝိညာဉ်) ကောင်ရှိသည်ကို ငြင်းဆိုသော၊ ယင်းအတ္တ (အသက်၊ လိပ်ပြာ၊ ဝိညာဉ်)ကောင်၏ မပျက်မစီး အမြဲတည်နေသည် ဟူသော ယုံကြည်မှုကို မိုက်မဲသော ယုံကြည်မှု အဖြစ် ရေတွက်သော၊ ဆုတောင်းမှု၊ ယဇ်ပူဇော်မှုဖြင့် အလိုဆန္ဒပြည့်ဝနိုင်သည်ဟူသော အယူအဆကို ငြင်းပယ်သော၊ လွတ်မြောက်မှုအတွက် မိမိတို့၏ ကိုယ်ပိုင်လုံ့လစိုက်ထုတ်လျက် ဆောင်ရွက်မှုမှတစ်ပါး အခြားဘာကမျှ ဆောင်ရွက်ပေးနိုင်ခြင်းမရှိသည်ကို လူသားများအား မီးမောင်းထိုးပြသော၊ ပင်ကိုသန့်ရှင်းဖြူစင်မှုဖြင့် အမိန့်တော်ကို နာခံခြင်းဖြစ်သော ကိုးကွယ်မှုမျိုးကို မသိသည့်အပြင် ကယ်တင်ခြင်း အကူအညီကိုလည်း ရှာဖွေမှုမရှိသော ဘာသာရေး ဖြစ်သည်။

'ထို့ကြောင့် ဗုဒ္ဓဘာသာသည် ကမ္ဘာထက်ဝက်သို့ လျင်မြန်စွာ ပြန့်နှံ့သွားပြီး၊ ထိုကမ္ဘာထက်ဝက်၌ ရှိရင်း ကိုးကွယ်မှုများအပေါ် လွှမ်းမိုးကာ တိုင်းသူပြည်သားများ၏ နှစ်နှစ်ကာကာ ကိုးကွယ်ဆည်းကပ်ခြင်းကို ခံခဲ့ရခြင်းဖြစ်သည်' ဟု ရေးသားဖော်ပြခဲ့သည်။

- ဒေါက်တာ ဆာ မရီဆင်ဂိုးက

'သိပ္ပံပညာ၏ချီတက်မှုသည် ဗုဒ္ဓဝါဒ၏အောင်ပွဲရမှုပင် ဖြစ်သည်၊ သိပ္ပံပညာ၏ အသစ်တွေ့ရှိချက်များသည် ဗုဒ္ဓဝါဒအား အကောင်းဆုံးသက်သေပြချက်များသာ ဖြစ်၏' ဟု ရေးသားခဲ့သည်။

## ဗုဒ္ဓမြတ်စွာဘုရားအား ကိုးကွယ်ခြင်း

ဤကျမ်းကို ဤခေါင်းစဉ်ဖြင့် နိဂုံးကမ္ပတ် အဆုံးသတ်ရန် ဖြစ်ပါသည်။ ဤသို့ အဆုံးသတ်နိုင်ရန်အတွက် အကြောင်းအရာများကို ရေးသားတင်ပြနိုင်ရန်မှာ ဤကျမ်း၏ နိဒါန်းမှစ၍ ဖော်ပြထားခဲ့ပြီးသောအကြောင်း အရာများကို အကျဉ်းချုပ်၍ ပြန်လည်ဖော်ပြရန်လိုအပ်ကြောင်း ဆိုထားသည်နှင့်အညီ၊ ဤကျမ်း၏နိဒါန်း၌ သမိုင်းဦးလူများသည် သဘာဝဘေးအန္တရာယ်အမျိုးမျိုးကို ကြောက်သောကြောင့် တော၊ တောင် စသည်တို့ကို ပူဇော်ပသလာကြရာမှ နောက်ပိုင်းတွင် ၄င်း တော၊တောင် စသည်တို့ကို စောင့်သောနတ်များအဖြစ် ကိုးကွယ်ခဲ့ကြကြောင်း သိရှိနိုင်ပါသည်။ အလားတူ ရှေးဦးလူ့အဖွဲ့အစည်းတို့သည်လည်း နတ်ဘုရားများက ဘေးအန္တရာယ်ပြုမည်ကို ကြောက်ကြသောကြောင့် လည်းကောင်း၊ ပစ္စုပ္ပန်ကောင်းကျိုးများကို ပေးစွမ်းနိုင်သည်ဟု ယုံကြည်ကြသော ကြောင့် လည်းကောင်း မိမိတို့သက်ဆိုင်ရာ နတ်ဘုရားများကို ကိုးကွယ်ခဲ့ကြကြောင်း သိရှိရပြန်ပါသည်။

တစ်ဖန် ယနေ့တည်ရှိနေသော ဘာသာရေးအဖွဲ့အစည်းများတွင်လည်း ဟိန္ဒူဘာသာဝင်များသည် ဘဝ ရှိသည်ကို သံသရာယုံကြည်ကြပြီး၊ သေပျောက်ပျက်စီးခြင်းမရှိသည့် အတ္တ (အသက်၊ လိပ်ပြာ၊ ဝိညာဉ်)ကောင်သည် ဗြဟ္မာ (ပရမတ္တမအတ္တ)နှင့် ပြန်လည်ပူးပေါင်းမှု မရမချင်း (လွတ်မြောက်မှု မောက္ခကို မရမချင်း)သံသရာလည်သောအားဖြင့် တစ်ဘဝမှတစ်ဘဝသို့ ကူးပြောင်းသွားလာနေရသည် ဟု ယုံကြည်သော်လည်း၊ ဖန်ဆင်းရှင် 'ဣသွာရ' ခေါ် မဟာဗြဟ္မာကိုမူ လူနှင့်တကွ အရာရာကိုစတင်ဖန်ဆင်းခဲ့သည့် ကျေးဇူးကြီးမားသောကြောင့် ၎င်းဖန်ဆင်းရှင် မဟာဗြဟ္မာကြီးဘုရားအား ကိုးကွယ်ခဲ့ကြသည်။ လူ့ဘောင်ကောင်းကျိုးကို ပေးသည်ဟု ယုံကြည်သောကြောင့် 'ဗိဿနိုးဘုရား'အား ကိုးကွယ်ခဲ့ကြသည်။ မဟာဗြဟ္မာကြီးဘုရား ဖန်ဆင်းထားသမျှကို တစ်နေ့ကျလျှင် ဖျက်ဆီးပစ်မည်ဟု ကြောက်ရွံ့ယုံကြည်ကြသောကြောင့် 'သိဝဘုရား'ကိုလည်း ကိုးကွယ်ခဲ့ကြသည်။ ၎င်း ဘုရား ၃ ဆူနှင့် ဆက်စပ်နေသော သူရဿတီ၊ လက်ချမီး၊ ကာလီမယ်တော်တို့ကိုလည်း အလားတူ ယုံကြည်ကြသောကြောင့် ကိုးကွယ်ခဲ့ကြသည်။ အချုပ်အားဖြင့် ဟိန္ဒူဘာသာဝင်တို့သည် ၎င်းတို့၏ ဘုရားများကို ကောင်းကျိုးပေးသည်ကို ယုံကြည်ကြသောကြောင့် လည်းကောင်း၊ ဆိုးကျိုးပေးမည်ကို ကြောက်သောကြောင့် လည်းကောင်း ကိုးကွယ်ကြသည် ဟု ကောက်ချက်ပြုနိုင်ပါသည်။

ဖာရစီ၊ ဂျူး၊ ခရစ်ယာန်နှင့် အစ္စလာမ်ဘာသာဝင်များကမူ 'မိမိတို့ဆိုင်ရာဘုရား၏ ဖန်ဆင်းမှုကို ယုံကြည်ကြပြီး၊ ဘဝပြဿနာအယူအဆ၌ သေကျေပျက်စီးခြင်းမရှိသော အတ္တ(အသက်၊ လိပ်ပြာ၊ ဝိညာဉ်ကောင်)က တစ်ဘဝမှ တစ်ဘဝသို့ကူးပြောင်း၍ ဘဝသံသရာ ကျင်လည်နေကြရသည်ဟု အယူမရှိကြပါ။ ယင်းအတ္တကောင်များသည် ဘုရားသခင်တရားစီရင်မည့်နေ့မတိုင်မီ ကာလအတွင်း၌ မရဏနိုင်ငံတွင်ကျရောက်နေကြရပြီး၊ ဘုရားသခင် တရားစီရင်မည့်နေ့တွင်မူ အားလုံး ရှင်ပြန်ထမြောက်လာကြကာ ဘုရားသခင်ချမှတ်သည့် စီရင်ချက်အတိုင်း ကောင်းကင်ဘုံနန်း၌စံမြန်းရခြင်း ဆုလာဘ်နှင့် ငရဲဘုံ၌ခံရခြင်း ပြစ်ဒဏ်များကို ထာဝရ ရရှိကြမည်'ဟု အယူရှိကြသည်။ 'မျက်မှောက်ဘဝတွင်လည်း ကောင်းကျိုးဆိုးပြစ်များကို ၎င်းဘုရားသခင်ကပင် ဖန်တီးနေသည်'ဟု ယုံကြည်ကြသည်။

အချုပ်အားဖြင့် ဖာရစီ၊ ဂျူး၊ ခရစ်ယာန်နှင့် အစ္စလာမ်ဘာသာဝင်များသည်လည်း မိမိတို့ သက်ဆိုင်ရာ ဘုရားသခင်၏ဖန်ဆင်းမှုနှင့် ပစ္စုပ္ပန်၊တမလွန် ဘဝ ၂ တန်၌ ၎င်းဘုရားသခင်၏ ဆုပေး၊ဒဏ်ပေးမှုကို ပြုစွမ်းနိုင်ကြောင်း ယုံကြည်ကြသောကြောင့် မိမိတို့သက်ဆိုင်ရာ ဖန်ဆင်းရှင်ဘုရားကို ကိုးကွယ်နေကြခြင်းဖြစ်ကြောင်း လေ့လာတွေ့ရှိရပါသည်။

သို့ရာတွင် ဗုဒ္ဓဘာသာဝင်များကမူ ဗုဒ္ဓမြတ်စွာဘုရားအား မိမိတို့ကိုဖန်ဆင်းခဲ့ပြီး ကောင်းကျိုးဆိုးပြစ်များကို ပေးစွမ်းနိုင်သည်ဟု ယုံကြည်ကြသောကြောင့် ကိုးကွယ်ခဲ့ကြသည် မဟုတ်ပါ။ ဗုဒ္ဓမြတ်စွာဘုရားကလည်း ဖန်ဆင်းရှင်မဟုတ်၍ အရာရာကို ကိုယ်တော်တိုင် ဖန်ဆင်းခဲ့သည်ဟု ဟောကြားတော်မူခြင်း မရှိသကဲ့သို့၊ ပစ္စုပ္ပန်၊ သံသရာ ဘဝ ၂ ဖြာ၌ သတ္တဝါတို့အား ကောင်းကျိုးဆိုးပြစ်များကို ကိုယ်တော်တိုင် ပေးစွမ်းနိုင်သည်ဟုလည်း တစ်ကြိမ်တစ်ခါမျှ ဟောတော်မူခြင်းမရှိခဲ့ပါ။

အမှန်မှာ ဗုဒ္ဓမြတ်စွာဘုရားရှင်သည် ကိုယ်တော်၏တပည့်သား သာဝကများအား ကောင်းသောလမ်း၊ မကောင်းသောလမ်း ၂ သွယ်ကို ၎င်းတို့၏အကျိုးအပြစ်နှင့်တကွ ခွဲခြားဟောပြောတော်မူပြီး၊ ကောင်းသောလမ်းသို့ လိုက်ကြရန် တိုက်တွန်းဟောပြ ဆုံးမတော်မူရုံမျှသာ ရှိတော်မူခဲ့ပါသည်။

သို့ပါလျက် 'ဗုဒ္ဓဘာသာဝင်များသည် မိမိတို့အား ကောင်းကျိုးဆိုးပြစ်များကို မပေးနိုင်သော ဗုဒ္ဓမြတ်စွာဘုရားအား အဘယ်ကြောင့် နှစ်နှစ်ကာကာ ဆည်းကပ်ကိုးကွယ်နေကြသနည်း' ဟု မေးဖွယ်ရှိပါသည်။ အထက်ပါအဆိုပြု

ချက်နှင့်စပ်လျဉ်း၍ အံ့ဩလျက်ရှိသော ဘာသာခြားတစ်ဦးက ယင်းမေးခွန်းဖြင့် မေးမြန်းလာသည်ကို စာရေးသူကိုယ်တိုင် ကြုံခဲ့ရဖူးပါသည်။ အဖြေကား ရှင်းလျက်ရှိပါသည်။ ဗုဒ္ဓမြတ်စွာဘုရားသည် ဖော်ပြခဲ့ပြီးသော ဘုရားဂုဏ်တော် ၉ ပါးနှင့် ပြည့်စုံတော်မူသည့်အပြင်၊ ကြီးကျယ်သောအကျင့်တရားဖြင့် မြင့်မြတ်သောသီလ၊ သမာဓိ၊ ပညာ ဟူသော သိက္ခာ ၃ ပါးနှင့် ပြည့်စုံတော်မူခြင်း၊ သတ္တဝါများအား အပြစ်မပွားဘဲ မေတ္တာ၊ ကရုဏာ၊ မုဒိတာ၊ ဥပေက္ခာ ဟူသော ဗြဟ္မစိုရ်တရားများကိုသာ ကြီးမားစွာ ပွားများအားထုတ်တော်မူခြင်း၊ လူသားတစ်ရပ်လုံးအတွက် ဘက်စုံမှကျင့်ကြံအပ်သော တရား၊ ရှောင်ကြဉ်အပ်သောတရားများကို ခွဲခြားညွှန်ပြ ဆုံးမတော်မူခဲ့ခြင်း၊ ဗုဒ္ဓမြတ်စွာဘုရား ဟောကြားညွှန်ပြ ဆုံးမတော်မူသည့်အတိုင်း လိုက်နာကျင့်ကြံကြသော လူသားများအား ကောင်းသောအကျိုးစီးပွားများကိုသာ ဖြစ်စေခြင်း စသော ဒိဋ္ဌအကြောင်းများကြောင့် ဗုဒ္ဓမြတ်စွာဘုရားအား အထွတ်အမြတ်ထား၍ နှစ်နှစ်ကာကာကိုးကွယ်ဆည်းကပ်နေကြခြင်း ဖြစ်ပါသည်။ ယနေ့လူတို့သည် မိမိတို့၏ ကျေးဇူးရှင်မိဘဘိုးဘွား စသူတို့၏ ဓာတ်ပုံ၊ ပုံတူရုပ်တု စသည်တို့ကို အထွတ်အမြတ်ထား၍ ကိုးကွယ်ကြသကဲ့သို့၊ ဗုဒ္ဓဘာသာဝင်များကလည်း မိမိတို့ ပစ္စုပ္ပန်၊သံသရာ ဘဝ ၂ ဖြာ မြင့်မားကောင်းမွန်ရေးအတွက် အလင်းဆောင်ပြ လမ်းညွှန်မှုပေးခဲ့သည့် ကြီးမားသောကျေးဇူးတရားကြောင့် သက်တော်ထင်ရှားဘုရားအား ရည်မှတ်၍ ဥဒ္ဒိဿစေတီအဖြစ် ဗုဒ္ဓဘုရားရှင်၏ပုံတော်၊ ဆင်းတုတော်၊ ဓာတ်တော်၊ မွေတော် စသည်တို့ကို ကိုးကွယ်နေကြခြင်းဖြစ်ပါသည်။

ဤ၌ 'ဗုဒ္ဓမြတ်စွာဘုရား ဟောကြားညွှန်ပြဆုံးမတော်မူသည့်အတိုင်း လိုက်နာကျင့်ကြံသူများအား ကောင်းသောအကျိုးစီးပွားများကို ဖြစ်စေသည်' ဟူသောစကားနှင့်စပ်လျဉ်း၍ အနည်းငယ် ရှင်းပြလိုပါသည်။ ဗုဒ္ဓမြတ်စွာဘုရား ဟောကြားဆုံးမတော်မူသည့်အတိုင်း လိုက်နာကျင့်ကြံနိုင်သူများသည်-

၁- သဒ္ဓါ ။ ကောင်းမှုရှင်များသည် ကောင်းကျိုးချမ်းသာကို၊ မကောင်းမှုရှင်များသည် မကောင်းကျိုးဆိုးပြစ်များကို ရရှိခံစားနိုင်သည် ဟု ယုံကြည်ခြင်း။

၂- သီလ ။ ကိုယ်ကျင့်တရားကောင်းမွန်မှု စာရိတ္တသီလ၊ ပညတ်...က်သိက္ခာပုဒ်များကိုစောင့်ထိန်းမှု ဝါရိတ္တသီလနှင့် ပြည့်စုံခြင်း။

၃- သုတ ။ သူတော်ကောင်းတရား စကားများကို နာကြားပွားများရသဖြင့် အကြားအမြင် ဗဟုသုတ ပြည့်စုံခြင်း။

၄- စာဂ ။ မိမိအောက်နိမ့်သူများကို စွန့်ကြဲလိုခြင်း၊ မိမိတန်းတူသူများကို ပေးကမ်းလိုခြင်း၊ မိမိထက်အကျင့်သီလမြင့်မြတ်သူများအား လှူဒါန်းလိုခြင်း ဟူသော စာဂတရားနှင့် ပြည့်စုံရခြင်း။

၅- ပညာ ။ သမာဓိဘာဝနာ ရှုနည်းလုပ်ငန်းဖြင့် အဘိဉာဏ်များဖြစ်သော ဉာဏ်အမျိုးမျိုးကို ထူထောင်နိုင်သကဲ့သို့၊ ဝိပဿနာ ပညာစခန်းဖြင့်လည်း အမြင့်မြတ်ဆုံး အရဟတ္တဖိုလ် (နိဗ္ဗာန်) ချမ်းသာ တရားအထိ ရရှိနိုင်သဖြင့် မိမိဘဝကို ယင်းပညာဖြင့် မွမ်းထုံခြင်း။

၆- ဟိရီ ။ လောက၊ဓမ္မ ၂ ဌာန၌ မကောင်းမှုဟု သတ်မှတ်ထားသော အလုပ်များကို ပြုလုပ်ရမှာကို ရှက်ခြင်း၊ ဒုစရိုက်မှုပြုရမည်ကို ရှက်ခြင်း။

၇- ဩတ္တပ္ပ ။ ဖော်ပြပါမကောင်းမှုပြုရမှာကို ကြောက်လန့်ခြင်း ဟူသော သူတော်ကောင်းဥစ္စာ ၇ ပါးနှင့် ပြည့်စုံလာသောကြောင့် သူတော်စင်သူတော်မြတ်များ ဖြစ်လာနိုင်ပါသည်။

ဤသို့ သူတော်စင်သူတော်မြတ်ဖြစ်သော ပုဂ္ဂိုလ်များသည် 'သူတော်ကောင်း နတ်ကောင်းစောင်မ' ဟူသောစကားအတိုင်း နတ်ကောင်းနတ်မြတ်များ၏ ကူညီမစ၊ စောင်မမှုကို ရရှိနိုင်ကြသည့်အပြင် မျက်မှောက်

ဘဝတွင်ပင် ဘေးအန္တရာယ်အဝဝ ကင်းပလွင့်စဉ်ပြီး ကောင်းသောအကျိုးစီးပွား ချမ်းသာများကိုသာ ရရှိခံစား နိုင်ကြခြင်း ဖြစ်ပါသည်။ ယင်း သူတော်သူမြတ်များသည် မျက်မှောက်ဘဝ, ပစ္စုပ္ပန်ဘဝ၌ပင်လျှင် ကောင်းမြတ် သောအကျိုးတရားများကို ဒိဋ္ဌရှိရှိ ခံစားနိုင်ကြသေးလျှင် တမလွန်ဘဝလောကအတွက် လားရောက်ရာ ဂတိ ၅ ပါး ရှိသည်တွင် အောက်တန်းစားဖြစ်သော နိရယဂတိ (ငရဲ), တိရစ္ဆာနဂတိ (တိရစ္ဆာန်), ပေတဂတိ (ပြိတ္တာ, အသူရကာယ်, တစ္ဆေ, မြေဘုတ် စသည်) ဟူသော ဂတိ ၃ ပါးသို့ မလားမရောက်ရတော့ဘဲ၊ အထက်တန်း စားဖြစ်သော ဒေဝဂတိ (နတ်ပြဟ္မာ)၊ မနုဿဂတိ (လူ) ဟူသော ဂတိ ၂ ပါးသို့သာ လားရောက်ရန်မှာ သေချာလျက်ရှိပါတော့သည်။

သို့ဖြစ်၍ လူသားသည် ပစ္စုပ္ပန်,သံသရာ ဘဝ ၂ ဖြာ၌ မိမိ၏ ကောင်းမွန်မြင့်မြတ်သောဘဝကို ထူထောင် နိုင်ရန်မှာ အခြားသူတစ်ဦးတစ်ယောက်အား အားကိုးနေရန်မလိုဘဲ မိမိကိုယ်တိုင်က မြတ်စွာဘုရားတို့ ဟောဖော် ညွှန်ပြ ဆုံးမတော်မူခဲ့သော နည်းကောင်းလမ်းမှန်များအတိုင်း ကျင့်ကြံကြိုးကုတ် အားထုတ်ရန်သာ လိုအပ်ပါသည်။

ထို့ကြောင့် ဗုဒ္ဓမြတ်စွာဘုရားက အောက်ပါအတိုင်း ဟောဖော်ညွှန်ပြ ဆုံးမတော်မူခဲ့သည်ကို ဦးခေါင်း တန်ဆာ, လည်ဆွဲတန်ဆာများသဖွယ် လူတိုင်းလူတိုင်း အမြဲပန်ဆင်ထားသင့်သော ရတနာမြတ်ပန်းကုံးများအဖြစ် နိဂုံးချုပ် ဖော်ပြလိုက်ရပေသည်။

## မြတ်နိုဂုံး ဂါထာပန်းကုံးများ

॥၁॥ အတ္တာ ဟိ အတ္တနော နာထော၊ ကော ဟိ နာထော ပရော သိယာ။
အတ္တနာ ဟိ သုဒန္တေန၊ နာထံ လဘတိ ဒုလ္လဘံ။ ॥

ဓမ္မပဒ-အတ္တဝဂ်၊ ကုမာရကဿပဝတ္ထု

မိမိသည်သာ မိမိ၏ကိုးစားရာ ဖြစ်သည်။ သူတစ်ပါးသည် မိမိ၏ကိုးစားရာ အဘယ်မှာ ဖြစ်နိုင်အံ့နည်း။ မိမိသည် ကောင်းစွာယဉ်ကျေးသဖြင့် ရရောက်နိုင်ခဲသော ကိုးစားရာအရဟတ္တဖိုလ်ကို ရရှိနိုင်၏။

॥၂॥ န တံ မာတာ ပိတာ ကယိရာ၊ အညေ ဝါပိစ ဉာတကာ။
သမ္မာပဏိဟိတံ စိတ္တံ၊ သေယျသော နံ တတော ကရေ။ ॥

ဓမ္မပဒ- စိတ္တဝဂ်၊ သောရေယျသူဌေးသားဝတ္ထု

လူ့,နတ်,နိဗ္ဗာန် ၃ တန်ချမ်းသာကို မိဘ,ဆွေမျိုး စသည်များက ပြုပြင်စီရင်၍ မပေးနိုင်။ မိမိ ကောင်းမွန်စွာ ဆောက်တည်အပ်သော ကုသိုလ်ကောင်းမှုများသာ ထိုမိဘ,ဆွေမျိုးများထက် အဆင့်ဆင့်မြင့်မြတ်အောင် ပြုနိုင်၏။

॥၃॥ တုမှေဟိ ကိစ္စမာတပ္ပံ၊ အက္ခာတာရော တထာဂတာ။
ပဋိပန္နာ ပမောက္ခန္တိ၊ ဈာယိနော မာရဗန္ဓနာ။ ॥

ဓမ္မပဒ- မဂ္ဂဝဂ်၊ ပဉ္စသတဘိက္ခုဝတ္ထု

သင်တို့သည် ကိုယ်တိုင် အားထုတ်ကြကုန်လော့။ ဘုရားရှင်တို့သည် လမ်းမှန်ညွှန်ပြရုံမျှ ဖြစ်ကုန်၏။ ကျင့်ကြံကုန်၍ ကိလေသာကို ရှို့မြှိုက်ကြကုန်သူတို့သည်သာ မာရ်မင်းအနှောင်အဖွဲ့မှ လွတ်မြောက်ကုန်၏။

॥၄॥ ဣဓ သောစတိ ပေစ္စ သောစတိ၊ ပါပကာရီ ဥဘယတ္ထ သောစတိ။
သော သောစတိ သော ဝိဟညတိ၊ ဒိသွာ ကမ္မကိလိဋ္ဌမတ္တနော။ ॥

ဓမ္မပဒ- အဋ္ဌကထာ၊ စုန္ဒသူကရိကဝတ္ထု

॥၅॥ ဣဓ တပ္ပတိ ပေစ္စ တပ္ပတိ၊ ပါပကာရီ ဥဘယတ္ထ တပ္ပတိ။
ပါပံ မေ ကတန္တိ တပ္ပတိ၊ ဘိယျော တပ္ပတိ ဒုဂ္ဂတိံ ဂတော။ ॥

ဓမ္မပဒ- အဋ္ဌကထာ၊ ဒေဝဒတ္တဝတ္ထု

မကောင်းမှုပြုသူသည် ပစ္စုပ္ပန်,တမလွန်ဘဝ ၂ မျိုးစလုံး၌ စိုးရိမ်ပူပန်ရ၏။ မကောင်းမှုအကျိုးကို မြင်ရ၍ ပစ္စုပ္ပန်,တမလွန်ဘဝ ၂ မျိုးစလုံး၌ စိုးရိမ်ပူပန်ရ၏။

ပန်းချွေပြည်စာအုပ်တိုက်

။၆။ န အန္တလိက္ခေ န သမုဒ္ဒမဇ္ဈေ၊ န ပဗ္ဗတာနံ ဝိဝရံ ပဝိသ။
န ဝိဇ္ဇတိ သော ဇဂတိပ္ပဒေသော၊ ယတ္ထဋ္ဌိတော မုစ္စေယျ ပါပကမ္မာ။ ။

မူပဒ- ပါပဝဂ်၊ တယောဇနဝတ္ထု

ကောင်းကင်, သမုဒ္ဒရာအလယ်, တောင်လိုဏ်ခေါင်းတို့၌ ရှောင်တိမ်းပုန်းအောင်းနေစေကာမူ မကောင်းမှု ပြုပြီးသူသည် ထိုမကောင်းမှုမှ မလွတ်နိုင်။ လွတ်မြောက်နိုင်သောအရပ် မရှိ။

။၇။ ဣဓ မောဒတိ ပေစ္စ မောဒတိ၊ ကတပုညော ဥဘယတ္ထ မောဒတိ။
သော မောဒတိ သော ပမောဒတိ၊ ဒိသွာ ကမ္မဝိသုဒ္ဓိမတ္တနော။ ။

မူပဒ- အဋ္ဌကထာ၊ ဓမ္မိကဥပါသကဝတ္ထု

။၈။ ဣဓ နန္ဒတိ ပေစ္စ နန္ဒတိ၊ ကတပုညော ဥဘယတ္ထ နန္ဒတိ။
ပုညံ မေ ကတန္တိ နန္ဒတိ၊ ဘိယျော နန္ဒတိ သုဂတိံ ဂတော။ ။

မူပဒ- အဋ္ဌကထာ၊ သုမနဒေဝီဝတ္ထု

ကောင်းမှုပြုသူသည် ပစ္စုပ္ပန်,တမလွန်ဘဝ ၂ မျိုးစလုံး၌ ဝမ်းမြောက်နှစ်သက်ရ၏။ ကောင်းမှု အကျိုးကို မြင်ရ၍ ပစ္စုပ္ပန်,တမလွန် ဘဝ ၂ မျိုးစလုံး၌ ဝမ်းမြောက်နှစ်သက်ရ၏။

။၉။ အသာရေ သာရမတိနော၊ သာရေ စာသာရဒဿိနော။
တေ သာရံ နာဓိဂစ္ဆန္တိ၊ မိစ္ဆာသင်္ကပ္ပဂေါစရာ။ ။

။၁၀။ သာရဉ္စ သာရတော ဉတွာ၊ အသာရဉ္စ အသာရတော။
တေ သာရံ အဓိဂစ္ဆန္တိ၊ သမ္မာသင်္ကပ္ပဂေါစရာ။ ။

မူပဒ- ယမကဝဂ်၊ အရှင်သာရိပုတ္တရာဝတ္ထု

အနှစ်မရှိတရားကို 'အနှစ်ရှိ၏'ဟု မှတ်ထင်သူများသည် အနှစ်ရှိတရား၌ 'အနှစ်မရှိ'ဟု မြင်ပြီး၊ မကောင်းသောအကြံများ ကျက်စားလျက် သီလ စသောအနှစ်အရသာမှ ကင်းကွာကြကုန်၏။ အနှစ်ရှိတရားကို 'အနှစ်ရှိ၏'ဟု ထင်မြင်သူများသည် အနှစ်မရှိသောတရား၌ 'အနှစ်မရှိ' ဟုမြင်ပြီး၊ ကောင်းသောအကြံများ ကျက်စားလျက် သီလ စသောအနှစ်အရသာကို ခံစားနိုင်ကြကုန်၏။

။၁၁။ ယော စ ဝဿသတံ ဇီဝေ၊ ဒုဿီလော အသမာဟိတော။
ဧကာဟံ ဇီဝိတံ သေယျော၊ သီလဝန္တဿ ဈာယိနော။ ။

မူပဒ- သဟဿဝဂ်၊ ခါဏုကောဏ္ဍညထေရဝတ္ထု

အနှစ်သာရ မြတ်သီလ ကင်းသူသည် နှစ် ၁၀၀ အသက်ရှည်လည်း မမြတ်။ အနှစ်သာရ သီလရှိသူအား တစ်ရက် တစ်ခဏ အသက်ရှင်နေရလည်း မြတ်၏။

ပန်းရွှေပြည်စာအုပ်တိုက်

။၁၂။ သဗ္ဗိရေဝ သမာသေထ၊ သဗ္ဗိ ကုဗ္ဗေထ သန္ထဝံ။
သတံ သဒ္ဓမ္မမညာယ၊ သေယျော ဟောတိ န ပါပိယော။ ။

သံယုတ္တပါဠိတော်

သူတော်ကောင်းတို့နှင့် ပေါင်းဖော်အပ်၏၊ သူတော်ကောင်းနှင့် ပေါင်း၍ သူတော်ကောင်းတရား သိရသူသည် ယုတ်မာမှုကင်းပြတ်၍ မြင့်မြတ်သူအဖြစ်သို့ ရောက်နိုင်၏။

။၁၃။ န ဟိ ဓမ္မော အဓမ္မော စ၊ ဥဘော သမဝိပါကိနော။
အဓမ္မော နိရယံ နေတိ၊ ဓမ္မော ပါပေတိ သုဂ္ဂတိံ။ ။

ဓမ္မပဒ- ယမကဝဂ်၊ စက္ခုပါလထေရဝတ္ထု

လောကတွင် ဓမ္မ(တရားမှန်), အဓမ္မ (တရားမှား) ၂ မျိုးရှိရာ အကျိုးပေးမှု မတူကြပါ။ အဓမ္မ(တရားမှား) သည် ငရဲသို့ ပို့ဆောင်ပြီး၊ ဓမ္မ(တရားမှန်)သည် ကောင်းသောဘုံဘဝ သုဂတိဌာနသို့ ရောက်စေသည်။

စာရှုသူများ အသိမမှားဘဲ ကုသိုလ်တရား တိုးပွားကြ၍ ကိုယ်,စိတ် ၂ ဖြာ ကျန်းမာချမ်းသာကြပါစေ။

ဦးစိန်ထွန်း (မာမက-သုတေသီ)
၂၀-၁၂-၈၆

# အဓိက ကိုးကား ကျမ်းစာ စာရင်း

| | | |
|---|---|---|
| ၁။ | ကမ္ဘာ့သမိုင်းမှတ်တိုင်များ ပ-ဒု-တ | မြန်မာ့ဆိုရှယ်လစ်လမ်းစဉ်ပါတီ |
| ၂။ | ရုပ်စုံအခြေခံသမိုင်း အတွဲ ၁ | ဦးနု |
| ၃။ | ခေတ်ဟောင်းရာဇဝင် အတွဲ ၁၊ ၂ | ဒေါက်တာသန်းထွန်း |
| ၄။ | ရှေးဟောင်းမြန်မာရာဇဝင် | ဒေါက်တာသန်းထွန်း |
| ၅။ | ပြည်ထောင်စု မြန်မာနိုင်ငံတော်သမိုင်း | ဒေါက်တာကျော်သက် |
| ၆။ | နှစ်ပေါင်းခြောက်ထောင် နိုင်ငံတကာ သမိုင်းဝင် မှတ်တမ်းများနှင့် စာချုပ်စာတမ်းများ အတွဲ-၁ | ရဲဘော်လှမျိုး |
| ၇။ | ဗုဒ္ဓသာသနာတော် ၂၅၀၀ ပ-တွဲ | အံ့မောင် (မဟာဝိဇ္ဇာ) |
| ၈။ | အတ္တဝါဒမှ အနတ္တဝါဒသို့ | ဦးရွှေအောင် |
| ၉။ | ဗုဒ္ဓဝါဒယန်းတိုင်နှင့် လမ်းစဉ်များ | မင်းကြည်မွန် |
| ၁၀။ | ဗုဒ္ဓဝါဒနှင့်သိပ္ပံပညာ | ဦးသန်းထွန်း (ရွှေဘို) |
| ၁၁။ | ဘုရားရှိဝါဒ၊ ဘုရားမဲ့ဝါဒနှင့် ဗုဒ္ဓဝါဒ | ဦးသန်းထွန်း (ရွှေဘို) |
| ၁၂။ | လူငယ်သင် ချမ်းမြေ့အခြေပျိုး ဗုဒ္ဓဘာသာ | ချမ်းမြေ့ဆရာတော် အရှင်ဇနကာဘိဝံသ |
| ၁၃။ | ဘာသာကြီး ၄ ခုအနှစ်သာရများ | ညိုသောင်း |
| ၁၄။ | ကမ္ဘာ့တွေးခေါ်ရှင်ကြီးများ | ဆန်းလွင် |
| ၁၅။ | ဗုဒ္ဓမပွင့်မီ အယူဝါဒများ (လက်နှိပ်စက်မူ) | ဦးလှမောင် (နိုင်ငံတော်ကောင်စီဝင်) |
| ၁၆။ | ကမ္ဘာ့စာပေသမိုင်း ပထမတွဲ | ဦးမောင်တင် |
| ၁၇။ | သမ္မာကျမ်းစာ အရေးကြီးသလား | အေ ဦးသန်းအောင် (ဘာသာပြန်) |
| ၁၈။ | သင်္ဂြိုဟ်ဘာသာဋီကာ | ဆရာတော် အရှင်ဇနကာဘိဝံသ(အမရပူရ) |
| ၁၉။ | မြန်မာအကွရာဗေဒ | ဦးသောင်းလွင် (ဘီအေ) |
| ၂၀။ | အစ္စလာမ်သမိုင်းအကျဉ်းချုပ် ကောက်နုတ်ချက် | ဦးမောင်မောင်တာ |
| ၂၁။ | မှန်နန်းရာဇဝင်တော်ကြီး ပ-တွဲ | ပညာရှိပေါင်းစုံ |
| ၂၂။ | ရာမညတိုင်းလုံးဆိုင်ရာ ဓာတုဝင်ကျမ်း | ဟိတဂဝေသီ ရဟန်းတော်အဖွဲ့ |
| ၂၃။ | ကလျာဏီကျောက်စာ မြန်မာပြန် | မကာရလောပ ခင်ကြီးဖျော် |
| ၂၄။ | သာသနာလင်္ကာရစာတမ်း | မဟာဓမ္မသင်္ကြန် |
| ၂၅။ | မဟာယာနဂိုဏ်း | အမျိုးသားပညာဝန် ဦးဖိုးကျား |
| ၂၆။ | ပါဒနိုင်ငံတော်ရာဇဝင် | ပြည်တော်သာ ဦးထွန်းရီ |
| ၂၇။ | ဥပ္ပန္နသုဓမ္မဝတီရာဇဝံသကထာ (မွန်ရာဇဝင် ပ-ဒု) | စန္ဒကန္တ (ယိုးဒယား) |
| ၂၈။ | Buddhism in a Nutshell | Narada Thera |

- မြစ်ကျွေးဆရာတော်ကြီး၏အမှာနှင့်အတူ
- မေဏ္ဍကသူဌေးကြီးအကြောင်းနှင့် ဝိသာခါသူဌေးမကြီးအကြောင်းပါ အပြည့်စုံဆုံးမူ
- ရောင်စုံပုံတော်အခန်းဖွင့်များနှင့်အတူ
- စာမျက်နှာအညွှန်းများနှင့် သပ်ရပ်ခံ့ညားစွာ

# ဝိနဋ္ဌပကာသနီကျမ်း

## ကျီးသဲလေးထပ်ဆရာတော်ဘုရားကြီး

- ရှင်တော်မြတ်ဘုရား၏အကြောင်းထုပ္ပတ်ကို ခြေခြေမြစ်မြစ်သိလိုသူတိုင်းအတွက် စာအုပ်ကြီး
- မြန်မာစကားပြေအရေးအသားပိုင်းမှာ စံပြုရသည့်စာအုပ်ကြီး
- ဘယ်အခန်းကပဲဖတ်ဖတ် စိတ်ဝင်စားစွာဆွဲဆောင်နိုင်စွမ်းရှိသည့်စာအုပ်ကြီး

တန်ဖိုး ၄၀၀၀ ကျပ်

စာမူခွင့်ပြုချက် - ၇၂/၂၀၀၄(၁)

မင်းဘူး ဦးဩဘာသ၊ ဦးပညာတိက္ခ၊ ဦးနန္ဒမေဓာတို့၏ မူရင်း
ဇာတ်တော်ကြီး ၁၀ ဘွဲ့
တစ်လုံးတစ်စည်း တစ်အုပ်တည်း မဂ္ဂဇင်းဆိုက်ကြီး
ရောင်စုံပုံတော်များနှင့် ပြည့်ပြည့်စုံစုံထုတ်ဝေလိုက်ပါပြီ။

# ဇာတ်တော်ကြီး ၁၀ ဘွဲ့ ပေါင်းချုပ်

တန်ဖိုး ၁၂၀၀၀ ကျပ်

စာမူခွင့်ပြုချက် - ၃၂၀၀၈၅၀၂၀၇